ဝေဒေသာက ဘာသာရေးစာအုပ်



# ညီတော်အာနန္ဒာ၏ တစ်သက်တာမှတ်တမ်း

ဝဏ္ဏသိရိ

ဒုတိယတွဲ



# ညီတော်အာနန္ဒာ၏ တစ်သက်တာမှတ်တမ်း

ဝဏ္ဏသိရိ

ပန်းချီ စံတိုး



http://www.dhammadownload.com

စာပေလောကစာအုပ် အမှတ် ၂၃၆-၃

# ညီတော်အာနန္ဒာ၏တစ်သက်တာမှတ်တမ်း
## (ဒုတိယတွဲ)

## ဝဏ္ဏသီရိ

စာပေလောက စာအုပ်တိုက်
အမှတ် ၁၇၃၊ ၃၃ လမ်း၊ ရန်ကုန်မြို့။
[ ဖုန်း-၂၈၅၁၆၆ ]

## မာတိကာ

## ညီတော်အာနန္ဒာ၏ တစ်သက်တာမှတ်တမ်း (ဒုတိယတွဲ)

## ဒုတိယတွဲ သတ္တမအကြိမ် ပုံနှိပ်ခြင်းအတွက် အမှာ

ဤစာအုပ်နှစ်တွဲလုံးနှင့် ပတ်သက်၍ စကားဦးသန်းထားသင့်သည့် အကြောင်းအရာများကို ပဋ္ဌမအကြိမ်ရိုက်မှ စတင်၍ တော်တော်ကြီး ပြည့်စုံအောင် ဖော်ပြထားပါသည်။

ယခု သတ္တမအကြိမ်ရိုက် ဒုတိယတွဲအတွက် ဖြည့်စွက်ဖော်ပြရန်ရှိသည်မှာ သဒ္ဒါနည်းကျဖြစ်စေရန် မြန်မာဝိဘတ်များကို ပြုပြင်ပေးခြင်း ဖြစ်ပါသည်။

၈

# နောင်တ၏ နိဒါန်း

ရာဇဂြိုဟ်မြို့တော်က ဝေဠုဝန် ကျောင်းတော်ကြီးတွင် ဥယျာဉ်ဗိမာန် ရေတွင်း ရေကန်များလည်း ပြည့်စုံစွာရှိကြ၏။ သဒ္ဓါလက်ကိုင် ခိုင်မြဲပြီးသော ဒါယကာ၊ ဒါယိကာမများလည်း ရာဇဂြိုဟ်မြို့တော်မှာ ပေါများလှ၏။ သို့ရာတွင် ဘုရားရှင်သည် ဤကျောင်းမှာချည်း ကျောက်ချ ရပ်တည်တော် မမူပါ။ ခြေခင်းလက်ခင်း သာလျှင် သာသလို ထိုထိုမြို့ရွာနယ်ပယ်များသို့ သာသနာပြု ကြွချီတော်မူသည်သာ ဖြစ်၏။ နေချင့်စဖွယ် တင့်တယ် သာယာသော ကျောင်းတော်ကြီးကို ကျောခိုင်း၍ ထားတော်မူခဲ့သည်သာ ဖြစ်၏။ ကျောင်းဒါယကာ ဘုရင်ကြီး ဗိမ္ဗိသာရသည် ဤကျောင်းတော်ကြီးကို ဘုရားရှင်၏ ဂုဏ်ကျေးဇူးတော်များကို ရည်စူး၍ ဆောက်လုပ်ခဲ့၏။ လှူဒါန်းခဲ့၏။ သို့သော် သူရည်စူးထားသော ဘုရားရှင်က ဤကျောင်းတော်မှာ အစဉ်ထာဝရနေတော်မမူ။ မရည်မှန်းသော ပုဂ္ဂိုလ်ကသာ သံမှိုစွဲထားဘိသကဲ့သို့ အမြဲတစေ နေလာခဲ့ပေသည်။

ဘုရားရှင်နှင့် သံဃာတော်များ သာသနာပြု ကြွချီတော်မူကြရာတွင် ဒေဝဒတ်ကား ဘယ်တော့မှမလိုက်ပါပေ။ သူ့အုပ်စုနှင့်အတူ ဝေဠုဝန် ကျောင်းတော်မှာပင် နေရစ်ခဲ့၏။ အကယ်၍ ဒေသစာရီ ကြွချီရာ လိုက်ပါခဲ့လျှင် ခရီးကြမ်းကို လျှောက်ရမည်။ နေပူမရှောင်၊ မိုးရွာမရှောင် သွားကြရမည်။ လေနှင့် ရေနှင့် ရင်ဆိုင်ရမည်။ တောလက်ကျေးရွာများတွင် အစားအသောက် ရှားပါးလှသည်။ တတ်စွမ်းသမျှ သူတို့ လောင်းလှူကြသည်မှာလည်း တောသဘာဝမို့ ကြမ်းတမ်းလှသည်။ ဝေဠုဝန်ကျောင်းတော်မှာကား အစစ ပြည့်စုံနေသည်။ အစစ လုံခြုံနေသည်။ နောက်ပြီးတော့ သူ့ညာလက်ရုံး အားအကိုးရဆုံး ဒါယကာတစ်ယောက်ကလည်း ဤမြို့တော်မှာရှိနေသည် မဟုတ်ပါလော။

အိမ်ရှေ့မင်းသား အဇာတသတ်သည် သူ့ဆရာသခင် ထံတော်မှောက် သို့ နေ့စဉ်နှင့်အမျှ လာရောက်ပူဇော်၏။ နေ့စဉ်နှင့်အမျှ ဆိုရာတွင် တစ်နေ့မှာ တစ်ခေါက်ကျ မဟုတ်ပါ။ နံနက်တစ်ခေါက်၊ ညနေတစ်ခေါက်၊ တစ်နေ့မှာ နှစ်ခေါက် နှစ်ခေါက် ရောက်လာခဲ့၏။ ရောက်လာသည့် အခါတိုင်းမှာလည်း လူမသိ၊ သူမသိ မဟုတ်ပေ။ ရှေ့မှာ နောက်မှာ ရထားငါးရာ ခြံရံလျက် တခမ်းတနား ထွက်လာခဲ့၏။ ထိုရထားငါးရာ ပေါ်တွင် နံနက်ခင်းမှာ ဆွမ်းအုပ်တစ်အုပ်စီ၊ ညနေခင်းမှာကား အခြား အခြားသော လှူဒါန်းဖွယ်ပစ္စည်းများ ပါလာကြ၏။

အဇာတသတ်မင်းသားကို အရအမိ သိမ်းသွင်းထားနိုင်ခြင်းသည် ဒေဝဒတ်၏ အောင်မြင်မှုကြီး ဖြစ်၏။ ဤသို့သော အောင်မြင်မှုမျိုးကို မည်သည့်ရဟန်းမျှ မရနိုင်ပေ။ သူတစ်ပါးတည်းသာ ဘုန်းနှင့်သမ္ဘာ ထက်ကြပ်ပါ၍ ရလာခဲ့ခြင်းဖြစ်ပေသည်။ သို့ရာတွင် ဤအောင်မြင်မှုသည် မည်သည့်စခန်းသို့ ဦးတည်နေပါသနည်း။

**(စူဠဝဂ်၊ သံဃဘေဒကက္ခန္ဓက)**

လာဘ်ပေါများခြင်း၊ နာမည်ကြီးခြင်းတို့သည် ရဟန်းများအဖို့ မီးနှင့် ပမာတူ၏။ လူ့လောကကြီး အသက်ရှင်တည်တံ့ရေးအတွက် မီးသည် မရှိမဖြစ်သော လိုအပ်ချက် ဖြစ်၏။ မီးကို အမှီပြု၍သာလျှင် စားသောက်နေထိုင်ရေး ကိစ္စအဝဝကို ဆောင်ရွက်ကြရ၏။ သို့ရာတွင် မီးသည် ကောင်းကျိုး တစ်ခုတည်းကိုသာ ဆောင်ရွက်သည် မဟုတ်ပေ။ ကောင်းကျိုးကို ဆောင်နေရင်းကပင် အိုးအိမ် တိုက်တာများကို ရက်ရက်စက်စက် ဝါးမျိုပစ်တတ်ပေသေးသည်။

ထို့အတူပင် လာဘ်ပေါများခြင်း၊ နာမည်ကြီးခြင်းတို့သည် သုံးတတ်လျှင် ဆေးဖြစ်၍ မသုံးတတ်လျှင် ဘေးဆိုးကြီးများ ဖြစ်လာတတ်၏။ သုံးတတ်သူအဖို့ ရလာသမျှ အသုံးအဆောင်များသည် သာသနာတော်ကြီး အတွက်သာ ဖြစ်၏။ မိမိကဲ့သို့ ပြည့်ပြည့်စုံစုံ မရှိရှာကြသော သီတင်းသုံးဖော်များနှင့်အတူ ထပ်တူထပ်မျှ ဝေငှ သုံးဆောင်ရန်သာဖြစ်၏။ ဤသို့သုံးရုံသာ သုံးရမည့် ပစ္စည်းများကို သုံးရုံမျှ မကတော့ဘဲ အစွဲဝင်လာလျှင်ကား အသုံးမတတ်သည့် ဘက်သို့ ရောက်သွားချေတော့သည်။ ထို့ကြောင့် ရှင်တော်မြတ်ဘုရားက ပစ္စည်းလေးပါးနှင့် ပတ်သက်၍ ဘေးမသိ ရန်မခ သုံးတတ် စားတတ်ကြစေရန် ဤသို့ မိန့်မှာတော် မူခဲ့ပေသည်။

"ရဟန်းတို့၊ အမွေးရှည်သော သိုးသည် ဆူးချုံထဲသို့ တိုးဝင်ရာတွင် မိမိ အမွေးနှင့် ဆူးချုံကပ်ငြိ၍ အချုပ်အနှောင်ခံရကာ အသက်ဆုံးရှုံးရ၏။ ထို့အတူပင် လာဘ်ပေါများခြင်း၊ နာမည်ကြီးခြင်းကို တပ်မက်မောသော ရဟန်းသည် ရွာသို့လည်းကောင်း၊ နိဂုံးသို့လည်းကောင်း ဆွမ်းခံဝင်ရာတွင် မိမိ၏ တက်မက်မောမှုနှင့်

ဒါယကာ၊ ဒါယိကာမအပေါ် ကပ်ငြိ၍ အချုပ်အနှောင်ခံရကာ ရဟန်းတရားများ လက်လွတ်ဆုံးရှုံးရပေသည်။

"ရဟန်းတို့၊ ဤသို့အားဖြင့် လာဘ်ပေါများခြင်း၊ နာမည်ကြီးခြင်းသည် ခက်ထန်မာကျော၏။ လွှသွားထက်ထက်ကဲ့သို့ ဖြစ်၏။ ကြမ်းတမ်း၏။ ယောဂ ကုန်ရာ မြတ်လှစွာသော နိဗ္ဗာန်တရားကို မရ၊ မရောက်စေရန် နှောင့်ယှက်တတ်၏။ ထို့ကြောင့် သင်ရဟန်းတို့သည် လာဘ်ပေါများလိုသော နာမည်ကြီးလိုသော အလိုတဏှာကို ပယ်စွန့်နိုင်ရန် ကျင့်သုံးကြကုန်လော့။ လာဘ်ပေါများခြင်း၊ နာမည် ကြီးခြင်းတို့က မိမိစိတ်ကို ပိတ်ဆို့ ဖုံးကွယ် မသွားစေရန် ကျင့်သုံးကြကုန်လော့"

**(နိဒါနဝဂ်၊ လာဘသက္ကာရသံယုတ်၊ ဒီဃလောမိကသုတ်)**

ရှေ့အလားအလာကို အသေအချာ သိမြင်တော်မူပြီးသော ဘုရားရှင်က ကြိုကြိုတင်တင် မိန့်မြွက်တော်မူခဲ့သည် မှန်၏။ ဉာဏ်တော်နှင့်ယှဉ်၍ မိန့်မြွက် တော်မူသည်ကို စိတ်အစဉ်မှာ ဉာဏ်ယှဉ်နိုင်သော အရှင်မြတ်များက ဦးထိပ်ရွက် ပန်ဆင်ထားကြပြီးလည်း ဖြစ်ပါသည်။ သို့ရာတွင် သူတို့ကဲ့သို့ နားနှင့်ဆတ်ဆတ် ကြားနာထားရသော တရားကို နှလုံးသားထိအောင် ပို့ဆောင်တတ်သူတို့မှာ အနည်းငယ်မျှသာ။ နားနှင့် ကြားနာပြီးနောက် နားမှာပင် လမ်းဆုံးသွားသူတို့ကား ပေါများလှ၏။ ဤသည်မှာ ကမ္ဘာလောကကြီး၏ နိယာမတစ်မျိုး ဖြစ်နေမည်လား မဆိုနိုင်ပါ။

နားမှာလမ်းဆုံးသော ရဟန်းတို့တွင် တချို့သည် ဝေဠုဝန်ကျောင်းတော်မှာ ကျန်ရစ်ခဲ့ကြ၏။ ဘုရားရှင် ဒေသစာရီ လှည့်လည်တော်မူရာ နောက်သို့လည်း တချို့ လိုက်ပါလာကြ၏။ ကျန်ရစ်သူတို့သည် ဒေဝဒတ်၏ ဘုန်းရိပ် ကံရိပ်ကို ခိုလှုံကာ ဒေဝဒတ်ကို အားကျနေသူများ ဖြစ်ကြ၏။ သို့ဖြစ်၍ သူတို့ကို အထူး ဆိုဖွယ် မရှိပါ။ နောက်တော်ပါးမှ ဖဝါးခြေထပ် လိုက်လာခဲ့ပါလျက် ဟိုတစ်ဖက် သို့ စိတ်ညွတ်၍ သွားကြရသော ရဟန်း တို့ကိုကား ဆိုခွင့်ရှိသမျှ ဆိုရပါဦးမည်။

သူတို့သည် ရဟန်းငယ်များ ဖြစ်ကြ၏။ ဝေဠုဝန်ကျောင်းတော်မှ ထွက်ခွာ လာစဉ်က သူတို့သည် အခြားရဟန်းများနှင့်အတူ စိတ်ပါလက်ပါ လိုက်လာခဲ့ ကြ၏။ လမ်းတစ်လျှောက်မှာ တွေ့လာ၊ ကြုံလာရသော ဒုက္ခများကို မညည်းမညူ ခံယူခဲ့ကြ၏။ ရောက်လေရာ အရပ်တွင် ရတတ်သမျှနှင့် ရောင့်ရဲနိုင်ခဲ့ကြ၏။ သို့ပါလျက် ဝေဠုဝန် ကျောင်းတော်ပြန်ရောက်လျှင်ကား သူတို့စိတ်များ ထွေပြား၍ လာကြပေသည်။ မိန့်ကြားတော်မူခဲ့သည့်အတိုင်း ကျင့်သုံးမှု မရှိကြလေသောကြောင့် လာဘ်ပေါများခြင်း၊ နာမည်ကြီးခြင်းတို့က သူတို့စိတ်ကို ပိတ်ဆို့ ဖုံးကွယ်သွား

ကြပြီဖြစ်၏။ ကျောင်းနေရဟန်းများထံမှ ကြားရသော သတင်းစကားကို ဘုရားရှင်ထံ တစ်ဆင့် လျှောက်ထားရာမှာပင် သူတို့သည် သူတို့၏ ဇာတိရုပ်ကို မဖုံးကွယ်နိုင်ကြပေ။ သူတို့အသံ၊ သူတို့ဟန်ပန်များတွင် ထိုတစ်ဖက်ကို အထင်ကြီးနေသော စိတ်အစဉ်၏ အရိပ်များ ထင်ဟပ်လျက် ရှိနေကြပေသည်။

ဘုရားရှင်အဖို့ ဒေဝဒတ်၏ ဘုန်းကံ ကြီးမားခြင်းကို မနာလိုစရာ လုံးဝ မရှိပါ။ အရှင်သီဝလိတို့လို သာသနာတော်အား ကျေးဇူးများသူတို့အတွက် ဝမ်းမြောက်ဝမ်းသာ ချီးမွမ်းတော်မူသော်လည်း ကျေးဇူးမများသောသူနှင့် ပတ်သက်၍ကား ဝမ်းနည်းစရာ လုံးဝမရှိပါ။ သို့ရာတွင် သူ့ကို အားကျ၍ သူ့လမ်းစဉ် လိုက်ရန် ဟန်ပြင်နေကြသော ရဟန်းငယ်ကလေးများကိုကား အချိန်မီ တားမြစ်ရပါလိမ့်မည်။ ထို့ကြောင့် ဘုရားရှင်က–

"ရဟန်းတို့၊ ငှက်ပျောပင်သည် မိမိကိုယ်ကို သတ်ရန် အသီးသီးလေဘိ သကဲ့သို့၊ ဒေဝဒတ်၏ လာဘ်ပေါ်များခြင်း၊ နာမည်ကြီးခြင်းသည် မိမိကိုယ်ကို သတ်ရန် ပေါ်ပေါက်လာ၏။ ကောင်းမြတ်သော ဂုဏ်အင်္ဂါများ ပျက်စီးသွားစေရန်သာ ဖြစ်ဘိ၏"

ဒေဝဒတ်အဖို့ ဘယ်နည်းနှင့်မျှ နှစ်သက်နိုင်မည် မဟုတ်သော စကားလုံးတို့ကိုပင် ရဟန်းငယ်များ အကျိုးကို ရှေးရှု၍ မိန့်ကြားတော် မူလိုက်ရ၏။ ရဟန်းငယ်တို့၏ ယောက်ယက်ခတ်နေသော စိတ်အလျဉ်ကို စင်စင်ကြယ်ကြယ် ဖြတ်တောက်ပစ်နိုင်ရန် ခပ်ပြတ်ပြတ် မိန့်တော်မူလိုက် ရပေသည်။

ဤဒေသနာတော်ကို ဤနေ့ဤရက်မှ စကားစပ်လာ၍ ဘုရားရှင် မိန့်ကြားတော်မူခြင်း ဖြစ်၏။ သို့သော် ဤသို့ မိန့်ကြားတော် မမူမီကပင် ဒေဝဒတ်၏ ပျက်စီးခန်းများက နိဒါန်းချီ၍ နေခဲ့ကြပါပြီ။

ရဟန်းဖြစ်ခါစက ဒေဝဒတ်သည် လောကီစျာန် အဘိညာဉ်ကို ရ ခဲ့၏။ အခြား ပုဂ္ဂိုလ်များသည် ရရှိထားသော လောကီစျာန်ကို အခြေပြုကာ လောကုတ္တရာ စခန်းသို့ တက်လှမ်းကြ၏။ ဒေဝဒတ်၏ လောကီစျာန်များကား လာဘ်ပေါ်များခြင်း၊ နာမည်ကြီးခြင်းမှာသာ လမ်းဆုံးသွားကြ၏။ အဇာတသတ် မင်းသား၏ ထောက်ခံအားပေးမှုဖြင့် သံဃာ့ပရိသတ်ကြီးကို ဘုရားရှင်ထံမှ လက်ပြောင်းယူကာ သူကိုယ်တိုင် ဦးဆောင်ဦးရွက်ပြုတော့မည်ဟု စိတ်ကူးလိုက်သည်တွင်ကား ရရှိထားသော လောကီစျာန်ကလေးပင် ကွယ်ပျောက်၍ သွားခဲ့ရပေသည်။

ဤအကြောင်းအရာ ဖြစ်ပေါ်လာစဉ်ကပင် အရှင်မဟာမောဂ္ဂလာန်က ဘုရားရှင်ထံ လျှောက်ထားခဲ့ရာ–

'မောဂ္ဂလာန်၊ ဤစကားကို နှုတ်လုံပါစေ၊ မောဂ္ဂလာန်၊ ဤစကားကို နှုတ်လုံပါစေ၊ သင့်နှုတ်ဖျားမှ ဤစကားကို တခြားမှာ မထွက်ပါစေနှင့်။ သာသနာတော်မှ အချည်းအနှီးဖြစ်သော ထိုယောကျ်ားသည် သူ့အမှုနှင့်သူ ထင်ရှားလာပါလိမ့်မည်"

ဤသို့ ပိတ်ပင်တော်မူခဲ့သဖြင့် ဒေဝဒတ်၏ စိတ်အကြံကို အများတကာ မသိနိုင်ကြပါ။ ဟန်သာရှိ၍ အဆန်မရှိတော့သော အဖြစ်ကိုလည်း သူ့ဒါယကာရှင်မင်းသားကိုယ်တိုင်ပင် မသိခဲ့ပါ။ သို့ဖြစ်၍ သူ့အခြွေအရံတို့သည် ရှိမြဲတိုင်းရှိနေကာ သူ့ဘုန်းတန်ခိုးများသည်လည်း တိုးမြဲတိုင်း တိုးနေခဲ့ကြပေသည်။

**(စူဠဝဂ်၊ သံဃဘေဒကက္ခန္ဓက၊ ပထမဘာဏဝါရ)**

အရှိန်အဟုန်မပျက် တိုးတက်နေသောဘုန်းတန်ခိုးများသည် သူ့အလိုဆိုးကိုကား အမိလိုက်နိုင်မည်မဟုတ်ပါ။ ကျွန်ုပ်တို့ဘက်က နှုတ်စောင့်စည်းထားကြသော်လည်း သူကတော့ သူ့လမ်းစဉ်အတိုင်း မှန်မှန်ကြီး ချီတက်လျက်သာ ရှိ၏။ အဇာတသတ်မင်းသား လှူဒါန်းလေသမျှသည် သူ့ အသင်းအပင်းများ အလျှံပယ်စားသောက်ရန် မကုန်မခန်းနိုင်လျှင် ဖြုန်းတီးပစ်ရန်သာ ဖြစ်ပေသည်။ တိုင်းသူပြည်သားတို့က ချွေးနှင့်သွေးနှင့်ရင်းနှီးကာ ထုတ်လုပ်ထားရသော ဤပစ္စည်းကို စားသုံးရာတွင် သီလဂုဏ် ရှိရန်မလို။ သမာဓိဂုဏ်၊ ပညာဂုဏ်များလည်း အလိုမရှိ။ အဖိုးထိုက်တန်လှသော ဤပစ္စည်းလေးပါးတို့ကို စားသုံးနိုင်ရေးအတွက် ရှိသင့်ရှိထိုက်သော အရည်အချင်းမှာ တစ်ခုတည်းသာ ဖြစ်၏။ ထိုတစ်ခုတည်းကား အခြားမဟုတ်။ ဒေဝဒတ်ကို ကိုးကွယ်ဆည်းကပ်ရေးပင် ဖြစ်ပေသတည်း။

ကောင်းကောင်းမွန်မွန်၊ စားရသောက်ရ၊ နန်းတွင်းသူ နန်းတွင်းသားတို့နှင့်လည်း ရင်းနှီးခွင့်ရကြသဖြင့် တစ်စတစ်စ တိုးပွားလာသော ပရိတ်သတ်များတွင် ရဟန်းမများလည်း ပါဝင်လျက် ရှိကြ၏။ သူတို့အထဲက နှုတ်စောင်းထက်ထက်နှင့် နေရာတိုင်း ဝင်စွက်တတ်သူကား ထုလ္လနန္ဒာ ဖြစ်၏။ သူစွက်လေသမျှလည်း ပြဿနာ တက်ရသည်ချည်း ဖြစ်ပေသည်။ သကျသားတော် အရှင် ဥပနန္ဒနှင့် မောင်နှမတော်သည် ဆိုလျှင် လူတိုင်းက ယုံကြည်မည် ထင်ပါ၏။

ထို့နေ့က ရာဇဂြိုဟ်မြို့တော်တွင်းသို့ ကျွန်ုပ်တို့ ဆွမ်းစားကြွခဲ့ကြ၏။ ကျွန်ုပ်၏ ရှေ့တွင် အရှင်မဟာသာရိပုတ္တရာ၊ အရှင်မဟာမောဂ္ဂလာန်၊ အရှင်မဟာကစ္စာန၊ အရှင်မဟာကောဋ္ဌိက၊ အရှင်မဟာကပ္ပိန၊ အရှင်အနုရုဒ္ဓါ၊ အရှင်ရေဝတနှင့် အရှင်ဥပါလိတို့ ကြွသွားကြ၏။ ရာဟုလာသည် ကျွန်ုပ် နောက်က လိုက်ပါလာ၏။ ဆွမ်းဒါယကာ၏ အိမ်ဝသို့ အရောက်တွင် ထုလ္လနန္ဒာနှင့် ကျွန်ုပ်တို့ ဆုံမိကြ၏။

ဤအိမ်သည်အရှင်မ၏ ဆွမ်းဒါယကာ အိမ်ဖြစ်၏။ သာမည ဆွမ်းဒါယကာ မဟုတ်။ နေ့စဉ်နေ့တိုင်း မပျက်မကွက် လောင်းလှူသော အိမ်ဖြစ်၏။ ရဟန်းမများ သည်လည်း ကျွန်ုပ်တို့နည်းတူ သပိတ်ပိုက်၍ ဆွမ်းခံကြရသည်ဖြစ်ရာ ဤအိမ်ဝတွင် ဤအရှင်မနှင့် ဆုံရသဖြင့် ကျွန်ုပ်အဖို့ မထူးဆန်းပါ။ သို့သော် ဤအရှင်မ၏ နှုတ်ဖျားမှ ထွက်လာသော စကားတို့ကား ထူးခြားသကဲ့သို့ ဖြစ်နေကြပေသည်။

"ဒါယကာကြီး၊ ဒါယကာကြီး ပင့်ထားသော ပုဂ္ဂိုလ်များသည် ရဟန္တာ အစစ်အမှန်ကြီးများ ဖြစ်ကြပါပေသည်"

ဤအသံကိုကြားရရုံနှင့် သဘောရိုးမဟုတ်ကြောင်း ကျွန်ုပ် ကောင်းကောင်း သိလိုက်ပါသည်။ ဤအသံ၏ နောက်ကွယ်မှာ အကြောင်းတစ်ခုခုတော့ ရှိနေမည်သာ။ သို့ရာတွင် ကျွန်ုပ်တို့သည် မည်သို့မျှ နှုတ်မဟဘဲ အိမ်ထဲသို့ ဝင်ခဲ့ကြ၏။ ခင်းကျင်းထားသော နေရာ၌ ကျွန်ုပ်တို့ ထိုင်မိသည့် တိုင်အောင် ဆွမ်းဒါယကာကြီး ဝင်မလာသေးပါ။ သူ့အရှင်မနှင့် စကားပြောနေဆဲ ဖြစ်ပါ၏။

"အရှင်မသည် စကားမတည်လေစွတကား။ စောစောတုန်းကတော့ အရှင်ဒေဝဒတ်၊ အရှင်ကောကာလိက စသော ပုဂ္ဂိုလ်များကိုသာ ရဟန္တာကြီးများဟု ဆိုခဲ့၏။ အရှင်မဟာသာရိပုတ္တရာတို့ကို သာမည ရဟန်းများဟု သင်ဆိုခဲ့၏။ ယခု လောလောဆယ် ဆိုထားသော စကားကို ယခုပင် သင်သည် ကပြောင်းကပြန် လုပ်ဘိ၏။ မျက်နှာချင်းဆုံမိခါမှ သာမညရဟန်းဟု ဆိုထားသည်တို့ကို ရဟန္တာကြီးများဟု သင်ပြောလာပြန်၏။ သည့်က ရှေ့မှာ တပည့်တော်တို့ အိမ်ရိပ်ကို မနင်းလာနှင့်တော့"

ဤသို့ ဒေါနှင့် မောနှင့် ပြောပြီးခါမှ သူ့ကိုယ်သူ ဣန္ဒြေဆည်ကာ ဆွမ်းဒါယကာကြီး ဝင်ရောက်လာပေသည်။

ဤသည်ကို ထောက်သောအားဖြင့် ဒေဝဒတ်၏ ခြေလှမ်းများကို ကျွန်ုပ်တို့ အကဲခတ်နိုင်ပေသည်။ ရဟန်းဖြစ်ခါစက ရခဲ့ဖူးသော ဈာန်တန်ခိုးဖြင့် အတွေ့အကြုံ မရင့်ကျက်သေးသော အဇာတသတ်မင်းသားကို သိမ်းသွင်း၍ ထားနိုင်ခဲ့၏။ အဇာတသတ် လှူဒါန်းသောပစ္စည်းများဖြင့် သဘောလွယ်သော ရဟန်းများ၊ရဟန်းမများကို စည်းရုံး၍ ထားနိုင်ခဲ့၏။ သို့ရာတွင် ဒေဝဒတ်သည် ဤမျှဖြင့် ကျေနပ်ချိမ့်မည်လော။ အဇာတသတ်မင်းသားထံမှ နေ့စဉ် ဆွမ်းအုပ်ငါးရာ ကပ်လာကြသည့်ကြားမှ မြို့တွင်းသို့ ဆွမ်းစားလိုက်နေခြင်းက သူ့အတွင်းစိတ်ကို ဖော်ပြထားပေသည်။ မင်းညီမင်းသား မှူးမတ်များသာမက၊ ရဟန်း၊ ရဟန်းမများ သာမက မြို့တော်ထဲက လူတန်းစားပေါင်းစုံကိုပါ ဆွဲဆောင် စည်းရုံးလို၍ ဖြစ်ပေသည်။

ဤခြေလှမ်းတို့၏ နောက်ဆုံးပန်းတိုင်သည် သူ့အချိန်ရောက်မှ ဘွားခနဲ ပေါ်လာမည်ဖြစ်၍ ယခု လောလောဆယ်မှာကျွန်ုပ်က တစ်စုံတစ်ရာ စကားဦး သန်းထားရန် မသင့်သေးပါ။ အမြော်အမြင်ကြီးစွာ ဘုရားရှင် ပိတ်ပင်ထားတော် မူခဲ့သည့်အတိုင်း ကျွန်ုပ် နှုတ်ဆိတ်၍ နေရပါဦးမည်။

မည်သို့ပင် ဖြစ်စေ၊ ရဟန်းမတစ်ပါးက နှိုးဆော်တိုက်တွန်း၍ ကျွေးသော ဆွမ်းကို ရဟန်းတစ်ပါးက စားသောက်ခြင်းသည် သာသနာတော် ပျက်စီးကြောင်း ဖြစ်၍ ဘုရားရှင်က ဤအပြုအမူကို ပိတ်ပင်တော် မူရပေသည်။ သိက္ခာပုဒ် ပညတ်တော်မူရပေသည်။

"စောစောက လူတို့ စီမံထားပြီးသည်မှ တစ်ပါး ရဟန်းမ စီမံပေးသော ဆွမ်းကို စားသော ရဟန်းအား ပါစိတ်အာပတ်သင့်စေ"

ဤသိက္ခာပုဒ် ပညတ်တော်မူစဉ်က ဒေဝဒတ်သည် ရှေ့တော်မှောက်မှာ ရှိနေခဲ့၏။ ဤအမှု၏ လက်သည်အဖြစ်ဖြင့် ဟုတ်တိုင်းမှန်စွာ အမေးအစစ် ခံယူခဲ့ ရ၏။ ဟုတ်တိုင်းမှန်စွာ ထွက်ဆိုခဲ့ရ၏။ ပညတ်တော်မူသော သိက္ခာပုဒ်ကို ပယ်လှန် တားမြစ်ခြင်း မရှိ၊ ဦးခေါင်းငိုက်စိုက်ဖြင့် ခံယူခဲ့၏။ သို့ရာတွင် ဤသိက္ခာပုဒ်ကို အဟုတ်တကယ် သူကျင့်သုံးလိမ့်မည် မထင်ပါ။ ဘုရားရှင်၏ အရိပ်ကို ခိုနေရ ပါလျက် ဘုရားရှင်ကို တုဖက်လိုစိတ် ရှိနေသူတစ်ဦးအဖို့ ဘာဆေးမျှ စွမ်းနိုင်မည် မဟုတ်ပါ။ ရှေ့တော်မှောက်၌ ငြိမ်ခံနေခြင်းမှာ ဘုရားရှင်၏ အရှိန်အဝါကြောင့် လည်း ဖြစ်ပါလိမ့်မည်။ နောက်ခံအင်အား မပြည့်ဝသေး၍လည်း ဖြစ်ပါလိမ့်မည်။

**(သုဒ္ဓပါစိတ်၊ ပရိပါစိတ သိက္ခာပုဒ်)**

လိုအပ်သော နောက်ခံအင်အားသည် ရာဇဂြိုဟ်နန်းတော်တစ်ခုတည်းနှင့် မပြည့်စုံသေးပါ။ ရာဇဂြိုဟ် မြို့တော်ကြီးနှင့်တကွ မဂဓတိုင်းတစ်ခွင်လုံး သိမ်းကျုံး ထားနိုင်သည့် တိုင်အောင်ပင် သူ့လိုအင်ဆန္ဒ ပြည့်ဝဦးမည် မဟုတ်ပါ။ အဘယ့် ကြောင့်ဆိုသော် ဘုရားရှင်ကို ကြည်ညိုဆည်းကပ်သော သူတို့သည် တိုင်းအစိုစို၊ မြို့အလီလီ၊ ပြည်အဝဝ၊ နေရာဒေသ အနှံ့အပြား ရှိနေကြသည်ဖြစ်ရာ သူတို့၏ သဒ္ဓါတရား ပျက်သွားခါမှ သူ့လိုဘ ပြည့်မည်ဖြစ်၏။ နောက်လိုက် နောက်ပါ သာဝကများ မရှိတော့ခါမှ ဘုရားရှင်ကို အလွယ်တကူ တော်လှန်နိုင်မည် မဟုတ်ပါလော။

ဘုရားရှင်ကို အောင်မြင်စွာ တော်လှန်နိုင်ရေးအတွက် ဒေဝဒတ်၏ လက်ကိုင် တုတ်များသည် ဇာတိချက်ကြွေ မွေးရပ်မြေမှာလည်း ရှိနေကြပေပြီ။ သူတို့အထဲက တစ်ယောက်သော သူကို ယခု တင်ပြလိုပေသည်။

သီတင်းသုံးဖော်များ၏ နှုတ်ဖျားက 'သကျသားတော် သကျသားတော်' ဟူသော ချီးကျူးသံများ ကြားရလေတိုင်း ကျွန်ုပ် စိတ်အာရုံထဲမှာ မကြာမကြာ ပေါ်လာတတ်သော ရုပ်ပုံလွှာကား ဒဏ္ဍပါဏိ ဖြစ်ပါ၏။

ဒဏ္ဍပါဏိဟု ဆိုသဖြင့် တောင်ဝှေးတစ်ချောင်းဖြင့် တလှုပ်လှုပ် သွားနေရသော အဘိုးအိုတစ်ဦးဟု မထင်မှတ်စေလိုပါ။ ဤအမည်ကို ခံယူထားသော အသက် နှစ်ဆယ်ပတ်ဝန်းကျင် လူပျိုလူရွယ် တစ်ဦးမျှသာ ဖြစ်ပေသည်။ ရွှေပြား ကွပ်ထားသော တုတ်ကလေးကို ယမ်းကာယမ်းကာ လမ်းတကာ လျှောက်တတ်သူ လူပေါ်ကြော့ တစ်ယောက်ဖြစ်၍ ဤအမည် သည် သူနှင့် လိုက်ဖက်လှပါပေသည်။

ထိုစဉ်က ကျွန်ုပ်တို့သည် ဓာတိနယ်မြေက နိဂြောဓာရုံ ကျောင်းတိုက်မှာ ရောက်နေကြ၏။ ဆွမ်းကိစ္စများ ပြီးစီးလျှင် ဘုရားရှင်သည် နိဂြောဓာရုံ ကျောင်း တိုက်မှ မဟာဝုန်တောကြီးသို့ တစ်ပါးတည်း ကြွသွားတတ်၏။ နေ့လယ်နေ့ခင်း တွင် လူသံသူသံ တိတ်ဆိတ်ရာ၌ သက်သောင့်သက်သာ တစ်ပါးတည်း နေတော်မူ တတ်သည်မှာ ကိုယ်တော်မြတ်၏ အလေ့အထ ဖြစ်ပေသည်။

မဟာဝုန်တောကြီးအတွင်းက အရွက်စိပ်သော ဥသျှစ်ပင်ရိပ်၌ ထိုင်နေ တော်မူစဉ် ဒဏ္ဍပါဏိသည် သူ့လက်စွဲတော် တုတ်ကလေး တယမ်း ယမ်းဖြင့် ဘုရားရှင်ထံ ချဉ်းကပ်လာ၏။ ဟရားနာရန်၊ ဘုရားဖူးရန် တမင်တကာလာခဲ့ခြင်း မဟုတ်ပါ။ ရောက်တတ်ရာရာ တောတကာ၊ တောင်တကာ လှည့်လည်ရင်းက ဘုရားရှင်ကိုမြင်၍ ခရီးသွားဟာန်လွှဲ ချဉ်းကပ်လာခြင်းသာ ဖြစ်၏။

တခြားသူတွေက သကျမျိုးနွယ်ကို ဂုဏ်တင်နေကြချိန်တွင် သည်သကျ တစ်ဦးမှာကား ဘုရားရှင်ကို တွေ့၍မှု ဝတ်ချသူ မဟုတ်ပါချေ။ ရိုရိုသေသေ ချဉ်းကပ်ရကောင်းမှန်း မသိပါချေ။ ရှေ့တော်မှောက်သို့ ရောက်လာသည်နှင့် သူသည် သူ့လက်စွဲတော် တုတ်ကို ထောက်လျက်၊ တုတ်ဖျားမှာ လက်နှစ်ဖက် ထပ်၍ တင်လျက်၊ လက်ဖမိုးပေါ်မှာ မေးကိုထောက်လျက် တကယ့် နွားကျောင်း သား တစ်ယောက်ကဲ့သို့ ရိုင်းစိုင်းသော အမူအရာဖြင့် မေးမြန်းလိုက်၏။

"အသင်ရဟန်း၊ သင်သည် မည်ကဲ့သို့ ဆိုလေ့ရှိပါသလဲ။ ဘယ်ကဲ့သို့ ဟောကြားလေ့ ရှိပါသလဲ"

ကိုယ်အမူအရာတွင် ရိုသေကိုင်းညွှတ်မှု မပါလာသကဲ့သို့ပင် နှုတ်က ထွက်လာသော စကားတို့မှာလည်း ရင့်ရင့်သီးသီး ရှိကြပါဘိ၏။ ရိုင်းရိုင်းစိုင်းစိုင်း ရှိကြပါဘိ၏။ ဘယ်သူ့ကြောင့် ဤမျှ ရိုင်းစိုင်းနေသည်ကို အထူး တင်ပြနေရန် မလိုပါ။ ရာဇဂြိုဟ်မြို့တော်က ထိုးနှက်လိုက်သော လုံရှည်ကြီးပင် ဖြစ်ပေသည်။

မည်သူ့ကြောင့် မည်မျှလောက် ရိုင်းစိုင်းသည် ဖြစ်ပါစေ၊ မေးလာသူရှိလျှင်ကား ဘုရားရှင်တို့ ဓမ္မတာ အဖြေပေးရပါလိမ့်မည်။ ထို့ကြောင့်

"ဒဏ္ဍပါဏိ၊ ငါဘုရားသည် ဤလောကမြေအပြင်တွင် မည်သူနှင့်မျှ ရန်လိုစကား မပြောကြားပေ။ ကာမဂုဏ်အာရုံ မခံမင်သော စိတ်ဖြင့် နေထိုင်သော၊ တရားသဘောနှင့် ပတ်သက်၍ ယုံမှားသံသယ လုံးဝ ကင်းပြီးသော၊ ဘဝကြီးငယ် အသွယ်သွယ်၌ တွယ်တာမှု ကင်းဆိပ်လေပြီးသော ငါဘုရားကို ကိလေသာ အပေါင်းတို့ မကပ်လာနိုင်တော့ပေ။ ဒဏ္ဍပါဏိ၊ ငါဘုရားသည် ဤသို့ ဆိုလေ့ရှိပေသည်။ ဤသို့ ဟောကြားလေ့ ရှိပေသည်"

မေးမြန်းသူက လိုလိုချင်ချင် မရှိသော်လည်း ဖြေကြားသော ပုဂ္ဂိုလ်မြတ်ကတော့ တရားဓမ္မအပေါ် လေးစားစိတ်အပြည့်ဖြင့် ဖြေကြားတော်မူပေသည်။

အကယ်၍သာ ဒဏ္ဍပါဏိသည် စဉ်းစားတတ်သူ ဖြစ်ပါက ဤနေရာမှာပင် ဒေဝဒတ်နှင့် ပတ်သက်၍ အမြင်မှန် ရရှိသွားမည် ဖြစ်၏။ "ငါဘုရားသည် မည်သူ့နှင့်မျှ ရန်စကား မပြောကြားပေ" ဟူသော စကားထဲ၌ သူ့ဆရာ ဒေဝဒတ်လည်း အပါအဝင်ဖြစ်ကြောင်း သူ့သဘောပေါက်စရာ ရှိပေသည်။

ရာဇဂြိုဟ်မြို့တော်၌ ဘုရားရှင်မိန့်တော်မူခဲ့ခြင်းမှာ ဒေဝဒတ်၏ လာဘ်လာဘကို မနာလို၍ မဟုတ်ပါ။ သူ့ကို တမင်သက်သက် နှိမ်တော်မူလို၍လည်း မဟုတ်ပါ။ နောင်လာမည့် အရေးအခင်းများကို ကြိုကြိုတင်တင် မြင်တော်မူထားသည့်အလျောက် မထောက်မညှာ မိန့်တော်မူရခြင်းသာ ဖြစ်ပေသည်။

ဤသို့အားဖြင့် ဘုရားရှင်သည် မှန်ကန်ရာကိုသာ ဟောကြားတော်မူ၏။ မည်သူနှင့်မျှ ရန်လိုစကား မြွက်ကြားတော်မမူပေ။ ဤအနက် အဓိပ္ပာယ်ကို ဒဏ္ဍပါဏိတစ်ယောက် သဘောပေါက်ခဲ့ပါသလော။

ဝေးလေစွ၊ ဝေးလေစွ ဟူ၍ပင် ဆိုရပါလိမ့်မည်။

ဘုရားရှင်က ဤသို့ ဖြေကြားတော် မူလိုက်လျှင်ပင် ဒဏ္ဍပါဏိသည် ပြက်ရယ်လှောင်ပြောင်သော သဘောဖြင့် ခေါင်းကို ခါယမ်းလိုက်၏။ လျှာကို ထုတ်လိုက်၏။ ထို့နောက် နဖူးရေများ တွန့်ရှုံ့ရင်းက တုတ်တယမ်းယမ်းနှင့် ထွက်သွားပေတော့သည်။ သူသည်လည်း ဒေဝဒတ်ကဲ့သို့ နောင်တကို နိဒါန်းပျိုးသူ တစ်ယောက် ပါပေတည်း။

'နောင်တ' ဟူသည်မှာ နောင်အခါကျမှ စုတ်တသတ်သတ်နှင့် တ,နေရသော သဘောဖြစ်၏။ သို့သော် အချိန်အခါ မရောက်လာသေးမီမှာကား သူ၏ ဇာတိရုပ်ကို မပြတတ်ပါ။ နောင်တ၏ နိဒါန်းတွင် မာန်မာန တံခွန်သည်

တလူလူ လွင့်လျက်ရှိနေ၏။ တန်ခိုးဩဇာ အရှိန်အဝါကောင်းလျက်ရှိနေ၏။ အဇာတသတ် မင်းသား၏ အရှိန်အဝါဖြင့် ကျွန်ုပ်တို့ ညီတော်၏ အာဏာစက်သည် မဂဓ နန်းတော်ထဲထိ ဖြန့်ကြက်လာရာက ယခု ကျွန်ုပ်တို့၏ ဇာတိ နယ်မြေထိ ကျယ်ပြန့်လာချေပြီ။

ကျွန်ုပ်တို့ ညီတော် ဒေဝဒတ်သည် ရပ်တန်းက ရပ်လိုက်လျှင် ကောင်းလေစွ။ သို့သော် သူ့နောင်တော်ကြီးဘုရား ကိုယ်တော်တိုင်က မျက်နှာလွှဲထားသော ကိစ္စတစ်ခုကို ကျွန်ုပ် မည်သို့ တတ်နိုင်ပါမည်နည်း။ တစ်မျိုးပြီး တစ်မျိုး ပျိုးလာသော နိဒါန်းများကိုသာ ရင်ငွေ့တိတ် ကြည့်နေခဲ့ရပါတော့သည်။

(မူလပဏ္ဏာသ၊ မဇ္ဈိမပဏ္ဏာသ ပါဠိတော်နှင့် အဋ္ဌကထာ)

**

# သာဝတ္ထိ နန်းတော်တွင်းဝယ်

ရှေ့အခန်းများတုန်းက ကောသလမင်းကြီး သဒ္ဒါတရား ထက်သန်ပုံကို တင်ပြခဲ့ပါပြီ။ ယခု ကောသလမင်းကြီး နန်းတော်သို့ ကျွန်ုပ် အဝင်အထွက် ပြုလာရပုံကို တင်ပြရပါဦးမည်။

တကယ်တော့ဖြင့် ပြည့်ရှင်မင်းတို့၏နန်းတော်ဟူသည်မှာ ကျွန်ုပ်တို့နှင့် မအပ်စပ်ပါ။ 'ပြည်ထဲအရေး၊ ပေါက်နှင့်ကျေး' သို့ ရှုပ်ထွေးလှသောအရပ်သို့ မကြာခဏ မသွားသင့်ပါ။ ရဟန်းတို့ ထုံးစံ ဆွမ်းခံ ဆွမ်းရပ်မှုမှအပ ကြာရှည်သဖြင့် မနေသင့်ပါ။ သို့ပါလျက် အကြောင်းတရားများ ဖန်တီးမှု ကြောင့် ကျွန်ုပ် မကြာခဏ ရောက်လာခဲ့ရ၏။ ဆွမ်းခံခြင်း၊ ဆွမ်းရပ်ခြင်းမျှဖြင့် မပြီးနိုင်ဘဲ နန်းတော်တွင်းမှာသာ ကြာမြင့်စွာ နေခဲ့ရ၏။ ဤသို့ နေခဲ့ရသဖြင့် ကောင်းသော အဖြစ်များနှင့် တွေ့ခဲ့ရသလို၊ မကောင်းသော အဖြစ်များနှင့်လည်း မလွဲသာ မရှောင်သာ ကြုံခဲ့ရ၏။ ကျွန်ုပ်၏ တစ်သက်တာကာလ အတွေ့အကြုံကို မှတ်တမ်းတင်နေခိုက်မှာ ဖြစ်၍ အကောင်းရော၊ အဆိုးပါ ကျွန်ုပ် တင်ပြရပါဦးမည်။ ကောင်းသည်ကို သာဓုခေါ်၍ မကောင်းသည်ကို ရှောင်ရှားနိုင်ကြရန် ဖြစ်ပါသည်။

သာဝတ္ထိ နန်းတော်တွင်းသို့ ကျွန်ုပ် ရောက်ခဲ့ရသော အကြောင်းရင်းမှာ အကောင်းပကတိ ဖြစ်ပါသည်။ သက်ဦးဆံပိုင် ဘုရင်ကြီးထက် ဘုရားရှင်ကို ပို၍ လေးစားသော အနာဂါမ် ပုဂ္ဂိုလ်ကြီးတစ်ယောက်က ပို့ဆောင်ပေးလိုက်၍ ဖြစ်ပါသည်။

ထိုနေ့က ဘုရားရှင်သည် ကောသလမင်းကြီး၏ ဥယျာဉ်တော်မှာ သီတင်းသုံးတော်မူခဲ့၏။ မင်းသုံးသော ဥယျာဉ်ဝယ် အများပြည်သူတို့ အဝင်အထွက် မပြုရသဖြင့် လူသံသူသံ တိတ်ဆိတ်လှ၏။ ထို့ကြောင့် ထိုဥယျာဉ်သို့ ဘုရားရှင်

တစ်ခါတစ်ခါ ကြွတော်မူရာ ကျွန်ုပ် လိုက်ပါ၍ နေရာခင်းပေးခဲ့ရ၏။ ထိုနေ့မှာတော့ ကျွန်ုပ်ကိုယ်စား အနာဂါမ်ဒါယကာကြီး ပါသွားပေသည်။

ဒါယကာကြီး၏ အတွေ့အကြုံကို ကျွန်ုပ်က တစ်ဆင့်တင်ပြရသော် ဘုရားရှင်သည် အရိပ်ကောင်းလှသော သစ်ပင်အောက်ဝယ် ဒါယကာကြီး ခင်းပေးသော နေရာမှာ ငြိမ်သက်စွာထိုင်နေတော်မူ၏။ ဒါယကာကြီးကလည်း ရှေ့တော်မှောက်မှာ တုပ်ဝပ်လျက်ရှိ၏။ ဆရာ့ရော တပည့်ပါ တရားနှလုံးသွင်း၍ နေခိုက်တွင် ဥယျာဉ်စောင့် ရောက်လာခဲ့၏။ ဥယျာဉ်စောင့်သည် ဘုရားရှင်ကို အဝေးက အရိပ်အသေပြုကာ အသာပြန်လှည့်သွား၏။ သူပြန် သွား၍ တော်တော်ကြာလျှင် ကောသလမင်းကြီး ရောက်လာပေတော့သည်။

ဥယျာဉ်စောင့် စောစောက ရောက်လာခြင်းမှာ ကောသလမင်းကြီးက လွှတ်လိုက်၍ ဖြစ်ပါလိမ့်မည်။ ဥယျာဉ်ထဲမှာ အရပ်သူ အရပ်သားများ မတော်တဆ ရောက်နေပါက ရှင်းလင်းထားနှင့်ရန် ဖြစ်ပါလိမ့်မည်။ ဤတွင် ဘုရားရှင် ရှိနေမှန်း သိ၍ လုံးဝ အရှင်းမခိုင်းတော့ဘဲ ဝမ်းမြောက်ဝမ်းသာ ထွက်လာခဲ့ပါလိမ့်မည်။

မိမိ ဥယျာဉ်ထဲမှာ ဘုရားရှင်ကို ဖူးမြင်ရတော့မည်ဟု ဝမ်းမြောက်ဝမ်းသာ ထွက်လာခဲ့သော ကောသလမင်းကြီးသည် ဘုရားရှင်နားရောက်ခါမှ ခြေလှမ်းများ တုံ့ဆိုင်းသွားရ၏။ ဘုရားရှင် ရှေ့တော်ဝယ် သူ မမြင်ဖူးသေးသော ဒါယကာကြီးကို မြင်လိုက်ရ၍ ဖြစ်၏။ သို့ရာတွင် မင်းကြီးသည် ချက်ချင်းပင် ဣန္ဒြေဆည်ကာ ဘုရားရှင်ထံ ချဉ်းကပ်၍ ရှိခိုးလိုက်ပေသည်။ ဘုရားရှင် ရှေ့တော်မှောက် ရောက်နေသည်ကို ထောက်ကာ လူဆိုးသူဆိုး မဖြစ်နိုင်ဟု သဘောပေါက်သွား၍ ဖြစ်ပါလိမ့်မည်။

ကောသလတိုင်းကြီး တစ်ခုလုံးကို အုပ်ချုပ်နေသူ၊ တိုင်းသူပြည်သား အပေါင်း၏ အသက်ဦးဆံ ပိုင်စိုးနေသူ ဘုရင်ကြီးတစ်ပါး မိမိအနားမှာရောက်နေပါလျက် ဒါယကာကြီးသည် လှည့်၍ မကြည့်ပေ။ ဘုရားရှင်ထံ ချီထားသော လက်အုပ်ကို မဖျက်ပေ။ မကြုံစဖူးထူးခြားလှသောထိုအဖြစ်ကို ကောသလမင်းကြီး အခ်ရခက်လှပေလိမ့်မည်။

မင်းကြီး၏ မျက်မာန်ဒေါသကို ဘုရားရှင် သိပါလိမ့်မည်။ ထို့ကြောင့်ပင် အမျက်ပြေသော သဘောဖြင့်....

"မင်းကြီး၊ ဤဒါယကာသည် အကြားအမြင် များ၏။ တရားဒေသနာ မြောက်မြားစွာကို နှုတ်တက်ရထား၏။ ရာဂကင်းကွာပြီးသော အနာဂါမ် ပုဂ္ဂိုလ် တစ်ဦး ဖြစ်ပေ၏"

ဤသို့ မိန့်တော်မူလိုက်မှ ကောသလမင်းကြီး ကျေနပ်သွားကာ "အလိုရှိရာ တောင်းဆိုပါလှည့်' ဟုဖိတ်ကြားပေသည်။ ဒါယကာကြီးကလည်း 'ကောင်းပါပြီ အရှင်မင်းကြီး" ဟု လက်ခံထားလိုက်ပေသည်။

ဤသို့ဖြင့် ရက်အတန်ကြာသွား၏။ တစ်နေ့သ၌ အနာဂါမ်ဒါယကာကြီး အကြောင်းတစ်ခုဖြင့် နန်းတော်အနီးက ဖြတ်သွားရာတွင်ကောသလမင်းကြီးက လှမ်း၍ မြင်လိုက်၏။ သူ့ရုပ်သွင်ကို ကောင်းကောင်းမှတ်မိသည်မို့ မင်းချင်းများကို လွှတ်၍ခေါ်ယူကာ နန်းတွင်းသူများအားတရားဓမ္မဟောပြော ပို့ချရန်အပ်နှင်းပါတော့သည်။ 'အလိုရှိရာတောင်းဆိုပါ'ဟု ဖိတ်ကြားတုန်းက လက်ခံခဲ့သော ဒါယကာကြီးသည် ဤတာဝန်ကိုကား လက်မခံပါ။

"အရှင်မင်းကြီး၊ ကျွန်ုပ် တတ်ကျွမ်းထားလေသမျှသည် အရှင်မြတ်တို့ ပို့ချထား၍သာ ဖြစ်ပါသည်။ အရှင်မြတ်တို့ကိုသာ တောင်းပန်သင့်ပါသည်"

ဤသို့အကြောင်းပြကာပယ်လှန်လိုက်သဖြင့် ကောသလမင်းကြီးက ဘုရားရှင်ထံ ဦးတိုက်လျှောက်ထားရာတွင် ကျွန်ုပ်အား တာဝန်ပေးတော် မူလိုက်ပါတော့သည်။ **(ပါစိတ်ပါဠိတော်၊ အန္တေပုရ သိက္ခာပုဒ်)**

ဤတာဝန်ကို လက်ခံလိုက်ရသည်မှာ ဘုရားရှင်၏ အမိန့်တော်ကို လေးစား၍ ဖြစ်၏။ သို့သော် နန်းတော်သူများနှင့် အသိအကျွမ်းဖြစ်ပြီးချိန် မှာကား သူတို့ကိုယ်တိုင်က ကျွန်ုပ်ကို အားလုံးသဘောတူဆန္ဒပေး၍ ရွေးချယ်ခဲ့ကြသည် ဟူပါ၏။ သူတို့က တညီတညွတ်တည်း တောင်းဆိုကြ၍သာ ကောသလမင်းကြီး က ဘုရားရှင်ထံ အမည်တပ်၍ လျှောက်ထားခဲ့ခြင်း ဖြစ်ပါသည်။

သာသနာ့ အရိပ်တော်ထဲဝယ် ရဟန်း၊ ရဟန်းမ၊ ဒါယကာ၊ ဒါယိကာမ ဟူ၍ အဓိကအားဖြင့် ပရိသတ်လေးမျိုးရှိရာ လေးမျိုးလုံးကိုပင် ကျွန်ုပ် မေတ္တာ ရှေ့ထား၍ ဆက်ဆံပါ၏။ ကျွန်ုပ်ဆီက မေတ္တာအသွား ရှိသကဲ့သို့ ထိုပရိသတ် များကလည်း ကျွန်ုပ်အပေါ် မေတ္တာတုံ့ပြန်ကြပါ၏။ ထိုအထဲက ထူးထူးခြားခြား အကျိုးပေးသည်ကား ရောက်လေရာရာတွင် အမျိုးသမီးပရိသတ်နှင့် အကျွမ်းတဝင် ခင်မင်ရခြင်း ဖြစ်ပေသည်။

ဤအကျိုးပေး၏ အကြောင်းတရားကို ရှာသောအခါ အဓိကအားဖြင့် ကျွန်ုပ်၏ စိတ်နေ စိတ်ထားကြောင့်ဖြစ်ကြောင်း သဘောပေါက်ပါ၏။ နောင်တော် မြတ်နှင့် နီးနီးကပ်ကပ် နေလာခဲ့သော်လည်း နောင်တော်မြတ်၏ တိကျခိုင်မာသော စိတ်သဘော ကျွန်ုပ်မှာ မရှိသေးပါ။ ထို့ကြောင့်ပင် စိတ်နှလုံး ထိခိုက်ဖွယ် ကိစ္စ တစ်ခုခု ကြုံလာလျှင် ကျွန်ုပ်သည် စိတ်ထားမခိုင် ယိမ်းယိုင်ခဲ့ရ၏။ မသင့်

မတော်လွန်း၍ ချုပ်တည်းထားသည့်ကြားမှ မျက်ရည်ဖြိုင်ဖြိုင် ကျခဲ့ရ၏။ ထို့ပြင် အရှင်မဟာကဿပ စသော မထေရ်ကြီးများ ကဲ့သို့ ကျွန်ုပ်သည် 'မ' ဆိုလျှင် ဝေးဝေးက ရှောင်တတ်သူ မဟုတ်ပေ။ လူ့သမိုင်း အစဉ်အဆက်က အနှိမ်ခံလာခဲ့ရ သူများမို့ ပိုမို၍ပင် ကရုဏာထားမိပါသေးသည်။

ဤသို့ဖြင့် အမျိုးသမီးအများစု၏ စိတ်နေစိတ်ထားနှင့် နီးစပ်ခြင်း၊ သူတို့ အပေါ် အလေးတမူ အရေးယူ ဆက်ဆံခြင်းများကြောင့် အမျိုးသမီးများက ကျွန်ုပ် အပေါ် မေတ္တာတုံ့ပြန်ကြခြင်း ဖြစ်ပါလိမ့်မည်။ အမျိုးသမီးများ သာသနာ့ဘောင် မရောက် ရောက်အောင် ပို့ဆောင်ပေးလိုက်ကတည်းကပင် ကျွန်ုပ်အပေါ် အာရုံ စူးစိုက်မိကြဟန် တူပါသည်။

ဤတွင် ကျွန်ုပ်၏ပရိသတ်များ တစ်ခုသတိပြုကြရန်ရှိပါသည်။ အမျိုးသမီး များအလယ် ကျွန်ုပ် မျက်နှာပန်းလှခဲ့ပုံများ တင်ပြနေခြင်းမှာ လွန်လေပြီးသော အရသာကို စားမြုံ့ပြန်နေခြင်း မဟုတ်ပါ။ ဤအကျိုးပေးများ ကို အများတကာ အားကျလာအောင် သွေးဆောင်နေခြင်းလည်း မဟုတ်ပါ။ တစ်သက်တာ မှတ်တမ်း ကြီး ဆုံးခါနီးမှာ မလွှဲမရှောင်သာ တင်ပြရမည့် အကြောင်းအရာများမှာ ဤ အကျိုးပေးများတွင် အခြေခံလျက်ရှိသဖြင့် အကြောင်းသင့်ခိုက် သိသင့် သိထိုက် သော အချက်များမို့ တင်ပြနေခြင်း ဖြစ်ပါသည်။

ဤသို့ စကားခံခဲ့ပြီးနောက် ကျွန်ုပ်၏ပရိသတ်များအတွက် ရယ်စရာ ပြုံးစရာ ဇာတ်လမ်းဇာတ်ကွက်ကို တင်ပြရပါဦးမည်။ ကျွန်ုပ်တို့ ရဟန်းများနှင့် မပတ်သက်သော ကိစ္စတစ်ခုကို ဆောင်ရွက်လိုက်ရ၍သာ ရယ်စရာဟု ဆိုရပါသည်။ အမှန်မှာတော့ ဤဇာတ်လမ်းမှာ စုံထောက်ဇာတ်လမ်းဖြစ်ပေသည်။ သည်းထိတ် ရင်ဖို အမျိုးအစားထဲကလည်း ဖြစ်ပေသည်။ တစ်နန်းတော်လုံး ကြိမ်မီးအုံးမှု ခံစားနေရသော ဒုက္ခကြီးကို ကျွန်ုပ်၏ ဖြတ်ထိုးဉာဏ် တစ်ချက်ဖြင့် သက်သာရာ ရခဲ့ကြပေသည်။

ထိုဇာတ်လမ်းဖြစ်ပုံကား ဤသို့ပါတည်း။ ကျွန်ုပ် နန်းတော်တွင်း ဝင်ထွက် မိ၍ မကြာမီမှာပင် မင်းကြီး၏ ပတ္တမြားရတနာ ပျောက်ဆုံးခဲ့၏။ သာမန်ပတ္တမြား မဟုတ်ဘဲ မင်းကြီး၏ ဆံထုံးမှာ ပန်ဆင်နေကျ ပတ္တမြားကြီးမို့လည်း အမတ်များ ပို၍ အလုပ်ရှုပ်ကြရ၏။ မင်းကြီး၏ အမိန့်တော်အရ နန်းတွင်းသူများ၊ အမှုထမ်း များပါမကျန် စစ်ဆေး၍ ပြီးပေပြီ။ လူကုန်အောင် စစ်ဆေးပြီးပါသော်လည်း ပတ္တမြားကြီးကား ပြန်မရသေး။ ပြန်မရသေးလေ မင်းကြီးက မဲလေ။ မင်းကြီးက မဲလေ၊ အမတ်များက ပို၍ နှိပ်စက်လေ။

ကျွန်ုပ် ရောက်သွားသောအခါတွင် တချို့တလေ တော်တော်နာနေချေပြီ။ တရားခံမပေါ်လျှင် သူတို့ပါ ဒဏ်ခတ်ခံရမည်စိုး၍ နန်းတွင်းနေသူ ဟူသမျှကို သဲသဲမဲမဲ နှိပ်စက်နေကြ၍ ဖြစ်ပါသည်။ နန်းတွင်းသူများမှာကား ဘုရင့်အချစ်တော်များဖြစ်၍ အရိုက်အနက် မခံကြရသေးပါ။ သို့သော် ဤအမှုကြီးသာ မပေါ်ဘဲနေပါက သူတို့လည်း သက်သာမည် မဟုတ်ပါ။ အနေမတတ် အပြောမတတ်၍ သံသယတစ်ကွက်ဝင်လာလျှင် အသက်ပါ ပျောက်ကြရမည် ဖြစ်၏။ ထို့ကြောင့် ကျွန်ုပ်လာတိုင်း ရှင်ရှင်ပျပျ ရှိနေသူများ ယနေ့ မှိုင်တွေနေကြခြင်း ဖြစ်ပေသည်။

ကျွန်ုပ် အကဲခတ်မိသမျှ ဤအမှုကို ဤအတိုင်းသာ စစ်ဆေးနေပါက နာရာမှ သေကြရုံသာရှိတော့မည်။ ခိုးထားသော သူမှာလည်း အမှုပေါ်လျှင် သေရတော့မှာ တူတူမို့ သူတစ်ယောက်တည်း အသေခံမည့်အစား အများနှင့်အတူ အသေခံတော့မည့်ပုံ ပေါ်နေ၏။ ထို့ကြောင့် လတ်တလောပေါ်လာသော ဉာဏ်ဖြင့် ကျွန်ုပ်က မင်းကြီးထံ နည်းပရိယာယ်တစ်ခုကို တင်ပြလိုက်၏။

ကျွန်ုပ်၏ အကြံပေးချက်ဖြင့် သက်ာမကင်းဖွယ်ရာလူများကို ရွှံ့ခဲများ ပေးထား၏။ ထိုရွှံ့ခဲများကို မိမိအိမ်မှာ တစ်ညသိပ်ထားကာ နံနက်လင်းခါမှ သတ်မှတ်ထားသောနေရာသို့ ပစ်ချထားရန် ဖြစ်၏။ သုံးရက်တိုင်တိုင် ဤနည်းကို သုံးသော်လည်း အမှုမပေါ်သေးပေ။ ဤတွင်မှ ကျွန်ုပ် နောက်တစ်မျိုး ထွင်ရပြန်ပေသည်။

ယခင်နည်းတုန်းက တစ်ယောက်၏ အပြုအမူကို တစ်ယောက်က မြင်နေ၍ ရွှံ့ထဲမှာ ပတ္တမြားထည့်၍ မပစ်သာအောင် ရှိခဲ့၏။ ယခုနည်းမှာကား တစ်ယောက်ကိုတစ်ယောက် မမြင်နိုင်တော့ပြီ။ ရေအိုးကြီးတစ်လုံးကို တင်းတိမ်များ ကာရံထားလိုက်ပြီး ဘုရင့်အမိန့်တော်ဖြင့် ထိုအိုးရှိရာဝင်၍ တစ်ယောက်ချင်း လက်ဆေး၍ ပြန်လာကြရန် ခိုင်းစေရာ နောက်ဆုံးတွင်ကား ပတ္တမြားကြီးကို ရေအိုးကြီးထဲက ပြန်ရပေတော့သည်။

**(ဧကနိပါတ်၊ မဟာသာရဇာတ်၏ ပစ္စုပ္ပန်ဝတ္ထု)**

ပတ္တမြားကြီး ပြန်ရပြီးနောက် မကြာမီမှာပင် ကောသလမင်းကြီးထံသို့ အထည်စ တစ်ထောင် အပို့အဆက် ရောက်လာ၏။ အသားမှာညက်ညော၍ အရောင်အသွေးမှာ တလက်လက် တောက်ပနေ၏။ ရှုချင့်စဖွယ် တင့်တယ်သော အထည်စများထဲက စိတ်တိုင်းကျ အထည်စ ငါးရာကို ရွေးထုတ်ကာ သူ့နန်းတွင်းသူ ငါးရာကို ပေးလိုက်၏။ ဘုရင်ကြီးက အနုအယဉ် မြင်လို ရှုလို၍ ပေးမှန်း

သိပါလျက် နန်းတွင်းသူများက သူတို့ကိုယ်မှာ မဝတ်ဆင်ကြပေ။ ဆုတော်လာဘ်တော် ရသမျှကို ကျွန်ုပ်ထံ ယူလာခဲ့ကြ၏။ သူတို့ ကိုယ်ပိုင် ပစ္စည်းကလေးများဖြင့် တရားတော်ကို ပူဇော်ကြ၏။ ကျွန်ုပ်ကလည်း သင်္ကန်းရှားပါးသော ရဟန်းများကို ထောက်ပံ့ရန်ရှိနေ၍ အထည်စ ငါးရာလုံးကိုပင် အလှူခံ၍ လာခဲ့ရပေသည်။ အထည်စများနှင့်အတူ ကျောင်းတော် ပြန်လာစဉ် လမ်းတစ်လျှောက်လုံးမှာလည်း ဤအလှူ၏ နောက်ဆက်တွဲ ဇာတ်လမ်းတစ်ခု ပေါ်လာဦးမည်ဟု မျှော်လင့်ခဲ့၏။

ကျွန်ုပ် မျှော်လင့်ခဲ့သည့်အတိုင်းပင် ထိုနေ့ နံနက်စာစားပြီးချိန်မှာပင် ကောသလမင်းကြီးသည် ကျောင်းတော်သို့ ပေါက်လာ၏။ ပျောက်ဆုံးသော ပတ္တမြားကြီးပြန်ရစဉ်က အားပါးတရ ချိုမြစွာပြုံးခဲ့သော မျက်နှာကြီးသည် ယခုတော့ ပြုံတော့မည့်မိုး၊ ထိုးတော့မည့်ဆင်နှယ်ဖြစ်နေချေပြီ။ သူ့အချစ်တော်များကို လှလှပပ ကြည့်လို မြင်လိုပါလျက် ကျွန်ုပ်အတွက် အရသာပျက်လှသဖြင့် သူ့ခမျာ ခံပြင်းရှာပေလိမ့်မည်။

ခံပြင်းသောဒေါသနှင့် လာခဲ့သော်လည်း ကျွန်ုပ်တို့ သာသနာတော်ကြီးကိုကား သူ လေးစားမြဲ လေးစားပါ၏။ ထို့ကြောင့်ပင် စိတ်ဆိုးလျက်က ကျွန်ုပ်ကို ရှိခိုးကန်တော့ပါ၏။ ကန်တော့ပြီးခါမှ သူ့ဒေါသ စေတသိက်များကို တစ်စချင်း၊ တစ်စချင်း အန်ထုတ်ပါတော့သည်။

"အရှင်ဘုရား၊ တပည့်တော်၏ နန်းတွင်းသူများသည် အရှင်ဘုရားထံမှာ တရားနာကြ၊ တရားသင်ကြရာက တစ်စုံတစ်ရာ လှူကြပါသေးသလော"

"လှူကြသည် မင်းကြီး။ သင်္ကန်းလျာ အထည်စငါးရာကို လှူလိုက်ကြပါသည်"

"ငါးရာလုံးကို အရှင်ဘုရား အလှူခံပါသလော"

"အလှူခံခဲ့သည် မင်းကြီး"

"တကယ်တော့ဖြင့် ဘုရားရှင်က နှစ်ထပ်၊ ကေသီ၊ သင်းပိုင်ဟူ၍ ဤသင်္ကန်းသုံးထည်ကိုသာ ခွင့်ပြုတော်မူသည် မဟုတ်ပါလော"

"မှန်ပေသည် မင်းကြီး။ ကိုယ်တိုင် ဝတ်ရုံသုံးစွဲရန် ဘုရားရှင်က ဤသင်္ကန်းသုံးထည်ကိုသာ ခွင့်ပြုတော်မူထားပေသည်။ အလှူခံရာတွင်ကား အတိုင်းအတာ မရှိပါ။ ထို့ကြောင့်ပင် သင်္ကန်းနွမ်းပါးသော ရဟန်းများကို ပေးလှူရအောင် အလှူခံခဲ့ရပေသည်"

"ထိုရဟန်းတို့ကကော သင်္ကန်းဟောင်းများကို မည်သို့ ပြုကြပါသနည်း"

"မင်းကြီး၊ နှစ်ထပ်သက်န်းဟောင်းမှ ရတတ်သမျှကို ထုတ်ယူကာ ကေသိ ချုပ်ဝတ်ကြပါသည်"

"ကေသိဟောင်းများကိုကော ဘုရား"

"ကေသိဟောင်းများထဲကလည်း ကောင်းသေးသည်များကို စပ်ဟပ်ကာ သင်းပိုင် ချုပ်ဝတ်ကြရပါသည်"

"သင်းပိုင်ဟောင်းများကိုကော ဘုရား"

"သင်္ကန်းအရာ မလောက်တော့လျှင် အိပ်ရာခင်း လုပ်ကြရပါသည်"

"အိပ်ရာခင်းများ ဟောင်းသွားတော့ကော ဘုရား"

"သည်တော့လည်း မြေအခင်း လုပ်ရပါသေးသည်"

"မြေအခင်းက ဟောင်းသွားတော့ကော ဘုရား"

"ခြေသုတ်ပုဆိုးတော့ လုပ်နိုင်ပါသေးသည်"

"ခြေသုတ်ပုဆိုးက သုံးမရအောင် ဆွေးမြေ့သွားတော့ကော ဘုရား မည်သို့ သုံးနိုင်ပါသေးသနည်း"

"သည်တော့လည်း မင်းကြီး၊ သဒ္ဓါတရားဖြင့် လှူထားသော ပစ္စည်းကို အလဟဿ အပျက်အစီးမခံနိုင်ပါ။ ခြေသုတ်ပုဆိုး အဆွေးကို ဓားနှင့် နုပ်နုပ်စဉ်းကာ မြေညက်နှင့် ဖျော်လျှင် ကျောင်းတိုက်တာကို လိမ်းကျံ၍ ရနိုင်ပါသေးသည်"

"သြော် ကောင်းလေစွတကား၊ တစ်နိုင်ငံလုံး ဤနည်းစနစ်အတိုင်း လိုက်နာသော် ကောင်းလေစွ။ သာသနာ့ဝန်ထမ်း ရဟန်းတော်များထံ ပေးလှူသော ပစ္စည်းမှန်လျှင် ခြေသုတ်ပစ္စည်း ဖြစ်သည့်တိုင်အောင် အလဟဿ ပစ်လိုက်ရသည် ဟူ၍ မရှိချေတကား"

ဒေါသမျက်မာန်များ လျော့ကျသွားချိန်တွင် ကောသလမင်းကြီး၏ သဒ္ဓါတရားက ပြန်လည် ကွန့်မြူးလာပေသည်။ ထို့ကြောင့်ပင် နန်းတော်မှာ ကျန်ရစ်သေးသော အထည်စ ငါးရာပါ ကျွန်ုပ်တို့ သာသနာတော်တွင်းသို့ သက်ဆင်းလာကြပါတော့သည်။ **(ဒုကနိပါတ်၊ ဝုဏ္ဏဇာတ်၏ ပစ္စုပ္ပန်ဝတ္ထု)**

တင်ပြခဲ့ပြီးသော အကြောင်းအရာများမှာ ကောင်းတစ်ဝက်ဆိုးတစ်ဝက် ရောနှောနေသည်ကို တွေ့ကြရပါလိမ့်မည်။ ကောင်းသည်ကို ဆောင်၍ မကောင်းသည်ကို ရှောင်ကြရန်သာ ရှိပါတော့သည်။ ယခု ဆက်လက် တင်ပြဦးမည့် အကြောင်းအရာကား ရှောင်ရန်သက်သက် ဖြစ်ပါသည်။

နန်းတွင်းသူတို့၏ ဆရာတော်အဖြစ်ဖြင့် ကျွန်ုပ်သည် သာဝတ္ထိ နန်းတော်တွင်းမှာ တံခါးမရှိ ဓားမရှိ ဝင်ထွက်သွားလာနေခဲ့ရာ တစ်နေ့မှာတော့ ကောသလ

မင်းကြီး၏ ခန်းမဆောင်တွင်းသို့ ရောက်သွားမိ၏။ မင်းကြီးသည် မလ္လိကာမိဖုရားကြီးနှင့်အတူ သလွန်ထက်မှာ မှေးစက်၍ နေ၏။ စောစောကသာ ဤအဖြစ်ကို သိခဲ့လျှင် သိသောနေရာမှ ပြန်လှည့်သွားနိုင်မည် ဖြစ်၏။ ယခုတော့ ကျွန်ုပ်က အမှတ်တမဲ့ ဝင်လာခဲ့မိပေပြီ။ မင်း မိဖုရားတို့ လွတ်လပ်စွာ ပျော်ပါးနေသည့် ခန်းဆောင်ထဲကိုမှ စွတ်စွတ်ရွတ်ရွတ် ဝင်လာခဲ့မိပေပြီ။ ဝင်လာပြီးမှ ရုတ်တရက် ပြန်လှည့်သွားရန်လည်း အခက်။ နန်းတွင်းရေးရာ မတော်မလျော် လုပ်ကြံမည်လောဟု တွေးတောလိုက်လျှင် မခက်ပါလော။

ကျွန်ုပ် ဝင်လာသည်ကို မှေးစက်နေသော မင်းကြီး မမြင်သေးပါ။ သို့သော် မိဖုရားကြီးကတော့ မြင်သွားပါပြီ။ ကျွန်ုပ်အပေါ် ကြည်ညိုလေးစားသဖြင့် သူ့ခများ စက်ရာမှ အလျင်အမြန် ထရှာပါသည်။ သို့သော် အကြောင်းမသင့်ချင်တော့ လျော့ရိလျော့ရဲ ဝတ်ဆင်ထားသော အဝတ်များ သူ့ကိုယ်ပေါ်မှ လျောကျသွားပါတော့သည်။

မိဖုရားခေါင်ကြီး၏ အဝတ်အစားမို့ အင်မတန်မှ နူးညံ့လှသည်ဟု ကျွန်ုပ်က အထူး တင်ပြနေရန် လိုမည်မထင်ပါ။ နောက်ပြီး သူတို့ခန်းဆောင်ကလည်း အခြားသူများနှင့် လုံးဝမပတ်သက်။ သက်ဆိုင်ရာ အမှုထမ်းများမှာ သတ်မှတ် ထားသော အချိန်မှာမှ ဝင်ခွင့်ရှိကြ၏။ သုတ်သင်ရှင်းလင်းစရာ နေရာ ထိုင်ခင်း ပြုပြင်စရာတို့ကို သူ့အချိန်နှင့် သူသာ လုပ်ကြရ၏။ သည်အချိန်ကား နေ့လယ် ထမင်းစားပြီးစ မင်းမိဖုရား နှစ်ပါးတို့ ခေတ္တခဏ မှေးစက်ချိန်။ စည်းစိမ်ရှင်ကြီးတို့ စည်းစိမ်ယစ်၍ ကောင်းသောအချိန်။ သည်အချိန်ကြီးမှာမှ ကျွန်ုပ်က အလိုက်မသိ ဝင်ခဲ့မိပေပြီ။ ကျွန်ုပ်အပေါ် ကြည်ညိုလေးစားရှာသော မိဖုရားကြီး မည်သို့ ရှိရှာပေမည်နည်း။

အတွေ့အကြုံ တစ်စုံတစ်ခု ရှိလာလျှင် ကျွန်ုပ် မြုံ၍ မထားတတ်ပါ။ ဦးစွာ ပထမ ဘုရားရှင်ကို လျှောက်ထား၏။ သီတင်းသုံးဖော်များကိုလည်း ဖြစ်ကြောင်းကုန်စင် တင်ပြခဲ့၏။ ဤတွင် သီတင်းသုံးဖော်များက ကျွန်ုပ်ကို ကဲ့ရဲ့ရှုတ်ချကြပါတော့သည်။ "မင်းမိဖုရား နှစ်ပါးတည်း အိပ်စက်ရာသို့ စောစောက အသိမပေးထားဘဲ တံခါးခုံလွန်အောင် မဆင်မခြင် ဝင်ရသလော" ဟု အပြစ်တင်ကြပါသည်။ ဘုရားရှင်ကလည်း နန်းတော်တွင်းမှာ ဝင်ထွက်သည့်အတွက် ရနိုင်သော အပြစ် ဆယ်မျိုးကို ဟောကြားတော်မူပါသည်။

၁။ "ရဟန်းတို့၊ မင်းနှင့် မိဖုရားတို့ အတူတကွ ထိုင်နေရာသို့ ရဟန်း ဝင်ရောက်လာ၏။ မိဖုရားက ရဟန်းကို ကြည့်ကာ ပြုံးမိရာတွင် လည်းကောင်း၊

ရဟန်းက မိဖုရားကိုကြည့်ကာ ပြုံးရာတွင်လည်းကောင်း မင်း၏ စိတ်ထဲမှာ သင်္ကာမကင်း ဖြစ်လာတတ်၏။

၂။ "အလုပ်ကိစ္စ များပြားသော မင်းတို့သည် နန်းဆောင်တစ်ခုခုကို ဝင်ပြီးနောက် မေ့မေ့ပျောက်ပျောက် ဖြစ်တတ်၏။ သူ့ကြောင့် ရလာသော ကိုယ်ဝန်ကို သူ့ဟာဟူ၍ မယုံနိုင်ဘဲ နန်းတော်ထဲ ဝင်ခွင့်ရနေသော ရဟန်းအပေါ် အထင်မှားတတ်၏။

၃။ "နန်းတော်တွင်းမှာ ရတနာပစ္စည်း တစ်ခုခု ပျောက်သောအခါ ရဟန်းအပေါ် အထင်မှားတတ်၏။

၄။ "နန်းတော်အတွင်းက အရေးကြီးသော လျှို့ဝှက်ချက်များ ပေါက်ကြားရာတွင် ရဟန်းအပေါ် အထင်မှားတတ်၏။

၅။ "နန်းတွင်းလုပ်ကြံမှုများ ပေါ်ပေါက်လာလျှင် ရဟန်းအပေါ် အထင်မှားတတ်၏။

၆။ "တစ်စုံတစ်ယောက် ရာထူးတက်သွားသောအခါ မနာလိုသူတို့က ရဟန်းကို အထင်မှားတတ်၏။

၇။ "တစ်စုံတစ်ယောက် ရာထူးကျသွားသောအခါ မကျေနပ်သူတို့က ရဟန်းကို အထင်မှားတတ်၏။

၈။ "အခါမဟုတ်ဘဲ စစ်တိုက်ထွက်ရာတွင် မကျေနပ်သူတို့က ရဟန်းကို အထင်မှားတတ်၏။

၉။ "အချိန်အခါကျ၍ စစ်တပ်များ ချီတက်လာပြီး လမ်းတစ်ဝက်မှ ပြန်ဆုတ်လာရာတွင် မကျေနပ်သူတို့က ရဟန်းကို အထင်မှားတတ်၏။

၁၀။ "မင်းတို့၏ နန်းတော်ဟူသည် ဆင်သံ၊ မြင်းသံ၊ ရထားသံ၊ ဆူညံလှ၏။ ရဟန်းတို့နှင့် မလျော်ကပ်သော ကာမဂုဏ်၊ အာရုံတို့ ပေါများလှ၏"

ဤသို့ အပြစ်ဆယ်မျိုးကို ထုတ်ဖော်တော်မူပြီးမှ-

"အဘိသိက်သွန်းပြီးသော မင်းနှင့် မိဖုရားတို့စံပျော်ရာ နန်းဆောင်အတွင်းသို့ စောစောက အကြောင်းကြားမထားဘဲ တံခါးခုံလွန်အောင် ဝင်ရောက်သော ရဟန်းအား ပါစိတ်အာပတ် သင့်စေ"ဟု သိက္ခာပုဒ် ပညတ်တော်မူပေသည်။

**(ပါစိတ်ပါဠိတော်၊ အန္တေပုရ သိက္ခာပုဒ်)**

**

# သကျတို့၏ ညနေခင်း

ကျွန်ုပ်၏ ဆွေတော်မျိုးတော်များအားလုံးသည် ခတ္တိယအနွယ်ဝင်များချည့် ဖြစ်ကြပါ၏။ ရေမြေပိုင်စိုး တန်ခိုးထွားသူတို့ချည့် ဖြစ်ကြပါ၏။ ဤကမ္ဘာမြေပေါ်တွင် သူတို့နှင့် မျိုးရိုးတူသူ ဦးစီးခေါင်းဆောင်များမှတစ်ပါး အခြားသော ဘုန်းသမ္ဘာရှင်တစ်ဦးဦးကို ဦးညွှတ်ရန်မရှိပါ။ သူတို့၏အသက် ဦးဆံကို ပိုင်စိုးသူဟူ၍ လုံးဝ မရှိပါ။ မိမိတို့ နိုင်ငံတော်၏ အချုပ်အခြာ အာဏာကို တစ်မျိုးလုံးတစ်ဆွေလုံးက စုပေါင်း ပိုင်ဆိုင်ထားကြသည် မဟုတ်ပါလော။

မှန်ပါသည်။ ဘိုးဘေးဘီဘင် အစဉ်မပျက် ဆက်ကာ ဆက်ကာ နေထိုင်လာခဲ့ကြသဖြင့် မျိုးရိုးဂုဏ်မောက်သည်ကို ခွင့်လွှတ်လိုက ခွင့်လွှတ်နိုင် ပါသည်။ မောက်ထိုက်၍ မောက်သည်ဟု ဆိုလိုက ဆိုနိုင်ပါသည်။ သို့သော် ထိုသို့သော ဂုဏ်မောက်မှုသည် မိမိတို့ ပိုင်နက်အတွင်းမှာသာ ရှိသင့်၏။ မိမိတို့၏ နယ်နိမိတ်ထက် ကျော်လွန်၍ မာနတံခွန် ထူမိကြလျှင်ကား အန္တရာယ်ကို ဖိတ်ခေါ်လိုက်ခြင်းပင် ဖြစ်ပေလိမ့်မည်။

တကယ်တော့ဖြင့် သကျနိုင်ငံကလေးသည် ဆူးကြားမှာ သီးရသော ဘူးခါးသီးကလေးမျှသာ ဖြစ်ပေသည်။ ပမာဏအားဖြင့် မနှိုင်းယှဉ်လောက်အောင် ကြီးမား၍ စစ်မက်အင်အား တောင့်တင်းလှသော ကောသလတိုင်းကြီးသည် မိမိတို့နှင့် နယ်နိမိတ်ချင်း စပ်လျက်ရှိနေ၏။ တိုင်းကြီး၏ အရှင် ပသေနဒီကောသလမင်းကလည်း စစ်မက်ရေးရာ ဝါသနာထုံလှ၏။ ကောသလတိုင်း၏ အချက်အချာ သာဝတ္ထိမြို့တော်တွင် အနေကြာလာသည်နှင့် အမျှ သည်နိုင်ငံနှစ်ခု၏ ကွာခြားချက်များကို မျက်ဝါးထင်ထင် တွေ့မြင် လာခဲ့ရ၏။ ဤလက်နက်နိုင်ငံကြီး အနီးအပါးက ဂဏအုပ်ချုပ်ရေး နိုင်ငံ ကလေးတစ်ခု ဘေးမသီရန်မခ တည်ရှိခွင့်

ရနေခြင်းမှာ ခမည်းတော်ကြီး သုဒ္ဓေါဒန၏ ခေါင်းဆောင်မှု အရည်အချင်းများကြောင့် ဖြစ်ပေသည်။ ယခုတော့ သည်ခေါင်းဆောင်ကြီးက သကျနိုင်ငံကလေးနှင့်တကွ တစ်လောကလုံးကို မျက်ကွယ်ပြု၍ သွားခဲ့လေပြီ။

လူကြီးများနေရာကို ဆက်ခံလာခဲ့သည့် မဟာနာမ်ကား ရှိပါ၏။ သို့ရာတွင်ကျွန်ုပ်၏နောင်တော်ကြီးမှာဦးစီးခေါင်းဆောင်လုပ်၍မှမကြာမီမှာပင် နောက်ကြောင်းမအေးမည့် ရာဇပရိယာယ်တစ်ခုကို ပြုမိမှားခဲ့ရှာပေသည်။

ထိုစဉ်က ကျွန်ုပ်တို့သည် ဒေသစာရီလှည့်လည်ရာမှ ကပိလဝတ်မရောက်မီ ဇေတဝန် ကျောင်းတော်မှာ တစ်ထောက်နားကြရ၏။ သည်ကျောင်းတော်ကြီး ရောက်လာလျှင်ကား ချက်ချင်းပြန်၍မရတော့ပါ။ ကျောင်းဒါယကာကြီးများနှင့်တကွ ဒါယကာ ဒါယိကာမများ၏ သူမတူအောင်ထက်သန်လှသော စေတနာသဒ္ဓါတရားတို့ကို ထောက်ထားကာ တစ်လတန်သည် နှစ်လတန်သည် နေခဲ့ကြရပေသည်။

ဇေတဝန်ကျောင်းတော်၌ အစဉ်တစိုက် စောင့်ရှောက်နေထိုင်သော သံဃာများနှင့် ကျွန်ုပ်တို့ ခရီးသွားသံဃာများ ပေါင်းမိသဖြင့် သာဝတ္ထိ၏ နံနက်ခင်းများတွင် သင်္ကန်းရောင်ရှိန် ထိန်ထိန်ဝင်း၍ နေပေသည်။ အထူးသဖြင့် ကျောင်းဒါယကာကြီး အနာထပိဏ်၊ ကျောင်းအမကြီး ဝိသာခါတို့အိမ်များတွင် ဆွမ်းခံသံဃာ ပို၍ များပေသည်။ ဤသို့ များခြင်းမှာလည်း အကြောင်းရှိ၍ အကျိုးပေါ်ခြင်းသာ ဖြစ်ပေသည်။ (ဓမ္မပဒအဋ္ဌကထာ၊ ပုပ္ဖဝဂ်၊ ဝိဍူဍဘဝတ္ထု)

သည်ဒါယကာကြီး ဒါယိကာမကြီးတို့သည် သံဃာတော်များအား....

၁။ ပျူပျူငှာငှာ ကြိုဆိုကြ၏။

၂။ မြတ်မြတ်နိုးနိုး ရှိခိုးကြ၏။

၃။ ရိုရိုသေသေ နေရာပေးကြ၏။

၄။ လှူဖွယ်ဝတ္ထု ရှိသမျှကို တံခါးဖွင့်၍ ထားကြ၏။

၅။ များများရှိလျှင် ရှိသလို လှူကြ၏။

၆။ အကောင်းရှိလျှင် အကောင်းကိုသာ လှူကြ၏။

၇။ လှူရာ၌လည်း ဂရုတစိုက် ရှိကြ၏။

၈။ တရားနာရန် ရိုသေစွာ ချဉ်းကပ်ကြ၏။

၉။ ဟောကြားသောတရားကို လိုလိုချင်ချင် နားဆင်ကြ၏။

ဤသို့အားဖြင့် ရဟန်းသံဃာတို့ ချဉ်းကပ်ထိုက်သော ဂုဏ်အင်္ဂါ ကိုးပါးနှင့် ပြည့်စုံသဖြင့် သူတို့အိမ်များ၌ သင်္ကန်းရောင် ထိန်ထိန်ဝင်းနေခြင်း ဖြစ်ပေသည်။

(အင်္ဂုတ္တရနဝနိပါတ်၊ သီဟနာဒဝဂ်၊ ကုလသုတ်)

စောစောပိုင်း ရက်များတုန်းကတော့ ပသေနဒီ ကောသလ မင်းကြီးသည်လည်း ဤအင်္ဂါ ကိုးပါးနှင့် ပြည့်စုံခဲ့ပါ၏။ ကျောင်းဒါယကာကြီးများကို အားကျစိတ်ဖြင့် ဘုရားရှင်ထံတော်တွင် ဆွမ်းခံသံဃာရရှိရန် ကိုယ်တိုင်ကိုယ်ကျ လျှောက်ထားခဲ့သည့်အတိုင်း ရိုရိုသေသေ လောင်းခဲ့ လှူခဲ့ပါ၏။ သို့သော် ရက်ကလေး တော်တော်ရလာလျှင်ကား မင်းမှုကိစ္စများပေါ်လာသဖြင့် ဆွမ်းကိစ္စမှာ ကိုယ်တိုင်လာ၍ မစီမံနိုင်။ စီမံနိုင်မည့်သူကိုလည်း တာဝန်ပေး၍ မထားမိ။

ကျောင်းဒါယကာကြီးများ အိမ်မှာသာဆိုလျှင် ဤလို ကိစ္စမျိုးအတွက် ကြောင့်ကြနေစရာ မရှိပါ။ အိမ်သူအိမ်သားများနှင့် အလုပ်သမားများမှာ သံဃာ့ဝေယျာဝစ္စ ဆောင်ရွက်နေကျဖြစ်၍ ကောက်ကာငင်ကာ လုပ်သွားကြ သည်သာ ဖြစ်၏။ ဘယ်သူခိုင်းမှ ဘယ်ဝါခိုင်းမှဟူသော ပြဿနာမျိုး မရှိချေ။

ရှင်ဘုရင်တို့၏ နန်းတော်မှာကား ဤကဲ့သို့ မဖြစ်နိုင်ပါ။ မင်းကြီးကိုယ်တိုင်က တာဝန်မပေးဘဲ လုပ်လျှင် မင်းပြစ်မင်းဒဏ် သင့်ပေမည်လားဟု ကြောက်နေရသဖြင့် ရဟန်းများ သပိတ်ချည်း ပြန်ခဲ့ကြရ၏။ ကျွန်ုပ်မှာသာ တာဝန်ပေးတော်မူသော ရွှေမျက်နှာတော်ကို ထောက်ထားရသဖြင့် ဝတ်မပျက်တမ်းသွားနေရပေသည်။

တစ်နေ့မှာတော့ ဆွမ်းဒါယကာ ကောသလမင်းကြီးသည် စောစောစီးစီး ညီလာခံပြီးဆုံးသဖြင့် ဆွမ်းလောင်းရာသို့ ရောက်လာ၏။ သံဃာတော် ငါးရာအတွက် ချက်ပြုတ်ထားလေသမျှ ဆွမ်း ဆွမ်းဟင်းများမှာ ကျွန်ုပ် တစ်သပိတ်လောင်းရုံမျှဖြင့် အရာမျှ မယွင်းပါချေ။ ဆွမ်းလောင်းစင်ပေါ်တွင် သည်အတိုင်းပင် ရှိနေကြ၏။

ကျွန်ုပ် ထင်ထားသည့်အတိုင်း ဆွမ်းစားပြီး၍ မကြာမီမှာပင် ကောသလမင်းကြီး ကျောင်းတော်သို့ ရောက်လာပါ၏။ ကျွန်ုပ်မှတစ်ပါး အခြားရဟန်းများ မလာရောက်ကြခြင်း အကြောင်းကို မေးလျှောက်ပါ၏။

"အရှင်ဘုရား၊ တပည့်တော်သည် နေ့စဉ်နေ့တိုင်း သံဃာတော်ငါးရာ ဆွမ်းလောင်းရန် ဖိတ်ကြားထားပါသည်။ ဖိတ်ကြားထားသည့်အတိုင်းလည်း ဆွမ်းများ၊ ဟင်းများ အပြည့်အစုံ စီမံထားပါသည်။ သို့ပါလျက် အရှင်အာနန္ဒာ တစ်ပါးတည်းသာ ကြွတော်မူပါသည်။ အခြားရဟန်းများမှာ တပည့်တော်၏ နန်းတော်မှာ ဆွမ်းခံဖို့ စိတ်ကူးကလေးမျှ ရှိကြမည် မထင်ပါဘုရား"

ရာဇဏ္ဏွေဖြင့် တည်ငြိမ်အောင် ကြိုးစား၍ လျှောက်သည့်ကြားကပင် သူ့အသံမှာ ရာဇမာန်များ စွက်လာကြသေး၏။

ကျွန်ုပ်အမြင်အရ တင်ပြရလျှင် ကောသလမင်းကြီး စိတ်မျက်မာန်ပွားခြင်း မှာ ပွားထိုက်၍ ပွားရသည်ဟုပင် ဆိုချင်ပါ၏။ ဘုရားရှင် ရှေ့တော်မှောက် လျှောက်ထားသဖြင့် ဘုရားရှင်ကိုယ်တော်တိုင်က စေလွှတ်တော် မူခြင်းဖြစ်ရာ ရသည်ဖြစ်စေ၊ မရသည်ဖြစ်စေ ဝတ်မပျက်တမ်း သွားကြရမည်သာ ဖြစ်၏။ သို့ရာတွင် ဘုရားရှင်က ထိုရဟန်းများကို ပြစ်တင်ရှုတ်ချ ပြုတော်မမူပါ။ ဆွမ်း ဒါယကာကြီး၏ စိတ်မျက်မာန်ကို အားပေးအားမြှောက် ပြုရာရောက်မည် စိုး၍ ဖြစ်ပါလိမ့်မည်။

"မင်းကြီး၊ ရဟန်းတို့ မလာရောက်ကြခြင်းမှာ သင်မင်းကြီးကို စိတ်ကွက် ကြ၍ မဟုတ်ပေ။ သူတို့နှင့် သင်မင်းကြီးတို့ အကျွမ်းတဝင် မဖြစ်ကြသေး၍ပင် ဖြစ်ပေသည်"

ဟုတ်မှန်သော အကြောင်းရပ်တစ်ခုကို နားခံသာအောင် မိန့်တော်မူလိုက် သဖြင့် စိတ်မျက်မာန် အစိုင်အခဲများ ကျေပျက်၍ သွားကြ၏။ ဘုရားရှင်နှင့်တကွ ကျွန်ုပ်တို့တစ်တွေအား ကျေကျေနပ်နပ်ကြီး ဝပ်ချ၍ ပြန်သွား၏။ ချိုချိုမြမြ ပြုံးပန်းပွင့်နေသော သူ့မျက်နှာကြီးသည် ရဟန်းတို့နှင့် အကျွမ်းတဝင် ဖြစ်လာနိုင် မည့် အကြောင်းတစ်ခုခုကို စဉ်းစား၍ ရရှိသွားဟန် တူပေသည်။

သို့နှင့် ဘုရားရှင်သည် ရည်ရွယ်ရင်း ရှိထားသည့်အတိုင်း သာဝတ္ထိမှ ကပိလဝတ်ဆီသို့ ဒေသစာရီ ကြွချီတော်မူခဲ့၏။ ရောက်လေရာအရပ်တွင် သက်သောင့်သက်သာ နားနေရင်း သိရေး မြင်ရေး တရားပေး၍ လာခဲ့ကြရ၏။

ရွာတစ်ရွာတွင် ကျွန်ုပ်တို့သည် ကောသလမင်းကြီး၏ အမတ်ကြီးများနှင့် ဆုံမိကြ၏။ မင်းကြီး၏ စေခိုင်းချက်အရ ကပိလဝတ်သို့ သွားကြသူများဖြစ်၏။ ကျွန်ုပ်နှင့် အကျွမ်းတဝင် ရှိသူများဖြစ်၍ ဦးချ နှုတ်ဆက်လာကြရင်းက သူတို့ သွားရင်းကိစ္စကို သိလိုက်ရပေသည်။ လက်စသတ်တော့ ဘုရားရှင်နှင့် ဆွေမျိုး တော်ချင်၍ ပါတကား။ ကျောင်းတော်က ပြန်သွားစဉ်က မြင်လိုက်ရသော ပြုံးမျက်နှာကြီးသည် သည်အကြောင်းကြောင့်ပါတကား။

**(ဓမ္မပဒ အဋ္ဌကထာ၊ ပုပ္ဖဝဂ်၊ ဝိဋူဋဘဝတ္ထု)**

ဘုရားရှင်အပေါ် ကြည်ညိုသဒ္ဓါ ထက်သန်သည်ကား ဟုတ်ပါ၏။ သို့သော် ကြည်ညိုစိတ်များမှာပင် ရပ်တန်းက မရပ်ဘဲ ဘုရားရှင်နှင့် ဆွေမျိုးတော်ချင်သည် အထိ ရောက်လာခြင်းကိုကား ကျွန်ုပ် ဘဝင်မကျနိုင်ပါချေ။ ဘုရားရှင်နှင့် နီးစပ် ရေးတွင် သွေးသားတော်စပ်မှုသည် အဓိက မဟုတ်။ အသိဉာဏ်ချင်း ဆက်သွယ် နိုင်ရေးသာ လိုရင်းဖြစ်ကြောင်း ကျွန်ုပ် မကြာခဏ ပြောဆိုခဲ့ပေသည်။

သူ့ဘက်ကတော့ သူ့စိတ်ကူးနှင့်သူ ဖြောင့်ဖြူး၍ နေပေသည်။ သကျနွယ်ရင်း မင်းသမီးတစ်ပါးပါးကို တောင်း၍ မိဖုရားမြှောက်လိုက်လျှင် ရဟန်းသံဃာတွေ၊ သာမဏေတွေ နန်းတော်မှာ ဝင်ရဲထွက်ရဲ ရှိလာကြတော့မည်။ သည်မင်းကြီးသည် သူစိမ်းပြင်ပြင် မဟုတ်၊ ဘုရားရှင်၏ ဆွေတော်မျိုးတော် ဖြစ်လာပြီဟု ဆိုကာ အကျွမ်းတဝင် ခင်မင်၍လာကြပေတော့မည်။

သူ့စိတ်ကူးထဲမှာတော့ ဟုတ်ပါ၏။ သည်စိတ်ကူးကို လက်တွေ့အကောင်အထည် ဖော်ရေးကိုကား ကျွန်ုပ် တွေးရုံမျှ မတွေးရဲပါ။ ကျွန်ုပ်တို့ အမျိုးအနွယ်များ၏ စိတ်ဓာတ်ကို ကျွန်ုပ် ကောင်းကောင်းကြီး သိ၍ထားပေသည်။ သကျအမျိုးသားတို့၏ သည်တိုင်းသည်ပြည် တည်ထောင်တုန်းကပင် သူများနှင့် အမျိုးမစပ်လို၍ မောင်နှမအချင်းချင်း လက်ဆက်၍ လာခဲ့ကြရာ သည်စိတ်ဓာတ်က ယခုထက်တိုင် ခိုင်မြဲနေသေး၏။ ကူးသန်းရောင်းဝယ်ရေး၊ လူမှုရေး ကိစ္စ တစ်ခုခုဖြင့်သာ အခြားတိုင်းသားများနှင့် ဆက်ဆံချင် ဆက်ဆံမည်။ အိမ်ထောင်ရေးကိစ္စတွင်ကား ကိုယ့်အမျိုးအနွယ်ထဲက လုံးဝမထွက်လိုကြပေ။ အခြား အမျိုးအနွယ်ဆိုပါက မင်းဧကရာဇ်ကြီးပင် ဖြစ်ပါစေ။ သူတို့နှင့် ထိုက်တန်သော အိမ်ထောင်ဖက်ဟူ၍ မသတ်မှတ်ကြသူများပါပေတည်း။

ယခုတော့ ကျားနှင့် ဆင် လယ်ပြင်မှာ တွေ့ကြပေပြီ။ ခမည်းတော်ကြီးနေရာကို ဆက်ခံရသော နောင်တော်ကြီး မဟာနာမ်သာ ရာဇပရိယာယ် ကြွယ်ဝပါလျှင် သည်ပြဿနာကို နောက်ကြောင်းအေးအေးနှင့် ဖြေရှင်း၍ ရနိုင်ပါ၏။ သကျမျိုးနွယ် သမီးငယ် တစ်ယောက်ကိုမျှ မပေးရဘဲ စစ်ဘေး စစ်ဒဏ်ကို ရှောင်ရှားနိုင်မည့်နည်းလမ်းများကို ရှာလျှင်ရနိုင်ပါ၏။ နောက်ဆုံး ဘုရားရှင်ထံ ခြေမြန်တော် လွှတ်၍ ဩဝါဒခံယူလျှင်လည်း ဖြစ်နိုင်ပါ၏။ သာသနာရေးကိစ္စ မဟုတ်စေကာမူ ဆွေတော်မျိုးတော်များနှင့် ပတ်သက်လျှင် ဘုရားရှင် လျစ်လျူရှုထားမည် မဟုတ်ပါ။ ဖြစ်နိုင်သည့် ကိစ္စဆိုလျှင် ကိုယ်တော်တိုင် ပါဝင် ဆောင်ရွက်ခဲ့ရသေးသည် မဟုတ်ပါလော။

ရောဟိဏီ မြစ်ရေကို အကြောင်းပြု၍ နှစ်ပြည်ထောင် ရန်မီးပွားခဲ့ရာမှ လက်မတင်ကလေး လွတ်မြောက်ခဲ့ကြရသော ဤကိစ္စကို နောင်တော်ကြီးမဟာနာမ် သတိရတန်ကောင်းပါ၏။ ဆွေတော်မျိုးတော်တို့၏ အရေးကိစ္စ ကြုံလာလျှင် ရှေ့တန်းက ရပ်တည်၍ ပေးတော်မူခဲ့သော ဘုရားရှင်တို့ထံ အထောက်တော် တစ်ယောက်ယောက် ရောက်လာတန် ကောင်းပါ၏။ တစ်ရွာဝင် တစ်ရွာထွက် ခရီးဆက်လာရင်း ရှေ့တူရူမှ ဆုံလာမည့်သူကို ကျွန်ုပ် မျှော်လင့်ခဲ့ပေသည်။

သကျတို့ နယ်မြေပေါ် ခြေချလိုက်သည်နှင့် ကျွန်ုပ်၏ မျှော်လင့်ချက်များ ပျက်ပြားကြရပါတော့သည်။ သကျတို့၏ ဦးစီးဦးကိုင်ဖြစ်နေသော နောင်တော်ကြီး မဟာနာမ်သည် ဝါသဘခတ္တိယာမည်သော ကျွန်မကို မိမိသမီးလုပ်ကာ သာဝတ္ထိ မြို့တော်က သံတမန်များထံ အပ်နှံလိုက်ချေပြီတဲ့။

ရာဇဂြိုဟ် မြို့တော်က သကျသားတော် တစ်ပါးသည် ပြုပြင်၍ မရနိုင်သော နောင်တကို အစပျိုးနေချိန်တွင် ကပိလဝတ်မြို့တော်မှ ကျွန်ုပ်၏ ဆွေတော်မျိုးတော်များကလည်း အင်အားကြီးမားလှသော ရန်သူကို လက်ယပ်၍ ခေါ်လိုက်မိကြချေပြီ။

သကျတို့၏ ညနေခင်းသည် ကျွန်ုပ် မျှော်လင့်ထားသည်ထက် စောစီးစွာ ရောက်လာခဲ့ချေပြီတကား။

(ဓမ္မပဒ အဋ္ဌကထာ၊ ပုပ္ဖဝဂ်၊ ဝိဋူဍဘဝတ္ထု)

**

# သကျသားတော်များ

ရှေ့ပိုင်းက တင်ပြခဲ့ဖူးသည့်အတိုင်း 'သကျ' ဟူသည်မှာ ကျွန်ုပ်တို့၏ မျိုးရိုးအမည် ဖြစ်၏။ ကျွန်ုပ်တို့ ဆွေတော်မျိုးတော်များ၏ ဂုဏ်ထူးဆောင် အမွေအနှစ်ဖြစ်၏။ ရေမြေပိုင်စိုးသည့် မင်းမျိုးမင်းနွယ်များ အတွက် တလူလူ လွှင့်ထူထားသောတံခွန်ဖြစ်၏။ ဤတံခွန်ကို ရှေးယခင် ဘိုး ဘေး ဘီ ဘင်များ လက်ထက်မှစ၍ကျွန်ုပ်တို့ ဆွေတော်မျိုးတော်များချည့်သာ လွှင့်ထူခဲ့ကြ၏။ ယခုမှာကား ကျွန်ုပ်တို့ဆွေတော်မျိုးတော်များချည့်မဟုတ် တော့ပါ။ သကျဟူသော ဤတံခွန်ကို အမျိုးအနွယ် ပေါင်းစုံ၊ လူတန်းစား ပေါင်းစုံ အသုံးပြုခွင့်ရနေကြပြီ။ သာသနာ့ဘောင်ဝင်ရောက်လာသူတိုင်းသည် 'သကျပုတ္တိယ'(သကျသားတော်) ဟူသော ဘွဲ့နာမံကိုခံယူနိုင်ခွင့်ရနေကြပါပြီ။

'သကျသားတော်' ဟူသော ဘွဲ့နာမံကို ခံယူကြရာတွင် မျိုးရိုးဇာတိကိုစွဲလမ်းသောသဘောထား မပါရှိပေ။ ဘိုး၊ ဘေး၊ ဘီ၊ ဘင် အဆက်အနွယ်များကိုကုတ်ကုတ်ကတ်ကတ် ရှာဖွေ၍ သကျတို့နှင့် အမျိုးစပ်လာကြခြင်း မဟုတ်ပေ။သကျတို့နှင့် အမျိုးတော်သည်ဟုဂုဏ်ဖော်လို၍ မဟုတ်မဟတ် လုပ်ဇာတ်ခင်းကြခြင်းလည်း မဟုတ်ပေ။ သကျနွယ်ဖွား ဖြစ်တော်မူသော ဆရာသခင် အရှင်မြတ်ကြီး၏ ကျေးဇူးဂုဏ် အနန္တကို ဦးထိပ်ရွက်ပန်ဆင်သော သဘောသာ ဖြစ်ပေသည်။သာသနာ့အသိ၊ သာသနာ့အမြင်ဖြင့် မိမိတို့လည်း ဘုရားရှင်နှင့် အမျိုးတော်စပ်လာကြကြောင်း ဖော်ကျူးကြခြင်းသာ ဖြစ်ပေသည်။

ကျွန်ုပ်တို့၏ သီတင်းသုံးဖော်များသည် ဤအမည်၏ နောက်ကွယ်တွင်ဘာတွေရှိနေသည်။ သည်အမျိုး သည်အနွယ်ဝင်တို့၏ စိတ်နေသဘောထားမည်သို့ရှိသည်ဟု စောကြောခြင်း မပြုကြချေ။ သူတို့အဖို့ သူတို့ ကျေးဇူးရှင်

ကြီး၏ မျိုးရိုးအမည်ကို သကျဟု သိရလျှင်ပင် ပြည့်စုံလုံလောက်ပေပြီ။ သည်အမျိုးအမည်ကို ကြားရသိရသည်နှင့်ပင် သူတို့ ဦးခေါင်းထက်မှာ နှစ်သက်မြတ်နိုးစွာ ပန်ဆင်လိုက်ကြပါတော့သည်။

ဤသို့ သီတင်းသုံးဖော်များက သကျတို့ကို အမွှမ်းတင်လေ၊ ကျွန်ုပ်မှာ စပ်ကြားက အနေရ အထိုင်ရ ခက်လေ။ ဆွေထဲမျိုးထဲက အပိုးမသေသော ရဟန်းများ ပေါ်ထွက်လာလေ၊ ကျွန်ုပ်မှာ မျက်နှာပူရလေ။

အခြားရဟန်းများသည် သာသနာတော်တွင်း ရောက်ခါမှ 'သကျသားတော်' ဖြစ်ရ၏။ အရှင်ဟတ္ထကမှာကား ထိုသို့မဟုတ်ပေ။ အမိသကျနှင့် အဖသကျတို့မှ မွေးဖွားလာသည့် နေ့မှာပင် သည်အမည်ကို ပန်ဆင်ခွင့်ရခဲ့၏။ ဤသို့ သကျသားတော် နှစ်ထပ်ကွမ်း ဖြစ်ခဲ့သည့်အတိုင်း ကိုယ် နှုတ်နှလုံး စောင့်စည်းမှုရှိခဲ့ပါသော် ကျွန်ုပ်တို့ ဂုဏ်ယူစရာပင် ဖြစ်ပါလိမ့်မည်။ သို့သော် ဟတ္ထကကား ဆွေဂုဏ်မျိုးဂုဏ်ကို မဆောင်ပါ။ သာသနာတော်ကြီး၏ ကျက်သရေကို မဆောင်ပါ။ ရောက်တတ်ရာရာ သွားတတ်၍ ပေါက်တတ်ကရ ပြောတတ်ဆိုတတ်သူသာ ဖြစ်ပေသည်။ ဤသို့သောအမူအကျင့်ကြောင့် 'သကျသားတော်များ' ဟူသော ဂုဏ်ထူးဆောင် နာမည်သည် ကဲ့ရဲ့ရှုတ်ချသူတို့၏ နှုတ်ဖျားသို့ သက်ဆင်း၍ သွားခဲ့ရပေသည်။

ကျွန်ုပ်တို့ အများဆုံးနေထိုင်ရာ သာဝတ္ထိမြို့တော်ကြီးတွင် နံနက်ခင်း ဆိုလျှင် သင်္ကန်းရောင် ထိန်ထိန်ဝင်း၍ နေပါ၏။ သို့သော် သည်မြို့ကြီးမှာ ကျွန်ုပ်တို့ချည်း မဟုတ်ပါ။ အခြားအခြားသော ဂိုဏ်းဆရာကြီးများလည်း မျိုးမည်စုံစွာ ရှိနေကြ၏။ သူ့ဆရာနှင့် သူ့သာဝက အသီးသီးရှိနေကြ၏။ ထိုဂိုဏ်းဆရာကြီးများကို 'တိတ္ထိ' ဟု ကျွန်ုပ်တို့ ခေါ်ဝေါ်သုံးနှုန်းကြရ၏။ ဤဝေါဟာရကို အသံထွက်ချင်း နီးစပ်သော 'ဒိဋ္ဌိ' နှင့် နားထွေးမသွားဖို့ လိုပေသည်။ ဤဝေါဟာရသည် သူတို့ကို ချိုးနှိမ်လိုသောသဘောဖြင့် ဆိုင်းဘုတ်တင်ပေးထားခြင်း မဟုတ်ပေ။ တိတ္ထိဟူသည်မှာ မိမိတို့ ခံယူထားသော တရားသဘောပင် ဖြစ်၍ ထိုတရားသဘောကို ခံယူဟောပြောသော ပုဂ္ဂိုလ်များအပေါ်မှာ တင်စား၍ ခေါ်ဝေါ်ထားခြင်းမျှသာ ဖြစ်ပေသည်။

ဘုရားရှင်သည် တိတ္ထိများနှင့် လုံးဝ မဆက်ဆံရ ဟူ၍ တားဆီး ပိတ်ပင်မှု ပြုတော်မမူပါ။ ဘုရားရှင် ကိုယ်တော်တိုင်ပင် ထိုဆရာကြီးများ နေထိုင်ရာသို့ ကြွတော်မူကာ တရားဆွေးနွေးတော်မူတတ်၏။ သို့ဖြစ်၍ တိတ္ထိများထံ ဝင်ထွက် ဆက်ဆံမှုဖြင့် အရှင်ဟတ္ထကအား အပြစ်တင်ရန် မရှိပါ။ သို့သော် ပက်ကျိများ

သွားလေရာ အရာနှင့် အကြောင်းကြောင်း ဖြစ်နေတတ်သကဲ့သို့ ဟတ္ထက သွားလေရာမှာလည်း ပြောစရာ ဆိုစရာတွေ ကျန်နေရစ်၏။ မဲ့စရာ ရွဲ့စရာတွေ ဒုနှင့် ဒေး ဖြစ်နေရစ်၏။

"သကျသားတော် အရှင်ဟတ္ထကသည် ငါတို့နှင့်အတူ တရားဆွေးနွေးရာတွင် ကပြောင်းကပြန် လုပ်ဘိ၏။ စကားတစ်ခွန်းကို အပြစ်မြင်ကာ ငြင်းပယ်ပြီးခါမှ တစ်ဖန်ပြန်၍ လက်ခံဘိ၏။ ငြင်းပယ်ဘိ၏။ စကားတစ်ခွန်းဖြင့် အခြားတစ်ခွန်းကို ဖုံးလားဖိလား လုပ်တတ်၏။ ကိုယ်တိုင် သိပါလျက် အရှက်မရှိ မုသားဆိုတတ်၏။ သကျတို့၏ သားတော်ဖြစ်သော ဟတ္ထကသည် အဘယ့်ကြောင့် ဤသို့ မဖွယ်မရာ ပြုကျင့်ရပါသနည်း"

တိတ္ထိတို့၏ ကဲ့ရဲ့သံ၊ ရှုတ်ချသံများ ဖြစ်ပေသည်။ တွေ့ကရာမြင်ကရာ တရားငြင်းခုံမှု၏ ရလဒ် ဖြစ်ပေသည်။

**(ပါစိတ်၊ မုသာဝါဒသိက္ခာပုဒ် ပါဠိတော်နှင့် အဋ္ဌကထာ)**

ဘုရားရှင်သည် မိမိ ဟောကြားသော တရားတော်ကို ဖောင်နှင့် ဥပမာပြုတော်မူခဲ့ဖူးပေသည်။

"ရဟန်းတို့၊ ခရီးသွားယောကျ်ားတစ်ယောက်သည် အပြောကျယ်စွာသော မြစ်ကမ်းပါးမှာရပ်၍ သုံးသပ်လိုက်သောအခါ သူရှိရာဘက်၌ အန္တရာယ် ရန်စွယ်တွေ ပေါများလှ၏။ အခြားတစ်ဖက်မှာမူကား အန္တရာယ်ရန်စွယ်များ လုံးဝမရှိပေ။ ထိုမြစ်ပြင်ကျယ်မှာ ဖြတ်ကူးစရာ လှေလည်းမရှိ။ တံတားလည်း မရှိ။ ဤတွင် ခရီးသွားယောကျ်ားသည် သစ်တိုဝါးစ မြက်မှစ၍ ရတတ်သမျှကို စုစည်း၍ ဖောင်ဖွဲ့ပြီးလျှင် ထိုဖောင်ပေါ်မှာ မှေးမှီလျက် လက်နှင့်ကူးကာ ခြေနှင့် ခတ်ကာ တစ်ဖက်ကမ်းသို့ ချမ်းသာစွာ ရောက်သွား၏။ ထိုခရီးသွား ယောကျ်ား သည် ဖောင်ကို တစိမ့်စိမ့်ကြည့်ကာ 'ဤဖောင်သည် ငါ့အပေါ်မှာ ကျေးဇူးများပေစွတကား။ ဤဖောင်ကို အမှီပြုကာ ငါသည် ကမ်းထက်သို့ လှမ်းတက်နိုင်ခဲ့ပေပြီ။ ငါသည် ဤဖောင်ကို ခေါင်းပေါ်မှာ ရွက်၍ဖြစ်စေ၊ ပခုံးပေါ်မှာ ထမ်း၍ဖြစ်စေ သွားလေရာရာ ယူသွားရသော် ကောင်းလေစွတကား' ဟူ၍ စဉ်းစားရာ၏။

"ရဟန်းတို့၊ ခရီးသွားယောကျ်ားသည် ထိုသို့ စဉ်းစားမိသည့်အတိုင်း ပြုလုပ်ပါလျှင် ထိုဖောင်အပေါ်မှာ ပြုသင့်ပြုထိုက်သော ကိစ္စကို ပြုရာရောက်ပါမည်လော"

"မရောက်နိုင်ပါ အရှင်ဘုရား"

"ရဟန်းတို့၊ တစ်ဖက်ကမ်းသို့ ကူးမြောက်ပြီးသော ထိုယောကျ်ားသည် ထိုဖောင်ကို ကုန်းပေါ်မှာ ဆယ်တင်၍သော်လည်းကောင်း၊ ရေထဲမှာ မျှော လိုက်၍သော်လည်းကောင်း၊ သွားလိုရာသို့ ထွက်သွားပါလျှင် ထိုဖောင်ပေါ်မှာ ပြုသင့်ပြုထိုက်သော ကိစ္စကို ပြုရာရောက်ပါ၏လော"

"ရောက်ပါသည် အရှင်ဘုရား"

"ရဟန်းတို့၊ ဤသို့သာလျှင် ဖြစ်၏။ ငါဘုရား ဟောကြားသော တရား သည် ဖောင်နှင့် တူ၏။ သြဃလေးဖြာ သံသရာမှ ကူးမြောက်ရေး အတွက်သာ ဖြစ်၏။ သိမ်းပိုက်စွဲလမ်းထားကြရန် မဟုတ်ပေ။ ဖောင်ကို ဥပမာပြု၍ ငါဘုရား ဟောကြားခဲ့သော တရားကို ဟုတ်တိုင်းမှန်စွာ သိမြင်ကြလျှင် သမထ ဝိပဿနာ တရားကိုပင် အစွဲအလမ်း မထားသောအားဖြင့် ပယ်စွန့်သင့်၏။ သမထ ဝိပဿနာဘောင် မဝင်သော တရားကိုကား ဆိုဖွယ်ရာ မရှိတော့ပြီတည်း"

(မဇ္ဈိမနိကာယ်၊ အလဂဒ္ဒူပမသုတ်)

ဤဒေသနာတော်အရ တရားဟူသည်မှာ သံသရာ တစ်ဖက်ကမ်းသို့ ကူးမြောက်ရေးအတွက်သာ ဖြစ်၏။ အတို အရှည် ထိုထို ဤဤ ရွေးချယ် နေရန် မလိုပေ။ မိမိ၏ ခန္ဓာမှာ မှန်စွာပြနေသော တရားကို တရားအတိုင်း သိမြင်ရေးသာ အဓိက ဖြစ်၏။ မိမိသဘောဉာဏ် သက်ဝင်နိုင်သော တရား တစ်ပုဒ်ပုဒ်ကို အထောက်အကူပြုကာ ကူးမြောက်ပြီးသော အခါမှာလည်း ဤ တရားကို အစွဲအလမ်းဖြစ်နေစရာ မလို။ ရရှိထားသော လောကုတ္တရာ စည်းစိမ်ကို မြိန်မြိန်ကြီး ခံစား၍ သွားလိုရာ သွားကြဖို့သာ ရှိပေသည်။ အရှင်ဟတ္ထကသည် တစ်ဖက်ကမ်းသို့ ကူးမြောက်ရန်ဟူ၍ အများနည်းတူ ဖောင်ကိုကား ဖွဲ့ထားပါ၏။ သို့သော် သူကား တစ်ဖက်ကမ်းသို့ မကူးနိုင်သေးပေ။ ဤသို့ မကူးမြောက်နိုင် ခြင်းမှာ ဖောင်၏ အပြစ် မဟုတ်ပါ။ မိမိက စီး၍ ကူးရမည့် ဖောင်ကို မကူးရ သေးခင်က မိမိခေါင်းပေါ် ရွက်ထားသောကြောင့် ဖြစ်ပါ၏။

ဖောင်ကြီးကို ခေါင်းပေါ်မှာရွက်လျက် ဟတ္ထကသည် ကျောင်းရှိသမျှ လျှောက်၍လည်း၏။ တွေ့ကရာ မြင်ကရာ ရဟန်းများနှင့် ဖောင်ချင်းပြိုင်၏။ ရဟန်းအများမှာ ဖောင်ကိုယ်စီ ရှိထားကြသော်လည်း ကူးမြောက်ရေးအတွက် သာ အသုံးပြုလျက်ရှိကြ၍ သူနှင့် ပြိုင်စရာမရှိကြပေ။ ဤတွင် ဟတ္ထကသည် ဇေတဝန်ကျောင်းတော်မှသည်တိတ္ထိများကျောင်းသို့ရောက်သွားပေတော့သည်။

အကယ်၍ အရှင်ဟတ္ထကသည် ဒေသနာအရာ ကျွမ်းကျင်လိမ္မာသူ ဖြစ်လျှင် ဤမျှလောက် အရုပ်ဆိုးမည် မဟုတ်ပါ။ မိမိ၏ တရားသဘောကို ထင်ရှားအောင်

ပြဆိုကာ တစ်ဖက်က တင်ပြသော ပြဿနာတို့ကို ပြေလည်အောင် ဖြေရှင်းနိုင်မည်ဖြစ်ပါ၏။ သို့သော် ဟတ္ထကား ဝ,မရှိဘဲ ဝိလုပ်သူဖြစ်၏၊၊ ဝိလုပ်မိ၍ အကျဉ်းအကျပ် တွေ့ပြန်တော့လည်း ဒေသနာ အရာတွင် မိမိကျွမ်းကျင်မှု မရှိသေးကြောင်းရိုးသားစွာဝန်မခံချင်။ ဝန်မခံချင် တော့လည်း ရှေ့တိုးစရာလမ်းစက မရှိ။ လမ်းစမရှိဘဲ ဖွတ်တရွတ်ဆက်၍ ပြောလေသမျှ ဝေ့လည်ကြောင်ပတ် ဖြစ်ရမည်ပင်။ ဤတွင် "သကျသားတော်" အစရှိကာ မဲ့သံ ရွဲ့သံများ ထွက်ပေါ် လာရပေသည်။

ဤသို့သော အသံများဆက်ကာဆက်ကာထွက်မလာစေရန် "သိလျက်နှင့် မုသားဆိုသော် ပါစိတ်အာပတ်သင့်စေ" ဟူသော ပညတ်တော်တစ်ခု ထွက်ပေါ် လာရပေသည်။ (ပါစိတ်၊ မုသာဝါဒ သိက္ခာပုဒ်)

ဤသို့အားဖြင့် သကျသားတော် အရှင်ဟတ္ထကသည် ဘာရျာန်၊ ဘာတန်ခိုး တစ်ခုကိုမျှ မရှိဘဲ နာမည်ကြီးလာခဲ့၏။ သကျသားတော် နှစ်ထပ်ကွမ်းများထဲမှ သူ့နည်းတူ နာမည်ကြီးလာသူကား အရှင်ဥပနန္ဒ ဖြစ်ပါ၏။

တကယ်တော့ဖြင့် အရှင်ဥပနန္ဒသည် နာမည်ကျော်ကြားသော ဓမ္မကထိက တစ်ပါးဖြစ်၏။ ရုပ်လက္ခဏာ တစ်စုံတစ်ရာ ထူးခြားမှုမရှိသော်လည်း သူ့အသံက ကောင်းလှ၏။ ကြားနာရသူတိုင်း နားဝင်ချိုစရာ ဖြစ်၏။ မှင်မောင်း ကောင်းကောင်း နှင့်ဟောကြားသောတရားသည် အားရစရာ ဖြစ်၏။ အရှင်ဥပနန္ဒသည် သကျသားတော် အများစုကို ဤအရည်အချင်းများဖြင့် ကျော်လွန် ထင်ရှားလာကာ ဤအရည်အချင်းများနှင့် ဆက်စပ်၍ပင် နှာခေါင်းရှုံ့စရာ ဖြစ်လာရပေသည်။

သာဝတ္ထိ မြို့တော်တွင်းမှ လူတစ်ယောက်သည် အရှင်ဥပနန္ဒ၏ တရားကို ကြားနာကာ သဒ္ဓါစိတ်များ ကွန့်မြူးလာသဖြင့် "အရှင်ဘုရား၊ အလိုရှိရာ မိန့်တော်မူပါ။ ဆွမ်း၊ သင်္ကန်း၊ ကျောင်း၊ ဆေး လေးပါးသော ပစ္စည်းတို့ကို တပည့်တော် လှူဒါန်းပါ၏ဘုရား" ဟု လျှောက်ထား၏။ အခြား ဓမ္မကထိကများ သာဆိုလျှင် ဆိတ်ဆိတ်နေခြင်းဖြင့် လက်ခံထားလိုက်မည် ဖြစ်၏။ အဟုတ် တကယ် လိုအပ်လာခါမှ လျှောက်ထားသူ၏ ပစ္စည်းအင်အား၊ သဒ္ဓါအင်အားကို ချင့်ချိန်ကာ အလှူခံကြမည် ဖြစ်၏။ အရှင်ဥပနန္ဒကား ဤသို့ မဟုတ်ပါချေ။

"ဒါယကာ၊ လှူလိုသည့် စေတနာ ရှိရိုးမှန်လျှင် ဝတ်လာသော အဝတ် နှစ်ထည်ထဲက တစ်ထည်ကို လှူခဲ့ပေတော့"

လျှောက်ထားသူ၏ စကားဆုံးသည်နှင့် တစ်ပြိုင်နက် အလှူခံလိုက်ပါ တော့သည်။

အရှင်ဥပနန္ဒမှာ တရားကျင့်သုံးဖို့၊ စာပေပရိယတ် သင်ယူဖို့ကိုသာ နေ့ရွေ့လရွေ့ ရွေ့လာခဲ့၏။ ဤလို ကိစ္စမျိုးကိုကား အချိန်မရွေ့တတ်ပါ။ အလှူခံရာမှာလည်း ဘာတွေ ညာတွေ ချင့်ချိန်နေစရာ မလိုပါ။ တစ်စုံတစ်ရာကို အလိုရှိလာလျှင်ပင် အလှူခံစရာ အကြောင်းယုတ္တိ လုံလောက်ပြီဖြစ်ပေသည်။ အလှူခံချိန်ရောက်လာပြီ ဖြစ်ပေသည်။

"အရှင်ဘုရား၊ တပည့်တော်တို့မှာ ဂုဏ်သိက္ခာနှင့်နေရသူများ ဖြစ်ပါ၍ အဝတ်တစ်ထည်တည်းနှင့် သွားရလျှင် ရှက်စရာ ကောင်းလှပါသည်။ သို့ဖြစ်၍ အိမ်ရောက်အောင် ဆိုင်းငံ့တော်မူပါ။ အိမ်ရောက်လျှင် ဤနှစ်ထည်မှ တစ်ထည်ကို ဖြစ်စေ၊ သည့်ထက်သာ၍ ကောင်းသောအထည်ကိုဖြစ်စေ၊ အပို့အလှူ လွှတ်လိုက်ပါမည် ဘုရား"

အလိုက်ကမ်းဆိုးမသိ၊ အလှူခံ၍ပင် သဒ္ဓါမပျက်နိုင်ရှာသော ဒါယကာသူဌေးက အကျိုးသင့် အကြောင်းသင့် လျှောက်ထားပါ၏။ သို့သော် အရှင်ဥပနန္ဒကား လက်မခံပါလေ။ စိုင်ရှင်က ဘယ်လောက်ပင် ဝဖြိုးနေနေ စိုင်သေကို လက်မလွှတ်သော မုဆိုးမိုက်ကဲ့သို့ ဖြစ်နေပေသည်။

ဆရာ ဒါယကာ နှစ်ဦးသားတို့သည် သုံးချီ သုံးလားမျှ အားစမ်း၍ နေကြ၏။ ဆရာက ချက်ချင်းလက်ငင်း လှူဖို့ အရေးဆို၏။ ဒါယကာက ခေတ္တခဏ ဆိုင်းငံ့ပါရန် လျှောက်ထား၏။ နောက်ဆုံးမှာကား–

"ဒါယကာ၊ သင်သည် အဟုတ်လိုလို လျှောက်ထားပြီးခါမှ မလှူဘဲ နေဘိ၏။ အဟုတ်တကယ် မလှူလိုဘဲ အတုအယောင် လျှောက်ထားခြင်းဖြင့် ဘာအကျိုးရှိမည်နည်း"

ဤသို့ ဆရာက အကျပ်ကိုင်လိုက်သဖြင့် ဒါယကာဘက်က လက်လျှော့လိုက်ရ၏။ ဂုဏ်သရေရှိ အမျိုးကောင်းသားတစ်ယောက် ဖြစ်ပါလျက် အပေါ်ဝတ်မပါ။ ခါးဆီးတစ်လွှားတည်းဖြင့် သူ့ခမျာ ပြန်သွားရရှာပေသည်။

ဤအခြေအနေ ရောက်သည့်တိုင်အောင်ပင် သူဌေး၏ စေတနာက ပျက်မသွားသေးပါ။ ပုဂ္ဂိုလ်၏ စိတ်နေစိတ်ထား နိမ့်ကျသည်ကိုသိရသော်လည်း တရားကို ကြည်ညိုသဖြင့် ပုဂ္ဂိုလ်အပေါ်မှာလည်း သဒ္ဓါလက်ကိုင် ခိုင်မြဲလျက်သာ ရှိပေသည်။ သို့ဖြစ်၍ လမ်းမှ မေးကြမြန်းကြသူများအား အဖြစ်မှန်ကို ပြောရုံသာ ပြောပြခဲ့၏။ တစ်စုံတစ်ရာ ဝေဖန်မှု၊ ကဲ့ရဲ့ရှုတ်ချမှု မပြုခဲ့ပါချေ။ သို့သော် သူ့အသိုက်အဝန်းမှ ပုဂ္ဂိုလ်များကား သူလို ငြိမ်ခံမနေနိုင်ကြပါ။ "သကျသားတော်များ" ဟူသော ဝေါဟာရဖြင့် အစချီကာ အရှင်ဥပနန္ဒ၏ အပြုအမူကို

ကဲ့ရဲ့ရှုတ်ချသံများ ညံညံစီ၍ လာကြတော့၏။ သူတို့ကား ပုဂ္ဂိုလ်နှင့် တရားကို ခွဲခြားလိုက်ကြဟန် တူပေသည်။

ဤတွင် ဘုရားရှင်က–

"ဆွေမျိုးမတော်သော ဒါယကာကို လည်းကောင်း၊ ဒါယိကာမကို လည်းကောင်း၊ အဝတ်သင်္ကန်း တောင်းသော ရဟန်းအား နိဿဂ္ဂိပါစိတ် အာပတ်သင့်စေ" ဟု ပညတ်တော်မူရ၏။ ရိုးသားစွာ လျှောက်ထားလာသော သဒ္ဓါတရားကို အလွဲသုံးစား မပြုနိုင်ကြရန် အကာအကွယ် ပေးတော်မူလိုက်ရပေသည်။

နိဿဂ္ဂိပါစိတ်အာပတ် ဟူသည်မှာ ရိုးရိုး ပါစိတ်အာပတ်များကဲ့သို့ ဒေသနာ ကြားရုံနှင့် မပြေပျောက်ပေ။ အလှူခံထားသည့်ပစ္စည်းကို ဝိနည်းတော် ညွှန်ပြထားသည့်အတိုင်း ဦးစွာပထမ စွန့်ပစ်ပြီး ဒေသနာကြားမှ အာပတ်မှ လွတ်ငြိမ်းချမ်းသာခွင့် ရပေသည်။

အရှင်ဥပနန္ဒကိုအကြောင်းပြု၍ ပညတ်တော်မူခဲ့သော ဤသိက္ခာပုဒ်ကို အခြေအနေအရ တစ်ဖန်ထပ်၍ ပညတ်တော်မူရပြန်၏။ မူလပညတ်ပေါ်မှ ထပ်မံ ပညတ်တော်မူရာတွင် အချို့မှာ မူလကထက် တင်းကျပ်လာ၏။ အချို့မှာကား မူလကထက် သက်သာခွင့်ရလာ၏။ ဤသည်မှာ ဝိနည်းတော်၏ ဂုဏ်အင်္ဂါပင် ဖြစ်၏။ မူလပထမ ပညတ်စဉ်က ဆယ်ပါးသောအကျိုး တရားတို့ တိုးပွားစေရန် ဖြစ်ရာ ထိုအကျိုးတရားတို့နှင့် ဆန့်ကျင်လာလျှင် ပြုပြင်တော် မူရမည်ပင် ဖြစ်ပေသည်။ ယခုလည်း သင်္ကန်း အလုအယက်ခံရသော ရဟန်း၊ သင်္ကန်း ပျောက်ဆုံးသော ရဟန်းများအတွက် သက်သာခွင့်ပေးရန် လိုအပ်သဖြင့်ထပ်မံ၍ ပညတ်တော် မူရပေသည်။

**(နိဿဂ္ဂိပါစိတ်၊ အညာတက ဝိညတ္တိသိက္ခာပုဒ်)**

ဤကား သကျသားတော် အရှင်ဥပနန္ဒ၏ စိတ်ဓာတ် သရုပ်ဖော် တစ်ကွက် ဖြစ်၏။ မဟုတ်တာ၊ မဟာတ်တာကိုမှ ကုတ်ကုတ်ကတ်ကတ် ကြံကြံ ဖန်ဖန် လုပ်တတ်သည်မှာ သူ့ဝသီဟုပင် ဆိုရပါမည်။ ဝသီ ဆိုသော်လည်း အကောင်း တစ်ခုမျှ မပါ။ အဆိုးကြီးနှင့် အဆိုးကလေး များသာ ဖြစ်ပါသည်။ သူ့ဝသီဆိုးများကို ဝိနည်းဆောင် ပုဂ္ဂိုလ်များထံမှ ကျွန်ုပ်တို့ တစ်မျိုးပြီးတစ်မျိုး ကြားနာကြရ၏။ အမှုသည်ထပ်သော်လည်း အမှုမထပ်ဟု ဆိုရပါတော့မည်။ ပွဲတိုင်းကျော်သည့် ဆဗ္ဗဂ္ဂီတို့ကို အားကျလေသလား မဆိုနိုင်ပါ။

ဆီလို အပေါက်ရှာတတ်သော အရှင်ဥပနန္ဒနှင့် ဆက်စပ်ကာ အခြောက် တိုက် ဘဝင်မြင့်နေသော ရဟန်းတစ်ပါးနှင့် ကျွန်ုပ်၏ ပရိသတ်ကို မိတ်ဆက်

ပေးပါဦးမည်။ သို့သော် သူကား ကျွန်ုပ်၏ ပရိသတ်များအဖို့ မျက်နှာသစ် မဟုတ်ပါ။ အလောင်းတော် မင်းသား ဘဝမှာတုန်းက ဆန္နအမတ် အဖြစ်ဖြင့် သူ့အကြောင်း တချို့တဝက်ကို ပရိသတ်များ ကြားနာဖူးပြီး ဖြစ်ပေသည်။

ဆန္နသည် ကျွန်ုပ်တို့ အမျိုးအနွယ်ထဲကတော့ မဟုတ်ပါ။ အာဏာပိုင် အတန်းအစားထဲက မဟုတ်ပါ။ ကျွန်ုပ်တို့၏ အမှုထမ်း အမျိုးအနွယ်ထဲကသာ ဖြစ်ပါသည်။ သို့သော် အလောင်းတော်နှင့်ကား ကျွန်ုပ်တို့ထက် ပို၍ရင်းနှီး၏။ အကျွမ်းတဝင် ရှိ၏။ အလောင်းတော်မင်းသား သွားလေရာသို့ ထက်ကြပ်မကွာ လိုက်ပါရ၏။ အနော်မာသောင်ခြေတွင် သူသည် အလောင်းတော် မင်းသားနှင့် နောက်ဆုံး ခွဲခွာခဲ့ရပေသည်။ အမိန့်တော်ကို ဦးထိပ်ရွက်ပန်ဆင်ကာ မျက်ရည် စက်လက် ထွက်ခွာခဲ့ရပေသည်။

ပေါင်းဆုံခြင်းသည် ခွဲခွာခြင်း၏ အစ ဖြစ်သကဲ့သို့ အနော်မာ သောင်ခြေမှာ ခွဲခွာရခြင်းသည်လည်း ပေါင်းဆုံခြင်း၏ အစဖြစ်ပေသည်။ မလွဲသာ၍ ခွဲခွာခဲ့ရသူ နှစ်ဦးတို့သည် ယခုတော့ သာသနာ့ဘောင်မှာ အတူတကွ ဆုံလာကြပြန်ချေပြီ။ တစ်ဦးကား ကျွန်ုပ်တို့၏ကျေးဇူးတော်ရှင်။ တစ်ဦးကား ကျွန်ုပ်၏ သီတင်းသုံးဖော် ရဟန်းတော် ဆန္န။

အလောင်းတော် မင်းသားဘဝက အတွင်းလူယုံတော် ဖြစ်ခဲ့သော ဆန္န သည် ယခုအချိန်မှာကား ဘုရားရှင်၏ ယုံကြည်စိတ်ချမှုကို မခံယူနိုင်တော့ပါ။ ဝါတော်နှစ်ဆယ် အတွင်းမှာ ဘုရားရှင်ကို အလျဉ်းသင့်သလို ပြုစုလုပ်ကျွေးသော ရဟန်းများထဲမှာလည်း သူ မပါဝင်ပါ။ ဤသည်မှာ သူက မပါချင်၍ မဟုတ်ပါ။ ဘုရားရှင် ကိုယ်တော်တိုင်က မျက်နှာသာပေးတော်မမူသောကြောင့် ဖြစ်ပေသည်။

လူ့ဘဝတုန်းက အသုံးတည့်ခဲ့သော ဆန္နသည် ရဟန်းဘဝရောက်ခါမှ အသုံးမကျသော အမှိုက်သရိုက် ဖြစ်လာရ၏။ ရဟန်းများနှင့် မသင့်လျော် သော အမှုများကို မကြာခဏ ပြုတတ်၏။ ကာယကံထဲကရော၊ ဝစီကံထဲ ကပါ မကောင်းတာဆိုလျှင် မျိုးစုံအောင် ကျူးလွန်ခဲ့၏။ ကုစား၍မရနိုင်သော အမှုကြီးများ မဟုတ်သေး၍သာ တော်တော့သည်။

ယခု လောလောဆယ် မည်သို့ပင် ရှိရှိ၊ ကျေးဇူးရှင်ကြီး အပေါ်မှာ ဟိုယခင်က ပြုခဲ့ဖူးသော သူ့ကျေးဇူးများကို ထောက်ထားကာ သီတင်းသုံးဖော် များက သူ့ကို စိတ်ရှည်လက်ရှည် ပြုပြင်ပေးကြပါ၏။ အမြင်မတော်သော အမှိုက်ပုံများကို ဝိုင်းဝန်း၍ ရှင်းပေးကြပါ၏။ သို့သော် ဆန္နက အပြုပြင်မခံ။ အမှိုက်ရှင်းလာကြသော ရဟန်းများကိုပင် သူက ကြိမ်းလိုက် မောင်းလိုက်ပါသေး၏။

"ငါ့ရှင်တို့၊ ပြောတိုင်း ဆိုတိုင်း ငုံ့ခံမည့်သူဟူ၍ ငါ့ကို သင်တို့ အဘယ်ကြောင့် မှတ်ထင်နေကြသနည်း။ ပြောချင်းပြောလျှင် ငါကသာ သင်တို့ကို ပြောခွင့်ရှိ၏။ ငါတို့၏ အရှင့်သားသည် တရားကို ထိုးထွင်း၍ သိတော်မူခဲ့၏။ ထို့ကြောင့် ဘုရား ဟူသည်မှာ ငါတို့၏ ဘုရားတည်း။ တရား ဟူသည်မှာ ငါတို့၏ တရားတည်း။ နေရာတကာ လျှစ္စာလုပ်တတ်သော သင်တို့အတွက် ခိုင်းနှိုင်းစရာ ဥပမာကား ဤသို့ ဖြစ်၏။ လေမုန်တိုင်းကြီး ပြင်းထန်စွာ တိုက်လာသည့်အခါ တောတကာ တောင်တကာမှ သစ်ရွက်များ မျောပါ၍ စုံပုံလာကြသကဲ့သို့ တောင်ကျချောင်းရေမှာ မှော်ပင်ကြီးငယ်တို့ စုဝေးလာကြသကဲ့သို့ ဤအတူပင်အမျိုးအနွယ်ပေါင်းစုံ၊အဆင့်အတန်းပေါင်းစုံမှ ရဟန်းပြုလာကြသော သင်တို့သည် သာသနာတော်မှာ စုပုံလာကြ၏"

မိမိကိုယ်တိုင် မင်းမှုထမ်းဘဝမှ လာခဲ့ရသည် ဖြစ်ပါလျက် အခြား ရဟန်းများကို နိုင့်ထက်စီးနင်း ဆိုခဲ့သေး၏။ လူ့ဘဝမှာတုန်းကလို သခင် ဘုန်းကြီးရုံနှင့် ကျွန်စားပြီးသည်ဟု မှတ်ထင်နေသလား မသိပါ။

သူ့စကားထဲမှာ ပါသည့်အတိုင်း သူ့အရှင်သခင်သည် တရားကို ကိုယ်တိုင် ထိုးထွင်း၍ သိခဲ့သည်မှန်ပါ၏။ ဤသို့ သူ့အရှင်သခင်က တရား သိကာ ဘုရားဖြစ်သည်နှင့် သည်ဘုရားသည် သူတစ်ဦးတည်းပိုင် ဖြစ်ပါမည် လော။ သည်တရားသည် သူတစ်ပါးတည်းအတွက် ဖြစ်ပါမည်လော။ သာမန် စဉ်းစား ဉာဏ် ရှိသူတိုင်းပင် သူ့အကြောင်းပြချက် မခိုင်လုံသည်ကို သိနိုင်ကြပေသည်။ အရှင်သခင့်အတွက် အခြောက်တိုက် ဘဝင်မြင့်နေသည်ကို သဘောပေါက်နိုင် ကြပေသည်။

လောကဌ် မျက်စိမှာ တိမ်သလာ ဖုံးနေသူများကို သမားတော်ကြီးများ ကုစား၍ ပေးနိုင်ကြ၏။ တိမ်သလာကို ဖယ်ရှားကာ အမြင်အာရုံ သန့်ရှင်း ကြည်လင်လာအောင် ဆောင်ရွက်ပေးနိုင်ကြ၏။ သို့သော် မမြင်ချင်၍ တမင် မှိတ်ထားသော သူများကိုကား သမားတော်ကြီးများ မတတ်နိုင်ပါ။ ကျွန်ုပ်တို့၏ ဆန္နမှာလည်း တမင်မှိတ်ထားသူ ဖြစ်ပေသည်။

မျက်စိမှိတ်ကာ သွားလိုရာသွားသဖြင့် ခလုတ်ကန်သင်းတိုက်မိသည်မှာ အဆန်း မဟုတ်။ သို့သော် သူသည် သာသနာတော်ကြီးမှာ အထီးတည်း နေသူ မဟုတ်ပေ။ ရှိရှိသမျှ ရဟန်းသံဃာတော်များသည် တစ်သွေးတည်း တစ်သားတည်း အဖြစ်ဖြင့် ရပ်တည်နေကြ၏။ အချင်းချင်း ပြောဆိုဆုံးမမှု၊ အာပတ်များကို ဝိုင်းဝန်းကုစားပေးမှုဖြင့် သံဃာ့ပရိသတ်ကြီး တိုးတက် ကြီးထွားလာရ၏။ ယခု

ဆန္န၏ အပြုအမူကား သံဃာ့ပရိသတ် ကြီးထွားဖို့ မဟုတ်ပေ။ တစ်နေ့ တခြား ဆုတ်ယုတ် လျော့ပါးစေဖို့သာ ဖြစ်၏။

ဤသို့သော အခြေအနေကို သိကြသဖြင့် သိတင်းသုံးဖော်များသည် ဆိုနိုင်ခက်သော ဆန္နအား ရှေ့တော်မှောက်သို့ အရောက်ပို့ကြရာ ဘုရားရှင်က "သုံးကြိမ်သုံးခါ ဆုံးမပါလျက် ဆက်လက်၍ ခက်ထန်နေလျှင် သံဃာဒိသိသ် အာပတ်သင့်စေ"ဟု ပညတ်ချက် ထုတ်ပြန်တော်မူရပေသည်။

သံဃာဒိသိသ် ဟူသည်မှာ သည်အာပတ်ကို ကုစားရာတွင်တာရှည် လှ၏။ တာဝန်ကြီးလေးလှ၏။ အစ၊ အလယ်၊ အဆုံး သုံးပါးလုံးတွင် သံဃာက ဝိုင်းဝန်း ကူညီပါမှ အာပတ်မှ လွတ်ငြိမ်းခွင့်ရ၏။ ထို့ကြောင့် သံဃာဒိသိသ် ဟု အမည်တွင်ခြင်း ဖြစ်၏။ ပါရာဇိက အာပတ်ကြီးများ အပြီးတွင် အပြစ်အကြီးဆုံးသော အာပတ်ကြီးများ ဖြစ်ပေသည်။

**(ပါရာဇိကကဏ္ဍ၊ သံဃာဒိသိသ်၊ ဒုဗ္ဗစသိက္ခာပုဒ်)**

ဤအမိန့်တော် ထုတ်ပြန်လိုက်သဖြင့် အရှင်ဆန္နမှာ ယခင်ကလို နိုင့်ထက်စီးနင်း မပြောနိုင်တော့ပါ။ သို့သော် သူလည်း အရှင်ဥပနန္ဒနှင့် မခြားလှပေ။ သည်လမ်းက ပိတ်ထားလျှင် ဟိုနေရာက ဖောက်ထွက်သူသာ ဖြစ်၏။ သူ ဖောက်လေသမျှ ဘုရားရှင် လိုက်၍ ပိတ်တော်မူရသည်မှာ ကုသိနာရုံ အင်ကြင်းစုံက ညောင်စောင်းပေါ်ရောက်တော်မူသည်အထိ ဖြစ်၏။ ဤအကြောင်းကို ထိုနေရာ ရောက်မှ ဆက်လက်၍ တင်ပြပါတော့မည်။

အခြားရဟန်းများက သကျသားတော်အဖြစ် ဂုဏ်ယူနေကြစဉ်တွင် ဤအရှင်သုံးပါးကား သကျသားတော် နှစ်ထပ်ကွမ်း ဖြစ်ပါလျက် သကျတို့နှင့် အရင်းနီးဆုံး ဖြစ်ပါလျက် သကျဂုဏ်ကို မဆောင်ကြပေ။ သို့သော် သူတို့ကား သာသနာတော်ကြီးမှ လက်လွတ်ဆုံးရှုံးသည့် အထိကား ရောက်မသွားကြပါ။ သူတို့အမှုကို သူတို့ကိုယ်တိုင်က မှားမှန်းသိလာသော အချိန်တွင်ကား သူတို့ဘာသာ ပြုပြင်သွားကြမည် ဖြစ်၏။ မိမိအမှုကို မိမိကိုယ်တိုင်က မှားမှန်းသိပါလျက် ပြုပြင်ခွင့် မရတော့သူနှင့် စာလျှင် သူတို့ကို တော်သေးသည်ဟု ဆိုရပါလိမ့်မည်။

✻✻

# ကျောင်းကြီးပေါ်က တံစူးဝါးများ

သာသနာ့ဝန်ထမ်း ရဟန်းဘဝ ရောက်လာပါလျက် စိတ်နှလုံး မငြိမ်သက်သော ရဟန်းများကို ဘုရားရှင်က တံစူးဝါးနှင့် ဥပမာပေး၍ ရှုတ်ချတော် မူခဲ့ပေသည်။

"ရဟန်းတို့၊ အသက်မွေးမှု ဟူသမျှတွင် ခွက်လက်စွဲ၍ တောင်းစားရခြင်းသည် အယုတ်ညံ့ဆုံး ဖြစ်၏။ ထို့ကြောင့်ပင် လူတို့ ရပ်ရွာတွင် 'သင်သည် ခွက်လက်စွဲ၍ တောင်းစားရပါစေသတည်း' ဟု ကျိန်ဆဲတတ်ကြ၏။ ထိုမျှလောက် ယုတ်နိမ့်သော အသက်မွေးမှုကိုပင် အမျိုးကောင်းသားတို့သည် အကျိုးတရားကို မျှော်ရှု၍ အမွန်အမြတ် ထားကြကုန်၏။

"သူတို့တစ်တွေ သပိတ်လက်စွဲ၍ ဆွမ်းခံနေကြခြင်းမှာ မင်းဘေးကြောင့်လည်း မဟုတ်။ ခိုးသားဓားပြ နှိပ်စက်၍လည်း မဟုတ်။ သူ့ကြွေးသူ့မြီ မပေးဆပ်နိုင်၍လည်း မဟုတ်။ ကူးစက်ရောဂါ စသော ဘေးကြီးသင့်၍လည်း မဟုတ်။ အသက်မွေးမှု ကျပ်တည်းသောကြောင့်လည်းမဟုတ်။ စင်စစ်သော်ကား သံသရာ ဘေးအပေါင်းမှ လွတ်ကြောင်းရှာကြခြင်းသာ ဖြစ်၏။ ဤသို့ ကျင့်သုံးခြင်းဖြင့် ပဋိသန္ဓေနေခြင်း၊ အိုခြင်း၊ သေခြင်း၊ စိုးရိမ်ပူဆွေး၊ ငိုကြွေးရခြင်း၊ ကိုယ်ရောစိတ်ပါ ဆင်းရဲပင်ပန်းခြင်းတည်း ဟူသော ဘေးဒုက္ခ အပေါင်းမှ လွတ်ရာလွတ်ကြောင်း ရလိမ့်မည်ဟု မျှော်လင့်ကာ သာသနာတော်တွင် ဝင်လာကြခြင်း ဖြစ်၏။

"ဝင်လာစဉ်တုန်းက ဤသို့သော စိတ်သဘောမှန်ဖြင့် ဝင်လာခဲ့သော အမျိုးကောင်းသားသည် သာသနာတော်တွင် ရောက်သည့်နောက်မှာကား လူဝတ်တုန်းက စိတ်ထားများနှင့် မခြားဘဲ ရှိနေပြီးအံ့။ လောဘတွေ၊ ဒေါသတွေ

ပွားစီးနေကြောအံ့။ သတိသမ္ပဇဉ် ဉာဏ်မယှဉ်ဘဲ နေကြောအံ့။ စိတ်မတည်ငြိမ် ဣန္ဒြေမရဘဲ နေကြောအံ့။ ထိုအမျိုးကောင်းသားသည် လူ့စည်းစိမ်ကိုလည်း လက်လွှတ် ဆုံးရှုံးခဲ့ရ၏။ ရဟန်း စည်းစိမ်ကိုလည်း ပြည့်ပြည့်ဝဝ အရမယူနိုင်။ ဥပမာအားဖြင့် သူသေကောင် ဖုတ်ကြည်း သင်္ဂြိုဟ်ရာတွင် အသုံးပြုသော တံစူးဝါး သည် အရင်းရော၊ အဖျားပါ မီးလောင်ထား၏။ အလယ်မှာလည်း မစင်လူးလျက် ရှိ၏။ ထိုတံစူးဝါးသည် ရွာထဲမှာ ထင်းဆိုက်ဖို့လည်း အသုံးမကျ။ တောထဲမှာ တဲထိုးဖို့လည်း အသုံးမဝင်။ ထို့အတူပင် ရဟန်းဖြစ်ပါလျက် စိတ်နှလုံး မငြိမ်သက် သော ရဟန်းသည် လူ့စည်းစိမ်၊ ရဟန်းစည်းစိမ် နှစ်ဘက်လုံးမှ ဆုံးရှုံးရသည်သာ ဖြစ်ပေသည်" **(ဣတိဝုတ်၊ တိကနိပါတ်၊ ဓိဝကသုတ်)**

ရှေ့အခန်းမှာတုန်းက သကျနွယ်ဖွား ဖြစ်ပါလျက် သကျတို့နှင့် လက်ပွန်း တတီး နေခဲ့ရပါလျက် အကျိုးနှစ်ဘက်လုံး ဆုံးရှုံးခဲ့ရသူများကို တင်ပြခဲ့ပါပြီ။ ယခုအကြောင်းဆိုက်လာသည့်အခိုက် သူတို့၏အသင်းအပင်းများကို တင်ပြရ ပါဦးမည်။ စံနမူနာကောင်းပြခဲ့ကြသော ပုဂ္ဂိုလ်ကြီးများကို အတုယူကြပြီးလျှင် အဆိုးဘက်ကို ရှောင်နိုင်ကြရန် ဖြစ်ပါသည်။

သာသနာတော်တွင်းက အဆိုးအုပ်စုကို ပြောကြစို့ဆိုလျှင် ဆဗ္ဗဂ္ဂီများ အကြောင်း မပါဘဲ မဖြစ်နိုင်ပါ။ သူတို့ ခြောက်ပါးအုပ်စုထဲက မေတ္တိယနှင့် ဘူမဇကတို့ တစ်တွဲကို စောစော တစ်နေရာမှာတုန်းက တင်ပြခဲ့ပါပြီ။ မလ္လ မျိုးနွယ် အရှင်ဒဗ္ဗအား မဟုတ် မတရားစွပ်စွဲမှုနှင့် ပတ်သက်၍ ဖြစ်ပေသည်။ သူတို့အထဲက နောက်ထပ် တင်ပြရမည့် သူတို့မှာ ပဏ္ဍုကနှင့် လောဟိတကတို့ အတွဲ ဖြစ်ပေသည်။

သူတို့နှစ်ပါး ကျော်ကြားသည်ကား တို့မီးရှို့မီး လုပ်တတ်ကြ၍ ဖြစ်၏။ သူတို့သည် တွေ့ကရာ ရဟန်းများနှင့် ရန်ဖြစ်ကြ၏။ ငြင်းခုံကြ၏။ စကားများ ကြ၏။ သံဃာတော်များ အေးချမ်းစွာ မနေရအောင် နှောင့်ယှက်ကြ၏။ ထို့ပြင် မက သူတို့နည်းတူ ဆူပူတတ်သော ရဟန်းများကိုလည်း မြှောက်ထိုးပင့်ကော် လုပ်တတ်ကြပါသေးသည်။

"အရှင်ဘုရားတို့၊ ဤရဟန်းကို အရှင်ဘုရားတို့ အရှုံးမပေးကြစမ်းပါနှင့်။ အင်အား ရှိသမျှ ရဟန်းအပေါင်းကို တိုင်ပင်ကြပါဦး။ ဤရဟန်းထက် အရှင် ဘုရားတို့က ဉာဏ်ပညာ ကြီးမားကြပါသည်။ အကြားအမြင် များကြ ပါသည်။ စွမ်းရည်သတ္တိ ရှိကြပါသည်။ အရှင်ဘုရားတို့ မကြောက်ကြပါနှင့်။ တပည့်တော် တို့က အရှင်ဘုရားတို့ဘက်မှာ ပါကြပါမည်"

ဤကဲ့သို့ အားပေးအားမြှောက် ပြုကြသဖြင့် အမှုသစ်များ ထပ်မနား တမ်း ပေါ်ပေါက်လာကြရ၏။ ငြိမ်းခါနီးသော အမှုငယ်များလည်း ထိန်းမနိုင် သိမ်းမရဖြစ်အောင် ကြီးထွားလာကြ၏။ ဤတွင် ဘုရားရှင်က သူတို့နှစ်ပါးကို ခေါ်ယူ၍ ရှုတ်ချကဲ့ရဲ့တော်မူကာ တဇ္ဇနီယကံဖြင့်သူတို့နှစ်ပါးအား ဒဏ်ခတ်ရန် အမိန့်ချမှတ်တော်မူရပေသည်။ **(စူဠဝဂ်၊ ကမ္မက္ခန္ဓက၊ တဇ္ဇနီယကမ္မ)**

ပဏ္ဍုကတို့ အတွဲမှာ ကျွန်ုပ်တို့နှင့်အတူ ဇေတဝန်ကျောင်းတော်မှာ ရှိခိုက်မို့ သူတို့အမှုကို အချိန်မကြာဘဲ ငြိမ်းသတ်နိုင်ကြ၏။ အဿဇိနှင့် ပုနဗ္ဗသုကတို့၏ အမှုကိုကား တော်တော်နှင့် မငြိမ်းနိုင်ပါ။ သူတို့ကျောင်းထိုင်သော ကိဋာဂိရိရွာကြီးသည် ဇေတဝန်ကျောင်းတော်နှင့် ဝေးကွာလှ၏။ ချောင်ကျလွန်းသော အရပ်ဖြစ်၍ အရှင်မဟာသာရိပုတ္တရာ စသော မထေရ်ကြီးများလည်း အရောက်အပေါက် မရှိလှပေ။ ဤသို့သော အခြေအနေကြောင့်ပင် ထိုရွာကို အဿဇိတို့က တမင်တကာ ရွေးချယ်၍ ကျောင်းထိုင်ကြခြင်း ဖြစ်ပေသည်။

သံဃာတော်များ၏ မျက်ကွယ်မှာ တစ်သက်တာလုံး ထင်ရာစိုင်းနေရန် ရည်မှန်းထားကြသော်လည်း သူတို့ရည်မှန်းချက် မအောင်မြင်ပါ။ ကာသိတိုင်းက ရွာတစ်ရွာမှာ ဝါဆိုခဲ့သော ရဟန်းတစ်ပါးထံမှ သူတို့၏ သတင်းဆိုးများ ဇေတဝန်ကျောင်းတော်အရောက် ပေါက်ကြားလာပါတော့သည်။

ထိုရဟန်းသည် သာဝတ္ထိမြို့တော်သို့ ဘုရားဖူးရန် အလာတွင် ထိုရွာမှာ ဝင်၍ ဆွမ်းခံခဲ့သည် ဆိုပါ၏။ ကြည်ညိုဖွယ် ဂုဏ်ကိုဆောင်၍ လေးတောင် ခန့်မျှသာ မြင်သာအောင် မျက်လွှာချ၍ ဆွမ်းခံဝင်ခဲ့သည် ဆိုပါ၏။ သာဝတ္ထိ မြို့တော်ကြီးဝယ် ဤလို ဣန္ဒြေသိက္ခာ ပြည့်ဝသော ရဟန်းမျိုးအတွက် ဆွမ်းရရေး မခက်ပါ။ ဣန္ဒြေသိက္ခာကို ကြည်ညိုတတ်ပြီးသော ဒါယကာ ဒါယိကာမ အပေါင်းက သူ့ထက်ငါ လောင်းလှူကြပါလိမ့်မည်။ သို့သော် အဿဇိတို့ စိုးစံရာ ကိဋာဂိရိရွာမှာကား ဤသို့ ဣန္ဒြေသိက္ခာရှိနေလျှင် တော်ဖို့သာ ပြင်ပေတော့။

"သည်ရဟန်းက ဘယ်လိုကြီးပါလိမ့်၊ သူ့အမူအရာက မသွားချင့် သွားချင်။ အားအင်ချည့်နဲ့သော လူမမာနှင့် တူလှ၏။ နောက်ပြီး သူ့ မျက်မှောင် ကြီးကလည်း ကုပ်နေလိုက်သေး၏။ ဤလို ရဟန်းမျိုး ဆွမ်းခံကြွ၍ကော မည်သူက လောင်းချိမ့် မည်နည်း။ ငါတို့များ ကိုယ်တော်အဿဇိ တို့မှာ သူ့လို မဟုတ်ပါ။ သိမ်သိမ် မွေ့မွေ့နေကြ၏။ ပြေပြေပြစ်ပြစ် ဆက်ဆံကြ၏။ ချိုချို သာသာ ပြောဆိုကြ၏။ လူချင်းတွေ့လျှင် သူတို့က ဦးအောင် ပြုံးနှင့်ကြ၏။ "လာပါဦး ဝင်ပါဦး" ဟု လောကွတ်ကျေပွန်ကြ၏။ သူ့လိုလည်း မျက်မှောင်ကြီး ကုတ်မထားပါ။ သွားလေ

ရာရာ မျက်နှာ မော့ထားကြ၏။ သူတို့က ဦးအောင် နှုတ်ဆက်ကြ၏။ သူတို့လို အရှင်မျိုးကိုမှ ဆွမ်းလောင်းဖို့ ကောင်းပါသည်"

ကိဋာဂိရိရွာသူတို့သည် သူတို့ ကိုယ်တော်များနှင့် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်နေသော ရဟန်းအား ဆွမ်းလောင်းမည့်အစား ကဲ့ရဲ့ရှုတ်ချသော စကားများကိုသာ အိမ်ပေါက်စေ့ လောင်းလိုက်ကြ၏။

သို့သော် ကိဋာဂိရိ တစ်ရွာလုံးကား သူတို့လိုချည်း မဟုတ်သေးပါ။ ရဟန်းတို့၏ ကျင့်ဝတ်သိက္ခာကို နားလည်သော ဒါယကာကြီး တစ်ယောက်ကား ရှိပါသေးသည်။ အများကို မလွန်ဆန်နိုင်၍ ခပ်မဆိတ် နေခဲ့ရသော်လည်း ဣန္ဒြေ သိက္ခာရှိသော ရဟန်းတစ်ပါးကိုကား သူ မျှော်လင့်လျက်သာ နေခဲ့၏။ မျှော်တုန်း မျှော်ခိုက် ဆွမ်းတစ်ဇွန်းမျှ မရသေးသော ရဟန်းကို အိမ်မှာပင့်၍ ဆွမ်းကျွေးလိုက်ရ၏။ ထိုမှ စကားစပ်မိ၍ ဇေတဝန်ကျောင်းတော်သို့ သွားမည့်အကြောင်းကို သိရလျှင် ကိဋာဂိရိကျောင်းတိုက်ကြီးမှ အရှုပ်တော်ပုံ ဇာတ်လမ်းစုံကို ရှေ့နားတော် အရောက် လျှောက်ထားရန် ပန်ကြားလိုက်ပါတော့သည်။

အဿဇိတို့ အရှုပ်တော်ပုံကို ဇာတ်စုံခင်းရန်ပင် ခက်လှပါသည်။ ရွာထဲက ဒါယိကာမများနှင့် ရောရိပက်စက်နေကာ စိတ်ကူး၍ ရနိုင်သမျှ ပျော်ပွဲရွှင်ပွဲ မျိုးစုံအောင် ဆင်ယင် ကျင်းပ၍ နေကြပေသည်။ ခြုံငုံမိအောင် ပြောရသော် ပါရာဇိကအာပတ်ကြီးလေးပါးမှလွဲလျှင် မတော်တာမသင့်တာ မှန်သမျှ အားလုံး ကုန် အစုံ လုပ်နေကြသည်ဟုပင် ဆိုရပါတော့မည်။

ဤသို့သော ရဟန်းဆိုးများကိုနှိမ်နင်းရန် တာဝန်သည် မည်သူ့အပေါ် ကျလာလိမ့်မည်နည်း။ ဤကိစ္စအတွက် အထူးတလည် ရွေးချယ်နေရန် မလိုပါ။ အာဂန္တုရဟန်း လျှောက်ထားသံနားထောင်နေကြသော ရဟန်းအပေါင်းတို့က အရှင် မဟာ သာရိပုတ္တရာနှင့် အရှင်မဟာ မောဂ္ဂလာန်တို့ထံ လှမ်းကြည့်မိပြီးဖြစ်ပါ သည်။ အဿဇိတို့ အပါအဝင် ဆဗ္ဗဂ္ဂီရဟန်း ခြောက်ပါးလုံးကို သူတို့ကိုယ်တိုင် ခေါင်းဆောင်၍ ရဟန်းခံပေးခဲ့ကြသည် မဟုတ်ပါလော။ ထို့ကြောင့် ဘုရားရှင်က

"သာရိပုတ္တရာနှင့် မောဂ္ဂလာန်၊ သင်တို့ ကိဋာဂိရိသို့ သွားကြချေ။ ကိဋာဂိရိ ကျောင်းတိုက်မှ အဿဇိ ပုနဗ္ဗသုက အပါအဝင် ရဟန်းဆိုး အားလုံး ကို နှင်ထုတ်ချေကြ"

ကိုယ်ဖော်သော ဆေးကို ကိုယ်တိုင်စားကြရန် မိန့်တော်မူလိုက် ပါတော့ သည်။ သို့ရာတွင် အရှင်မဟာသာရိပုတ္တရာမှာ ဤဆေးခါးကြီးကို အစားရခက်နေ ရှာသဖြင့်

"အရှင်ဘုရား၊ အဿဇိတ ပုနဗ္ဗသုက ရဟန်းများက ကြမ်းတမ်းလှပါသည်။ ရိုင်းစိုင်းလှပါသည်။ သူတို့ကို နှင်ထုတ်သော ပဗ္ဗာဇနီယကံကို တပည့်တော်တို့ မည်သို့ ပြုရပါမည်နည်း"

မိမိကိုယ်တိုင် မွေးထုတ်ထားသော သားဆိုးများကို ဆုံးမ နှိပ်ကွပ်ရန် ခက်ခဲနေသော မိဘများကဲ့သို့ ဖြစ်နေရှာပါသည်။

"သာရိပုတ္တရာတို့၊ ထိုသို့ဖြစ်လျှင် ရဟန်းများစွာ အလုံအလောက်ခေါ်၍ သွားချေကြ။ ပဗ္ဗာဇနီယကံ ပြုသောအခါ ဤသို့ စနစ်တကျပြုလုပ်ကြ။ အဿဇိ ပုနဗ္ဗသုက ရဟန်းများကို ပထမဦးစွာ မေးစစ်ပြီး အဖြစ်မှန်ကို သိအောင် ပြောပြကြ။ အမှုအားလျော်သော အာပတ်ကို မငြင်းသာအောင် ပြဆိုကြ။ ဤသို့ အဆင့်ဆင့်ပြုပြီးမှ သံဃာ့အမိန့်ဖြင့် ဤကျောင်းတိုက်မှ နှင်ထုတ်သော ပဗ္ဗာဇနီယကမ္မဝါစာကို ရွတ်ဖတ်ကြ"

ဤသို့ စနစ်တကျ ညွှန်ကြားတော်မူသဖြင့် အဿဇိ ပုနဗ္ဗသုက ရဟန်းများ ကိဋာဂိရိ ကျောင်းကြီးပေါ်မှ ဆင်းသွားကြရပါ၏။ သို့သော် သံဃာ့အားကို မတော်လှန်နိုင်၍သာ ခံကြရသည်။ ဤကိစ္စကို ကျေနပ်ကြသည်ကား မဟုတ်ပါ။ ထို့ကြောင့်ပင် တချို့က အခြား ဆရာကြီးများ၏ ဂိုဏ်းထဲသို့ပြောင်းဝင်သွားကြ၏။ တချို့ကလူထွက်သွားကြ၏။ ခေါင်းဆောင် ပုဂ္ဂိုလ်နှစ်ပါးတို့အား ကံပြုသော သံဃာတော်ကြီးများ ကြားလောက်သော နေရာမှ အသံမျိုးစုံ လွှင့်ထုတ်နေကြ၏။ ချစ်သဖြင့် မပြုသင့်ဘဲ ပြုမိသော ဆန္ဒာဂတိ၊ မုန်းသဖြင့် မပြုသင့်ဘဲ ပြုမိသော ဒေါသာဂတိ၊ ကြောက်သဖြင့် မပြုသင့်ဘဲ ပြုမိသော ဘယာဂတိ၊ မကျွမ်းကျင်သဖြင့် မပြုသင့်ဘဲ ပြုမိသော မောဟာဂတိ၊ ဤဂတိလေးပါးတို့ဖြင့် အမှားကို ပြုကြကြောင်း အရပ်တကာ လျှောက်ပြောကြ၏။

ဤတွင်မှ ဘုရားရှင်က ရဟန်းအားလုံးကို ဆင့်ခေါ်တော်မူကာ မဟုတ်မတရား မစွပ်စွဲနိုင်အောင် တားဆီးသောအားဖြင့် သံဃာဒိသိသ် အာပတ်များတွင် ၁၃ ခုမြောက် နောက်ဆုံး သိက္ခာပုဒ်ကို အကျယ်တဝင့် ပညတ်တော်မူရပေသည်။

**(ပါရာဇိကကဏ္ဍ၊ ကုလဒူသကသိက္ခာပုဒ်)**

ဤသည်တို့မှာ ဆဗ္ဗဂ္ဂီရဟန်းတို့၏ အမှုပေါင်း သောင်းခြောက်ထောင် အနက်မှ အမြွက်မျှသာ ဖြစ်ပါ၏။ သာသနာတော်ကြီးထဲတွင် သီလသိက္ခာ စင်ကြယ်ကြသော သံဃာတော်များကြားဝယ် ဘယ်ဘက်မှာမှ အသုံးမကျသော တံစူးဝါးများလည်း မလွှဲသာ မရှောင်သာ ပါဝင်နေပုံ တင်ပြရခြင်း ဖြစ်ပါ၏။ သူတို့မှတစ်ပါး အခြားသော ပုဂ္ဂိုလ်တို့ ပြုကျင့်သမျှကိုကား စေတနာ သဒ္ဓါတရား

ပွားစီးဖွယ် မဟုတ်သဖြင့် အစုံအစေ့ မတင်ပြလိုတော့ပါ။ ရှင်တော်မြတ်၏ တစ်သက်တာတွင် အရေးကြီးဆုံးသော အပြောင်းအလဲတစ်ခု ဖြစ်လောက်အောင် လှုံ့ဆော်လိုက်သော ကိစ္စတစ်ခုကိုသာ တင်ပြပါတော့မည်။

ဆိုခဲ့ပြီးသည့်အတိုင်း ဘုရားရှင်သည် လူတို့၏ သဒ္ဓါတရား ပျက်ပြားလောက်အောင် ပြုမှားမှုများကို တားဆီးရန် သိက္ခာပုဒ်များ ထုတ်ဆင့်တော်မူခဲ့ရ၏။ အချို့ သိက္ခာပုဒ်များမှာ လျှော့သေး၍ ထပ်တင်းပေးရ၏။ အချို့မှာတော့ တင်းလွန်းသွား၍ ရဟန်းများ နေသာထိုင်သာ ရှိရန် ပြန်လျှော့ပေးရ၏။ ဤသို့ သိက္ခာပုဒ်များဖြင့် ဘောင်ကန့်ပေးထားသဖြင့် ရဟန်းကောင်းများ စိတ်ချမ်းသာ ကိုယ်ချမ်းသာ နေကြရ၏။ ရဟန်းဆိုးများ အနေကျုံ့သွားကြ၏။ သို့သော် သူတို့ တစ်တွေ သာသနာတော်ကြီးထဲကလွတ်လွတ်ကြီး ထွက်သွားသည်ကား မဟုတ်သေးပါ။ ကုစား၍ မရနိုင်တော့သော ပါရာဇိက အာပတ်ကြီး သင့်ထားပါလျက် ကျောင်းပေါ်က မဆင်းဘဲနေသူပင် ရှိခဲ့ပါ၏။ သံဃာ့ပရိသတ်ကို မဆိုထားပါနှင့်။ ဘုရားရှင် ရှေ့တော်မှောက်မှာပင် မျက်နှာပြောင်တိုက်၍ နေရဲသူတို့ ရှိခဲ့ပါ၏။

ထိုနေ့ညက ကျွန်ုပ်တို့သည် ပုဗ္ဗာရုံကျောင်းတော်ထဲမှာ သံဃာ့ဥပုသ်ပြုရန် တစ်စုတစ်ဝေး ထိုင်နေကြ၏။ သံဃာ့ပရိသတ်အလယ်တွင် ဘုရားရှင် ကိုယ်တော်တိုင် ရှိနေတော်မူ၏။ ကျောင်းတိုက်ကြီး တစ်ခုလုံးကို သိမ်အဖြစ် သမုတ်ထားသဖြင့် သံဃာ့ကံများပြုရန် ခဏ္ဍသိမ် ဟူ၍ တစ်သီးတစ်ခြား ဆောက်ထားခြင်း မရှိပါ။ သံဃာအားလုံး စုဝေးနေကျ ဓမ္မာရုံမှာပင် ဥပုသ်ပြုနေကျ ဖြစ်ပါသည်။

သည့်တုန်းက သံဃာ့ကံများ ပြုရာတွင် ဘုရားရှင် ကိုယ်တော်တိုင် ပါဝင်တော်မူပေသည်။ ဘုရားရှင် ကိုယ်တော်တိုင် ဦးစီး ညွှန်ကြားတော်မူသည်မို့ ပြုရသမျှ သံဃာ့ကံများ အခက်အခဲမရှိဘဲ ပြီးစီးကြရပါသည်။ သို့သော် ထိုညက ဥပုသ်ကံမှာကား မည်သို့သော အဖုအထစ် ရှိနေသည် မသိပါ။ ညဥ့်ဦးယံ ကုန်ဆုံးသည့်တိုင်အောင် ဥပုသ်ကံကို မပြုနိုင်သေးဘဲ ရှိနေကြ၏။ ဘုရားရှင် ကိုယ်တော်တိုင်က ဆိတ်ဆိတ် ထိုင်နေတော်မူသဖြင့် သံဃာတော်အပေါင်းကလည်း ချောင်းဟန့်သံမျှ မကြားရအောင် နှုတ်ဆိတ်၍ နေကြရပေသည်။ ဤတွင် ကျွန်ုပ်သည် ထိုင်ရာမှထ၍ လက်ကတော့ထိုးထားသော သင်္ကန်းကို သပ်ရပ်အောင် ပြုပြင်ကာ ဘုရားရှင်ထံ လက်အုပ်ချီလျက်....

"အရှင်ဘုရား၊ ယနေ့ညသည် သာယာလှပါသည်။ ညဥ့်ဦးယံကုန်ဆုံးခဲ့ပါပြီ။ သံဃာတော်များ ထိုင်နေရသည်မှာလည်း ကြာလှပါပြီ။ ရဟန်းတို့အား ပါတိမောက် ပြတော်မူပါဘုရား"

ဤသို့ လျှောက်ထားသော်လည်း ဘုရားရှင်က လုံးဝ လှုပ်ရှားတော်မမူပေ။ ဤသို့ဖြင့် သန်းခေါင်ယံကုန်ဆုံးတော့လည်း တစ်ခါလျှောက်၏။ ယခင်အတိုင်းပင် ဆိတ်ဆိတ်နေတော်မူ၏။ ညဉ့်ကာလ ကုန်ဆုံး၍ အရုဏ်တက်လာသည်တွင် ကျွန်ုပ် တတိယအကြိမ် ထပ်၍လျှောက်ထား၏။ သည်တော့မှ....

"အာနန္ဒာ၊ ပရိသတ် မစင်ကြယ်ပေ"ဟု မိန့်ကြားတော်မူပေသည်။

ဘုရားရှင့် အမိန့်တော်အရ မစင်ကြယ်သောသူ မည်သူ ဖြစ်မည်နည်း ဟု ကျွန်ုပ် အကဲခတ်ကြည့်ပါ၏။ အယောင်ဆောင်ထားသူသည် ယခုအချိန်အထိအောင် ဟန်ဆောင်ကောင်းနေဆဲမို့ကျွန်ုပ် မခွဲခြားနိုင်ခဲ့ပါ။ဤလိုကိစ္စမျိုးမှာ ကျွန်ုပ်ထက် အရှင်မဟာမောဂ္ဂလာန်က ပို၍ စွမ်းပါသည်။ ဘုရားရှင် မိန့်တော်မူပြီးသည့်နောက် မကြာမီမှာပင် ထိုပုဂ္ဂိုလ်ထံ ချဉ်းကပ်သွားကာ....

"ငါ့ရှင်၊ ထလော့။ သင့်ကို ဘုရားရှင် မြင်တော်မူပြီ။ ရဟန်းတို့နှင့် အတူတကွ ကံဆောင်ခွင့် သင့်မှာ မရှိတော့ပြီ"

သံဃာ့ပရိသတ် ကြားလောက်အောင် အတည့်အလင်း ပြောချလိုက်၏။ သို့ပါလျက် ထိုပုဂ္ဂိုလ်မှာ တုတ်တုတ်မှ မလှုပ်ပေ။ တစ်ကြိမ် ပြောနေသည်ကို နားမလည် သေး၍လောဟု အရှင်မဟာမောဂ္ဂလာန်က ဒုတိယအကြိမ် ထပ်ပြောသေး၏။ ထိုရဟန်းကား ထိုင်ရာက မထသေး။ သုံးကြိမ်မြောက် ပြောပြီးသည့်တိုင်အောင်ပင် ထိုရဟန်းမှာ မျက်နှာပြောင်တိုက်နေဆဲဖြစ်၏။ ဤတွင် ပင်ကို စိတ်ဓာတ် မာကျောလှသော အရှင်မြတ်ကြီးက ထိုရဟန်းတုကို လက်မောင်းက ဆွဲ၍ တံခါးပြင်ဘက်သို့တွန်းထုတ်ကာ တံခါးကိုကန့်လန့် ထိုး၍ ပိတ်လိုက်ပါတော့သည်။ ပြီးတော့မှ ဘုရားရှင်ထံ ရှိသေစွာ လက်အုပ်ချီလျက်....

"ပရိသတ် စင်ကြယ်သွားပါပြီအရှင်ဘုရား။ ရဟန်းများအား ပါတိမောက် ပြတော်မူပါ"ဟု လျှောက်ထား၏။

"မောဂ္ဂလာန်၊ အံ့ဩဖွယ်ရှိပေစွ။ မောဂ္ဂလာန်၊ မဖြစ်စဖူး ထူးကဲပေစွ။ သာသနာတော်မှ အချည်းနှီးသော ဤယောကျ်ားသည် လက်မောင်းကို ဆွဲထုတ်ခံရသည့်တိုင်အောင် စောင့်ဆိုင်း၍ နေရဲပေစွတကား"

မကောင်းသည့်ဘက်တွင် ဘုရားရှင် ကိုယ်တော်တိုင်က သြချယူရလောက်အောင် ထူးကဲသော ပုဂ္ဂိုလ်ပါပေတည်း။

ဘုရားဖြစ်တော်မူသည်မှ စ၍ ဝါနှစ်ဆယ် ပြည့်လာသော ထိုနှစ်၊ ထိုလ ထိုဥပုသ်ကား ဘုရားရှင်ကိုယ်တော်တိုင် နောက်ဆုံးအကြိမ် ပါဝင်သော ဥပုသ်ကံပါတည်း။ ထိုမှနောက်တွင်ကား သံဃာကံဟူသမျှတွင် ဘုရားရှင်ကို အရေးအတွက်

မပြုရတော့ပါ။ သံဃာတစ်ပါးလိုနေရာတွင် ဘုရားရှင်ကို အစားထိုး၍ မရတော့ပါ။ ဘုရားရှင် ရှိနေတော်မူသည့် အတွက်လည်း သံဃာ့ကံများတွင် အနှောင့်အယှက် ဖြစ်မလာပါ။ သံဃာ့ကံဟူသမျှကို သံဃာတော်များသာလျှင် အစိုးတရ ပြုလုပ်ကြရပါတော့သည်။

ပထမဗောဓိဟူသော ရှေ့ပိုင်းဝါတော်နှစ်ဆယ်မှ ပစ္ဆိမဗောဓိသို့ အကူးတွင် ဤသို့ အမှတ်တရ ပြောင်းလဲမှုကြီး ဖြစ်ပေါ်ခဲ့ပါသည်။ သို့သော် ထိုသည့်နှစ်ထဲမှာပင် ကျွန်ုပ်တို့အားလုံး စိတ်နှလုံး တုန်လှုပ်ကြရသော ပြောင်းလဲမှုကြီးလည်း ဖြစ်ပေါ်လာခဲ့ပါသေးသည်။

(ဥဒါန်း၊ ဥပေါသထသုတ်)

**

# ခရီးတစ်ဝက်ကျိုးလေသော်

ထိုထိုမြို့ရွာ နယ်ပယ်များသို့ ကျွန်ုပ်တို့ ခရီးရှည် ထွက်ခဲ့ဖူးပေါင်း များလှ ပေပြီ။ ဘုရားရှင် နောက်တော်ပါးက ပါခဲ့သည်လည်းရှိ၏။ ရံဖန်ရံခါ ကျွန်ုပ် တို့ချည်း ထွက်လာခဲ့သည်လည်း ရှိ၏။ မြေပြင်မှာ ခြေကျင်လှမ်းလာကြရာ၌ အရိပ်အာဝါသ ကောင်းလှသော တောင်ကုန်းတစ်ခုပေါ် ရောက်လာလျှင် အလိုလို ရပ်နားမိခဲ့ကြ၏။ ရှုခင်းသာယာသော တောရိပ်တောင်ရိပ်များကြားမှ မိမိတို့ လှမ်းလာခဲ့ရသော ခရီးတာကို ပြန်၍ကြည့်ခဲ့ကြ၏။ ယခုလည်း ရှုခင်းကောင်းသော တောင်ကုန်း တစ်ခု၏ တစ်နေရာသို့ ရောက်လာခဲ့ပြန်ပါပြီ။

ကျွန်ုပ်တို့၏ လက်ရှိသက်တမ်းမှာ နှစ်တစ်ရာတမ်း ဖြစ်သည်ဟု ပညာရှင်များ သတ်မှတ်ထားကြ၏။ ယေဘုယျနည်းအားဖြင့် များရာသို့လိုက်၍ သတ်မှတ်ထားသော ဤသက်တမ်းဖြင့်စိစစ်ကြည့်လျှင် ကျွန်ုပ်တို့ ဘဝသက်တမ်းသည် တစ်ဝက်ကျိုးခဲ့ပေပြီ။ ဘာလိုလိုနှင့် အသက် ငါးဆယ်ကျော်တွေ ဖြစ်လာကြပေပြီ။ ဘုရားရှင်၏ ဝါတော်သည် ရဟန်းပြုသည်မှစ၍ ရေတွက်လျှင် နှစ်ဆယ့်ခြောက်ဝါ။ အာသဝက္ခယ ဉာဏ်တော်ရသည်မှစ၍ ရေတွက်သော် ဝါ နှစ်ဆယ်ပြည့်လာပေပြီ။ ဤ ဝါ နှစ်ဆယ်ကာလကို ပထမဗောဓိဟူ၍ ကျွန်ုပ်တို့ ခေါ်ဝေါ်ထားကြပေသည်။

ပထမဗောဓိ ပြည့်ဝရာဖြစ်သော ဤတောင်ကုန်းထက်မှ လှမ်းလာခဲ့သော ခရီးတာကို ပြန်၍ ကြည့်လိုက်ရာတွင် ဦးစွာပထမ တွေ့ရသည်မှာ အေးမြသာယာသော ရှုမျှော်ခင်းများ ဖြစ်ပေသည်။

လူ့ဘဝမှာကတည်းက လူတန်းစားပေါင်းစုံနှင့်တွေ့ဆုံဆက်ဆံလာခဲ့ သည်မို့ ကျွန်ုပ်မှာ သူများလို မျိုးရိုးစွဲ မရှိပါ။ သို့ရာတွင် ကျွန်ုပ်၏ဘဝခရီးမှာ အရိပ် အာဝါသ ပေးခဲ့ကြသော ဆွေမျိုးများကိုကား ကျေးဇူးတင်ရပါမည်။ နောင်တော်

သိဒ္ဓတ္ထမင်းသားနှင့်အတူ ကြည်ဖြူစွာ ကျွေးမွေးပြုစုခဲ့ကြသော လူကြီးမိဘများ၏ မေတ္တာ စေတနာကို သာစုခေါ်ရပါမည်။ ချိန်တန်၍ ရောက် လူလားမြောက်သည်တွင်လည်း ကျွန်ုပ်သည် လူကြီး မိဘများ၏ အရိပ်အာဝါသကို ခိုလှုံမြဲ ခိုလှုံရပါသည်။ ကူးသန်းရောင်းဝယ်ရေးဖြင့် အနယ်နယ်အရပ်ရပ်သို့ ရောက်ရာတွင် ကျွန်ုပ် မျက်နှာငယ်ရသည်ဟူ၍ မရှိပါ။ အမိတောဒန၏ သားဟု သိရလျှင်ပင် တွေ့သမျှ ဆုံသမျှ လူများက လိုလိုချင်ချင် ဆက်ဆံလာခဲ့ကြ၏။ သြဒန ညီအစ်ကိုများ၏ ဂုဏ်သတင်းသည် သကျတို့၏ နယ်နိမိတ်ကို ကျော်လွန် ဖြန့်ကျက်၍နေကြသည် မဟုတ်ပါလော။

လူကြီး မိဘများ၏ အရိပ်ကို ခိုလှုံရင်း လူတစ်လုံး သူတစ်လုံး လုပ်နေရာမှ ကျွန်ုပ်၏ ဘဝသည် တစ်ဆစ်ချိုး ပြောင်းလဲလာခဲ့၏။ ဤသို့ ပြောင်းလာရာတွင် အခြားသူများ၏ ပယောဂ မပါဝင်ပါ။ တစ်လျှောက်လုံးက ချစ်ခင်လေးစားလာခဲ့ရသော နောင်တော်မြတ်နှင့် နီးနီးကပ်ကပ် နေလို၍သာ ဖြစ်ပါသည်။ နောင်တော်မြတ်၏ သာသနာပြု လုပ်ငန်းကြီးတွင် ပါဝင် ထောက်ကူလို၍သာ ဖြစ်ပါသည်။

ကျွန်ုပ်က နောင်တော်မြတ်ကို ချစ်ခင်လေးစားသကဲ့သို့ပင် နောင်တော်မြတ်ကလည်း ကျွန်ုပ်အပေါ် ငဲ့ညှာတော်မူခဲ့ပါပေသည်။ ကိုယ်တော်တိုင်က ခြောက်ကြိမ် တိုင်တိုင် ပိတ်ထားတော်မူခဲ့သော တံခါးရွက်ကိုပင် ကျွန်ုပ်က ဖွတ်တရွတ် ဖွင့်သဖြင့် အလျှော့ပေးတော်မူခဲ့ဖူးပါသည်။

ဤကိစ္စကိုအကြောင်းပြု၍ နောင်တော်မြတ်၏ အကြိမ်းအမောင်းကို ခံခဲ့ရ၏။ ကျောက်ထီးတန္တု အလေးပြုအပ်သော မထေရ်ကြီးတို့၏ ငြိုငြင်မှုကိုလည်း ခံယူခဲ့ရ၏။ သို့သော်လည်း ကျွန်ုပ် ဝမ်းမနည်းမိ။ ငြိုငြင်ကြသော မထေရ်မြတ်ကြီးများကိုလည်း မကျေမနပ် မဖြစ်ပါ။ သာသနာတော်ကြီးတွင် လစ်လပ်နေသော နေရာတစ်ခုကို ဖြည့်ပေးလိုက်နိုင်သည့်အတွက် ယနေ့ထက်တိုင် ဝမ်းမြောက် ဝမ်းသာဖြစ်မိပါသည်။ ထို့ထက်ပို၍ ဝမ်းမြောက်စရာ ကောင်းသည်ကား ကျွန်ုပ်၏ တရားပြဆရာနှင့် ကျွန်ုပ်တို့သည် ရှင်တော်မြတ် ၏ ထံတော်ပါးဝယ် မကြာခဏ ဆုံစည်းမိကြခြင်းပါတည်း။

ဤသာသနာတော်ဝယ် တပည့်သာဝကများထဲမှ ဦးစွာ ပထမ ကျွတ်တမ်းဝင်သူမှာ အရှင်အညာသိကောဏ္ဍည ဖြစ်၏။ အဖဘုရားရှင်က ဓမ္မစကြာတရားတော်ဖြင့် မွေးဖွားသန့်စင်၍ ပေးလိုက်သော သည်သားတော်သည် အသက်အရွယ်အားဖြင့် ဇရာဘက်သို့ သက်ဆင်းခဲ့ပေပြီ။ သို့ဖြစ်၍ အဖဘုရားရှင်အား သားတော်တို့

ပြုစုသင့်၊ ပြုစုထိုက်သော ဝတ္တရားများကို ဆက်လက်ပြုစုနိုင်ရန် သူ၏ တူတော် အရှင်ပုဏ္ဏအား ဘုရားရှင်ထံ ထားရစ်ကာ မထေရ်မြတ်ကြီး ကိုယ်တိုင်ကား လူသူကင်းရှင်းရာသို့ ထွက်ခွာသွားခဲ့၏။

ဦးရီးတော် အရှင်မြတ်က လွှဲအပ်ထားခဲ့သည့်အတိုင်း မန္တနီပုဏ္ဏေးမ၏ သား အရှင်ပုဏ္ဏသည် ဘုရားရှင်ကို ပြုစုလုပ်ကျွေးခဲ့၏။ ဒေသစာရီကြွချီရာ၊ ဆွမ်းခံရာတို့တွင် နောက်တော်ပါးမှ လိုက်ပါခဲ့၏။ ရေပူရေချမ်း ကမ်းလှမ်းခဲ့၏။ ဝတ်ကြီးဝတ်ငယ် ပြုစုခဲ့၏။ ဦးရီးတော်အရှင်မြတ်ကြီး၏ အမိန့်ကို ရိုသေလေးစား၍သာ မဟုတ်။ သူကိုယ်တိုင်ကလည်း ဘုရားရှင်အပေါ် စေတနာ သဒ္ဓါ ထက်သန်လှ၍ ဖြစ်ပေသည်။

ထက်သန်လှသော စေတနာဖြင့် ကျေးဇူးတော်သခင် အရှင်မြတ်ကြီးကို ကျေးဇူးဆပ်နေသည်ကား မှန်ပါ၏။ သို့သော် ဤပုံဤနည်း တစ်ခုတည်းဖြင့်သာ ပေးဆပ်ရမည်ဟု မဆိုလိုပါ။ လောကလူသား အများစုတို့အား မယဉ်ကျေးသေး သည်ကို ယဉ်ကျေးလာအောင်၊ မလိမ္မာသေးသည်ကို လိမ္မာလာအောင်၊ မသိသေး သည်ကို သိလာအောင် အကျိုးဆောင်ခြင်းသည်လည်း ကျေးဇူးဆပ်ခြင်းပင်ဖြစ်၏။ ထို့အပြင် အရှင်ပုဏ္ဏသည် အထူးချွန်ဆုံးသော ဓမ္မကထိကတစ်ပါး ဖြစ်၏။ သူရောက်လေရာ နေရာအနှံ့အပြား၌ တရားစည်ကြီး မြည်ဟည်းသံကို ကျွန်ုပ်တို့ ကြားကြရ၏။ ထို့ကြောင့် တရားစည်သံ တစ်ရံမနား မြည်ဟည်းနေစေရန် ကျွန်ုပ် ကြိုးစည်ခဲ့ရပါသည်။ ယင်းအကြံကား အခြားမဟုတ်။ ဘုရားရှင်ထံတော် ပါးဝယ် ပြုဖွယ်ရှိသမျှ ဝတ္တရားများကို အရှင်မြတ်မကြွလာမီ ကျွန်ုပ်က ပြည့်စုံအောင် ပြုစုထားလိုက်ခြင်းပင်ဖြစ်ပါ၏။

ရှေ့တော်မှောက်၌ ကျွန်ုပ်နှင့် ဆုံမိတိုင်း အရှင်မြတ်သည် ကျွန်ုပ်ကို ပြုံးမျက်နှာဖြင့် အခါခါရှုစားတတ်၏။ ကျွန်ုပ်၏ စိတ်ဖြစ်စဉ်ကို ကြည်လင်စွာ သိ၍ အချက်ကျကျ တရားပြတော်မူခဲ့သော ဆရာသခင်သည် ယခု စိတ် သဘောထားကိုလည်း သိရှိပြီး ဖြစ်ပါလိမ့်မည်။ အသိဉာဏ်ယှဉ်၍ ပြုံးရွှင်သော မျက်နှာတော်ကို ကျွန်ုပ်က ရိုသေစွာ ပြန်၍ ပြုံးလိုက်ရပေသည်။

ထို့နောက်ကား အရှင်မြတ်သည် ထံတော်ပါးသို့ နေ့စဉ် မလာတော့ပါ။ တရားဟောစရာ အားလပ်ပါမှ ရောက်လာတတ်၏။ ဤသို့ အချိန်လု၍ လာသည် တွင်ကား ကျွန်ုပ်က အလိုက်တသိ ဦးစားပေးရ၏။ ဤသို့ ဦးစား ပေးရင်းပေးရင်း နှင့် ဦးစားပေးရမည့် စာရင်းများ တိုးလာခဲ့၏။ ရံဖန်ရံခါ အရှင်နာဂသမာလသည် ဘုရားရှင်၏ သပိတ်သင်္ကန်းများ သယ်ပိုးလျက် လိုက်ပါ၏။ ထို့အတူ အရှင်

နာဂိတ၊ အရှင်ဥပဝါဏ၊ အရှင်သုနက္ခတ္တ၊ အရှင်စုန္ဒ၊ အရှင်သာဂတနှင့် အရှင်မေဃိယတို့လည်း အကြောင်းသင့်လျှင် သင့်သလို ပြုစုလုပ်ကျွေးကြ၏။ နောက်တော်ပါးမှာ ထက်ကြပ်မကွာ လိုက်ပါ၍ အမြဲတစေ ပြုစုလုပ်ကျွေးသော ရဟန်းဟူ၍ကား သတ်သတ် မှတ်မှတ် မရှိသေးပါ။

(သုတ်မဟာဝဂ်၊ မဟာပဒါနသုတ် အဋ္ဌကထာ)

နောက်ပါ ရဟန်းများထဲက ထူးထူးခြားခြား ထင်ရှားသူမှာ အရှင်ဥပဝါဏ ဖြစ်၏။ ကြီးမားထွားကျိုင်းလှသော ခန္ဓာကိုယ်ကြီးကြောင့် သူငယ်ချင်းများက သူ့ကို ဆင်ပေါက်ဟု ခေါ်ခဲ့ကြ၏။ လူလားမြောက်၍ ရဟန်းဘဝ ရောက်လာသည်တွင် ခန္ဓာကိုယ်ကြီးထွားရသည့်အထဲ အထပ်ထပ် အလွှာလွှာ စပ်ကာဟပ်ကာ ချုပ်လုပ်ထားရသော ပွံ့သကူသင်္ကန်းကြီးများ ဝတ်ရုံထားသဖြင့် ပို၍ ကြီးမားနေရ၏၊ ပို၍ ဝဖြိုးနေရ၏။ ကိုယ်ခန္ဓာ ကြီးမား ဝဖြိုးသည်နှင့်အမျှ အတွင်းစိတ်တန်ခိုးကလည်း ကြီးမားသော ပုဂ္ဂိုလ်ထူးကြီးပါပေတည်း။

(သုတ်မဟာဝဂ်၊ မဟာပရိနိဗ္ဗာနသုတ် အဋ္ဌကထာ ဥပဝါဏထေရဝတ္ထု)

ကြီးမားလှသော၊ ဝဖြိုးလှသော အရှင်ဥပဝါဏသည် ဘုရားရှင်ကို ပြုစုရန်ရှိသည်တွင်ကား ပေါ့ပေါ့ပါးပါး ဖြစ်လာပါ၏။ ထကြွလုံ့လဝီရိယ ရှိလှ၏။ တစ်ရံရောအခါက ဘုရားရှင်မှာ လေနာရောဂါထလာရာ ဤအရှင် မြတ်ကြီးသည် ခဏမဆိုင်း သပိတ်လွယ်၍ထွက်လာခဲ့၏။ ဘုရားရှင်၏ လေနာ ရောဂါအတွက် ရေနွေးဆူဆူကလည်း ကျောင်းတော်မှာ မရှိပေ။ အပ်စပ်သောနည်းဖြင့် တည်နေလျှင်လည်း အချိန်က ကြာဦးမည်။ ဘုရားရှင် ခံစားနေရသော လေနာရောဂါကိုလည်း တစ်ခဏ တစ်ဗိဇနောမျှ အချိန်ပိုမကြာစေချင်။ သို့ဖြစ်၍ သာဝတ္ထိ မြို့တော်တွင်းသို့ စိတ်မြန်ကိုယ်မြန် ထွက်သွားခဲ့ပေသည်။

ထွက်သွားတုန်းက မြန်မြန်ထက်ထက် ရှိသကဲ့သို့ ပြန်လာတော့လည်း သူ့ခြေလှမ်းများ သွက်လှပါ၏။ သူ့နောက်က ပါလာသော ဆိုင်းထမ်း ယောက်ျားသည် သူ့ခြေလှမ်းများကို မီရန် အမောတကော လိုက်လာရ၏။ ဆိုင်းထဲရှိ အိုးများထဲမှ အငွေ့တလူလူ တက်လာသည်မှာ ရေနွေးများ ပါလာသောကြောင့် ဖြစ်ပေလိမ့်မည်။

မှန်ပါသည်။ ဘုရားရှင်အတွက် လိုအပ်နေသော ရေနွေးများအိုးနှစ်လုံး အပြည့် ပါလာပါသည်။ အရှင်ဥပဝါဏသည် ပါလာသော ရေနွေးများကို အနည်းငယ်ချန်ကာ အားလုံး ရေချိုးအိမ်သို့ ပို့ဆောင်၏။ ဘုရားရှင်လည်း ရေချိုးအိမ်သို့ ကြွတော်မူ၏။ တစ်ပါး၏ စိတ်အလိုကို တစ်ပါးက သိထားကြ၍ နှုတ်က

ထုတ်ဖော်ပြောဆိုမနေရဘဲ၊ လျှောက်ထားမနေရဘဲ လုပ်သင့် လုပ်ထိုက်သော ကိစ္စများကို လုပ်ကိုင်သွားတော်မူကြပေသည်။

ရေနွေးချိုး၍ အခိုးအငွေ့ရှင်သန်လာသော ဘုရားရှင်အား အရှင်ဥပဝါဏက နောက်တစ်မျိုးဖြင့် ပြုစုပြန်၏။ သပိတ်ထဲမှာ ပါလာသော တင်လဲထုပ်ကို ဖြေကာ တင်လဲအနည်းငယ်ကို ရေနွေးနှင့် ဖျော်၍ ဆက်ကပ်၏။ သင့်တင့် လျောက်ပတ်သောဆေးကို သုံးဆောင်တော်မူရသဖြင့် ဘုရားရှင်၏ လေနာရောဂါ ပျောက်သွားပေသည်။

လေနာရောဂါ ပျောက်သွားချိန်တွင် ရေနွေးဒါယကာ တင်လဲဒါယကာ ကြီးလည်း ကျောင်းတော်သို့ လိုက်လာ၏။ သူကား ဒေဝဟိတအမည်ရသော ဗြာဟ္မဏတစ်ယောက် ဖြစ်၏။ ဒေဝဟိတသည် အစက ရတနာသုံးပါး ဆည်းကပ်သူ မဟုတ်ပေ။ အရှင်ဥပဝါဏ အိမ်ရှေ့မှာ ရပ်လာခါမှ စကားစမြည် ပြောရင်း ကြည်ညိုစိတ်ဝင်လာသူ ဖြစ်၏။ ကျောင်းတော်သို့လိုက်လာ၍ မကြာမီပင် သူသည် ရတနာသုံးပါး ဆည်းကပ်ကိုးကွယ်သော ဥပသကာ တစ်ယောက် အဖြစ်ဖြင့် ပန်ကြားလျှောက်ထားလေတော့သည်။

အရှင်ဥပဝါဏ၏ ပြုစုမှုကြောင့် တစ်နေ့တည်းမှာပင် အကျိုးတရား နှစ်ပါးလုံး ပြီးစီးသွားပေသည်တကား။

**(သဂါထာဝဂ်၊ ဗြာဟ္မဏသံယုတ်၊ ဒေဝဟိတသုတ်)**

သာသနာပြု ခရီးတစ်လျှောက်၌ ဘုရားရှင်သည် ဤကဲ့သို့သော တပည့် လိမ္မာများနှင့် တွေ့ရသကဲ့သို့ တစ်ခါတစ်ရံမှာမူ တပည့် မလိမ္မာများနှင့်လည်း တွေ့ခဲ့ရပါသေးသည်။

စာလိကာမြို့အနီး စာလိကာတောင်မှာ သီတင်းသုံးတော်မူစဉ်ကဖြစ်ပါ၏။ ထိုစဉ်က နောက်တော်ပါ အလုပ်အကျွေးဖြစ်သော အရှင်မေဃိယသည် ဇန္တုရွာမှာ ဆွမ်းခံ၍ ဘုရားရှင်ကို ပြုစုလုပ်ကျွေးလျက် ရှိ၏။

တစ်ခုသော နေ့လယ်ခင်းတွင် အရှင်မေဃိယသည် ကိမိကာဠာမြစ်ဆီသို့ တစ်ပါတည်း လမ်းလျှောက် ထွက်ခဲ့၏။ လမ်းလျှောက်ရာမှ ပြန်လာသည်တွင် ကား–

"အရှင်ဘုရား၊ ကိမိကာဠာ မြစ်ကမ်းပါးအတိုင်း လျှောက်၍ကြည့်ရာတွင် သာယာတင့်တယ် ပျော်မွေ့ဖွယ် ကောင်းလှသော သရက်တောကို တွေ့ခဲ့ရပါ သည်။ ဘုရားရှင် ခွင့်ပြုတော်မူပါလျှင် ထိုသရက်တောသို့သွား၍ တရား အားထုတ် လိုပါသည် ဘုရား"

ဘုရားရှင်အထံတော်တွင် မိမိမှတစ်ပါး အခြားရဟန်း မရှိသည်ကို သိပါလျက် မငဲ့မကွက် လျှောက်ထားလိုက်၏။

"မေဃိယ၊ ခဏ္ဍ စောင့်ဘိဦး။ ငါဘုရားတစ်ပါးတည်း ရှိနေသေး၏။ အခြားရဟန်းတစ်ပါး ရောက်လာသည်ထိ စောင့်ပေဦးလော့"

ရှေ့အလားအလာကို သိတော်မူသောဘုရားရှင်က မိမိအပေါ် ငဲ့ညှာ စိတ်ကလေး ပေါ်လာကာ နေမြဲနေပါစေတော့ဟု မိန့်တော်မူလိုက်ရ၏။ သို့ရာတွင် ဘုရားရှင်၏ စကားကို အရှင်မေဃိယ နားမဝင်တော့ပါ။ ဘာကိုမှ ငဲ့မနေနိုင် တော့ပါ။

"အရှင်ဘုရား၊ ဘုရားရှင်မှာ ဆက်၍ပြုဖွယ်ကိစ္စ မရှိတော့ပါ။ ပြုပြီး သော ကိစ္စကိုလည်း တစ်ဖန် ဆည်းပူးဖွယ် မရှိတော့ပါ။ တပည့်တော်မှာကား ပြုဖွယ်ကိစ္စ ရှိပါသေးသည်။ ပြုပြီးသော ကိစ္စကိုလည်း တစ်ဖန် ဆည်းပူးဖွယ် ရှိပါသေးသည်။ ဘုရားရှင် ခွင့်ပြုတော်မူပါလျှင် ထိုသရက်တောသို့သွား၍ တရားအားထုတ်လိုပါသည်ဘုရား"

မိမိစိတ်အလိုမှ တစ်ပါး ဘာကိုမျှ မငဲ့နိုင်တော့သဖြင့် ဘုရားရှင် တားနေ တော်မူသည့်ကြားမှ သုံးကြိမ်တိုင်တိုင် ဖွတ်တိုးလျှောက်ထားခဲ့ပေသည်။ ဤတွင် ဘုရားရှင်က....

"မေဃိယ၊ တရားအားထုတ်လိုပါသည် ဆိုသောသူကို ငါဘုရား တားမြစ်၍ ဖြစ်ပါတော့မည်လော။ သင်သွားရမည့် အချိန်ကို သင်သာလျှင် သိပေသည်"

တားဆီး၍ မရတော့ပြီမို့ ခွင့်ပြုတော်မူလိုက်ရ၏။ ခွင့်ပြုတော်မူသော စကားရပ်တွင် ကိုယ်ရေးကိုယ်တာထက် တရားရေးကို အလေးထားသော စိတ် သဘောကို အကဲခတ်နိုင်ကြပါလိမ့်မည်။

ခွင့်ပြုချက်ကို မရအရ တောင်းယူပြီးလျှင် အရှင်မေဃိယသည် သူ မွေ့လျော်ရာ သရက်တောသို့ ဝင်ရောက်သွား၏။ သွားစဉ်တုန်းက သည်နေရာ သည်ဌာနမှာ တရားမရမချင်း ဖွဲတင်း၍ အားထုတ်နေမည်ဟု သူ ရည်ရွယ်ထား ခဲ့၏။ ဘယ်နှစ်ရက်၊ ဘယ်နှစ်လကြာကြာ တရားမရမချင်းသည် တောက မထွက်ဟု ဆုံးဖြတ်ထားခဲ့၏။ သို့ပါလျက် တစ်နေမကုန်ခင်မှာပင် အရှင်မေဃိယ ပြန်လာခဲ့ရ၏။ သူ့အပြန်ခရီးမှာ မျက်နှာပန်းမလှပါပေ။ သရက်တော စစ်မြေပြင်မှာ သူ ဘာတွေ ဖြစ်လာခဲ့ပါသနည်း။

"အရှင်ဘုရား၊ ထိုတောအုပ်မှာ တရားအားထုတ်နေသောတပည့်တော် အား သုံးမျိုးသော စိတ်အကြံတို့ ဖြစ်ပေါ်လာကြပါသည်။ ထိုသုံးမျိုးတို့မှာ

ကာမဂုဏ် ခံစားလိုသော စိတ်အကြံ၊ သူတစ်ပါးကို ပြစ်မှားလိုသော စိတ်အကြံနှင့် သူတစ်ပါးကို ညှဉ်းဆဲလိုသော စိတ်အကြံတို့ ဖြစ်ပါသည်။ သဒ္ဒါတရားဖြင့် ရဟန်းပြုလာခဲ့သည် ဖြစ်ပါလျက် ဤစိတ်အကြံတို့ ပေါ်လာရသည့်အတွက် တပည့်တော် အံ့ဩမိပါသည်ဘုရား"

သရက်တော စစ်မြေပြင်မှ မရှုမလှ ထွက်ပြေးလာခဲ့ရပုံကို သူကိုယ်တိုင်က လာရောက် လျှောက်ထားခဲ့ရပါသည်။ ဆရာ့စကား နားမထောင်ဘဲ တိုက်ပွဲဝင်သူအဖို့ အရှုံးမှလွဲ၍ အခြားလမ်း ရှိပါဦးမည်လော။

သုံးကြိမ်တိုင်တိုင် တားသည့်ကြားမှ ဖွတ်ထွက်သွား၍ အမှားတွေ့လာရသော တပည့်မိုက်ကို ဘုရားရှင်က အပြစ်တင်တော်မမူပါ။ အရေးကြုံခါမှ ခိုလှုံလာသည်ကိုလည်း ကန့်ကွက်တော်မမူပါ။ သွားချင်ပါသည် ဆိုတုန်းက ကြည်ဖြူစွာ ခွင့်ပြုတော်မူသကဲ့သို့ပင် လာချင်ပြန်တော့လည်း အသာတကြည် လက်ခံတော်မူသည်သာ ဖြစ်ပေသည်။

ထို့နောက် ဘုရားရှင်က ဖိုလ်ပညာ အဆင့်ဆင့်ကို ရင့်ကျက်စေတတ်သော ဝိမုတ္တိပရိပါစနိယတရား ငါးပါးကို ဟောကြားတော်မူ၏။

ထိုတရား ငါးပါးမှာ....

၁။ မိတ်ဆွေကောင်းနှင့် ပေါင်းသင်းရခြင်း၊

၂။ အကျင့်သီလနှင့် ပြည့်စုံခြင်း၊

၃။ တရားစကားကို ကြားနာရခြင်း၊

၄။ လုံ့လဝီရိယ ရှိခြင်း၊

၅။ ထက်မြက်သော ဉာဏ်ပညာရှိခြင်းတို့ ဖြစ်ပေသည်။

ထိုတရား ငါးမျိုးအနက် အမှတ် (၁) တရားသည် လိုရင်း အကျဆုံးဖြစ်၏။ ထိုတရားရှိသူအတွက် ကျန်သော တရားတို့လည်း ပြည့်စုံလာရမည်သာ ဖြစ်၏။ ထိုတရားကို အခြားမှာ သွား၍ ရှာနေစရာ မလို၊ သူ့အနီး အပါးမှာပင် ဘုရားရှင် ရှိနေတော်မူ၏။ ဘုရားရှင်ထက် ပို၍ ပေါင်းထိုက်သင်းထိုက်သော မိတ်ဆွေကောင်း ဟူ၍ ရှိပါဦးမည်လော။

အတုမရှိသော မိတ်ဆွေကောင်းကြီးနှင့် အကြောင်းသင့်စွာ ပေါင်းမိနေပါလျက် အရှင်မေဃိယသည် ဤအခွင့်အရေးကို လက်လွှတ်ခံခဲ့ဘိ၏။ အတူတကွ ပေါင်းဆုံနေပြီးသော မိတ်ဆွေကောင်းကို မျက်နှာလွှဲကာ တခြားမှာသွား၍ တခမ်းတနား တရားရှာခဲ့၏။ သို့သော် သူရှာသော တရားကား မတွေ့။ မဟားတရား စိတ်၏ အနှိပ်စက်ကိုသာ ခံခဲ့ရ၏။ ဤသည်မှာ အရှင်မေဃိယ၏ အပြစ်ပင်

ဖြစ်ပေသည်။ တွေ့ပြီးသည်ကို ကျော်လွှားကာ မရှာသင့်သည်ကို ရှာမိသောကြောင့် ဖြစ်ပေသည်။

တရားပြသ ဆုံးမနိုင်သော မိတ်ဆွေကောင်းနှင့် မတွေ့ရသေးလျှင်ကား အရှင် ပုက္ကုသာတိကဲ့သို့ တကူးတက ရှာကြရမည်သာ ဖြစ်၏။ ယခုသော် အရှင် မေဃိယအဖို့ မရှာဘဲနှင့် တွေ့နေရပြီ။ မိတ်ဆွေကောင်းနှင့်ပေါင်းမိ နေပါလျှင် တရားကို တခြားမှာ လိုက်ရှာနေစရာ မလို။ မိတ်ဆွေကောင်းထံ ပန်ကြားလျှင် နိဗ္ဗာန်ရောက်ကြောင်း တရားကို အလွယ်တကူ ရနိုင်သည်သာ ဖြစ်၏။ သို့ပါလျက် အရှင်မေဃိယသည် မိတ်ဆွေကောင်းကို ပစ်ပယ်ခဲ့၏။ လမ်းညွှန်သူ မရှိဘဲလျက် အရမ်းသွား၊ အကန်းသွား သွားခဲ့၏။ အသွားမတော်၍ ခလုတ်ထိခါမှ မိတ်ဆွေ ကောင်းထံ ပြန်လာခဲ့ပေသည်။

ပြန်လာသူ အမိုက်အမဲကို ခွင့်လွှတ်တတ်သော မိတ်ဆွေကောင်းက လက်ခံ တော်မူခဲ့ပါသည်။ ကရုဏာဖြင့် လက်ခံတော်မူရာမှ ဆက်လက်၍....

"မေဃိယ၊ နိဗ္ဗာန်ကို မျက်မှောက်ပြုလိုသော ထိုရဟန်းသည် ဝိမုတ္တိ ပရိပါစနိယ တရားငါးပါးတို့၌ တည်လျက် ဆက်လက်၍ တရားလေးပါးကို ပွားများသင့်၏။ ရာဂကိုပယ်ရန် အသုဘတရား ပွားများသင့်၏။ ဒေါသကို ပယ်ရန် မေတ္တာတရား ပွားများသင့်၏။ အတွေးအကြံများကို ဖြတ်တောက်ရန် အာနာပါနသတိကို ပွားများသင့်၏။ ငါတည်းဟူသော မာန်မာနကို ခွာထုတ်ရန် အနိစ္စသညာကို ပွားများသင့်၏။

"မေဃိယ၊ အနိစ္စသညာ ထင်လာပြီးသောသူအား အနတ္တသညာ တည်လာ ၏။ အနတ္တသညာ တည်လာသော သူသည် ငါတည်းဟူသော မာန်မာနကို ခွာထုတ်လျက် လက်ငင်းလက်တွေ့ နိဗ္ဗာန်ရောက်လေတော့သတည်း"

(အင်္ဂုတ္တရ၊ နဝနိပါတ်၊ မေဃိယသုတ်)

နောက်တော်ပါးမှ ဖဲခွာသွားခဲ့သော်လည်း တရားအားထုတ်ရန် ဟူသော အကြောင်းပြချက် ရှိနေသဖြင့် အရှင်မေဃိယမှာ ဤသို့သော တရားကို ကြားနာ ခွင့်ရသေး၏။ ကျင့်သုံးခွင့်ရသေး၏။ အရှင်နာဂ သမာလမှာကား ဘာအကြောင်း ပြချက်မှ မပါဘဲ ဖဲခွာသွားခဲ့သဖြင့် ဓားပြတို့၏ နှိပ်စက်ခြင်းကိုသာ ခံခဲ့ရပေသည်။

ကောသလတိုင်းအတွင်း ဒေသစာရီ လှည့်လည်တော်မူစဉ် ဘုရားရှင် နောက်တော်ပါးဝယ် အရှင်နာဂသမာလ လိုက်ပါလာ၏။ ဘုရားရှင်၏ သပိတ် နှင့် နှစ်ထပ်သင်္ကန်းကြီးကို သယ်ဆောင်လာခဲ့ရာ လမ်းခုလတ် တစ်နေရာ၌ လမ်းနှစ်ခွကို တွေ့ရသည်တွင် အရှင်နာဂသမာလက....

"အရှင်ဘုရား၊ လက်ဝဲလမ်းမှ ကြွကြပါစို့ဘုရား" ဟု လျှောက်၏။ လျှောက်ထားချက်ကို ဘုရားရှင်က လက်ခံတော်မမူဘဲ....

"နာဂသမာလ၊ လက်ယာလမ်းမှ သွားကြမည်"ဟု မိန့်တော်မူ လိုက်၏။

လာမည့်ဘေးကို ပြေးမကြည့်ဘဲနှင့် သိ၍ မိန့်တော်မူသည်ကို အရှင်နာဂသမာလ လက်မခံနိုင်ပါ။ လက်ဝဲလမ်းကိုမှ လိုက်လိုလှသော အာသာဆန္ဒ ငမ်းငမ်းထနေသဖြင့် သုံးကြိမ်သုံးခါ လျှောက်ထား၏။ ဘုရားရှင်ကလည်း သုံးကြိမ်တိုင်တိုင် ပယ်တော်မူ၏။ ဤတွင် အရှင်နာဂသမာလသည် ဘုရားရှင်၏ သပိတ်နှင့် နှစ်ထပ်သင်္ကန်းကြီးကို မြေကြီးပေါ်မှာ ချလျက် ထွက်ခွာသွားခဲ့လေသည်။

ဘုရားရှင်ကို တစ်ပါးတည်း ပစ်ထားခဲ့သော အရှင် နာဂသမာလသည် သူသွားလိုလှသော လက်ဝဲလမ်းသို့ကား သွားခဲ့ရပါ၏။ ဘုရားရှင်၏ သပိတ်နှင့် နှစ်ထပ်သင်္ကန်းကြီးများ သယ်မလာရတော့သဖြင့် ပေါ့ပေါ့ပါးပါးလည်း ရှိပါ၏။ သို့သော် သူ့ကံကြမ္မာက ကြာရှည်မကောင်းခဲ့ပါ။ တောအုပ်တစ်ခုသို့ ဝင်မိသည်နှင့် ခါးပြတစ်ဖွဲ့နှင့် တိုးမိပါတော့သည်။ ဘုရားရှင် ရှေ့တော်သို့ ပြန်ရောက်လာသော အခါ သူ့တစ်ကိုယ်လုံး အညိုအမည်းစွဲလျက်။ သူ့ သပိတ်သည် ကွဲလျက်။ သူ့နှစ်ထပ်သင်္ကန်းကြီးသည် အစိတ်စိတ်အမြွာမြွာ စုတ်ပြဲလျက်။ ဆရာ့စကား နားမထောင်မှု၏ ရလဒ်များပေတကား။ (ဥဒါန်း၊ ဒွိတေပထသုတ်)

ဤအကြောင်းအရာများမှာ ကျွန်ုပ် ထိန်းသိမ်းထားရသော တရားဘဏ္ဍာများတွင် အပါအဝင် ဖြစ်ပါ၏။ တရားဘဏ္ဍာစိုးဖြစ်သော ကျွန်ုပ်က တစ်သက်တာကာလပတ်လုံး မပျောက်မပျက် ထမ်းရွက်ထားရမည် ဖြစ်ပါ၏။ နောင်လာနောက်သားတို့ ထံသို့ လုံးစေ့ပတ်စေ့ လက်ဆင့်ကမ်း ထားခဲ့ရမည် ဖြစ်ပါ၏။ သို့ပါလျက် ဤအကြောင်းအရာကို ကိုယ်တော်မြတ်၏ နှုတ်ဖျားမှ ရုတ်တရက်ကြားလိုက်ရသည်တွင် ကျွန်ုပ် ကြက်သီးမွေးညင်း ထသွားရပါသည်။ "ဘုရားရှင်အပေါ် သည်မျှလောက် စိမ်းကားကြလေရော့သလား"ဟု အံ့ဩတကြီး ဖြစ်ရပါတော့သည်။

ဪ.... တစ်သက်တာ ခရီးရှည်ကြီး၏ တစ်ဝက်သည် ယူကျုံးမရဆင်းရဲလှသော စိတ်ဝေဒနာများဖြင့် အဆုံးသတ်ခဲ့ရပါပြီကော။

**

## ကျွန်ုပ်၏ အမွန်မြတ်ဆုံးဆု

ကျွန်ုပ်၏ စိတ်နှလုံးကို ရွှင်ပြုံးစေတတ် နှစ်သိမ့်တတ်သော အို သူတော် သူမြတ် အပေါင်းတို့၊ လာခြင်းကောင်းသော ဘုရားရှင် ကိုယ်တော်မြတ်ကြီးနှင့်တကွ တပည့်သာဝက အပေါင်း၏ ကောင်းသောလာခြင်း ကောင်းသတင်း အဖုံဖုံကို ဇာတ်စုံခင်း၍ လာခဲ့ရာတွင် ယခု မကောင်းသတင်းများလည်း မလွဲသာ မရှောင်သာ ပါဝင်ခဲ့ရပါပြီ။ ဤသည်မှာ လောကကြီး၏ သဘော ဖြစ်ပါသည်။ လောကကြီးတွင် အကောင်းချည်းသက်သက် မရှိနိုင်။ အဆိုးကိုချည်း တစ်ဖက်သတ် ကြည့်၍မရ။ လောကကြီးနှင့် မကင်းမကွာသေးသမျှ အကောင်းအဆိုး နှစ်မျိုးသော လောကဓံများနှင့် တွေ့ရကြုံရမည်သာ ဖြစ်ပေသည်။

ဘုရားရှင်ကိုယ်တော်မြတ်သည် လောကမှ လွန်မြောက်ရာတရားကို မျက်မှောက်ပြုထားပြီး ဖြစ်၏။ လောကမှ လွန်မြောက်ရာတရားကို အထက်မြက်ဆုံးသော ဘာဝနာစွမ်းအားဖြင့် ပွားများထားသဖြင့် ရှင်တော်မြတ်၏ စိတ်အစဉ်သည် အကောင်းအဆိုးနှစ်မျိုးသော လောကဓံတို့ကြောင့်စိုးစဉ်းမျှ တုန်လှုပ်ရန် မရှိပါ။ သို့ရာတွင် ဤအရှင်မြတ်ကြီး၏ ဝိပါက်ခန္ဓာတရားစုကား လောကထဲမှာသာရှိနေကြ၏။ လောကထဲမှာ အကျုံးဝင်နေသဖြင့် ကိုယ်ခန္ဓာနှင့် ပတ်သက်သော လောကဓံကို ခံစားရ၏။ အဆိုးလောကဓံကို ခံစားရာတွင် သက်တော်ဝါတော် မကြီးရင့်သေးခင်က အကြောင်းမဟုတ်။ အကြောင်းမဟုတ်၍ ထုတ်ဖော်မိန့်ကြားခြင်း ပြုတော်မမူခဲ့သော ဤဇာတ်ကြောင်းများကို ယခုတော့ ရွှေနှုတ်တော်မှ ထုတ်ဖော်တော်မူရချေပြီ။ အစိုးမရသော ဝိပါက်ခန္ဓာကိုယ်ကြီးက မထုတ်ဖော်ဘဲ မနေနိုင်အောင် တောင်းဆိုလာခဲ့ပြီ မဟုတ်ပါလော။

"ရဟန်းတို့၊ ယခုအခါ ငါဘုရားသည် အိုမင်းရင့်ရော်၍ လာချေပြီ။ အချို့သော ရဟန်းတို့သည် ငါဘုရားနှင့် လမ်းခွဲ၍ သွားခဲ့ကြ၏။ အချို့သော

ရဟန်းတို့သည် ငါဘုရား၏ သပိတ်သင်္ကန်းတို့ကို မြေပြင်မှာ ချထားခဲ့ကြ၏။ ငါဘုရားအား အမြဲတမ်း လုပ်ကျွေးပြုစုမည့် ရဟန်းတစ်ပါးကို ရွေးချယ်ကြကုန်လော့"

ရဟန်းအပေါင်းတို့ ခေါင်းငိုက်စိုက် ချသွားကြရသော မိန့်ခွန်းတော်ကြီး ပါပေတည်း။

နေရာကား ဇေတဝန်ကျောင်းတိုက်အတွင်း ဘုရားရှင် သီတင်းသုံးတော်မူရာ ဂန္ဓကုဋိတိုက်၏ ဥပစာ။ အချိန်ကား နေ့အကုန် ညအကူး တောင်လေမြူးသည့် မိုးဦးရာသီ။ ဤနေရာ ဤဌာနတွင် အမှိုက်တစ်မျှင် မြက်တစ်ပင်မျှ မရှိ။ သဲဖြူဖြူဖြန့်ခင်းထားသော မြေပြင်ညီညီတွင် ရဟန်းတို့သည် သင်ဖြူးပိုင်းကလေး ကိုယ်စီ ခင်းထိုင်လျက် ရှိကြ၏။ အချိန်မှာလည်း တစ်နေ့တာလုံး ခံစားခဲ့ရသော အပူဒဏ် အအိုက်ဒဏ်များ သက်သာလာချိန် ဖြစ်၏။ သို့ပါလျက် ကျွန်ုပ်တို့၏ စိတ်နှလုံး ရွှင်ပြုံးမလာနိုင်ကြပါ။ မမျှော်လင့်ဘဲ ကြားလိုက်ရသော ဖြစ်ရပ်ဇာတ်လမ်း နောက်သို့ အတွေးကိုယ်စီဖြင့် လိုက်ပါလျက်ရှိနေကြ၏။ တရားလက်ကိုင် ခိုင်မြဲသူနှင့် မခိုင်မြဲသူသာ ကွာခြားပါလိမ့်မည်။ ကြားလိုက်ရသော သတင်းနှင့်ပတ်သက်၍ ဝမ်းမြောက်ဝမ်းသာ မဖြစ်လာသော အချက်ကား အားလုံး တူညီကြပါလိမ့်မည်။ ရဟန်း အားလုံး၏ မျက်နှာထားများက သက်သေခံနေကြပါလိမ့်မည်။

"အရှင်ဘုရား၊ ဤယနေ့မှစ၍ အသက်ရှင်သမျှ ကာလပတ်လုံး ဘုရားရှင်ကို တပည့်တော် ပြုစုလုပ်ကျွေးပါတော့မည် ဘုရား"

တိတ်ဆိတ်နေသော ပရိသတ်ထဲမှ ဦးစွာပထမ ထ၍လျှောက်ထားသူကား အရှင်မဟာသာရိပုတ္တရာ ဖြစ်၏။ တပည့်သာဝက အပေါင်းတွင် အမြင့်မြတ်ဆုံး ဖြစ်သော တပည့်ကြီး၏ လျှောက်ထားချက်ကို ဘုရားရှင် လက်ခံတော်မမူဘဲ....

"သာရိပုတ္တရာ၊ မပြုစုနှင့်။ မလုပ်ကျွေးနှင့်။ သင်ရှိလေရာ အရပ်မှာ တရားသံ တိတ်ဆိတ်သည်ဟူ၍ မရှိ။ သင်၏ အဆုံးအမသည် ငါဘုရား ဆုံးမသည်နှင့် ထပ်တူဖြစ်၏။ သို့ဖြစ်၍ ငါဘုရားအား ပြုစုလုပ်ကျွေးရန် သင့်မှာ တာဝန်မရှိပေ"

အကျိုးသင့် အကြောင်းသင့် မိန့်ကြားကာ ပယ်လှန်တော်မူလိုက်၏။ အရှင်မဟာမောဂ္ဂလာန်၊ အရှင်မဟာကဿပ စသော သာဝကကြီးများလည်း အားလုံး အပယ်ခံရသည်ချည်း ဖြစ်ကုန်၏။ ဤတွင် ရဟန်းအားလုံး၏ မျက်နှာများက ကျွန်ုပ်ထံ ရှေးရှုလာကြတော့၏။ မထေရ်ကြီးများ တစ်ပါးပြီး တစ်ပါးထ၍

လျှောက်ထားပြီးသည့်နောက် မလျှောက်ထားရသေးသောသူမှာ ကျွန်ုပ် တစ်ပါး တည်းသာ ကျန်နေသောကြောင့် ဖြစ်ပေသည်။

မှန်ပါသည်။ ကျွန်ုပ်ထက် သိက္ခာကြီးသောမထေရ်ကြီးများ လျှောက်ထား စဉ်က ကျွန်ုပ် ဆိတ်ဆိတ် နေခဲ့၏။ သိက္ခာကြီးသော မထေရ်များ ကုန်သွား တော့လည်း ကျွန်ုပ် ထိုင်ရာမှ မထသေး။ ကျွန်ုပ်၏ အရိပ်အခြည်ကို ကြည့်ကာ သိက္ခာငယ်သော ရဟန်းများလည်း အသီးသီးထ၍ လျှောက်ထားကြ၏။ အားလုံး လျှောက်ထား၍ အားလုံး အပယ်ခံရသည့် တိုင်အောင် ကျွန်ုပ်ကား ထိုင်မြဲထိုင်၍ နေခဲ့ပါသည်။

မမျှော်လင့်သော သတင်းကို ရုတ်တရက် ကြားလိုက်ရစဉ်က ကျွန်ုပ်မှာ ကြက်သီးမွေးညင်း ထခဲ့၏။ "နောင်တော်မြတ်အပေါ် သည်မျှလောက် စိမ်းကား ကြလေရော့သလား"ဟု တအံ့တသြ ဖြစ်ခဲ့ရ၏။ ယူကျုံးမရ ဆင်းရဲလှသော စိတ် ဝေဒနာများကို ခံစားခဲ့ရ၏။ ဤသို့ ခံစားရာမှ ရှေ့တစ်ခေါ် မျှော်ကြည့်လိုက် သည်တွင် ကျွန်ုပ်၏ ရာသက်ပန် တာဝန်ကို အထင်းသား အရှင်းသား မြင်လိုက် ရပါတော့သည်။

အသက်ချင်း မကွာလှသော်လည်း နောင်တော်မြတ်နှင့် ကျွန်ုပ်တို့မှာ စိတ်ဓာတ်ချင်း ကွာခြားလှ၏။ ရင့်ကျက်သော စိတ်နေစိတ်ထားနှင့်တည်ငြိမ် သော ဉာဏ်သိက္ခာများကြောင့် နောင်တော်မြတ်ကို ကျွန်ုပ် လေးလေးစားစား ဆက်ဆံခဲ့ရ၏။ အသက်ချင်းကွာခြားနေသော နောင်တော်ကြီးနှင့် ညီငယ်ထွေး ကဲ့သို့ပင် ကျွန်ုပ်စိတ်မှာ ခံစားနေခဲ့ရ၏။ လူ့ဘောင်လောက အသိုက်အဝန်း များကို လွတ်လွတ်ကျွတ်ကျွတ် စွန့်ခွာနိုင်ခြင်းတွင် နောင်တော်မြတ်အပေါ် ထားရှိခဲ့သော မေတ္တာဓာတ်များက အဓိကအကြောင်းများ ဖြစ်ပါသည်။

မေတ္တာအရင်းခံဖြင့် ထံတော်ပါးသို့ ရောက်လာခဲ့သော ကျွန်ုပ်သည် နောင်တော်မြတ်နှင့်ကား အစဉ်အမြဲ တွဲ၍ မနေဖြစ်ခဲ့ပါ။ အခြားအခြားသော ရဟန်းများကို အခွင့်ပေးလိုခြင်းကြောင့်လည်းကောင်း၊ လူတန်းစားပေါင်းစုံနှင့် တွေ့ဆုံ ဆက်ဆံ၍ နေတတ်သော ကျွန်ုပ်၏ ဝသီကြောင့်လည်းကောင်း၊ ရံဖန် ရံခါ နောင်တော်မြတ်နှင့် ကင်းကွာမှုများ ရှိခဲ့ပါသည်။ သည်က ရှေ့မှာတော့ ကင်းကွာ၍ မဖြစ်တော့ပါပြီ။

ယခု မမျှော်လင့်ဘဲ ကြားလိုက်ရသော သတင်းမှာ ရင်နှင့်စရာကောင်းသည် မှန်ပါ၏။ သမ္မာသမ္ဗုဒ္ဓဟူသော ဘွဲ့နာမံတော်ဖြင့် တရားစည်ကြီး ရိုက်ခတ် ဆော်ဟည်းနေပါလျက် နောက်ပါတစ်ပါးမျှ မရှိသော အဖြစ်သို့ ရောက်တော်မူခဲ့

ရသည်မှာ ဝမ်းနည်းဖွယ်ကောင်းလှပါ၏။ သို့သော် ဤလို ဝမ်းနည်းဖွယ် ရင်နင့်ဖွယ်ကောင်းသော သတင်းကိုပင် တစ်ဖက်က ကြည့်ပြန်တော့ ဝမ်းမြောက်စရာ နှစ်သက်စရာ ဖြစ်လာရ၏။ ဤသို့သော ခံစားချက်များက သတိပေးလိုက်၍ပင် ရှေ့ခရီးလမ်းကို လှမ်းမြင်လိုက်ရသည်မဟုတ် ပါလော။

"ငါ့ရှင် အာနန္ဒာ၊ ရဟန်းအပေါင်းသည် အလုပ်အကျွေး တာဝန်ကို တောင်းနေကြပြီ။ သင် တစ်ပါးသာ ကျန်တော့သည်။ သူများနည်းတူ တောင်းယူပါတော့လား"

ကျွန်ုပ်၏ အတွေးစများကို သီတင်းသုံးဖော်တို့၏ အသံများက ဖြတ်တောက်ပစ်လိုက်ကြ၏။ သို့ရာတွင် အတွေးစများကို ဖြတ်တောက်သော ထိုအသံများမှာပင် အတွေးဝင်စရာများက ရှိနေသေးသဖြင့် ....

"အရှင်ဘုရားတို့၊ တောင်းခါမှ ရလာသော အလုပ်အကျွေး တာဝန်သည် တန်ဖိုးရှိပါဦးမည်လော။ တပည့်တော်ကိုကော ဘုရားရှင် မမြင်ဘဲ နေတော်မူပါမည်လော။ အကယ်၍ ဘုရားရှင် ကိုယ်တော်တိုင်က နှစ်သက်တော်မူပါလျှင် 'အာနန္ဒာ၊ ငါ့ကို လုပ်ကျွေးလော့' ဟူ၍ ရွှေနှုတ်တော်က ထုတ်ဖော်တော်မူပါလိမ့်မည်"

ကျွန်ုပ်က ဤသို့ တွေးတွေးဆဆ ပြန်လျှောက်လိုက်ရ၏။

ဤကိစ္စသည် ကျွန်ုပ်၏ တစ်သက်တာတွင် အရေးအကြီးဆုံးဖြစ်၏။ ဤတာဝန်သည် ကျွန်ုပ်၏ တစ်သက်တာတွင် အမြတ်နိုးဆုံး ဆုလာဘ်ဖြစ်၏။ ဤဆုလာဘ်နှင့် ပတ်သက်နေသော ဤကိစ္စတွင် ရတ်တရက် ချက်ချင်း မှန်ကန်သော ဆုံးဖြတ်ချက်ကို ချလိုက်ရသဖြင့် မိမိကိုယ်ကို ကျေနပ်မိပါသည်။

"ရဟန်းတို့၊ အာနန္ဒာကို အခြားသူက တိုက်တွန်းစရာ မလိုပေ။ သူ့တာဝန်ကို သူ့ဘာသာ သိ၍ ငါဘုရားကို လုပ်ကျွေးပါလိမ့်မည်"

ကျွန်ုပ်၏ ဆုံးဖြတ်ချက် မှန်ကန်ကြောင်း ကိုယ်တော်တိုင်က ထောက်ခံတော်မူလိုက်ပါချေပြီ။

"အာနန္ဒာ၊ ထပါလော့။ အာနန္ဒာ၊ ထပါလော့။ ဘုရားရှင်ကို အလုပ်အကျွေး တာဝန် တောင်းခံပါလော့"

ဘုရားရှင် လက်ခံတော်မူတော့မည်ဟု သိကြသဖြင့် သီတင်းသုံးဖော်များက အားရဝမ်းသာ တိုက်တွန်းကြ၏။ သို့ရာတွင် ကျွန်ုပ်ကတော့ အလုပ်အကျွေး တာဝန်ကို တောင်းခံခြင်း မပြုပါ။ ဤတာဝန်ကို ကိုယ်တော်တိုင် မိန့်ကြားတော်မူသော စကားအရ ကျွန်ုပ် ရရှိပြီးဖြစ်သည်ဟု သဘောပေါက်ထားပါသည်။

ကျွန်ုပ် တောင်းရန်ရှိသည်ကား အမြတ်နိုးဆုံး ဆုကြီးထဲက ဆုကလေးများသာ ဖြစ်ပါသည်။

တစ်သက်နှင့်တစ်ကိုယ် ဝမ်းအသာဆုံးသောစိတ်၊ အရွှင်လန်းဆုံးသော မျက်နှာဖြင့် ကျွန်ုပ်သည် သံဃာ့ပရိသတ်ထဲမှ ထလိုက်ပါသည်။ ကိုယ်တော်မြတ်၏ ခြေတော်ရင်းသို့ ရိုသေလေးမြတ်စွာ ချဉ်းကပ်လိုက်ပါသည်။ ရဟန်းတို့၏ လှူဖွယ်ဝတ္ထုဖြစ်သော လက်အုပ်ကြာပဒုံဖြင့် ခြေတော်အစုံကို ပူဇော်လှူဒါန်းလိုက်ပါသည်။ ထို့နောက်မှ ဆောင့်ကြောင့်ထိုင်လျက် လက်အုပ်ချီလျက်....

"အရှင်ဘုရား၊ အကယ်၍ ဘုရားရှင်သည် မိမိရသော အဖိုးထိုက် အဖိုးတန် သင်္ကန်းကို မပေးဘဲ နေတော်မူပါလျှင်....

"မိမိရရှိသော ဆွမ်းခဲဖွယ်ကို မပေးဘဲ နေတော်မူပါလျှင်....

"ဘုရားရှင် ကျိန်းစက်တော်မူရာကျောင်း၌ အတူတကွ နေထိုင်ခွင့်ကို မပေးဘဲ နေတော်မူပါလျှင်....

"ဘုရားရှင်အား ပင့်ဖိတ်၍ ကျွေးမွေးလှူဒါန်းရာသို့ တပည့်တော်ကိုမခေါ်ဘဲ ထားတော်မူပါလျှင် ဘုရားရှင်ကို တပည့်တော် လုပ်ကျွေးပြုစုပါမည် ဘုရား"

ပယ်ရမည့် ဆုလေးမျိုးကို ဦးစွာပထမ တောင်းလိုက်ရာတွင်....

"အာနန္ဒာ၊ ဤလေးဌာနတွင် မည်သို့သော အပြစ်ကို မြင်မိပါသနည်း" ဟု မေးတော်မူ၏။

"အရှင်ဘုရား ဤအခွင့်အရေး လေးမျိုးကို တပည့်တော် ရရှိပါက ဆိုစရာ၊ ပြောစရာများ ဖြစ်ပေါ်လာပါလိမ့်မည်။ 'အာနန္ဒာသည် ဘုရားရှင် ရရှိသော အဖိုးထိုက် အဖိုးတန် သင်္ကန်းကို ဝတ်ရုံရ၏။ ဆွမ်းကောင်း ဟင်းကောင်းကို စားသောက်ရ၏။ တစ်ကျောင်းတည်းမှာ အတူနေရ၏။ ဘုရားရှင်ကို ပင့်ဖိတ်လျှင် သူပါ လိုက်ပါရ၏။ ဤသို့သော အခွင့်ထူး လာဘ်ထူးကို ရသဖြင့် ဘုရားရှင်ကို သူ ပြုစုလုပ်ကျွေးခြင်းဖြစ်၏။ ဤလို ပြုစု လုပ်ကျွေးရသူမှာ ဘာများ ဝန်လေးစရာ ရှိပါမည်နည်း' ဤသို့ မနာလိုသူတို့က ပြောလာကြပါလိမ့်မည်ဘုရား"

"အာနန္ဒာ၊ ကောင်းလေစွ။ ဤဆုလေးမျိုးကို အပြည့်အဝ ယူပေလော့"

"အရှင်ဘုရားပေးတော်မူသော ဆုလေးမျိုးကို ဝမ်းမြောက်စွာ လက်ခံပြီးနောက် ဆက်လက်၍ လျှောက်ထားပါရစေဘုရား။ အကယ်၍ ဘုရားရှင်သည် တပည့်တော် လက်ခံထားသော ဖိတ်ကြားရာသို့ လိုက်တော်မူပါလျှင်....

"အကယ်၍ အဝေးရပ်ရွာမှ ရောက်လာကြသော ပရိသတ်အား ရောက်လာသော အချိန်မှာပင် ဘုရားရှင်ထံသို့ ပို့ဆောင်ခွင့်ရပါလျှင်....

"အကယ်၍ တပည့်တော်မှာ ယုံမှားသက်ာ တစ်စုံတစ်ရာ ပေါ်လာခဲ့သော် ပေါ်လာသော အချိန်မှာပင် ဘုရားရှင်ထံ ချဉ်းကပ်ခွင့်ရပါလျှင်....

"အကယ်၍ တပည့်တော်၏ မျက်ကွယ်မှာ ဟောကြားတော်မူခဲ့သော တရားဒေသနာများကို ကျောင်းပြန်ရောက်သောအခါ တပည့်တော်အား ထပ်မံ ဟောကြားတော်မူပါလျှင် ဘုရားရှင်ကို တပည့်တော် ပြုစုလုပ်ကျွေး ပါမည်ဘုရား"

ပယ်ရမည့် ဆုများနည်းတူ ပန်ဆင်လိုသော ဆုများလည်း လေးပါး တိတိ ရှိလေရာ

"အာနန္ဒာ ဤအခွင့်အရေး လေးမျိုးတွင် မည်သို့သော အကျိုးကျေးဇူးကို မြင်ထားပါသနည်း"

"အရှင်ဘုရား၊ သဒ္ဓါထက်သန်သော အမျိုးသားများသည် ဘုရားရှင်နှင့် တွေ့ဆုံခွင့်မရှိကြ၍ နောက်တစ်နေ့မှာ ဘုရားရှင်နှင့်အတူ သူတို့အိမ်သို့ ဆွမ်းဘုဉ်း ပေးကြရန် ပင့်ဖိတ်တတ်ကြပါသည်။ ထိုဖိတ်ကြားရာသို့ အကယ်၍ ဘုရားရှင် လိုက်ပါတော် မမူပါလျှင်၊ အလိုရှိသော ခဏမှာ ပရိသတ်ကို ဘုရားဖူးပို့ခွင့် မရပါလျှင်၊ ယုံမှားသက်ာ ကင်းရှင်းရန် ချဉ်းကပ်ခွင့် မပါရပါလျှင် ပြောစရာ ဆိုစရာများ ပေါ်လာပါလိမ့်မည်။ 'အာနန္ဒာသည် ဘုရားရှင်ကို မည်သို့များ ပြုစုပါသနည်း။ သူ့ကို ဘုရားရှင်က ဤမျှ လောက်ပင် ချီးမြှောက်မှု ပြုတော် မမူပါချေတကား' ဟု အများတကာ အပြစ် တင်လာကြပါလိမ့်မည် ဘုရား။

"နောက်တစ်မျိုးလည်းရှိပါသေးသည်။ ဟောကြားတော်မူခဲ့သော ဒေသနာ တော် တစ်ခုခုနှင့်ပတ်သက်၍ ဘုရားရှင် မျက်ကွယ်ရာမှာ မေးလာကြသောအခါ တပည့်တော် မဖြေနိုင်လျှင် အပြစ်တင်ကြပါလိမ့်မည်။ 'သင်သည် ဘုရားရှင် နောက်တော်ပါးမှ အရိပ်ပမာ လိုက်ပါခဲ့၏။ နှစ်ရှည်လများ ပြုစုလုပ်ကျွေးခဲ့၏။ သို့ပါလျက် သင်သည် ဤမျှလောက်ပင်မသိလေတကား' ဟု ဆိုလာကြပါလိမ့်မည်။

"ဤသို့သော အပြစ်အနာအဆာများ ကင်းစင်၍ စိတ်နှလုံးရွှင်လန်းစွာ ပြုစုနိုင်သော အကျိုးတရားတို့ကို တပည့်တော် မြင်မိပါသည်ဘုရား"

"အာနန္ဒာ၊ ကောင်းလေစွ၊ ဤဆုလေးမျိုးကိုလည်း အပြည့်အဝ ယူပေလော့"

ဝမ်းနည်းစရာ သတင်းဆိုးဖြင့် အစပျိုးခဲ့ရသော ထိုအစည်းအဝေးသည် တစ်ခဲနက်သော သာဓုသံဖြင့် ပြီးဆုံးခဲ့ပါသတည်း။

(သုတ်မဟာဝဂ်၊ မဟာပဒါနသုတ် အဋ္ဌကထာ)

❋❋

# အရပ်တော် နှင့် အရိပ်

ပယ်လည်း လေးတန်၊ ပန်လည်း လေးခု၊ ရှစ်မျိုးသော ဆုများကို ခံယူလျက် ကျွန်ုပ်၏ ဘဝခရီးသစ် စတင်ခဲ့ပါပြီ။ ယခင်ကလို ပူးတုံ ခွာတုံ မပြုတော့ဘဲ နောက်တော်ပါးမှ အရိပ်ပမာ လိုက်ပါပြုစုရပါပြီ။

ဘုရားရှင်နှင့် ကျွန်ုပ်တို့မှာ ကိုယ်ခန္ဓာအားဖြင့်သာ နှစ်ပါး ဆိုရပါသည်။ စိတ်အလိုအားဖြင့်ကား နှစ်ပါးမကွဲ တစ်ပါးတည်းသာ ဖြစ်ပေသည်။ ကျွန်ုပ်၏ ကာယကံ၊ ဝစီကံတို့သည် ကျွန်ုပ်၏ စိတ်အလိုဖြင့် ပြုမူလှုပ်ရှားခြင်း မရှိကြပါ။ ဘုရားရှင်၏ စိတ်တော်ကျ အတိုင်းသာ ပြုမူလှုပ်ရှားကြပါသည်။ ဘုရားရှင် စိတ်တော်ကျကို လိုက်နာရသဖြင့် ကျွန်ုပ်၏ မနောကံကလည်း အားရကျေနပ်လျက် ရှိပေသည်။

ဤအကြောင်းအရာများကို တခမ်းတနား ထုတ်ဖော်တင်ပြနေရခြင်း မှာ မိမိကိုယ်ကို ချီးမြှောက်လို၍ မဟုတ်ပါ။ တပည့်သာဝကအပေါင်းတွင် ဘုရားရှင်နှင့် ငါ့လောက် ရင်းနှီးကျွမ်းဝင်သူ မရှိဟု ဝင့်ဝါလိုသောကြောင့်လည်း မဟုတ်ပါ။ ယခု ကြားနာမှတ်သားသူများမှ တစ်ဆင့် နောင်လာနောက်သားများ၏ လက်သို့ ကျွန်ုပ်၏ အမွေအနှစ်များကို ပေးထားခဲ့ချင်၍ ဖြစ်ပါသည်။ အေးရာငြိမ်းရာ မြိုက်ချမ်းသာ ပေးတော်မူခဲ့သော ကျေးဇူးရှင်ကြီးအား ကျွန်ုပ်တို့ ကျေးဇူးဆပ်ခဲ့ပုံ များကို နမူနာယူနိုင်ကြရန် ဖြစ်ပါသည်။ ပြုခဲ့ဖူးသော သူ့ကျေးဇူးကို ကောင်းစွာ သိသည်ဖြစ်၍ သိသည့်အတိုင်း ကျေးဇူးတုံ့ပြန်သောအားဖြင့် ကတညုတ မင်္ဂလာပွားနိုင်ကြရန် ဖြစ်ပါသည်။

အမြဲတမ်း လုပ်ကျွေးရန် တာဝန်ကျလာသည်မှစ၍ ကျွန်ုပ်သည် ဘုရားရှင် ထံတော်ပါးမှ မခွဲမခွာ နေလာခဲ့ပါသည်။ ရေပူရေချမ်း ကမ်းလှမ်းခဲ့ပါသည်။ ကြိုက်နှစ်သက်ရာ ယူငင် အသုံးပြုနိုင်စေရန် သုံးမျိုး သုံးစားသော တံပူများကို

ကိုယ်တိုင် ပြုလုပ်၍ ဆက်ကပ်ခဲ့ပါသည်။ ခြေဆုပ်လက်နယ် ပြုစုခဲ့ပါသည်။ ကျောအောင့်သော ရောဂါ မကြာမကြာ ပေါ်လာတိုင်း ကျွန်ုပ် နှိပ်နယ်ပေးခဲ့ပါသည်။ ဤရောဂါမှာ ဟိုယခင်က ဒုက္ကရစရိယာ အကျင့်များ၏ အကျိုးဆက်ဖြစ်မည် ထင်ပါသည်။ ဘုရားရှင် သီတင်းသုံးတော်မူရာ ဂန္ဓကုဋိအနီးဝယ် အမှိုက်တစ်မျှင် မရှိရအောင် တံမြက်လှည်းပါသည်။ ပေါင်းပင် မြက်ပင်များရှိလာသော် သာမဏေ များအား ကပ္ပိခိုင်းရပါသည်။

ဤသို့သော ဝေယျာဝစ္စအမှုများကို ပြုစုရင်းကပင် စားရေး သောက်ရေး ကိစ္စများကိုလည်း မလစ်ဟင်းစေရပါ။ ဆွမ်းစားချိန်တန်လျှင် ကောင်းနိုးရာရာ ဆွမ်းဘောဇဉ်များ ပြင်ဆင်၍ ဆက်ကပ်ပါသည်။ ဆွမ်းပြီးလျှင် မုန့်ခဲဖွယ်များ ဆက်ကပ်ပါသည်။ ညနေချမ်းကျလျှင် ကိုယ်တော်တိုင် ခွင့်ပြုတော်မူသော အဖျော် ရှစ်မျိုးထဲက တစ်မျိုးမျိုးကို ဆက်ကပ်ပါသည်။ ငှက်ပျော၊ သရက်၊ မုဒရက်၊ ဖက်သက် စသော အသီးများထဲမှ ရာသီအားလျော်စွာပေါ်လာသော အသီးမှည့် များကို ရေမှာ နယ်ဖတ်ကာ ပဝါသန့်သန့်ဖြင့် အဖတ်မပါအောင် စစ်ယူလိုက် သောအခါ ညနေပိုင်းမှာ ရဟန်းတို့ သောက်ကောင်းသော အဖျော်ရပါသည်။ မွတ်သိပ်မှုကို ပယ်ဖျောက်ရင်း ဆေးဝါးကိစ္စလည်း တစ်ပါတည်း ပြီးစီးသွားစေရန် စီမံထားတော်မူပေသည်။

နေ့ခင်းတုန်းက ပြုအပ်ရာရာကို မလစ်မလပ်ရအောင် ပြုပြီးခဲ့သော်လည်း ကျွန်ုပ်၏ ဟာဝန်များ မကုန်သေးပါ။ နေ့တာဝန်အပြီးတွင် ည တာဝန်ကို ဆက်၍ ယူရပါသေးသည်။ တစ်ညတစ်ညလျှင် ကိုးကြိမ်တိုင်တိုင် မီးတုတ် ကိုင်စွဲလျက် ဘုရားရှင့်ကျောင်းဆောင်ကို လှည့်လည်ရပါသေးသည်။ ဤသို့ လှည့်လည်ရခြင်းမှာ ဘုရားရှင်အပေါ် အန္တရာယ် တစ်စုံတစ်ရာ ကျရောက်မည် စိုးရသောကြောင့် မဟုတ်ပါ။ အရေးအကြောင်းရှိ၍ ဘုရားရှင် ခေါ်တော်မူလျှင် ချက်ချင်းလက်ငင်း ထူးနိုင်ရန် ဖြစ်ပါသည်။ ဘုရားရှင် ကျိန်းစက်တော်မမူသေးခင် မိမိက အိပ်ချင်မူးတူး ဖြစ်မနေနှင့်ရန်လည်း ဖြစ်ပါသည်။

ဤသည်တို့မှာ ကျွန်ုပ်၏ ကတညုတမင်္ဂလာများ ဖြစ်ပါသည်။ အေးရာ ငြိမ်းရာ မြိုက်ချမ်းသာကို ပေးသနားတော်မူခဲ့သော ကျေးဇူးတော်များ အတွက် အတုံ့အလှည့် ပြုစုရခြင်း ဖြစ်ပါသည်။ သို့ရာတွင် ဤသို့ ပြုစုလိုက်ရသဖြင့် ရှိခဲ့ဖူးသော ကျေးဇူးတော်များတွင် မည်ရွေ့မည်မျှ ကျေသွားပြီ ကုန်သွားပြီဟု သတ်မှတ်၍ မရနိုင်ပါ။ ကျေးဇူးဂုဏ် အနန္တကို ကမ္ဘာသချေ ပေးဆပ်သော်မှ ကုန်နိုင်မည်မဟုတ်ပါ။ မကုန်နိုင်သော ကျေးဇူးကို မိမိကိုယ်အားရှိသမျှ၊ ဉာဏ်အား

ရှိသမျှဖြင့် ပေးဆပ်ရင်းကပင် ဤသို့ ပေးဆပ်ခွင့် ရနေသည့်အတွက် ကျေးဇူးတင်ရပါသေးသည်။ **(အင်္ဂုတ္တရ ဧကကနိပါတ်-အဋ္ဌကထာ၊ အာနန္ဒထေရဝတ္ထု)**

ကျေးဇူးရှင်ကို ကျေးဇူးတင်ရင်း ပြုစုလုပ်ကျွေးလာခဲ့သော ကျွန်ုပ်သည် တစ်ခါတစ်ရံမှာကား အလုပ်အကျွေးဘ၀မှ အစောင့်အရှောက် ဘ၀သို့ ကူးပြောင်းရပါသေးသည်။

မွေးရပ်မြေရှိ နိဂြောဓာရုံကျောင်းတော် ရောက်စဉ်ခိုက်ဝယ် ဘုရားရှင်ဖျားနာတော်မူရ၏။ သင့်တင့်လျောက်ပတ်သော ဆေးဝါးများလိုလေသေး မရှိအောင် ပြုစုမှုများကြောင့် ဘုရားရှင်၏ အဖျားရောဂါသည် မကြာမီ သက်သာလာပါ၏။ သို့သော် ဝေဒနာဒဏ်ကြောင့် ရုပ်ခန္ဓာ၏ အားနည်းမှုကား ကျန်နေပေသေးသည်။ သက်သောင့်သက်သာ အတန်ကြာ အနားယူပါမှ မူလအခြေအနေသို့ ပြန်ရောက်ရန် ရှိပေသည်။ တရားဟောခြင်းကိစ္စများကို ခေတ္တခဏ ရပ်နားတော်မူမှ ဖြစ်ပေလိမ့်မည်။ ဤအခြေအနေတွင်မှ ကျွန်ုပ်တို့၏ နောင်တော်ကြီး မဟာနာမ်သည် နက်နဲလှစွာသော ပြဿနာကြီးတစ်ခုကို မေးလျှောက်လာပေသည်။

"အရှင်ဘုရား၊ လွန်လေပြီးသော တစ်ချိန်တုန်းက ဘုရားရှင်သည် တရားတစ်ပုဒ် ဟောတော်မူခဲ့ပါသည်။ 'သမာဓိရှိသူအား ဉာဏ်ဖြစ်ပေါ်၏။ သမာဓိမရှိသူအား ဉာဏ်မဖြစ်ပေါ်နိုင်'ဟူသော ဒေသနာတော်ကို ယခုတစ်ဖန် ပြန်လည်သုံးသပ်သောအခါ ပြဿနာတစ်ခု ထွက်ပေါ်လာပါသည်။ 'သမာဓိနှင့် ပညာဤတရားနှစ်ပါးတို့တွင် ဘယ်သင်းက ရှေ့ကျ၍ ဘယ်သင်းက နောက်ကျပါသနည်း' ဟူသည်ပင်ဖြစ်ပါသည်။ ဤပြဿနာကို တပည့်တော်ဘာသာ မဆုံးဖြတ်ရပါ၍ ဘုရားရှင် ဆုံးဖြတ်ပေးတော်မူပါဘုရား"

လျှောက်ထားသူ အဖို့တော့ လွယ်ပါ၏။ ဖြေရမည့် ပုဂ္ဂိုလ်မှာတော့ မသက်သာလှပါ။ ဤလိုခက်ခဲလွန်း နက်နဲလွန်းသော ပြဿနာတို့ကို ဆုံးဖြတ်တော့မည်ဆိုလျှင် ဘုရားရှင်၏ ဒေသနာတော်သည် တိုတိုကျဉ်းကျဉ်းနှင့် ပြီးဆုံးမည်မဟုတ်ပေ။ တစ်ဟုန်ထိုးတက်လာသော ဒီရေအဟုန်နှင့် တိုက်ယူလာ သကဲ့သို့ပင် အရှိန်အဟုန်ကောင်းလှသော ဒေသနာတော်တွင်လည်း ဤတရား နှစ်ပါးနှင့်သက်ဆိုင်သော တရားများ၊ အနုလုံပဋိလုံ ဝေဖန်သုံးသပ်ချက်များ ဝတ္ထုသက်သေသာဓကများလည်း အင်နှင့်အားနှင့် ပါလာကြမည်ဖြစ်၏။

ကိုယ်ခန္ဓာ ပင်ပန်းမှုကိုအကြောင်းပြု၍ ဘုရားရှင်၏ ဒေသနာတော် အင်အားသည် လျော့ပါးရိုး ထုံးစံမရှိပေ။ သတ္တဝါ ဝေနေယျတို့အား မဟာကရုဏာတော်နှင့် တွဲလျက် သိစေချင် မြင်စေချင်သော ဆန္ဒတော်တို့လည်း မည်သည့်အခါမှ တွန့်ဆုတ်သွားသည် မရှိပါ။

မှန်ပါသည်။ ထက်သန်လှစွာသော စေတနာ၊ မြင့်မြတ်လှသော ဆန္ဒတော်ဖြင့် ဒေသနာတော်တစ်ပုဒ် ဟောထုတ်တော်မူလျှင် နောင်တော်ကြီး မဟာနာမ်အမြင်ရှင်း၍ အလင်းရမည် ဖြစ်ပါသည်။ သို့သော် ကျွန်ုပ်အနေနှင့် သူ့ဘက်ကိုချည်း တစ်ဖက်သတ် မလိုက်နိုင်ပါ။ သူ့အဖို့ ယခု မနာရသေးလျှင် နောက်နောင်မှာ နာချိန်တွေ အများကြီး ရှိနေ၏။ သို့အတွက် သူ့မှာ တစ်စုံတစ်ရာ ဆုတ်ယုတ်သွားသည်ဟု မရှိနိုင်။ သူ့အတွက် ငဲ့ကွက်ပြီး ဟောကြားသော ဘုရားရှင်မှာသာ အားကုန်ခန်း၍ ပင်ပန်းတော်မူမည် ဖြစ်ပေသည်။

နောင်တော်ကြီး မဟာနာမ် လျှောက်ထားနေစဉ် တစ်ခဏအတွင်း တွင် ကျွန်ုပ်သည် ဤအကြောင်းခြင်းရာများကို ခြုံငုံစဉ်းစားကာ ဆုံးဖြတ်ချက် တစ်ခုကို ချမှတ်လိုက်ပါသည်။ ထိုဆုံးဖြတ်ချက်အရ နောင်တော်ကြီး မဟာနာမ်ကို ရှေ့တော်မှောက်မှ ခေါ်ထုတ်လာခဲ့ရပါသည်။ မိမိနေရာ ရောက်ခါမှ သီလ၊ သမာဓိ၊ ပညာ သုံးဖြာသော တရားတို့ကို ကျင့်သုံးဆဲနှင့် ကျင့်သုံးပြီးပုဂ္ဂိုလ်တို့ အစွမ်းဖြင့် ခွဲခြမ်း စိတ်ဖြာ၍ ဟောလိုက်ရပါသည်။

**(အင်္ဂုတ္တရ၊ တိကနိပါတ် အဋ္ဌကထာ၊ မဟာနာမသက္ကသုတ်)**

ဤသည်တို့မှာ ကျွန်ုပ်၏ စေတနာ၊ ကျွန်ုပ်၏ မေတ္တာအရဆောင်ရွက် လိုက်သော ကိစ္စများ ဖြစ်ပေသည်။ ဘုရားရှင် ကိုယ်တော်တိုင်ကလည်း ကျွန်ုပ်၏ စေတနာ ကျွန်ုပ်၏ မေတ္တာတို့ကို အသိအမှတ် ပြုတော်မူမည် မလွဲပါ။ သို့ရာတွင် ဤစေတနာ ဤမေတ္တာဖြင့် ဆောင်ရွက်သော ကိစ္စတိုင်းကိုကား လက်ခံတော် မမူပါချေ။ ဝိနယဓမ္မ နှစ်ဌာနအားဖြင့် သင့်လျော်သော ကိစ္စကိုသာ လက်ခံတော်မူ၍ မသင့်လျော်လျှင်ကား ချက်ချင်းပင် ငြင်းပယ်တော်မူပေသည်။

ဤအကြောင်းအရာ တင်ပြနိုင်ရေးအတွက် ရာဇဂြိုဟ်မြို့တော်နှင့် နိဒါန်းချီရပါလိမ့်မည်။ မဂဓတိုင်းတစ်ခွင် လှည့်လည်ပြီး၍ ရာဇဂြိုဟ်မြို့တော် အရောက် တွင် ဘုရားရှင်မှာ လေနာရောဂါ ထလာခဲ့ပေသည်။ ဤရောဂါသည် ဘုရားရှင် အတွက် အသစ်အဆန်း မဟုတ်သကဲ့သို့ ကုသရသော ကျွန်ုပ် အတွက်လည်းအတွေ့ အကြုံ ရှိထားပြီး ဖြစ်ပါသည်။ ဟိုစဉ်အခါ ဘုရားရှင် ဤသို့ လေနာရောဂါ ခံစားရစဉ်က ဒါယကာတစ်ယောက် လှူလာသော သုံးမျိုးစပ်ယာဂုနှင့် သက်သာရာ ရခဲ့ဖူးသည် မဟုတ်ပါလော။

ဘုရားရှင်၏ရောဂါကို တစ်ခဏချင်း ပျောက်ကင်းအောင်စွမ်းနိုင်သော ထိုယာဂုကို ကျွန်ုပ် ပြီးပြီးပျောက်ပျောက် မထားနိုင်ခဲ့ပါ။ ယာဂုဒါယကာမှ တစ်ဆင့် ယာဂု၏ အဖက်အစပ်များကို လေ့လာမှတ်သားထားခဲ့ရာ ယခု လေနာရောဂါ နှင့် ကာရန်တသင့် ဖြစ်နေပါပြီ။

သုံးမျိုးစပ် ယာဂုကျိုရန် လိုအပ်သော ပစ္စည်းများကား ခက်ခက်ခဲခဲ မရှာရပါ။ နှမ်း၊ ဆန်၊ ပဲနောက်တို့မှာ မီးဖိုချောင်တိုင်းမှာ ရှိနေပါသည်။သို့ဖြစ်၍ ကျွန်ုပ်သည် ခင်မင်ရင်းနှီးပြီးသော အိမ်တစ်အိမ်ဝင်ရုံနှင့် သုံးမျိုးလုံးရလာခဲ့ပါသည်။ ရလာသောပစ္စည်းများကို ကျောင်းမှာ ခေတ္တခဏ သိုမှီးကာ ကျောင်းထဲမှာပင် ယာဂုကျိုခဲ့ပါသည်။ ဘုရားရှင်၏ ရောဂါပျောက်ကင်းရေးကိုသာ အလေးပေးထားသဖြင့် မိမိလုပ်ဆောင်ခဲ့သော ကိစ္စများ ဝိနည်းတော်နှင့် ညီမညီကို သတိမထားခဲ့မိပါ။ ကျွန်ုပ်ကိုယ်တိုင် သတိမထားမိသောကိစ္စကို ဘုရားရှင်ကတော့ လျစ်လျူရှုထားတော်မမူပါ။

"အရှင်ဘုရား၊ သုံးမျိုးစပ် ယာဂုကို ဘုဉ်းပေးတော်မူပါ"

ဤသို့ ဆက်ကပ်လိုက်သည်နှင့် ယာဂု၏ ဇာစ်မြစ်ကို မေးတော်မူပါတော့သည်။ ကျွန်ုပ်အဖို့ ဟုတ်တိုင်းမှန်စွာ ဖြေရုံမှအပ အခြားလမ်းမရှိပါ။ ဤတွင် ဘုရားရှင်က ကျွန်ုပ်၏ ဆောင်ရွက်ချက်များကို ရှုတ်ချ ပြစ်တင်တော်မူကာ....

"အာနန္ဒာ၊ အကပ္ပိယကုဋိ၌ စားသောက်ဖွယ်ပစ္စည်း သိုမှီးခြင်းသည် မအပ်။ အကပ္ပိယကုဋိ၌ ချက်သော အစားအစာသည် မအပ်။ ရဟန်း ကိုယ်တိုင်ချက်သော အစားအစာသည် မအပ်"

ဤသို့ ဝိနည်းတော်နှင့် မညီသော အချက်များကို ထုတ်ဟတော်မူပြီးမှ...

"ရဟန်းတို့၊ ဤသုံးမျိုးသော အစားအစာတို့ကို မစားအပ်။ စားသောက်သော ရဟန်းအား ဒုက္ကဋ် အာပတ်သင့်စေ"

ရဟန်းပရိသတ် အားလုံးအတွက် ပညတ်တော်တစ်ခု ထုတ်ပြန်တော်မူလိုက်၏။ အကပ္ပိယကုဋိဟူသည်မှာ စားသောက်ဖွယ်ပစ္စည်းများ ထားသိုရန်၊ ချက်ပြုတ်ရန် ဝိနည်းတော်အရ အပ်စပ်အောင် ပြောဆို၍ မဆောက်ခဲ့ရသော အဆောက်အအုံ ဖြစ်ပေသည်။ မိမိ၏ ရောဂါပျောက်ရေးထက် ဝိနည်းတော်ကို ပို၍ အလေးထားတော်မူခြင်းသည် ကျွန်ုပ်တို့ အားလုံးအတွက် တစ်သက်တာ မှတ်သားလောက်သော စံနမူနာ ဖြစ်ပါပေသည်။

**(ဝိနည်းမဟာဝဂ်၊ ဘေသဇ္ဇခန္ဓက)**

ဝိနည်းကြောင်းနှင့် ပတ်သက်၍ အတိမ်းအစောင်း ခံတော်မမူခဲ့သော ဘုရားရှင်သည် တရားသဘောရေးရာမှာလည်း အစွန်းထွက် ခံတော်မမူပါ။ အစွန်းတစ်ဖက်သို့ ချဉ်းကပ်လာသော စကားတစ်ခွန်း ထွက်လာသည်နှင့် ခဏမဆိုင်း တားမြစ်တော်မူသည်သာ ဖြစ်ပေသည်။

သည်တုန်းက ကျွန်ုပ်တို့သည် ကုရုတိုင်းအတွင်းရှိ ကမ္မာသဒမ္မရွာကြီး အနီး တောအုပ်ထဲမှာ ရောက်နေကြ၏။ သည်နေရာ သည်ဌာနတွင် ကျောင်း

အဆောက်အအုံ ဟူ၍ မရှိသော်လည်း သစ်ရိပ်ဝါးရိပ် ကောင်းလှ၏။ သောက်ရေ သုံးရေ ပြည့်စုံ၏။ တောတောင်ရှုခင်း သာယာလှ၏။ ထို့ကြောင့် ဘုရားရှင်နှင့် ကျွန်ုပ်တို့သည် ကမ္မာသဒမ္မရွာကြီးတွင် ဆွမ်းခံဝင်ကာ ဤတောအုပ်မှာပင် ကျောင်း အမှတ်ဖြင့် နေခဲ့ကြ၏။

တစ်စုံတစ်ရာ အကြောင်းထူး မရှိလျှင် ဘုရားရှင်သည် ဆွမ်းဘုဉ်း ပေးပြီး ချိန်မှာ တစ်ပါးတည်း လျောင်းစက်နေတော်မူတတ်၏။ ထိုစဉ်ခိုက်တွင် ကျွန်ုပ်သည် ကျွန်ုပ်၏ နေရာသို့ပြန်ကာ ဆည်းကပ်လာသော တပည့်များအား ပရိယတ်စာပေ များ ပို့ချရ၏။ စာဝါချပြီး အချိန်ကလေးမှာကား ကျွန်ုပ်၏ ကိုယ်ပိုင်သက်သက် ဖြစ်ပေသည်။

ရရှိထားသောအချိန်ကလေးတွင် ကျွန်ုပ်သည် ကျွန်ုပ်နေရာကို ကျွန်ုပ် ဘာသာ တံမြက်လှည်းလိုက်၏။ သပ်ရပ် သန့်ရှင်းသော မြေပြင်ထက်တွင် သားရေ နွယ်ကို ခင်းလိုက်၏။ ရေအိုးထဲမှ ရေအနည်းငယ်ဖြင့် ခြေလက်များကို အေးမြ သွားအောင် ဆွတ်ဖျန်းကာ သားရေနွယ်ပေါ်မှာ တင်ပျဉ်ခွေထိုင်လျက် ဖလ သမာပတ် ဝင်စား၍နေခဲ့၏။ ကျေးဇူးရှင်ကြီး ပေးသနားတော်မူခဲ့သော သမထ စည်းစိမ်ကြီးကို မြိန်မြိန်ကြီး ခံစားပြီးနောက် ကျွန်ုပ်သည် ပဋိစ္စသမုပ္ပာဒ် တရား တော်ကို ဆင်ခြင်သုံးသပ်မိ၏။ အများတကာက ခက်ခဲလှပါသည်၊ နက်နဲလှပါ သည်ဟု ဆိုကြသော ပဋိစ္စသမုပ္ပာဒ် တရားတော်သည် ကျွန်ုပ်အဖို့ လွယ်ကူလွန်းလှ ပါတကား။ ပေါ်လွင်လွန်းလှပါတကား။

မိမိအတွေ့အကြုံကို မြှုမထားတတ်သော ပုဂ္ဂိုလ်တို့တွင် ကျွန်ုပ်တစ်ပါး အပါအဝင် ဖြစ်၏။ ထို့ပြင် အရှင်မြတ်ကြီး ကိုယ်တော်တိုင်ကလည်း မေးရန် လျှောက်ရန် ရှိလေတိုင်း လာခဲ့စေ ဝင်ခဲ့စေ မိန့်ဆိုထားတော်မူ၏။ ညနေပိုင်း ရောက်လာပြီမို့ ဘုရားရှင်လည်း လျောင်းစက်ရာမှ ထတော်မူလောက်ပေပြီ။ သို့ဖြစ်၍ ကျွန်ုပ်သည် သို့လော သို့လော တွေးတောမနေဘဲ ရှေ့တော်မှောက်သို့ တန်းတန်းမတ်မတ် ဝင်ကာ....

"အရှင်ဘုရား၊ အံ့သြဖွယ်ရှိပေစွ။ အရှင်ဘုရား၊ မဖြစ်ဘူးဘဲ ဖြစ်လာပေစွ။ ပဋိစ္စသမုပ္ပာဒ် တရားတော်သည် အတိုင်းထက်အလွန် နက်လည်း နက်နဲလှပါ၏။ နက်နဲသော အရိပ်အရောင်လည်း ရှိပါ၏။ သို့ပါလျက် ထိုတရားတော်သည် တပည့်တော် အဖို့မှာတော့ အလွန့်အလွန် ပေါ်လွင်ထင်ရှားနေပါသည် ဘုရား"

"အာနန္ဒာ၊ ဤသို့ မဆိုလင့်။ အာနန္ဒာ၊ ဤသို့ မဆိုလင့်"

ကျွန်ုပ်၏ လျှောက်ထားချက်ကို ဘုရားရှင်က ထပ်ဆင့်စကားဖြင့် ပယ်ရှား တော်မူပါ၏။

အမိန့်တော်သံ ကြားလိုက်ရသည့် ခဏဝယ် ကျွန်ုပ်သည် ဝမ်းမြောက်ဝမ်းသာ ဖြစ်လိုက်ရ၏။ ဝမ်းမြောက်သည်နှင့် တစ်ဆက်တည်းပင် ထိတ်လန့်တကြားလည်း ဖြစ်ရပြန်ပါသည်။

ကျွန်ုပ်သည် ကြုံတောင့်ကြုံခဲလှစွာသော သာသနာတော်ကြီးနှင့် ကြုံရရုံမက သာသနာတော်ကြီးတစ်ခုလုံး၏ အချက်အချာကျသောနေရာမှာ တာဝန် ထမ်းဆောင်ခွင့် ရခဲ့၏။ သူတကာတွေ ခက်ခဲလှပါသည်။ နက်နဲလှပါသည် ဆိုရသော ပဋိစ္စသမုပ္ပာဒ် တရားတော်ကို လွယ်လင့်တကူ သိလာရ၏။ ဤသည်တို့မှာ အကြောင်းမဲ့ သက်သက် ဖြစ်မလာနိုင်ပါ။

သူတကာတို့ထက် လွန်လွန်ကဲကဲ အကျိုးပေးကောင်းခြင်းမှာ အားကြီးလှစွာသော ရှေးကောင်းမှုကြောင့်ဟု ဆိုနိုင်ပေသည်။ ယခု မျက်မှောက်ဘဝမှာလည်း အကျိုးပေးကောင်းစေကြောင်း ကောင်းမှု သုံးမျိုးရှိပြီး ဖြစ်ပေသည်။

ပထမကောင်းမှုမှာ ဤသို့သော ဒေသနာတော်တို့ကို သင်ယူခဲ့ခြင်း ဖြစ်၏။ အရှင်မဟာသာရိပုတ္တရာ စသော ဆရာ့ဆရာ သာထက်သာတို့ထံတွင် ကျွန်ုပ်သည် ပရိယတ် ဒေသနာတော်များ သင်ယူခဲ့၏။ ကြားနာခဲ့၏။ အကြေအလည် အပြန်အလှန်ဆွေးနွေးခဲ့၏။ နှုတ်တက်အာဂုံဆောင်ထားခဲ့၏။

ဒုတိယကောင်းမှုကား သောတာပတ္တိဖိုလ်ဖြင့် အရိယာစာရင်း ဝင်ရောက်နေခြင်း ဖြစ်၏။ ကျွန်ုပ်တို့လို အရိယာဉာဏ် အမြင်သန်ပြီးသူများအဖို့ ပဋိစ္စသမုပ္ပာဒ် တရားတော်သည် ပေါ်လွင်ထင်ရှားသည်သာ ဖြစ်ပေသည်။

တတိယ ကောင်းမှုကား ဗဟုသုတ အဖြာဖြာ လေ့လာဆည်းပူးခဲ့ခြင်း ဖြစ်ပေသည်။

ဤသို့သော ကောင်းမှုမျိုးစုံ စုပြုံနေသော သာဝက တစ်ပါးအဖို့ ပဋိစ္စသမုပ္ပာဒ် တရားတော်သည် ခက်ခက်ခဲခဲ ရှိပါဦးမည်လော။

ဘုရားရှင်၏ မိန့်ကြားချက်ဝယ် ဤအသံများ မပါရှိပါ။ အသံအားဖြင့် မပါသော်လည်း သဘောအဓိပ္ပာယ်အားဖြင့် ချီးကျူး၍ ထားပေသည်။

ချီးကျူးမှုကြောင့် ဝမ်းမြောက်ဝမ်းသာဖြစ်ရသည်မှာ ဓမ္မတာအတိုင်းပင် ဖြစ်ပေသည်။ သို့သော် ကျွန်ုပ်၏ ဓမ္မတာသည် ကြာရှည် မတည်တံ့ခဲ့ပါ။ သဘော အဓိပ္ပာယ်အားဖြင့် ချီးကျူးထားသည်ဟု ယူဆရသော ဤမိန့်ကြားချက်ကို တစ်ဖက်က ကြည့်ပြန်သော် ကြိမ်းသံမောင်းသံ အဖြစ်ဖြင့် ကျွန်ုပ် ကြားယောင်လာပါသည်။

ပူဘောမခ အေးမြလှစွာသော နိဗ္ဗာန်တရားတော်မြတ်ကြီးကိုကျွန်ုပ်၏ အစွမ်း သက်သက်ဖြင့် ရခဲ့ခြင်း မဟုတ်ပါ။ ဘုရားရှင် ပေးတော်မူခဲ့သော နည်းနာ

နိဿယကို အရှင်ပုဏ္ဏထံမှကြားနာရ၍ သောတာပန်စခန်း တက်လှမ်းနိုင်ခဲ့၏။ သောတာပန်စခန်း တက်လှမ်းပြီးဖြစ်နေသောကြောင့်ပင် ပဋိစ္စသမုပ္ပာဒ် တရားတော်ကို လွယ်လင့်တကူ သဘောပေါက်ခဲ့၏။ သို့ပါလျက် ကျွန်ုပ်သည် အချက်အချာအကျဆုံးသော ကျေးဇူးတော်ကို ကျော်လွှားကာ ကျေးဇူးရှင်ကြီးရှေ့မှာမှ သွား၍ ကိုယ်ရည်သွေးလိုက်မိ၏။ သည်လို ပုဂ္ဂိုလ်မျိုးမှ မကြိမ်းမောင်းလျှင် မည်သူ့ကို ကြိမ်းမောင်းရပါတော့မည်နည်း။

ကြိမ်းမောင်းစရာ နောက်တစ်ခုလည်း ရှိပါသေးသည်။ အခြားကိစ္စများ၌ ပတ်ဝန်းကျင်မှ ပုဂ္ဂိုလ်များအပေါ် စာနာထောက်ထားမှုပြုလာခဲ့သော ကျွန်ုပ်သည် ဤကိစ္စမှာကား စာနာထောက်ထားမှု မပြုသကဲ့သို့ဖြစ်သွားရ၏။

ခြောက်လတိုင်တိုင် စားကောင်းသောက်ဖွယ်များ စားသောက်၍ အားမွေးထားခဲ့သော လက်ဖွေ့ကျော်သည် အားစမ်းစရာ ကျောက်တုံးကြီးကို အလွယ်တကူနှင့် ပစ်ပေါက်ကစားနိုင်၏။ သို့သော် သူလို ခွန်အားဗလ မပြည့်ဝသူကား ကစားဖို့ နေနေသာသာ မ ရုံမျှပင် မ မနိုင်ပါပေ။

ထို့အတူပင် ဉာဏခွန်အား ကောင်းမွန်သော ကျွန်ုပ်အဖို့ပဋိစ္စသမုပ္ပာဒ် တရားတော် ပေါ်လွင်ထင်ရှားနေသော်လည်း ကျွန်ုပ်လောက် ဉာဏခွန်အား မကောင်းသူများမှာကား တရားသဘောကို ထိုးထွင်းသိဖို့ နေနေသာသာ သရုပ်ကွဲရုံမျှပင် မတတ်နိုင်ကြပေ။ သို့ပါလျက် ကျွန်ုပ်သည် ထိုပုဂ္ဂိုလ်တို့ကို မစာနာဘဲ တစ်ကိုယ်ကောင်းဆန်ဆန် လျှောက်ထားခဲ့မိ၏။ ထို့ကြောင့်....

"အာနန္ဒာ၊ ပဋိစ္စသမုပ္ပာဒ် တရားတော်သည် နက်လည်း နက်နဲလှ၏။ နက်နဲသော အရိပ်အယောင်လည်းရှိ၏။ ဤတရားတော်ကို သုံးပါးသော ပရိညာဖြင့် ပိုင်နိုင်စွာ မသိကြလေသောကြောင့် ဤသတ္တဝါအပေါင်းသည် ရက်ကန်းသည်တို့၏ ချည်ထွေးကဲ့သို့၊ စာပေါင်းသိုက်ကဲ့သို့၊ ဖြူဆံမြက်၊ ပြိန်းမြက်ထုံးကဲ့သို့ ရှုပ်ထွေးကြကုန်လျက် အပါယ်လေးဖြာ သံသရာမှ မလွတ်နိုင်ဘဲ ဝဲလည်၍ နေကြရပေသည်"

ဤသို့ ဘုရားရှင်က ဆက်လက်၍ မိန့်ကြားတော်မူပေသည်။

သိပြီးသူများအဖို့ လွယ်ကူလှသည်ဟု ဆိုနိုင်သော ဤတရားတော်သည် သိခွင့်မကြုံသေးသူများ အဖို့မှာကား သံသရာကြီးနှင့်အမျှ ခက်ခဲ၍ နေရပေသည် တကား။

(သုတ်မဟာဝဂ်၊ မဟာနိဒါနသုတ်ပါဠိတော်နှင့် အဋ္ဌကထာ)

❋❋

# ပန်ခဲ့သော ဆုတစ်ဆု

နေ့စဉ်နှင့်အမျှ ကျေးဇူးတင်၍နေခဲ့ရသော ကျေးဇူးရှင်ကြီးသည် ကျွန်ုပ်ကိုလည်း ပြန်လည်၍ ကျေးဇူးပြုတော်မူပေသည်။ ပယ်လည်းလေးတန် ပန်လည်း လေးခု ဆုရှစ်ခုစလုံးကို အပြည့်အဝ ချီးမြှင့်တော်မူပေသည်။ ပယ်အပ်သော ဆုလေးခု ကြောင့် သဘောထား သေးသိမ်သူအချို့၏ နှုတ်ပြစ်တင်မှုမှ လွတ်လပ်ခွင့်ရခဲ့၏။ ပန်အပ်သော ဆုလေးမျိုးကို ရရှိထားသဖြင့် ကျွန်ုပ်အဖို့ သိလိုရာရာကို အချိန်မရွေး လျှောက်ထားခွင့် ကြုံခဲ့ရ၏။ ဟောတော်မူလေသမျှ တရားတော်များကိုလည်း နာကြားခွင့်ရခဲ့၏။ ထို့ထက်ပို၍ ဝမ်းမြောက်စရာကောင်းသည်ကား ကြည်ညိုသဒ္ဓါ ချဉ်းကပ်လာသော ရဟန်းရှင်လူတို့အတွက် ကျွန်ုပ်က အကျိုးဆောင်ခွင့်ရနေ ခြင်းပေတည်း။ အခါအခွင့်သင့်နေခိုက် ကျွန်ုပ် အကျိုးဆောင်လိုက်ရသော ကိစ္စ တစ်ခုကို တင်ပြရပေဦးမည်။

တစ်ခုသော နံနက်ခင်း၌ သာဝတ္ထိမြို့တော်တွင်းသို့ ဆွမ်းခံဝင်ရာတွင် ဘုရားရှင် နောက်တော်ပါးမှာ ကျွန်ုပ်ပါလာခဲ့၏။ သို့ရာတွင် ဆွမ်းဒါယကာကြီး တစ်ဦးက သိလိုသောအချက်ကို မေးလျှောက်သဖြင့် ကျွန်ုပ် အတန်ငယ် အလှမ်းကွာ နေခဲ့၏။ ထိုအခိုက်တွင် ဆွမ်းခံရဟန်းများစွာ ကျွန်ုပ်ထံ ချဉ်းကပ်လာကြကာ

"အရှင်အာနန္ဒာ၊ ဘုရားရှင့် တရားတော်ကို တပည့်တော်တို့ နာကြားခွင့် မရခဲ့သည်မှာ တော်တော်ကြာခဲ့ပါပြီ။ တောင်းပန်ပါသည်အရှင်အာနန္ဒာ၊ ဘုရားရှင့် ရှေ့တော်မှောက်၌ တရားနာခွင့် ရနိုင်ရန် အကျိုးဆောင်ပေးပါဘိ"

ဤသို့ အားကိုးတကြီး တောင်းပန်ကြ၏။

ဤအခွင့်အရေးကို ရနိုင်ရန် သူတို့ခမျာ ဝေးလံသီခေါင်လှစွာသော တောရွာများမှ တကူးတက လာခဲ့ကြရ၏။ ကုန်းတစ်တန် ရေတစ်တန် ပင်ပန်း ကြီးစွာ လှမ်းလာခဲ့ကြရ၏။ ယမန်နေ့ ညချမ်းအချိန်က သူတို့တစ်တွေ ဇေတဝန် ကျောင်းတော်ရောက်လာပြီး ရွှေမျက်နှာတော်ဖူးမြော်ခွင့် ရကြပါ၏။

"ရဟန်းတို့၊ ကျန်းခံ့သာ မာကြပါ၏လော။ ဆွမ်းရေးကိစ္စ မျှတကြပါ၏လော၊ နေရေးထိုင်ရေး လျောက်ပတ်ကြပါ၏လော"

ဤသို့သော နှုတ်ခွန်းဆက် စကားကိုလည်း ကြားနာခဲ့ကြရပါ၏။ တစ်ရပ်တစ်မြေမှခြေတော်ရင်းသို့ ရောက်လာကြသော ရဟန်းတိုင်းရဟန်းတိုင်း ဤသို့သော နှုတ်ခွန်းဆက်စကားကို ကြားကြရစမြဲ ဖြစ်၏။ မဟာကရုဏာတော် လွှမ်းခြုံထားသော စကားသံများ ကြားကြရသဖြင့် တောရွာနေ ရဟန်းများ အမောပြေကြပါ၏။ အပန်းပြေကြပါ၏။ သို့သော် သူတို့မှာ အားပါးတရ ကျေနပ်လှသော အဆင့်သို့ကား မရောက်သေးပါ။ ရှေ့တော်မှောက် ဝင်ရောက်ခွင့်ရသော်လည်း ကြားနာလိုလှသော တရားတော်ကို မကြားရ၊ မနာရသေးသောကြောင့် ဖြစ်ပေသည်။

မိမိတို့ရပ်ရွာ မိမိတို့ကျောင်းမှ ထွက်လာစဉ်ကပင် ဘုရားဖူးရန် တရားနာရန် ရည်စူးခဲ့ကြ၏။ ရှေ့တော်မှောက်သို့ ရောက်သောအခါ တရားတစ်ကွင်းနားသွင်းလိုပါကြောင်း လျှောက်ထားမည်ဟုလည်း တိုင်ပင်ခဲ့ကြ၏။ သို့သော်လည်း ရှေ့တော်မှောက် ရောက်အလာတွင် သူတို့ စီစဉ်ထားသော စကားလုံးများ ပျောက်ခြင်းမလှ ပျောက်ကုန်၏။ ဘုရားရှင်၏ နှုတ်ခွန်းဆက် စကားများကို အလိုက်သင့် ဖြေကြားရုံမှလွဲ၍ ဘာတရား တစ်ပုဒ်ကိုမျှ မတောင်းဖြစ်ခဲ့ကြပေ။

တောကျေးလက်မှ ရဟန်းတို့၏ ဖြစ်အင်ကို ကောင်းကောင်း သဘောပေါက်ပါသည်။ ကိုယ်ချင်းလည်း စာမိပါသည်။ အခြားတစ်နေရာမှ ရောက်လာသူကို မဆိုထားနှင့်၊ ထံတော်ပါးမှာ မကွေမကွာနေလာခဲ့သော ကျွန်ုပ်ပင်လျှင် အကြောင်းမဲ့သက်သက် ရှေ့တော်မှောက်သို့ မဝင်ဝံ့ပါ။ တစ်စုံတစ်ရာ ပြုဖွယ်ကိစ္စ ရှိပါမှ တစ်စုံတစ်ရာ လျှောက်ထားရန် ရှိပါမှ ဝင်ရောက်ဝံ့ပေသည်။ သို့ဖြစ်၍....

"ကောင်းပါပြီ အရှင်ဘုရားတို့၊ ရမ္မကမည်သော ပုဏ္ဏား၏ ကျောင်းသခ်မ်းသို့ ကြွတော်မူကြပါ။ ထိုကျောင်းသခ်မ်းမှာ အရှင်ဘုရားတို့သည် ဘုရားရှင့်နှုတ်တော်ဖျားမှ တရားတော်ကို ကြားနာကောင်း ကြားနာကြရ ပါလိမ့်မည်ဘုရား"

ကျွန်ုပ်ထံ အားကိုးတကြီးနှင့် တောင်းပန်လာကြသော ရဟန်းတို့အား တရားနာရန် နေရာ သတ်မှတ်ပေးလိုက်ရပေသည်။

"ကြားနာကောင်း ကြားနာကြရပါလိမ့်မည်" ဟု လျှော့လျှော့ပေါ့ပေါ့ လျှောက်ထားသော စကားကိုပင် အသေအချာ ဝန်ခံလိုက်ဘိသကဲ့သို့ တောကျေးလက် ရဟန်းများကျေကျေနပ်နပ်ကြီး လက်ခံကြဘိ၏။ သူတို့တွင်လားဆိုလျှင်တော့ မဟုတ်ပါ။ စကားအရာ လျှော့လျှော့ပေါ့ပေါ့ လျှောက်ထားရင်းက စိတ်ထဲမှာ သေချာပေါက်အဖြစ် သတ်မှတ်ထားလိုက်သူကား ကျွန်ုပ် ကိုယ်တိုင်ပင် ဖြစ်ပေသည်။

ရမ္မကပုဏ္ဏား၏ ကျောင်းသခ်မ်းသည် ဇေတဝန်ကျောင်းတော်ထက် ပုဗ္ဗာရုံကျောင်းတော်နှင့် ပို၍နီး၏။ ယနေ့နံနက်တွင် ဘုရားရှင်သည် ဇေတဝန်ကျောင်းတော်မှ ဆွမ်းခံကြွတော်မူခဲ့၏။ ပုဗ္ဗာရုံကျောင်းတော်သို့ မရောက်ရသေး။ သို့ရာတွင် ကျွန်ုပ်ကတော့ ပုဗ္ဗာရုံကျောင်းတော်သို့ ဧကန်ရောက်တော် မူမည်ကို ကြိုကြိုတင်တင် သိထားရပြီမို့ ထိုနေရာသို့ ချိန်းလိုက်ရပေသည်။

ကြိုကြိုတင်တင် သိမြင်ခြင်းမှာ တစ်စုံတစ်ခုသော စိတ်တန်ခိုးကြောင့် မဟုတ်ပါ။ သူတစ်ပါးစိတ်ကို တပ်အပ်သေချာ သိနိုင်သော စေတောပရိယ အဘိညာဉ်ကို ကျွန်ုပ် မရသေးပါ။ မရသေးဘဲလျက် ဘုရားရှင့်အလိုတော်ကို မည်သို့ သိနိုင်သနည်းဆိုရသော် ဂရုတစိုက် လေ့လာထားသောကြောင့်ဟု ဖြေရပါလိမ့်မည်။

ဤနေ့နံနက် ဆွမ်းခံထွက်တော်မူခါနီးတွင် ဘုရားရှင်သည် အိပ်ရာခင်းများကို သိမ်းဆည်းလိုသော အမူအရာကို ပြတော်မူခဲ့၏။ ဤသို့ပြခြင်းသည် ဤနေ့အဖို့ ဤကျောင်းတော်မှ ပုဗ္ဗာရုံ ကျောင်းတော်သို့ ပြောင်းရွှေ့တော်မူဦးမည့် သဘောပင် ဖြစ်၏။ ထို့ကြောင့် ကျွန်ုပ်သည် ဆွမ်းခံမထွက်မီကပင် တံမြက်စည်း၊ အမှိုက်တောင်း စသော ပစ္စည်းများကို သိမ်းဆည်း၍ ထားခဲ့ပေပြီ။

အခြားခြားသော နေရာများမှာလည်း ဘုရားရှင့် အလိုတော်ကို ဤသို့ပင် ထောက်ဆ၍ သိရပေသည်။ တစ်ခါတစ်ရံ ဘုရားရှင်သည် စောစီးစွာ ထ၍ ကိုယ်လက် သုတ်သင်ကာ ဂန္ဓကုဋိတိုက်တံခါးကို ပိတ်တော်မူ၍ ဖလသမာပတ် ဝင်စား၍ နေတော်မူ၏။ ဤနေ့တွင် ဘုရားရှင်သည် ခြွေချွတ်ထိုက်သော ဝေနေယျ ပုဂ္ဂိုလ် တစ်စုံတစ်ယောက်ကို မြင်တော်မူ၍ တစ်ပါးတည်း ဆွမ်းခံကြွတော်မူမည် ဖြစ်၏။ ဤတွင် ကျွန်ုပ်က....

"ငါ့ရှင်တို့၊ ယနေ့ ဘုရားရှင်သည် တစ်ပါးတည်း ဆွမ်းခံကြွတော်မူ လိမ့်မည်။ သင်တို့သည် မိမိဘာသာ ဆွမ်းခံကြွရန် စီစဉ်ကြကုန်လော့"

ဘုရားရှင်နှင့်အတူ ဆွမ်းခံလိုက်ရန် စောင့်ဆိုင်းနေကြသော ရဟန်းများ အား အကြောင်းကြားခဲ့ရ၏။

တစ်ခါတစ်ရံ ဘုရားရှင်သည် ဂန္ဓကုဋိတိုက်တံခါးကို တစ်ဝက်မျှသာ ပိတ်ကာ ဖလသမာပတ် ဝင်စား၍ နေတော်မူ၏။ ထိုနေ့မှာကား ရဟန်းအပေါင်း ခြံရံလျက် ဆွမ်းခံထွက်တော်မူမည် ဖြစ်၏။ ဤတွင် ကျွန်ုပ်သည် ရဟန်းတို့အား သပိတ် သင်္ကန်းများ အရန်သင့်ပြင်ဆင်ထားကြရန် အချက်ပြ၍ လျှောက်ထား ခဲ့ရ၏။

တစ်ခါတစ်ရံ ဘုရားရှင်သည် ခါတိုင်း ဘုဉ်းပေးနေကျထက် တစ်လုတ် တန်သည်၊ နှစ်လုတ်တန်သည် ပို၍ ဘုဉ်းပေးတော်မူ၏။ သို့တည်းမဟုတ် စကြံ

လမ်းပေါ်မှာ အပြန်အလှန်စကြံကြွ၍လည်း နေတော်မူ၏။ ထိုနေ့တွင် ဒေသစာရီ လှည့်လည်တော်မူတော့မည်ဖြစ်၍ ကျွန်ုပ်က ရဟန်းများကို အသိပေးခဲ့ရပေသည်။

ထံတော်ပါးမှာ အနေကြာလာသည်နှင့်အမျှ ဘုရားရှင့် အလိုတော်များကို ကျွန်ုပ် ခွဲခြမ်း ဝေဖန်တတ်လာပေသည်။ ဤသို့ ခွဲခြား ဝေဖန်တတ်၍ပင် တောကျေးလက် ရဟန်းတို့အား ကြိုကြိုတင်တင် ချိန်းလိုက်ရခြင်း ဖြစ်ပေသည်။

ချိန်းထားသည်နှင့် ကာရန်တသင့်ပင် ဖြစ်လာပါသည်။ ဆွမ်းကိစ္စ ပြီးစီး ချိန်တွင် ဘုရားရှင်နှင့် ကျွန်ုပ်တို့သည် ဇေတဝန် ကျောင်းတော်မှသည် ပုဗ္ဗာရုံ ကျောင်းတော်သို့ လှမ်းလာကြပြီး မိမိတို့တိုက်ခန်းမှာ အပန်းဖြေ လဲလျောင်းနေခဲ့ ကြပေသည်။ နေညိုညို ညနေချမ်းတွင် ကျွန်ုပ် မျှော်လင့် ထားသော မိန့်ကြားသံကို ကြားလိုက်ရပေတော့သည်။

"အာနန္ဒာ၊ ငါဘုရား ရေသုံးသပ်လိုသည်။ ပုဗ္ဗကောဋ္ဌက ရေချိုးဆိပ်သို့ သွားကြစို့"

ဤသို့ မိန့်ကြားသံ မကြားရမီကပင် ရေသနုပ် သင်္ကန်းကို အရန်သင့် ပြင်ဆင်ထားပြီးပါပြီ။

အစိရဝတီမြစ်သည် သာဝတ္ထိမြို့တော်ကို ကွေ့၍ ဝိုက်၍ စီးဆင်းလျက် ရှိ၏။ ပုဗ္ဗကောဋ္ဌကရေချိုးဆိပ်သည် ထိုမြစ်ထဲသို့ ပြေပြေကလေး နိမ့်ဆင်း၍ သွား၏။ ရှေးလူကြီးများ ပြောစကားအရ ဤရေချိုးဆိပ်သည် ကဿပ ဘုရားရှင် လက်ထက်တော်က ကျယ်ဝန်းလှစွာသော ကျောင်းတော်ကြီး၏ အရှေ့ဘက် တံခါးမုခ်နေရာ ဖြစ်ခဲ့ဖူး၍ ဤအမည်တွင်နေခဲ့သည် ဟူ၏။

သားစဉ်မြေးဆက် ပြောစားလောက်အောင်ပင် ဤရေချိုးဆိပ်ကလည်း တင့်တောင့်တင့်တယ် ရှိပါဘိ၏။ သောင်ပြင်ထက်ဝယ် ငွေသဲဖြူများ ဖြန့်ကြဲ လျက်ရှိ၏။ မြစ်ရေသည် ဤနေရာ၌ အရှိန်ပြင်းပြင်းနှင့် စီးဆင်း မနေပေ။ ရေစီးကြောင်းနှင့် အလှမ်းကွာသဖြင့် စီးသည့်ရေသည် စီးသည်ဆိုရုံမျှ စီးနေ၏။ ရေသည် ကမ်းစပ်မှ တဖြည်းဖြည်း နက်ရှိုင်းသွား၏။ ဤရေချိုးဆိပ်ကို ဘုရားရှင် အသုံးပြုနေကျ ဖြစ်မှန်းသိ၍ မြို့သူမြို့သားများ မလာ မရောက်ကြပေ။

ငွေသောင်သဲပြင်ပေါ် အရောက်တွင် ကျွန်ုပ်သည် အသင့်ပါလာသော ရေသနုပ်သင်္ကန်းကို ဘုရားရှင်ထံ ကမ်းလင့်လိုက်၏။ ဘုရားရှင် ဝတ်ရုံမြဲ သင်္ကန်း များကို လှမ်းယူလိုက်၏။ ထိုမှ တပြီးကား ကျွန်ုပ်အဖို့ မဟာလာဘ်ကြီး တိုက်လာ သည်ဟု ဆိုရပါတော့မည်။

နေဝန်းနီနီကြီးသည် အနောက်ဘက် ကောင်းကင်တစ်ခွင်လုံးကို လိမ္မော် ရည်များ ဖျန်းပေးလျက်ရှိ၏။ လိမ္မော်ရည်များသည် အနောက်ဘက် ကောင်းကင်မှ

တစ်ဆင့် ငွေသောင်ပြင်ထက်သို့ စီးဆင်းလာကြ၏။ နဂိုတုန်းက သဲငွေသောင်သည် ယခုတော့ ရွှေရောင်တောက်၍ လာပေပြီ။

ရွှေရောင်တောက်သော သဲသောင်ပြင်သည် ရေစပ်မှာ ငုပ်ဆင်းသွား၏။ တဖြူးဖြူး တောင်လေကြောင့် မြစ်ရေပြင်ထက်တွင် လှိုင်းဂယက်များ တဖျပ်ဖျပ် မြူး နေကြ၏။ တဖျပ်ဖျပ်မြူးနေကြသော လှိုင်းဂယက်များတွင် ရွှေရောင်တလျှပ်လျှပ် ထင်ဟပ်နေကြ၏။ ဤရွှေရောင်သည် အဘယ်က ထင်ဟပ်၍လာပါသနည်း။

ဤရွှေရောင်သည် နေရောင်နှင့် မကင်းပါ။ သို့သော် နေရောင်လည်း မဟုတ်ပါ။ သောင်ပြင်ထက်မှ ဖြာထွက်လာသော ရွှေရောင်သက်သက်ဖြင့် ဤမျှ လောက် တောက်ပရန်မရှိပါ။ သို့ပါလျက် ရေကြည်ကြည်သည် သွင်သွင်ဒီးဒီး ရွှေရည်စီးသကဲ့သို့ ဖြစ်နေဘိ၏။ အကြောင်းမည်သို့ ရှိပါသနည်း။

ရွှေအဆင်းသို့ ဝါဝင်းသည်ဖြစ်၍ ရေနှင့်နေနှင့် ပန်တင့်လှသော ကိုယ်တော်မြတ်ကို ကျွန်ုပ်သည် တစိမ့်စိမ့် ဖူးမြော်နေမိ၏။ တစိမ့်စိမ့်ဖူးမြော်ရင်း တသိမ့်သိမ့် ကြည်နူးနေမိ၏။ ကျွန်ုပ်၏ တစ်သက်တာတွင် ကြိမ်ဖန်များစွာ ဖူးမြော်ခဲ့ရပါလျက် ဖူး၍ မြော်၍ မဝနိုင်သော ရူပါရုံတစ်ခုပါပေတည်း။

ဖူးမြော်၍ မဝနိုင်သော ရူပါရုံသည် ရေထဲမှ သဲပြင်ပေါ်သို့ ပြန်ကြွတော်မူ လာ၏။ ဤတွင် ကျွန်ုပ်သည် ပွေ့ပိုက်ထားသောသင်းပိုင်ကို အရှင်မြတ်ထံ ကမ်းလင့် လိုက်၏။ အရှင်မြတ်ထံမှ ရေသနုပ်သင်္ကန်းကို လှမ်းယူ၍ ရေစင်စင်ညှစ်ကာ ပခုံးပေါ်မှာ အလိပ်လိုက် တင်ထားပြီးမှ ခါးပန်းကြိုးကို ကမ်းလင့်လိုက်ရ၏။ လျှပ်ပန်းနွယ်ကဲ့သို့ တင့်တယ်သော ခါးပန်းကြိုးကို နေရာတကျ ပတ်တော်မူပြီး ချိန်တွင် ဘုရားရှင်သည် ဧကသီကို ချက်ချင်း ရုံတော်မမူသေးဘဲ ကိုယ်ရေစစ်သွား အောင် အတန်ကြာ စောင့်ဆိုင်း၍ နေတော်မူ၏။ ထိုတစ်ခဏ ဖူးမြင်ရသော ရူပါရုံသည် ရေထဲမှာတုန်းကကဲ့သို့ပင် သပ္ပာယ်လှပါဘိ၏။ ထိုစဉ်အခိုက်မှာ ကျွန်ုပ် သည် နံနက်က ချိန်းထားခဲ့သည့် ကိစ္စကို စတင် ဆောင်ရွက်လိုက်ရပေသည်။

"အရှင်ဘုရား၊ မနီးမဝေးမှာ လှမ်းမြင်နေရသော အဆောက်အအုံသည် ရမ္မကပုဏ္ဏား၏ သခ်မ်းကျောင်း ဖြစ်ပါသည်။ ရမ္မကပုဏ္ဏား၏ သခ်မ်းကျောင်း သည် မွေ့လျော်ဖွယ် ဖြစ်ပါသည်။ တင့်တောင့်တင့်တယ် ရှုချင်စဖွယ် ဖြစ်ပါသည်။ သခ်မ်းကျောင်းမှာ စုဝေးနေကြသော ရဟန်းတို့အား သနားသောအားဖြင့် ထိုသခ်မ်းကျောင်းသို့ ဘုရားရှင် ကြွချီတော်မူပါဘုရား"

ကျွန်ုပ်၏ လျှောက်ထားချက်ကို ဘုရားရှင် လက်ခံတော်မူပေသည်။ လက်မခံလိုသော ကိစ္စကို နှုတ်မြွက်၍ ပယ်တော်မူကာ လက်ခံရန် ဖြစ်လျှင်ကား ဤကဲ့သို့ပင် ဆိတ်ဆိတ်နေတော်မူမြဲ ဖြစ်ပေသည်။

ကျွန်ုပ်တို့ ရောက်ရှိချိန်တွင် သခ်မ်းကျောင်းတံခါးပိတ်လျက် ရှိနေ၏။ ကျောင်းထဲက တရားဆွေးနွေးသံကို အတိုင်းသား ကြားနေရ၏။ ရဟန်းတို့၏ စကားသံ ပြတ်သွားအောင် စောင့်ဆိုင်းပြီးခါမှ ဘုရားရှင်သည် ချောင်းဟန့်၍ တံခါးခေါက်တော်မူ၏။ ဤတွင်မှ ရဟန်းများက ကပျာကယာ တံခါးဖွင့်၍ ကြိုဆိုကြပေသည်။ အားရဝမ်းသာ ရှိခိုးပူဇော်ကြပေသည်။

ဘုရားရှင်သည် ခင်းထားသောနေရာမှာ ထိုင်တော်မူ၍ အာလာပသလ္လာပ စကား မြွက်ကြားတော်မူပြီးလျှင်....

"ရဟန်းတို့၊ မြင့်မြတ်သော ရှာမှီးခြင်း၊ ယုတ်နိမ့်သော ရှာမှီးခြင်း ဟူ၍ ရှာမှီးခြင်း နှစ်မျိုးရှိ၏။ ရဟန်းတို့၊ ယုတ်နိမ့်သော ရှာမှီးခြင်းဟူသည် အဘယ်နည်း"

ဤသို့သော ကထေတုကမျတာပုစ္ဆာဖြင့် စတင်လျက် တရားတစ်ပွဲ ဆင်နွဲတော်မူပေသည်။

"ရဟန်းတို့၊ ဤလောကဝယ် အချို့သောသူတို့သည် မိမိကိုယ်တိုင် ဇာတိသဘော ရှိနေပါလျက် မိမိကိုယ်တိုင် အို-နာ-သေ သဘောရှိနေပါလျက် မိမိကိုယ်တိုင် ပူဆွေးခြင်း၊ ညစ်နွမ်းခြင်း သဘောရှိနေပါလျက် ထိုသဘော ရှိသော တရားကို ရှာမှီးကြ၏"

"ရဟန်းတို့၊ ဇာတိသဘောရှိသော အို-နာ-သေ သဘောရှိသော၊ ပူဆွေးခြင်း၊ ညစ်နွမ်းခြင်း သဘောရှိသော တရားဟူသည် အဘယ်နည်း။

"ရဟန်းတို့၊ သားမယားနှင့် သက်ရှိသက်မဲ့ စီးပွားဥစ္စာတို့သည် ဇာတိ သဘော၊ အို-နာ-သေ သဘော၊ ပူဆွေးခြင်း၊ ညစ်နွမ်းခြင်း သဘောရှိသော တရားတို့ ဖြစ်ကြ၏။ ဤတရားတို့၌ မက်မောစွဲတွေဝေ၍ကပ်ငြိ၍နေခြင်းဖြင့် ထိုတရားတို့ကို ရှာမှီးကြ၏"

အမျှော်ကြီး မျှော်လာခဲ့ရသော ရဟန်းများအဖို့ မျှော်ရကျိုးနပ်သော တရားတော်များ ဖြစ်ပါ၏။ ဤတရားတော်အရ ကျွန်ုပ်တို့ ရရှိထားသော ရုပ်နာမ် ခန္ဓာနှင့် ကျွန်ုပ်တို့ နေ့စဉ်နှင့်အမျှ ရှာမှီး၍ စုဆောင်း၍ထားလေသမျှသည် ဇာတိဓမ္မ စသည်တို့သာ ဖြစ်ကုန်၏။ သို့သော် ထိုတရားတို့ကို လက်ခံထားရုံမျှဖြင့် ယုတ်ညံ့သောရှာမှီးခြင်းဖြစ်ပြီဟု ဘုရားရှင် မိန့်တော်မူသည် မဟုတ်ပါ။ ထိုတရားတို့ အပေါ်မှာ မက်မက်မောမော၊ မူးမူးမေ့မေ့ သဘောတွေ့ မနောခွေ၍နေခြင်းကိုမှ ယုတ်ညံ့သော ရှာမှီးခြင်းဟု မိန့်မြွက်တော်မူပေသည်။ တစ်နည်းအားဖြင့် ရှာဖွေ၍ ရရှိထားသော ပစ္စည်းများကို သုံးရုံသုံးလျှင် အယုတ်စာရင်းထဲမပါ။ သုံးရုံနှင့် မကျေနပ်ဘဲ သုံးရုံတွင် မရပ်တန့်ဘဲ စွဲလမ်းလာပါမှ အယုတ်စာရင်းထဲ ပါဝင် ရပေသည်။

ဤသို့ ယုတ်ညံ့သောရှာမှီးခြင်းကို ဖွင့်ဆိုတော်မူပြီးနောက် ဆက်လက်၍–

"ရဟန်းတို့၊ မြင့်မြတ်သော ရှာမှီးခြင်းဟူသည် အဘယ်နည်း။ ရဟန်းတို့၊ ဤလောကဝယ် အချို့သောသူတို့သည် ဇာတိသဘော အို–နာ–သေ သဘော၊ ပူဆွေးခြင်း၊ ညစ်နွမ်းခြင်းသဘော ရှိသော ရုပ်နာမ် ခန္ဓာတို့၏ အပြစ်ကို ပြက်ပြက်ထင်ထင် သိမြင်ကာ ထိုသဘောတို့မှ လွတ်ရာငြိမ်းရာ နိဗ္ဗာန်တရားကြီးကို ရှာမှီးကြ၏။ နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်ကြောင်း နည်းကောင်း လမ်းမှန်အတိုင်း ကျင့်သုံးကြ၏။ ဤသို့သော ရှာမှီးခြင်းသည် မြင့်မြတ်သော ရှာမှီးခြင်း ဖြစ်ပေသတည်း"

ဤသို့သော ရှာမှီးခြင်း နှစ်မျိုးကို ပိုမိုထင်ရှားစေရန် ဘုရားရှင်က မိမိ၏ဘဝဖြစ်စဉ်နှင့် ယှဉ်စပ်၍ ဟောတော်မူ၏။ ကပိလဝတ္ထု နန်းတော်ထက်မှာ ကာမဂုဏ် အာရုံများ ခံစားနေခြင်းနှင့် အနော်မာသောင်ယံသို့ ထွက်ခွာလာခဲ့ခြင်းများသည် ရှာမှီးခြင်း နှစ်မျိုး၏ စံနမူနာများ ဖြစ်ကြပေသည်။ ထို့နောက် ကာမဂုဏ်ငါးပါး မလိုက်စားရေး တရားတော်များ ဆက်လက်၍ ဟောကြားတော်မူပေသည်။

ခက်လက် ဝေဆာသော ဒေသနာတော်ကို ကြားနာရသဖြင့် တောကျေးလက်မှ ရဟန်းများ အားပါးတရ သာဓုခေါ်ကြ၏။ ထို့အတူပင် ကျွန်ုပ်၏ ဘဏ္ဍာတိုက်မှာလည်း ရတနာ ကျောက်မျက်ရွဲများ တိုးလာသဖြင့် ဝမ်းမြောက်ဝမ်းသာ သိမ်းဆည်း၍ ထားလိုက်ရပေသည်။

(မူလပဏ္ဏာသ၊ ပါသရာသိသုတ်ပါဠိတော်နှင့် အဋ္ဌကထာ)

**

# နောင်တော်မြတ်၏ မြတ်စံနမူ

ကျွန်ုပ်၏ စိတ်နှလုံးကို ရွှင်ပြုံးစေတတ်သော အို သူတော် သူမြတ် အပေါင်းတို့၊ ကျွန်ုပ်၏ တစ်သက်တာမှတ်တမ်း ဇာတ်လမ်းရှည်ကြီးကို မည်းမည်းမည်း နာယူလာကြရာတွင် ယခု အလယ်ပိုင်းသို့ ရောက်နေပါပြီ။ ရှင်တော်မြတ်၏ နောက်တော်ပါးဝယ် အရိပ်သဖွယ် လိုက်ပါ၍ ပြုစုရပုံများကို ကြားနာကြရပါပြီ။ ဤသို့ နီးနီးကပ်ကပ်နေ၍ ပြုစုလုပ်ကျွေးရင်း အတုမရှိ မြင့်မြတ်လှသော နောင်တော်၏ အတုမရှိ မြင့်မြတ်လှသော စံနမူနာတို့ကို တစ်ခုပြီး တစ်ခု တွေ့လာ ရပါသည်။ ကျွန်ုပ် တွေ့ရ မြင်ရ ခံစားရသမျှကို ကျွန်ုပ်၏ ပရိသတ်များထံ ယခု လက်ဆင့်ကမ်းပါတော့မည်။ ဤစံနမူနာများကို တွေ့ရ ကြုံရစဉ်က ကျွန်ုပ်၏ စိတ်နှလုံး ရွှင်ပြုံးကြည်နူးရသကဲ့သို့ပင် ကျွန်ုပ်၏ ပရိသတ်များလည်း အားရဝမ်းသာ ဖြစ်ကြရပါလိမ့်မည်။

မြင့်မြတ်လှသော စံနမူနာထဲမှ ဦးစွာပထမ ထုတ်ဖော်လိုသည်မှာ တရားတော်ကို ရိုသေလေးစားခြင်း ဖြစ်ပေသည်။

ထိုနေ့ညက ဇေတဝန်ကျောင်းတိုက်အတွင်းက ဆွမ်းစားကျောင်းပေါ်မှာ အရှင်နန္ဒက၏ တရားပွဲ ဖြစ်ခဲ့ပါသည်။ သကျကောလိယ နှစ်ဌာနမှ ဘိက္ခုနီအရှင်မငါးရာကို ကျွတ်တမ်းဝင်အောင် ဟောကြားတော်မူခဲ့သော အရှင်နန္ဒကကို ကျွန်ုပ်၏ ပရိသတ်များ ကောင်းကောင်းကြီးအမှတ်ရကြဦးမည် ထင်ပါသည်။ မှန်ပါသည်။ ဤညတရားပွဲမှာလည်း ဓမ္မကထိက အကျော်အမော် ထိုအရှင်နန္ဒက၏ အလှည့် ဖြစ်ပေသည်။

ဆောင်းတွင်းကာလဖြစ်၍ ဆွမ်းစားကျောင်းမှ တံခါးပေါက်များ အားလုံးကို ပိတ်ထားကြ၏။ ထိုတံခါး၊ ထိုနံရံတို့သည် ဆောင်းလေအေး ကိုသာ ကာကွယ်၍ ပေးနိုင်၏။ အရှင်နန္ဒက၏ အသံကိုကား လုံခြုံအောင် ဖုံးကွယ်၍ မထားနိုင်ကြပါ။

တံခါးပိတ်ထားသည့် ကြားကပင် အရှင်နန္ဒက၏ အသံများက ဂန္ဓကုဋိတိုက်တော် အထိ ပျံ့လွင့်လာ၏။ ပျံ့လွင့်လာလေသမျှသည် အသံမည်ကာမတ္တ မဟုတ်ပါ။ ကြည်ကြည်မြမြ၊ ပီပီသသကြီးပင် ကြားကြရပေသည်။

"အာနန္ဒာ၊ တရားဟောသံသည် ချိုမြိန်လှပါတကား။ ငါတို့လည်း တရားနာ သွားကြစို့"

တရားပွဲစတင်၍ မကြာမီမှာပင် ဘုရားရှင် မိန့်တော်မူလိုက်၏။ တရား တော်၏ အရှင်သခင်သည်ပင် ချိုမြိန်လှသော တရားသံကို လျစ်လျူရှုတော် မမူပါ ချေတကား။

ဆွမ်းစားကျောင်းဆီသို့ ဘုရားရှင်နှင့် ကျွန်ုပ်တို့ လျှောက်လာကြရာ နီးလာသည်နှင့်အမျှ အသံများက ပိုမို၍ ပီသလာကြ၏။ ပိုမို၍ ကြည်မြလာ ကြ၏။ ဤတွင် ဘုရားရှင်သည် ပီပီသသ၊ ကြည်ကြည်မြမြ ကြားနာရသော တရားပွဲ ရပ်စဲသွားမှာ စိုးဟန်တူပါသည်။ ဆွမ်းစားကျောင်း တံခါးကိုခေါက်၍ အဖွင့်မခိုင်းသေးဘဲ တံခါးပြင်ဘက်မှာ ရပ်တော်မူနေပေသည်။ တရားပွဲပြီးမှ ဝင်တော့မည့်ဟန် တူပါသည်။

ဆောင်းတွင်းကာလမို့ မြောက်လေအေးကလည်း တသုန်သုန်တိုက်နေ၏။ တံစက်ကြောင်းမှနှင်းပေါက်များကလည်း တဖြောက်ဖြောက်ကျလျက် ရှိနေ၏။ သို့ပါလျက် ကျွန်ုပ်တို့မှာ အချမ်းဒဏ်ကို ကြီးကြီးကျယ်ကျယ် မခံစားရပါ။ မိုးသီး မိုးပေါက် ရွာချသည့်ပမာ ဝေဝေဆာဆာ ဟောတတ်လှသော အရှင်နန္ဒက၏ တရားသံများက ကျွန်ုပ်တို့ကို ထွေးပိုက်ထား၍ ဖြစ်ပေသည်။

တရားသံမှာ စိတ်ဝင်စားနေ၍ ကျွန်ုပ်၏ ကိုယ်မှာ အချမ်းသက်သာ သည်ကားမှန်ပါ၏။သို့သော် နောင်တော်မြတ်ကိုကား သည်အတိုင်းအချမ်းခံ၍ မနေစေလိုပါ။ ငယ်ရွယ်စဉ်မင်းသားဘဝတုန်းကသက်သောင့်သက်သာနေလာ ခဲ့ရသည်မို့ အချမ်းဒဏ် မခံနိုင်မည်ကို ကျွန်ုပ် စိုးရိမ်မိပါသည်။ ထို့ကြောင့်....

"အရှင်ဘုရား၊ ပထမယံ ကုန်ဆုံးသွားပါပြီ။ အနည်းငယ်မျှ အပန်းဖြေ တော်မူပါဦး" ဟု လျှောက်ထားရ၏။ အထဲက တရားပွဲကို အနှောင့်အယှက် ဖြစ်မသွားစေလို၍ အသံထွက် လျှောက်ထားခြင်းကား မဟုတ်ပါ။ အမူအရာဖြင့် အသိပေးရုံသာ ပြုရပေသည်။ သို့သော် ဘုရားရှင်ကတော့ ရပ်မြဲ ရပ်လျက်သာ ရှိတော်မူ၏။ တရားသံကို နာမြဲ နာတော်မူနေ၏။

ဤသို့ဖြင့် သန်းခေါင်ယံ ကျော်လာခဲ့၏။ ဤမျှကြာအောင် နာရပါလျက် အရှင်နန္ဒက၏ တရားသံကို ကျွန်ုပ် ငြီးငွေ့မသွားသေးပါ။ လေတိုက်ထဲက နာရသူများပင် မငြီးငွေ့လျှင် အတွင်းက ပုဂ္ဂိုလ်များအတွက်ကား ဆိုစရာရှိမည်

မဟုတ်ပါ။ ည တရားပွဲသာ မဟုတ်လျှင် သူ့ပရိသတ် ရဟန်းမများလည်း အားပါး တရ နာယူကြပေလိမ့်မည်။

သန်းခေါင်ယံ ကုန်ဆုံး၍ ကျွန်ုပ် လျှောက်ထားသည်ကိုလည်း ဘုရားရှင် ဂရုစိုက်တော်မမူပါ။ လေဒဏ်၊ နှင်းဒဏ်ထက် တရားသံကိုသာ ပိုမို၍ အာရုံ စိုက်တော်မူလျက် ရှိပါသည်။ ဟောသည့် ပုဂ္ဂိုလ်ကလည်း ဟောနိုင်ပါပေ့။ နာသည့် ပုဂ္ဂိုလ်ကလည်း နာနိုင်ပါပေ့ ဟုသာ ဆိုရပါတော့မည်။ သုံးကြိမ်မြောက် ကျွန်ုပ် လျှောက်ထားလိုက်ချိန်မှာကား အရှေ့လောကဓာတ်က ရောင်နီသန်း လာပါပြီ။ ဤတွင်မှ အတွင်းက တရားချသံလည်း ကြားရပါသည်။ သည်တော့မှ ဘုရားရှင်ကလည်း တံခါးခေါက်လိုက်ပါသည်။

"နန္ဒက၊ သင့်တရားက ရှည်လှပါတကား။ သင့်တရားချသံ စောင့်ဆိုင်း နေရ၍ ငါဘုရား ခါးအောင့်လှချေပြီ"

ဆွမ်းစားကျောင်းအတွင်း ခင်းထားသော နေရာမှာ ထိုင်တော်မူမိသည် တွင် ဤသို့ မိန့်တော်မူလိုက်၏။ ဤစကားများသည် တရားရှည်၍ အပြစ်တင်ခြင်း မဟုတ်ဘဲ ချီးမြှောက်တော်မူခြင်းသာ ဖြစ်၏။ ပြုံးပြုံးကြီး မိန့်တော်မူပုံကို ထောက်၍ ရဟန်းအားလုံး သဘောပေါက်ကြပါ၏။ သို့သော် အချီးမွမ်းခံရသော အရှင်နန္ဒကမှာကား ရှက်စနိုးဖြစ်သွားကာ

"တံခါးပြင်ဘက်တွင် ဘုရားရှင် ရှိနေမှန်းသိပါက ဤမျှလောက် ဟောပြ ဝံ့မည် မဟုတ်ပါဘုရား" ဟု လျှောက်ထားရပေသည်။

**(အင်္ဂုတ္တရ၊ နဝကနိပါတ်၊ နန္ဒကသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)**

မိမိက စတင်၍ ဟောကြားခဲ့သော တရားတော်ကို ရိုသေလေးစားစွာ ကြားနာခဲ့သော ဘုရားရှင်သည် မိမိကိုယ်တိုင် မွေးထုတ်ထားခဲ့သော ရဟန်း သံဃာ တော်များကိုလည်း လေးစားစွာပင် ဆက်ဆံတော်မူပေသည်။

ထိုနေ့ကား သီတင်းကျွတ်လပြည့် ဥပုသ်နေ့ ဖြစ်၏။ သံဃာတော်များ၏ ပဝါရဏာကံ ဆောင်ရသောနေ့လည်း ဖြစ်၏။ မသင့်မလျော်သော အမှုပြုနေ သည်ကို ကိုယ်တိုင် မြင်သော်လည်းကောင်း၊ တစ်ဆင့်စကား ကြားရသော်လည်း ကောင်း၊ ယုံမှားသင်္ကာ ရှိသော်လည်းကောင်း ပြောဆို ဆုံးမကြပါဟု သံဃာတော်များ အချင်းချင်း ဖိတ်ခေါ်ခြင်းကို ပဝါရဏာဟု ခေါ်ရပေသည်။

ပဝါရဏာ ပြုရာဌာနကား ပုဗ္ဗာရုံကျောင်းတိုက်အတွင်း ဓမ္မာရုံမှာ ဖြစ်၏။ တစ်နေ့တာကာလ ကိုယ့်တရားနှင့်ကိုယ်၊ ကိုယ့်နေရာနှင့်ကိုယ် လွတ်လပ်စွာ နေခဲ့ကြသော သံဃာတော်များသည် ယခု ညဥ့်ဦးယံမှာကား သံဃာ့ကိစ္စဖြင့် စုဝေး လာကြရပေပြီ။ သံဃာစည်းဝေးရာ ဓမ္မာရုံထဲဝယ် နေရောင်ခြည် အကြွင်းအကျန်

များ တစ်စတစ်စနှင့် မှေးမှိန်ကွယ်ပျောက်၍ သွားကြ၏။ သို့သော် ဆီမီးညှိထွန်းရန်ကား မလိုပါ။ နေရောင်ခြည်များ နေရာတွင် လရောင်များ ဝင်လာ သောကြောင့် ဖြစ်ပါသည်။ ဖြူစင်အေးမြသော လရောင်များသည် ကြည်လင်အေးမြကာ မျက်နှာတော်ကို ပွေ့ဖော်ဖျန်းပက်၍ နေကြပါသည်။

"ရဟန်းတို့....."

အရှေ့လောကဓာတ်မှ လမင်းကြီးနှင့် ဓမ္မာရုံထဲမှ လမင်းကြီးတို့ကို နှိုင်းယှဉ်သုံးသပ်နေဆဲဝယ် လရောင်တမျှ အေးမြချိုသာသော အသံတော် ထွက်ပေါ်လာပေသည်။

"သင်တို့ကို ယခု ငါဘုရား ဖိတ်ကြားလိုက်ပါသည်။ ငါ ဘုရား၏ ကာယကံ၊ ဝစီကံတို့၌ ကဲ့ရဲ့ရှုတ်ချဖွယ်များ သင်တို့ တွေ့မိ မြင်မိကြပါသလား။ အကယ်၍ တွေ့မိ မြင်မိကြလျှင် ပြောရန်ဆိုရန် ဝန်မလေးကြနှင့်။ ရဟန်းအချင်းချင်းကို ပြောဆိုသကဲ့သို့ ငါဘုရားကိုလည်း သင်တို့ ပြောခွင့်ဆိုခွင့် ရှိကြပေသည်"

သံဃာတော်များ ပဝါရဏာပြုပြီးပြီမို့ ဘုရားရှင်က မိမိအတွက် မိန့်ကြားတော်မူလိုက်ပေသည်။ ဤသာသနာတော်ကြီး တစ်ခုလုံးကို တည်ထောင်ထားသူဖြစ်ပါလျက် "ငါကသာ ပြောမည်၊ ငါကသာဆိုမည်၊ လက်အောက် ငယ်သားများက ငါ့ကို ပြောရန်ဆိုရန် မလို" ဟု သဘောထားတော် မမူပါ။ သာသနာ့ဝန်ထမ်းအားလုံးအား မိမိနှင့် ထပ်တူထပ်မျှ ပြောရေးဆိုခွင့် ပေးထားတော်မူပေသည်။

ဤတွင် ဘုရားရှင်၏ ဖိတ်ကြားချက်ကို ပြန်လည်သုံးသပ်ရန်ရှိပါသည်။ ကာယကံ၊ ဝစီကံ၊ မနောကံဟူ၍ ကံသုံးပါးရှိသည့်အနက် ကာယကံနှင့် ဝစီကံအတွက်သာ ပြောဆိုကြရန် ဖိတ်ကြားတော်မူခဲ့၏။ မနောကံကိုကား ချန်ထားခဲ့၏။ မနောကံအတွက် အဝေဖန် မခံရဲ၍များ ချန်ထားခဲ့လေသလား။ ဤကား မကြည်ညိုသောသူတို့ မေးခွင့်ရှိသော မေးခွန်းမျှသာ ဖြစ်ပါသည်။ မေးခွင့်ရှိ၍ မေးလာကြလျှင်လည်း ဤကျွန်ုပ်တို့ဘက်က ဖြေကြားရန် အသင့်ရှိပါသည်။ ဘုရားရှင်က မနောကံကို ချန်ထားသည်မှာ အဝေဖန် မခံရဲ၍ မဟုတ်ပါ။ ကာယကံဖြောက်၊ ဝစီကံဖြောက် ဖြစ်မလာလျှင် မနောကံ သက်သက်ကို ဘေးပုဂ္ဂိုလ်များ မသိနိုင်သောကြောင့် ဖြစ်ပါသည်။ မသိနိုင်သော မနောကံအတွက် ပြောရန်ဆိုရန် မရှိနိုင်၍ ချန်ထားခဲ့ခြင်းသာ ဖြစ်ပေသည်။

ဘုရားရှင်က မိမိနှင့် တန်းတူအခွင့်အရေး ပေးတော်မူလိုက်သော်လည်း ထိုအခွင့်အရေးကို ယူမည့်သူ တစ်ပါးမျှ ထ မလာခဲ့ပါ။ သံဃာအားလုံး၏ နှုတ်ခမ်းများ ငြိမ်သက်လျက် ရှိကြပါသည်။ ဓမ္မာရုံပြင်ဘက် သဲမြေတွင်းများမှ ပုရစ်သံများသာ ညံညံစီနေကြပါသည်။ သံဃာတော်များ နှုတ်ဆိတ်နေကြခြင်းမှာ

ဘုရားရှင့်အပေါ် ရှိသေခဲ့ညားသော အကြောင်းတစ်ခုတည်းကြောင့် မဟုတ်ပါ။ ဘုရားရှင် ပြောလေသမျှ၊ ပြုလေသမျှ အမှုကိစ္စများတွင် ကဲ့ရဲ့ရှုတ်ချစရာဟူ၍ တစ်စွန်းတစ်စမျှ ရှာမရကြသောကြောင့် ဖြစ်ပေသည်။

ဤတွင် သံဃာတော်များ အားလုံး၏ ကိုယ်စား အရှင်မဟာသာရိပုတ္တရာက ရှိသေစွာ ထ၍ လျှောက်ထားရပါတော့သည်။

"အရှင်ဘုရား၊ တပည့်တော်တို့သည် ဘုရားရှင်၏ ကာယကံ၊ ဝစီကံများ ထဲမှ ကဲ့ရဲ့ရှုတ်ချစရာဟူ၍ ရှာမတွေ့ပါဘုရား။ ဘုရားရှင်သည် မည်သူမျှ မဟော သေးသော နိဗ္ဗာန်ရောက်ကြောင်း တရားကောင်း၌ သူမတူအောင် ကျွမ်းကျင်တော်မူပါသည်။ တပည့်တော်အပါအဝင်သံဃာတော် အပေါင်းသည် အရှင်ဘုရား ကြွသွားတော်မူခဲ့သော လမ်းကြောင်းအတိုင်း ဖဝါးခြေထပ် လိုက်ပါသဖြင့် မဂ်ဖိုလ် အဆင့်ဆင့် ပြည့်စုံလာကြရပါသည် ဘုရား"

**(သဂါထာဝဂ်၊ ဝင်္ဂီသသံယုတ်၊ ပဝါရဏာသုတ်)**

ကောသလမင်းကြီးနှင့် စတင် တွေ့ဆုံစဉ်က သမ္မာသမ္ဗုဒ္ဓဘုရား ဟူ၍ ဝန်ခံပါသလောဟု မေးရာ ဘုရားရှင်က ဝန်ခံကြောင်း မိန့်ကြားတော်မူခဲ့၏။ သစ္စာလေးတန် တရားမှန်ကို ဆရာမကူ သယမ္ဘူဉာဏ်တော်ဖြင့် ကိုယ်တော်တိုင် သိတော်မူသောကြောင့် ဤသို့ ဝန်ခံတော်မူခဲ့ခြင်း ဖြစ်၏။ ဤတွင် ကောသလ မင်းကြီး ရုတ်တရက် ဘဝင်မကျနိုင်အောင် ဖြစ်ခဲ့ရ၏။ ပူရဏ ကဿပ၊ မက္ခလိ ဂေါသာလ အစရှိသော ဝါရင့်ဂိုဏ်းဆရာကြီးများကပင် သမ္မာသမ္ဗုဒ္ဓဘုရားဟူ၍ ဝန်မခံရဲကြပါဘဲလျက် ဝါနုသေးသော ပုဂ္ဂိုလ်က ဘုရားဟု ဝန်ခံလိုက်သောကြောင့် ဖြစ်၏။ ဤတွင် ဘုရားရှင်က ငယ်သော်လည်း မလေးမစား မပြုသင့်သော အရာဝတ္ထု လေးမျိုးကို ဟောပြတော်မူခဲ့ရ၏။

သည်တုန်းက ဟုတ်မှန်သောဂုဏ်ကို ဟုတ်မှန်သည့်အတိုင်း ဝန်ခံတော်မူခဲ့သော ဘုရားရှင်သည် မဟုတ်မမှန်သော ဂုဏ်ကိုကား ပြတ်သားစွာ ပယ်ချတော်မူခဲ့ပေသည်။

"အရှင်ဂေါတမ၊ ရဟန်းဂေါတမသည် အလုံးစုံကိုသိ၏။ အလုံးစုံကိုမြင်၏။ သွားနေသည် ဖြစ်စေ၊ ရပ်နေသည်ဖြစ်စေ၊ အိပ်ပျော်နေသည် ဖြစ်စေ၊ နိုးကြားနေ သည်ဖြစ်စေ အမြဲမပြတ် ဉာဏ်အမြင်သည် ရှေးရှုထင်၏ဟု အကြွင်းမဲ့ ဉာဏ်အမြင် ကို ဝန်ခံ၏ဟု ကြားဖူးပါသည်။ ကြားရဖူးသည့်အတိုင်း ဟုတ်မှန်ပါသလော"

ဝစ္ဆနွယ်ဖွား ပရိဗိုဇ်၏ မေးလျှောက်ချက် ဖြစ်ပေသည်။ ဝေသာလီမြို့တော်၊ မဟာဝုန်တော၊ ကူဋာဂါရကျောင်းတော်မှ ဝစ္ဆပရိဗိုဇ်ရှိရာ ကြွသွားတော်မူခိုက် ဘုရားရှင်အား မေးလျှောက်ခြင်း ဖြစ်ပေသည်။

တစ်ဆင့်စကားဖြင့် လျှောက်ထားပါသည်ဆိုသည့်အတိုင်း သူကြားထားသော စကားများသည် အခြေအမြစ် မရှိပါ။ ကျွန်ုပ်တို့ သာဝကများထဲမှ ဤသို့ ပြောမည့်သူ မမြင်ပါ။ အရာရာ ဘာမဆိုသိသည်။ အမြဲတစေ တစ်သိတည်း သိနေသည်ဆိုသော စကားများကို အများဆုံး အသုံးပြုနေသူမှာ နိဂဏ္ဌတို့ ဦးစီး ခေါင်းဆောင် နာဋပုတ္တ ဆရာကြီးသာဖြစ်ပါသည်။ နာဋပုတ္တ ဆရာကြီး၏စကားကို ဘုရားရှင့်စကားတော်နှင့် ရောထွေးနေဟန်ရှိပါသည်။ ထို့ကြောင့် ဘုရားရှင်က

"ဝစ္ဆ၊ သင်ကြားထားသည့်အတိုင်း မဟုတ်မှန်ပါ" ဟု ပြတ်သားစွာ ငြင်းဆိုတော်မူလိုက်ရ၏။

"အရှင်ဘုရား၊ တစ်ဆင့်စကား ကြားထားသည့်အတိုင်း မဟုတ်ပါမူ တပည့်တော်တို့သည် အရှင်ဂေါတမ၏ ဂုဏ်တော်ကို ဟုတ်တိုင်းမှန်စွာ ပြောဆိုလိုလျှင် မည်သို့ ပြောဆိုကြရပါမည်နည်း"

"ဝစ္ဆ၊ ထိုသို့ဖြစ်လျှင် ရဟန်းဂေါတမသည် ဝိဇ္ဇာသုံးပါးနှင့် ပြည့်စုံ၏ ဟု ပြောဆိုပေလော့"

မဟုတ်မမှန်သောဂုဏ်ကို ပယ်ကာ ဟုတ်မှန်သော ဂုဏ်ကို ထုတ်ဖော်၍ ပေးတော်မူလိုက်၏။

ဝိဇ္ဇာဉာဏ် သုံးပါး ဟူသည်မှာ ရှေးရှေးက ခန္ဓာအစဉ်ကို အောက်မေ့နိုင်သော ပုဗ္ဗေနိဝါသဉာဏ်၊ ကံအားလျော်စွာ သတ္တဝါတို့၏ လားရောက်ရပုံကို သိသော ဒိဗ္ဗစက္ခုဉာဏ်၊ အာသဝဟူသမျှ ကင်းစင်ပသော အရဟတ္တ ဖိုလ်ဉာဏ်တို့ ဖြစ်ကြပေသည်။ (မဇ္ဈိမပဏ္ဏာသ၊ တေဝိဇ္ဇသုတ်)

ဘုရားရှင်သည် သူတော်ကောင်းနှင့် ပေါင်းသင်းရန် မိတ်ကောင်း ဆွေကောင်းများရှာမှီးရန် ဒေသနာတော် အမြောက်အမြား ဟောကြားတော် မူခဲ့၏။ သူတော်ကောင်းနှင့် ပေါင်းသင်းမှုဟူသော အနက်အဓိပ္ပာယ်ကို ကျွန်ုပ် အကောက်အယူ လွဲနေသဖြင့် ဘုရားရှင်က ဖြေရှင်းပေးတော်မူခဲ့ရ၏။

ဤသို့ ဟောကြားတော်မူသည်မှာ သူတော်ကောင်းများ သွားလေရာသို့ ထက်ကြပ်မကွာ လိုက်ပါနေရန် မဟုတ်ပါ။ သူတော်ကောင်းများ ရရှိထားသော သစ္စာဉာဏ်မှတစ်ဆင့် မိမိခန္ဓာသို့ ဉာဏ်မီးကူးကာ အသိထူး အမြင်ထူး ရရှိရန်သာ ဖြစ်ပါသည်။ ဤသို့မဟုတ်ဘဲ အဖော်အပေါင်းများနှင့်ရယ်လား မောလားနေပါလျှင်ကား ဘုရားရှင် ခွင့်ပြုတော်မူမည် မဟုတ်ပါ။

ခွင့်မလွှတ်နိုင်သော ကိစ္စဖြစ်၍ ဘုရားရှင် ကြွတော်မူလာသည်မှာ သကျနွယ်ဖွား ဃဋရဟန်း၏ကျောင်းသို့ ဖြစ်၏။ ထိုကျောင်းတွင် ရဟန်းများစွာတို့ သင်္ကန်းချုပ်ရင်း စုဝေးကြရာ ကျွန်ုပ်လည်း အကူအညီရောက်နေမိ၏။ လွတ်လပ်

သော ကျောင်းကလေးတွင် ခင်မင်သော သီတင်းသုံးဖော်များ ဆုံမိကြသဖြင့် စကားလက်ဆုံ ပြောမကုန်အောင် ရှိနေကြ၏။ ထိုစဉ်ခိုက်တွင်မှ ဘုရားရှင် ကြွလာတော်မူကာ....

"အာနန္ဒာ၊ ရဟန်းမည်သည် အပေါင်းအဖော်များနှင့် မွေ့လျော်ပျော်ပါးနေရန် မသင့်ပေ။ အဖော်အပေါင်းများနှင့် မွေ့လျော်ပျော်ပါး နေခြင်းဖြင့် ဈာန်ချမ်းသာ၊ မဂ်ချမ်းသာများ ရနိုင်ရန် အကြောင်းမရှိပေ"

ဤသို့ စသည်ဖြင့် အဖော်အပေါင်းများကြားမှ ရယ်လားမောလား လုပ်နေခြင်း၏ အပြစ်ကိုပြတော်မူကာ တစ်ပါးတည်း နေထိုင်ကျင့်သုံးခြင်းဖြင့် ရရှိနိုင်သော အကျိုးတရားများကို ညွှန်ပြတော်မူပေသည်။

(ဥပရိပဏ္ဏာသ၊ မဟာသုညတသုတ်)

ရယ်လားမောလား တဝါးဝါး လုပ်နေခြင်းကို မကြိုက်သကဲ့သို့ လူသံသူသံ ဆူညံခြင်းကိုလည်း ဘုရားရှင် ခွင့်လွှတ်တော်မမူပါ။ ဤသည်ကို ခပ်ပေါ့ပေါ့လေး တွေးမိသဖြင့် ဟိုတစ်ခါတုန်းက အရှင်နာဂိတ အခက်တွေ့ခဲ့ရဖူးပါပြီ။

ထိုစဉ်က ဘုရားရှင်၏ အလုပ်အကျွေးတာဝန်ကို အရှင်နာဂိတ ထမ်းဆောင် နေ၏။ တစ်နေ့တွင် ဣစ္ဆာနင်္ဂလရွာမှ ပုဏ္ဏားသူကြွယ်များသည် စားကောင်း သောက်ဖွယ်များကို သယ်ပိုးကာ ဘုရားရှင်ရှိရာ တောရကျောင်းသို့ လာခဲ့ကြ၏။ လူစုလူဝေး တော်တော်များသည်မို့ ကျောင်းတံခါးဆီက သူတို့ အသံကို အတိုင်းသား ကြားနေရ၏။ ဤတွင် ဘုရားရှင်က....

"နာဂိတ၊ တံငါသည်များ ငါးလုရာတွင် ငြင်းကြခုံကြသကဲ့သို့ ဆူဆူညံညံ လုပ်နေကြသည်ကား မည်သူတို့နည်း" ဟု မေးတော်မူ၏။ အရှင်နာဂိတက အကြောင်းမှန်ကို လျှောက်ထားလိုက်သည်တွင်

"နာဂိတ၊ ငါဘုရားသည် လူတွေ သောသောရုတ်ရုတ်နှင့် မနေလို။ သောသောရုတ်ရုတ် လူအုပ်ကြီးကိုလည်း ငါ့ဆီ မလာစေနှင့်။

"နာဂိတ၊ ဈာန်ချမ်းသာ၊ မဂ်ချမ်းသာ၊ ဖိုလ်ချမ်းသာ မရခဲ့သေးလျှင်သာ စားပြီးလျှင် မစင်စွန့်ရသော စားပြီးနောက် ငိုက်မျဉ်းရသော အစားအသောက် ချမ်းသာ၊ သောသောရုတ်ရုတ် လူအုပ်ကြီးနှင့် နေရသော ချမ်းသာများကို မက်မော ရာ၏။ ငါဘုရားမူကား ဈာန်ချမ်းသာ၊ မဂ်ချမ်းသာ၊ ဖိုလ်ချမ်းသာများကို အလွယ်တကူ ရရှိနေပြီဖြစ်၍ ထိုချမ်းသာများကို မမက်မောတော့ပြီ"

ဤသို့ မိန့်တော်မူကာ သောသောညံမျှ အလှူလာကြသော ပုဏ္ဏား သူကြွယ် တို့ကို အတွေ့မခံဘဲ နေတော်မူခဲ့ပေသည်။

(အင်္ဂုတ္တရ၊ ဆက္ကနိပါတ်၊ ပထမပဏ္ဏာသက နာဂိတသုတ်)

တရားဟောပြောရန်၊ ဆိုဆုံးမရန် အကြောင်းမရှိလျှင် ဘုရားရှင်သည် ဆိတ်ဆိတ်နေမှု သဘောကျ၏။ ရရှိထားသော လောကုတ္တရာချမ်းသာကို တိတ်ဆိတ်စွာပင် ခံစားနေတော်မူတတ်၏။ ဤချမ်းသာကို နှောင့်ယှက်ပါက ဣစ္ဆာနင်္ဂလ ရွာမှ ဒါယကာ ဒါယိကာမများကို မဆိုထားနှင့် အဂ္ဂသာဝကကြီး နှစ်ပါးကိုပင် ခွင့်လွှတ်တော် မမူပါ။

ထိုစဉ်က ဘုရားရှင်သည် ကျွန်ုပ် အပါအဝင် ရဟန်း အနည်းငယ်မျှကို အဖော်ပြုလျက် စာတုမရွာအနီးရှိ သျှိသျှားတောရကျောင်း၌ နေတော်မူ၏။ ဤစာတုမ ရွာသည် သကျတို့၏ နယ်မြေအတွင်းမှာ တည်ရှိ၏။ သကျတို့ နယ်မြေပေါ် ဝယ် ကျွန်ုပ်တို့ နှစ်ပါးတည်း အေးချမ်းစွာ ရှိနေခဲ့ရာ ရက်အတန်ကြာသော် အရှင်မဟာ သာရိပုတ္တရာနှင့် အရှင်မဟာမောဂ္ဂလာန်တို့ ရောက်လာကြပေသည်။ သူတို့နောက် မှာလည်း တပည့်ရဟန်း ငါးရာမျှ ပါလာကြ၏။ သူတို့ အားလုံးမှာ ဖြစ်သံစိစ ရဟန်းများမို့ ဘုရားရှင့် အလိုတော်ကို မသိကြသေးပါ။ ကျောင်းနေ ရဟန်းများနှင့် နှုတ်ဆက်ရာတွင်လည်းကောင်း၊ အိပ်ရာနေရာ ပြင်ဆင် ရာတွင်လည်းကောင်း၊ သပိတ် သင်္ကန်းများ နေရာတကျထားကြရာတွင်လည်းကောင်း သူတို့အသံ သော သော ညံ၍ နေပေသည်။

မကြာမီ ဘုရားရှင့် အမိန့်တော်ဖြင့် သူတို့အားလုံး ရှေ့တော်မှောက် ရောက် လာကြရ၏။ အရှင်မဟာသာရိပုတ္တရာနှင့် အရှင်မဟာမောဂ္ဂလာန်တို့မှာ ဦးစီး ခေါင်းဆောင်များပီပီ ရှေ့ဆုံးမှာ ရှိနေကြ၏။ အကြောင်းမှန်ကို သိပြီးဖြစ် သော် လည်း မျက်နှာစုံညီတွေ့သောအခါ ထင်ရှားအောင်ထပ်၍ မေးတော်မူပြီးမှ–

"ရဟန်းတို့၊ သွားကြ။ သင်တို့ကို ငါဘုရားနှင်ထုတ်၏။ ငါဘုရားထံတွင် သင်တို့ မနေကြနှင့်တော့"

မျှော်လင့်မထားမိသော အမိန့်တော်ကြီး ထွက်ပေါ်လာပေသည်။ ခေါင်းဆောင် ပုဂ္ဂိုလ်ကြီးနှစ်ပါး ပါနေ၍ မျက်နှာသာပေး ခံရလိမ့်မည် ထင်နေသော ရဟန်းသစ်များ ဝမ်းနည်းပက်လက် ဖြစ်သွားကြရပါတော့သည်။ အချို့ ရဟန်းငယ် ကလေးများမှာ မျက်ရည်စက်လက်ကျလာကြ၏။ သူတို့ခမျာ သည်မျက်နှာတော် ကို ဖူးမြော်လို၍၊ သည်တရားတော်ကို ကြားနာလို၍ ဝေးလံလှသောအရပ်မှ ပင်ပန်းကြီးစွာ လာခဲ့ကြ ရသည်။ ယခုတော့ ဘုရားရှင့် အလိုတော်ကို မသိသဖြင့် အနှောင့်အယှက် ပြုမိ ကြပြီ။ ပြုမိသည့်အပြစ်ဒဏ်ကို ကောင်းကောင်းကြီး ခံကြရပြီ။ သူတို့ကို မည်သူ က ဖေးမနိုင်မည်နည်း။

ဝမ်းပန်းတနည်း ဖြစ်နေသော ရဟန်းသစ်များကို ကျွန်ုပ် ကိုယ်ချင်းစာမိ ပါ၏။ ဘုရားရှင် ကျေနပ်လောက်သော ဥပမာတစ်ခုခုကိုသာတွေးမိလျှင် သူတို့

ဘက်က ဖေးမပေးနိုင်ပါ၏။ သို့ပါလျက် သည်တုန်းက ကျွန်ုပ်မှာ ဉာဏ်မထွက်ခဲ့ပါ။ အရှင်မြတ်ကြီးနှစ်ပါးမှာလည်း သူတို့ကိုယ်တိုင် တရားခံဘဝ ရောက်နေပြီမို့ မည်သို့မျှ မလျှောက်လဲသာ။

"ကောင်းပါပြီ အရှင်ဘုရား"

ချမှတ်လိုက်သော အပြစ်ဒဏ်ကို ရိုသေစွာခံယူ၍ လာလမ်းအတိုင်း ပြန်ကြရပါတော့သည်။

အရှင်မြတ်ကြီးနှစ်ပါး ကျောင်းထဲမှ ထွက်သွား၍ မကြာမီပင် စာတုမရွာသား သကျအမျိုးသားတို့ ရောက်လာကြ၏။ အရှင်မြတ်ကြီးတို့ ဖြစ်အင်ကို ကြားကြ၍ပင် ဖြစ်ပါလိမ့်မည်။ လူပေါင်း မြောက်မြားစွာပါသော်လည်း သူတို့ကတော့ အလိုတော် သိပြီးမို့ ပြဿနာ မပေါ်လာပါ။ အားလုံး တိတ်ဆိတ်စွာပင် ဝင်လာကြ၏။ တိတ်ဆိတ်စွာပင် ဘုရားရှင်ထံ ချဉ်းကပ်ကြ၏။ ရှေ့တော်မှောက်မှာ ညီညာဖြဖြ ဦးချကန်တော့၍ ပြီးသောအခါ ခေါင်းဆောင် ဒါယကာကြီးက ရိုသေစွာ လက်အုပ်ချီလျက်

"အရှင်ဘုရား၊ ဘုရားရှင်သည် ရဟန်းများကို ကျေနပ်တော်မူပါလော့။ ရဟန်းများကို ပြန်လာခွင့်ပြုတော်မူပါလော့။ ရှေးယခင်က ချီးမြှောက်တော်မူသကဲ့သို့ ချီးမြှောက်တော်မူပါလော့။

"အရှင်ဘုရား၊ ဥပမာအားဖြင့် နုနယ်သော အပင်ပေါက်ကလေးများသည် လုံလောက်သော ရေကို မရသည်ရှိသော် ညှိုးနွမ်း သေပျက် သွားကြရသကဲ့သို့၊ နုနယ်စွာသော နွားသားငယ်ကလေးသည် အမိနို့ကို မစို့ရသော် ညှိုးနွမ်း သေဆုံးသွားရသကဲ့သို့၊ ဖြစ်သစ်စ ရဟန်းများမှာလည်း ဘုရားရှင်မျက်နှာတော် ဖူးမြော်ခွင့် မရကြပါလျှင် ရရှိထားသော သဒ္ဓါစိတ်လေးများ ညှိုးနွမ်း ပျက်စီးသွားကြပါလိမ့်မည် ဘုရား"

ဒါယကာကြီးများ တင်ပြကြသည်မှာ ဟုတ်မှန်သော အကြောင်းအရာလည်း ဖြစ်၏။ စကားတန်ဆာ ဥပမာများကလည်း ထိမိလှ၏။ ဤသို့သော ဥပမာများကို နေရာတကျ အသုံးပြုတတ်ကြသဖြင့် ဘုရားရှင် ကျေနပ်တော်မူလိုက်ပေသည်။

ဤသို့ ကျေနပ်တော်မူလိုက်သည်ကို ထွက်သွားသော အရှင်မြတ်ကြီးများထံ မည်သူကမျှ လိုက်၍ မပြောပါ။ ဘုရားရှင်ကလည်း သွား၍ အခေါ်မခိုင်းပါ။

သို့ပါလျက် မကြာမီမှာပင် အရှင်မြတ်ကြီးများ ပြန်ရောက်လာကြ၏။ အရှင်မဟာမောဂ္ဂလာန် မထေရ်မြတ်ကြီးက ထက်သန်လှသော စိတ်တန်ခိုးကို နှိုးဆော်လိုက်၍ ဖြစ်ပါလိမ့်မည်။

လိုက်ခေါ်သူ၊ အကြောင်းကြားသူ မရှိဘဲ အရှင်မြတ်ကြီးများ ပြန်ရောက်လာသောအခါ....

"သာရိပုတ္တရာ၊ ရဟန်းများကို ငါ နှင်ထုတ်စဉ်က သင့်စိတ်ထဲမှာ မည်သို့ ဖြစ်ပေါ်ခဲ့ပါသနည်း"

ဘုရားရှင်က မေးမြန်းတော်မူလိုက်၏။

"အရှင်ဘုရား၊ မြတ်စွာဘုရားသည် ရဟန်းများကို နှင်ထုတ်တော်မူလိုက်ပြီ။ ယခုအခါ တစ်ပါးတည်းဖြင့် ကြောင့်ကြမဲ့စွာ ဖလသမာပတ် ဝင်စားနေတော်မူလိမ့်မည်။ ငါတို့လည်း ကြောင့်ကြမဲ့စွာ ဖလသမာပတ် ဝင်စား၍ နေကြတော့မည်။ ဤသို့ စိတ်အကြံ ဖြစ်ပေါ်ခဲ့ပါသည် ဘုရား"

"သာရိပုတ္တရာ၊ ကြောင့်ကြမဲ့စွာ သမာပတ် ဝင်စားခြင်းကို ဆိုင်းငံ့ဦးလော့၊ ဆိုင်းငံ့ဦးလော့"

ဉာဏ်လက်ရုံးကြီး တစ်ဆူ အဖြစ်ဖြင့် သာသနာတော်ကြီးကို စောင့်ရှောက် ထိန်းသိမ်းရန် တာဝန် အမြောက်အမြား ရှိနေ၍ အရှင်မဟာသာရိ ပုတ္တရာကို ဤသို့ တားမြစ်တော်မူပြီး ဆက်လက်၍....

"မောဂ္ဂလာန်၊ ရဟန်းများကို ငါ နှင်ထုတ်စဉ်က သင့်စိတ်ထဲမှာ မည်သို့ ဖြစ်ပေါ်ခဲ့ပါသနည်း"

"အရှင်ဘုရား၊ ယခုအခါ မြတ်စွာဘုရားသည် ရဟန်းများကို နှင်ထုတ်တော်မူလိုက်ပြီ။ ယခုအခါ တစ်ပါးတည်းဖြင့် ကြောင့်ကြမဲ့စွာ ဖလသမာပတ် ဝင်စား၍ နေတော်မူလိမ့်မည်။ ယခုအခါ သာသနာတော်တွင်းရှိ ရဟန်းအပေါင်းကို တပည့် ကော်နှင့် အရှင်သာရိပုတ္တရာတို့ စောင့်ရှောက် ထိန်းသိမ်းရတော့အံ့။ ဤသို့ စိတ် အကြံပေါ်ခဲ့ပါသည် ဘုရား"

ဝဲဘက်ကလက်ရုံးကြီး လျှောက်ထားချက်ကိုကား ဘုရားရှင် သာဓု ခေါ်တော် မူပေသည်။

မှန်ပါသည်။ အခက်အခဲပေါင်း မြောက်မြားစွာတို့ကြားမှ မရရအောင် တည်ထောင်လာခဲ့ရသော သာသနာတော်ကြီး အစွန့်ရှည်စွာ တည်နိုင်ရေးသည် အရှင်မဟာမောဂ္ဂလာန် မထေရ်မြတ်ကြီးတို့ကဲ့သို့ ကြောင့်ကြစိုက်၍ စောင့်ရှောက် သွားကြမည့် သာသနာ့ အာဇာနည်ကြီးများ လက်ထဲမှာ ရှိနေသည် မဟုတ်ပါ လော။

(မဇ္ဈိမပဏ္ဏာသ၊ စာတုမသုတ်)

**

## သာသနာ့အညွန့်အညှောက်ကလေးများ

နောင်တော်မြတ်၏ မြင့်မြတ်သော စံနမူနာတို့ကို ကျွန်ုပ်တို့၏ ပရိသတ်များ တဝကြီး ကြားနာခဲ့ကြရပါပြီ။ ကျွန်ုပ်၏ ဘဝတစ်သက်တာတွင် ဤအကြောင်းခြင်းရာများကို ပြောကြားခဲ့ရသည့် အကြိမ်ပေါင်း များလှပါပြီ။ သီတင်းသုံးဖော် သံဃာတော်များကိုလည်း အခွင့်ကြုံတိုင်း လျှောက်ထားခဲ့ဖူးပါပြီ။ အနယ်နယ် အရပ်ရပ်မှ တပည့်ဒါယကာ၊ ဒါယိကာမအပေါင်းတို့ကိုလည်း ဟောကြားခဲ့ဖူးပါပြီ။ ဟောကြားခဲ့သည့် အရပ်ဒေသ မည်မျှရှိပြီဟု မသိနိုင်တော့ပါ။ ဟောကြားခဲ့သော အကြိမ်ပေါင်း မည်မျှရှိပြီဟု မသိနိုင် တော့ပါ။ သို့သော် ကျွန်ုပ် ကေန်သိနိုင်သော အချက်တစ်ခုကား ရှိပါ၏။ ထိုအချက်ကား အခြားမဟုတ်ပါ။ ကျွန်ုပ်၏နှုတ်ဖျားသို့ ဤအကြောင်းခြင်းရာများ ရောက်လာတိုင်း အတိုင်းမသိ မြိန်ယှက်လှခြင်းပင် ဖြစ်ပါသည်။ကျွန်ုပ်၏ နှုတ်ဖျားမှာ မြိန်ယှက်သကဲ့သို့ပင် ကြားနာကြရသော ပရိသတ်တို့၏ နားအကြည်မှာလည်း ဆီစိမ်သောဝါဂွမ်းကဲ့သို့ ကြည်နူးနှစ်သိမ့် ကြလိမ့်မည် ထင်ပါသည်။

ဟောသူနာသူ နှစ်ဦးစလုံးက အားရကျေနပ်သော ကြောင်းခြင်းရာများ တွင် အေးချမ်းငြိမ်သက်ရာ၌ အေးချမ်းငြိမ်သက်စွာ တစ်ပါးတည်း နေတတ်သော အလေ့အကျင့်လည်း ပါဝင်ပေသည်။ ပရိသတ်လေးပါးတို့ အလယ်၌ ခြင်္သေ့မင်း ကဲ့သို့ ရဲတင်းစွာ သီတင်းသုံးတော်မူခဲ့သော ဘုရားရှင်သည် အကြောင်းထူး တစ်စုံတစ်ရာမရှိလျှင်ကား ဆိတ်ငြိမ်ရာတွင် တစ်ပါးတည်း နေတော်မူလေ့ရှိ၏။ ဤသို့ နေတော်မူခြင်းဖြင့် အကျိုးတရား နှစ်ပါးကို တစ်ပြိုင်နက် ပြီးစီးအောင် ဆောင်ရွက်တော်မူပေသည်။ ပထမ အကျိုးတရားမှာ အေးချမ်းငြိမ်သက်ရာတွင် အေးချမ်းငြိမ်သက်စွာ တစ်ပါးတည်းနေရသဖြင့် ကိုယ်တော်မြတ်အဖို့ လက်ငင်း လက်တွေ့ ချမ်းသာသုခ ခံစားရခြင်းဖြစ်၏။ နောက်တစ်မျိုးကား နောင်လာ

နောက်သား တပည့်များလည်း ကိုယ်တော်မြတ်၏ အပြုအမူကို အတုယူကြစေရန်ပင် ဖြစ်ပေသည်။

**(အင်္ဂုတ္တရပါဠိတော်၊ ဒုကနိပါတ်၊ ဗာလဝဂ်)**

ဘုရားရှင် ရည်မှန်းတော်မူခဲ့သည့်အတိုင်း ဘုရားတပည့်သား ရဟန်းများသည် ကိုယ်တော်မြတ်၏ အတုကို ယူခဲ့ကြပါ၏။ တောရ ဆောက်တည်သော ပုဂ္ဂိုလ်များ ရှိခဲ့ကြပါ၏။ မြို့နား၊ ရွာနား ကျောင်းမှာပင် လူသူကင်းဆိတ်သော အစွန်အဖျား နေရာများ၌ တစ်ပါးတည်းနေထိုင်သော ရဟန်းများ ရှိခဲ့ကြပါ၏။ သို့ရာတွင် ဤသို့ အများနှင့်မရောဘဲ တစ်ပါးတည်း နေကာမျှဖြင့်ကား ဘုရားရှင် ချီးမွမ်းတော်မမူသေးပါ။ တချို့မှာ ခန္ဓာကိုယ်အားဖြင့် တစ်ပါးတည်း နေသော်လည်း သူ့စိတ်မှာတော့ အဖော်တွေ ဒုနှင့်ဒေးမျှ ရှိနေကြ၏။ တချို့က အတိတ်မှတွေ့ကြုံ ခံစားခဲ့ရ သည်များကို စားမြုံ့ပြန်ကာ သာယာနေတတ်၏။ တချို့မှာ ရှေ့တစ်ခေါ် မျှော်လင့်ချက် တစ်သီကြီးဖြင့် မစားရဝခမန်း ဖြစ်နေကြ၏။ တချို့ မှာတော့ လောလောဆယ် ခံစားနေရသည့် အာရုံများကိုသာ အာသာငမ်းငမ်း ဖြစ်နေကြ၏။ မခွဲနိုင်မခွာရက် ဖြစ်နေကြ၏။

ထို့ကြောင့် ဘုရားရှင်က တစ်ပါးတည်းနေသော အရှင်ထေရကို ရှေ့တော် ခေါ်၍ ဆုံးမတော်မူခဲ့ရ၏။

"ထေရ၊ တစ်ပါးတည်း ဆွမ်းခံဝင်ခြင်း၊ တစ်ပါးတည်းဆွမ်းခံပြန်ခြင်း၊ တစ်ပါးတည်းထိုင်ခြင်း၊ တစ်ပါးတည်း စင်္ကြံလျှောက်ခြင်းဟူသော တစ်ပါးတည်း နေခြင်းသည် အကျိုးမရှိဟုမဆိုလိုပါ။ ရှိသင့်သလောက်တော့ရှိပါ၏။ သို့ရာတွင် ပြီးပြည့်စုံသော အကျိုးတရား တိုးပွားနိုင်သော တစ်ပါးတည်း နေခြင်းကား တစ်မျိုးရှိပေသေးသည်။ ထိုတစ်မျိုးကား အတိတ်မှ တွေ့ကြုံ ခံစားခဲ့ရသည်များကို စားမြုံ့ပြန်ကာ သာယာ၍ မနေတော့ခြင်း၊ ရှေ့တစ်ခေါ် မျှော်လင့်ချက် တစ်သီကြီးဖြင့် မစားရ ဝခမန်း ဖြစ်မနေခြင်း၊ လောလောဆယ် ခံစားနေရသည့် အာရုံများအပေါ်မှာလည်း အာသာငမ်းငမ်း ဖြစ်မနေခြင်း၊ စွဲလမ်းသာယာအောင် မိမိစိတ်ကို လှုံ့ဆော်၍ မပေးဘဲ စွဲလမ်းမှုမယှဉ်သော စိတ်သန့်သန့်ဖြင့် ခွဲခွာ၍ နေထိုင်ခြင်း၊ ဤသို့သောနေခြင်းသည် ပြီးပြည့်စုံသော အကျိုးတရား တိုးပွားရန် ဖြစ်ပေသည်"

**(နိဒါနဝဂ်၊ ဘိက္ခုသံယုတ်ပါဠိတော် ထေရနာမကသုတ်)**

ဤသို့ ညွှန်ပြတော်မူခဲ့သည့်အတိုင်း အရှင်ထေရသည် ခန္ဓာကိုယ် သာမက စိတ်ထဲကပါ တစ်ပါးတည်း နေတတ်သွားမည် ထင်ပါသည်။ ဤသို့ ကိုယ်ရော စိတ်ပါ တစ်ပါးတည်း နေတတ်သော ပုဂ္ဂိုလ်များမှာ ဘုရား သားတော် ရဟန်းတော်

များချည်း မဟုတ်ပါ။ ဘုရားမြေးတော် ပုဂ္ဂိုလ်ကျော်များလည်း ရှိပါသေးသည်။ သူတို့အတွက် 'ဘမျိုးဘိုးတူ' ဟူသော ဆိုရိုး စကားကို အသုံးပြု ရပါလိမ့်မည်။

အေးချမ်းငြိမ်သက်သောစိတ်သဘောကြောင့် ရဟန်းများကို 'သမဏ' ဟု ကျွန်ုပ်တို့ မဇ္ဈိမဒေသ ဝေါဟာရဖြင့် သုံးနှုန်းလေ့ရှိကြ၏။ ရဟန်းတို့က မွေးဖွား လာသူများကိုတော့ 'သာမဏေ' ဟု ခေါ်ကြ၏။ မွေးဖွားသည် ဆိုသော်လည်း ခန္ဓာကိုယ် အသွေးအသားဖြင့် ရင်းနှီး၍ မွေးဖွားသည် မဟုတ်ပေ။ ကျွန်ုပ်တို့ အဘဘုရားထံမှ ရရှိထားသော အမိန့်အာဏာတော်ဖြင့် ကျွန်ုပ်တို့က တစ်ဆင့် ရှင်ပြုပေးခြင်းကိုပင် 'မွေးဖွားပေးသည်'ဟုဆိုရပေသည်။

ကျွန်ုပ်တို့က မွေးဖွားထားသော ရှင်သာမဏေများသည် နောင် အသက် စေ့သောအခါ ကျွန်ုပ်တို့နည်းတူ ရဟန်းဘောင် ရောက်လာကြမည် ဖြစ်၏။ ကျွန်ုပ်တို့မျက်ကွယ်ပြုသွားသောအခါ ဤသာသနာတော်ကြီးကို သူတို့ကပင် ဦးဆောင်ဦးရွက် ပြုသွားကြမည်ဖြစ်၏။ ထို့ကြောင့် ရဟန်းတို့၏သား (ဝါ) ဘုရား ရှင်၏ မြေးတော်များကို 'သာမဏေ' ဟု ခေါ်ကြရပေသည်။

ထိုသာမဏေများထဲမှ သာသနာ့ဂုဏ်ရောင် ထွန်းပြောင်စေသောပုဂ္ဂိုလ်ကျော် တစ်ပါးကား အစိရဝတ အမည်ရသော ရှင်သာမဏေ ဖြစ်ပေသည်။

ရှင်တော်မြတ်၏ အပြုအမူကို အတုယူသောအားဖြင့် အစိရဝတသည် ဝေဠုဝန်ကျောင်းတော်နှင့် မလှမ်းမကမ်း တောချုံကြားဝယ် တစ်ပါးတည်းနေခဲ့၏။ ဤသို့နေခြင်းမှာ တရားသိရေး၊ ကျင့်သုံးရေးအတွက်သာဖြစ်၍ ကျွန်ုပ်တို့ အားလုံးက အလိုက်တသိ ရှောင်ပေးထားရ၏။ အကြောင်းမသိသေးသော အာဂန္တုကိုယ်တော်များ ရောက်လာလေတိုင်း အစိရဝတ၏ တဲကုပ်ကလေးသို့ မသွားမိကြရန် အသိပေးထား ကြရ၏။

သို့ရာတွင် ကျွန်ုပ်တို့ တားမြစ်နိုင်သည်မှာ ကျွန်ုပ်တို့နှင့် ဘဝတူများသာ ဖြစ်၏။ ဘဝမတူသော မင်းညီမင်းသားများကိုကား တားမြစ်ရန်မသင့်ပါ။ ထို့ကြောင့်ပင် ဇယသေနမင်းသားကို ကျွန်ုပ်တို့ သည်အတိုင်းကြည့်နေ လိုက်ကြရ ပေသည်။

မိမိနေရာသို့ စွတ်စွတ်ရွတ်ရွတ် ဝင်ရောက်လာပြီမို့ အစိရဝတသည် မလွှဲသာ မရှောင်သာ ဧည့်ခံရပါတော့သည်။ အေးချမ်းငြိမ်သက်စွာ နေခွင့် ရသော အချိန်ကလေးကို မင်းသားအတွက် ဖဲ့၍ ပေးရရှာပါတော့သည်။ အကယ်၍ တရားခါတ် ကိန်းပြီးသူတစ်ယောက်ဆိုလျှင်တော့ ကိစ္စမရှိလှပါ။ တရားဟောရ၍ မိမိမှာ အချိန်ကုန်မည်၊ ပင်ပန်းမည် ဖြစ်သော်လည်း တစ်ဖက်သားအဖို့ တရား လမ်းစကလေး ပေါ်သွားလျှင်ပင် အချိန်ကုန်ရကျိုးနပ်ပါပြီ။ ပင်ပန်းရကျိုး

နပ်ပါပြီ။ ဤသို့ပင် ကျွန်ုပ်တို့ သာသနာ့ဝန်ထမ်း အားလုံးက သဘောထားကြ ရပေသည်။

သို့ရာတွင် ဤမင်းသားနှင့် ပတ်သက်၍ကား ဟောရကျိုးနပ်လိမ့်မည် မထင်ပါ။ ဘုရား ကျောင်းဒါယကာ ဗိမ္ဗိသာရမင်းကြီး၏ သားတော်တစ်ပါး ဖြစ်ပါလျက် ဇယသေနသည် တရားရေးမှာ နားဝေးသူ ဖြစ်ပါ၏။ မိဖုရားငယ် တစ်ပါးမှ ပေါက်ဖွားလာရ၍ ထီးမွေနန်းမွေ မျှော်လင့်ရန်မရှိသော်လည်း မင်းသား တစ်ပါး အဖြစ်ဖြင့် အရှိန်အဝါရှိ၏၊ အခြွေအရံပေါများ၏။ ထို့ပြင် မင်းပျိုမင်းလွင် တစ်ပါးလည်း ဖြစ်နေသဖြင့် ကာမဂုဏ် ရေလျဉ်ကြောဝယ် မျောချင်တိုင်း မျောနေသူ ဖြစ်ပေသည်။

ကျွန်ုပ်တို့ ခန့်မှန်းလိုက်သည့်အတိုင်းပင် အစိရဝတကလည်း ရိပ်မိဟန် တူပါသည်။ ထို့ကြောင့်ပင် ဇယသေနက တရားဟောရန် တောင်းပန်ရာတွင် ချက်ချင်း မဟောသေးဘဲ....

"မင်းသား၊ ငါကိုယ်တိုင် ကြားနာထားသော၊ ငါကိုယ်တိုင် သင်ကြားခဲ့ သော တရားတို့ကို ဟောကြားရာတွင် အကယ်၍ သင်မင်းသား သဘောပေါက် လျှင် ကောင်းပါ၏။ ဟောသလောက်၊ ပြောသလောက် သဘော မပေါက်လျှင် ပင်ပန်းရုံသာ ရှိတော့မည်။ ထို့ကြောင့် သင် မင်းသားကို တရား မဟောလိုပါ"

မင်းသား၏ အကြောင်းကို ကြားဖူးနားဝရှိပြီးဖြစ်၍ ဤသို့ ငြင်းပယ် ခဲ့၏။ သို့သော် ဇယသေနကလည်း ထပ်မံ၍ လျှောက်၏။

"အို.... အရှင်အဂ္ဂိဝေဿန၊ အရှင်ဘုရားကိုယ်တိုင် ကြားနာခဲ့သော၊ အရှင်ဘုရား ကိုယ်တိုင် သင်ယူခဲ့သောတရားကို ဟောကြားတော်မူပါ။ ဟောကြား သည့် တရား၏ အနက်အဓိပ္ပာယ်ကို တပည့်တော် သိကောင်း သိပါလိမ့်မည် ဘုရား"

"သို့ဖြစ်လျှင် သင်မင်းသားကို တရားဟောပါမည်။ ငါဟောကြားသော တရားကို သင်မင်းသား သဘောပေါက်လျှင် ကောင်းပါသည်။ အကယ်၍ သဘော ပေါက်လျှင်လည်း ဆိတ်ဆိတ်သာ နေပါဘိ။ ရှေ့ဆက်၍ အမေးအမြန်း မထူ ပါနှင့်"

မငြင်းသာတော့သည့်အဆုံး ဤသို့သော အချုပ်အချည်ဖြင့် အစိရဝတ က တရားဟောခဲ့ရ၏။ သူ့ကို မျိုးရိုးအမည်အားဖြင့် 'အဂ္ဂိဝေဿန'ဟူ၍လည်း ခေါ်ကြပေသည်။ ဟောခွင့်သင့်၍ ဟောကြစို့ဆိုတော့လည်း အစိရဝတသည် သူနှင့် အကျွမ်းတဝင်ဖြစ်နေသော ဈာန်ပိုင်းဆိုင်ရာ တရားများ ဟောလိုက်၏။ ကသိုဏ်းတစ်ခုကို အခြေခံပြုကာ စိတ်အဆင့်ဆင့် ငြိမ်သက်လာပုံများကို ဟော

လိုက်၏။ ဈာန်သမာပတ်ရခါနီး အခြေအနေအထိ တရားစဉ် ဆိုက်ရောက်သွား၏။ ဤတွင် ဇယသေနက ကြားဖြတ်ကာ

"အရှင်ဘုရား၊ ရဟန်းတစ်ပါးသည် မမေ့မလျော့တမ်း တရားအားထုတ်နေသော်လည်း စိတ်ငြိမ်သက်ခြင်းကို ရနိုင်မည်မဟုတ်ပါ" ဟု လျှောက်၏။ သူ့သဘောထားကို လျှောက်ပြီးသည်နှင့် အစိရဝတထံမှ ပြန်ထွက်သွား၏။ သူထွက်သွားသည်နှင့်မရှေးမနှောင်းပင် အစိရဝတလည်း ဘုရားရှေ့တော်မှောက်ဝင်ရောက်လာပေသည်။

ထိုနေ့က ဇယသေနသည် အစိရဝတ၏ တရားကို တစ်လုံးမျှ နားမလည်လိုက်ပေ။ သို့သော်အစိရဝတ၏ ထိုတရားတစ်ပုဒ်ကိုပင်အကြောင်းပြုကာ မှတ်သားလောက်သော ဥပမာ ဒေသနာတော်များကို ကျွန်ုပ်တို့ နာကြားခွင့် ရခဲ့ပေသည်။

"အဂ္ဂိဝေဿန၊ ဥပမာအားဖြင့် သူငယ်ချင်း နှစ်ယောက်တို့သည် လက်ချင်းတွဲကာ ထွက်လာကြပြီးလျှင် တောင်ခြေသို့ ရောက်လာကြ၏။ သူငယ်ချင်း တစ်ယောက်သည် တောင်ခြေမှာ နေရစ်၍ တစ်ယောက်ကတော့ တောင်ထိပ်ထိ တက်လာခဲ့၏။ ဤတွင် တောင်ခြေမှာ နေရစ်သောသူက "သူငယ်ချင်း၊ တောင်ပေါ်မှ မြင်ရသမျှကို ပြောစမ်းပါ" ဟု ဆိုသဖြင့် တောင်ပေါ်က လူက တောင်ခြေဝန်းကျင်မှ ဥယျာဉ်ခြံများ သာယာပုံ၊ တောအုပ်တွေ စိမ်းစိုနေပုံ၊ မြေတစ်ပြင်လုံး ကောက်ပင်စိမ်းစိမ်းတွေ ဖုံးလွှမ်းနေပုံတို့ကို စီကာပတ်ကုံး ပြောပြ၏။ တောင်ထိပ်မှ လူက မျက်မြင်ကိုယ်တွေ့ ပြောပြချက်များကို တောင်ခြေမှ လူက သူ မမြင်၍ မယုံနိုင်ပါဟု ဆို၏။ ဤတွင် တောင်ထိပ်မှ လူက အောက်မှ လူကို တောင်ပေါ်သို့ ဆွဲခေါ်ကာ အတန်ငယ် အပန်းဖြေစေပြီးမှ သူကိုယ်တိုင် တွေ့ရသမျှကို ပြောပြစေ၏။ သူပြန်ပြောတော့လည်း ယခင်လူ ပြောသည့်အတိုင်းသာ ဖြစ်နေ၏။ ဤတွင် ပထမလူက

'သူငယ်ချင်း၊ ဤရှုမျှော်ခင်းများ မရှိနိုင်ဟု ငါ နားနှင့်ဆတ်ဆတ် ကြားခဲ့ရ၏။ ယခုတစ်ခါ ဤရှုမျှော်ခင်းများ ဧကန်တိတိ ရှိနေသည်ဟု တစ်မျိုးတစ်ဖုံ ကြားရပြန်ပြီ။ မည်သည့်စကားကို ယုံရပါမည်နည်း'

'ဟုတ်ပါသည် သူငယ်ချင်း၊ ရပ်တည်ရာ နှစ်မျိုးပြားနေ၍ စကားနှစ်မျိုးဖြစ်နေပါသည်။ စောစောတုန်းက ဤတောင်ကြီး ကွယ်နေသဖြင့် မြင်စရာရှိသမျှ မမြင်နိုင်ခဲ့ပါ'

"ဤသို့ ဒုတိယလူက ဝန်ခံရသကဲ့သို့ပင် ဇယသေန၏ ပညာမျက်စိကို အဝိဇ္ဇာတောင်ကြီး ပိတ်ပင်ကာဆီး၍ နေ၏။ အဝိဇ္ဇာတောင်သည် သူငယ်ချင်း နှစ်ယောက်၏ တောင်ထက် အဆရာထောင်မက ကြီးကျယ်မြင့်မားလှ၏။ ကာမဂုဏ်

တို့မှ ထွက်မြောက်ရာတရားကို ကာမဂုဏ်တို့မှ ထွက်မြောက်သော စိတ်ဖြင့်သာလျှင် သိနိုင်၊ ရောက်နိုင်၊ မျက်မှောက်ပြုနိုင်၏။ ထိုတရားကို ကာမဂုဏ်ကြားမှာနေ၍ ကာမဂုဏ်အာရုံ ခံစားနေသော ဇယသေနသည် မည်သို့ သိနိုင်ပါမည်နည်း။ ကာမရောဂါ ကိုယ်တွင်းနာတို့ဖြင့် ထိုးကျင့် ပူလောင်နေသော ဇယသေနသည် မည်သို့ ရောက်နိုင်ပါမည်နည်း။ ကာမဂုဏ်အာရုံ ခံစားစရာ ရှာဖွေရေးကိုသာ အလေးထားကြိုးစားနေသော ဇယသေနသည် မည်သို့မျက်မှောက်ပြုနိုင်ပါမည်နည်း။ အဂ္ဂိဝေဿန၊ ဤဥပမာများဖြင့် သင် ဟောကြားခဲ့ပါလျှင် ဇယသေနသည် သင့်အပေါ် ကြည်ညိုလာရာ၏။ ကြည်ညိုသော အမူအရာကို ပြပေရာ၏"

"အရှင်ဘုရား၊ ဤဥပမာများကို ယခုမှ ကြားနာရသဖြင့် မဟောကြားနိုင်ခဲ့ပါဘုရား"

ဒေသနာစွမ်းရည် မပြည့်စုံသေး၍ ဤသို့ ဝန်ခံခဲ့သော အစိရဝတသည် နောက်တစ်ခါ ဇယသေနနှင့် ဆုံမိလျှင်ကား ပိုင်ပိုင်နိုင်နိုင်ကြီး ဟောကြားတော့မည် ဖြစ်ပေသည်။ **(ဥပရိပဏ္ဏာသ၊ ဒန္တဘူမိသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)**

တောကျောင်းပျော် သာမဏေ အစိရဝတသည် တရားဟောရာမှာ နာမည်ကျော်ကြားသကဲ့သို့၊ အဓိမုတ္တက သာမဏေကလည်း ကတိသစ္စာ တည်ကြည်ခြင်းဖြင့် ကျော်ကြားလာပေသည်။

အဓိမုတ္တက သာမဏေသည် အရှင်သံကိစ္စ၏ တပည့်လည်း ဟုတ်၏။ တူလည်း တော်စပ်၏။ သူတို့နှစ်ပါးမှာ သွေးသားရင်းချာ ဖြစ်သကဲ့သို့ ကံကြမ္မာချင်းလည်း တူကြပေသည်။

အရှင်သံကိစ္စ ရှင်သာမဏေဘဝမှာ ဥပဇ္ဈာယ်ဆရာ အရှင်မဟာသာရိပုတ္တရာ၏ အမိန့်ဖြင့် တောရဆောက်တည်သော ရဟန်းသုံးကျိပ်တစ်ပါးနှင့် အတူလိုက်ပါလာခဲ့ရာ တောထဲမှာ ဓားပြတို့၏ နှိပ်စက်ခြင်းကို ခံခဲ့ရ၏။ လောကဓံကို မတုန်မလှုပ် သည်းခံနိုင်စွမ်းရှိသော စိတ်တန်ခိုးဖြင့် အန္တရာယ်ကို ကာကွယ်နိုင်ခဲ့၏။ ထို့ပြင် မိမိအား သတ်ဖြတ်ရန် ကြိုးစားခဲ့သူများကိုပင် မြေနီဆိုးသော သင်္ကန်းများ ဝတ်စေလျက် ဆရာဖြစ်သူ အရှင်မဟာသာရိပုတ္တရာထံ ခေါ်လာနိုင်ခဲ့၏။

ထို့အတူပင် တူဖြစ်သူ အဓိမုတ္တကမှာလည်း ဓားပြများ၏ ဖမ်းဆီး ချုပ်နှောင်မှုကို ခံခဲ့ရ၏။ ဓားပြများကို ဦးရီးဖြစ်သူတုန်းက မတုန်မလှုပ်သော စိတ်တန်ခိုးဖြင့် ချေချွတ်နိုင်ခဲ့၏။ တူဖြစ်သူ အလှည့်မှာတော့ ကတိသစ္စာ တည်ကြည်မှုဖြင့် လွတ်မြောက်ခဲ့ပေသည်။

မိဘရပ်ဌာန်သို့ အပြန်တွင် တောအုပ်တစ်ခုအတွင်း၌ အဓိမုတ္တကမှာ ဓားပြများနှင့် ရင်ဆိုင်တိုးခဲ့၏။ သူ့ကို ဓားပြတချို့က သတ်ချင်ကြ၏။ တချို့

ကတော့ လွှတ်ပေးလိုက်ကြ၏။ ဤသို့ အုပ်စုနှစ်စု အငြင်းအခုံ ဖြစ်နေကြစဉ် အဓိမုတ္တကသည် ဓားပြခေါင်းဆောင်ကြီးထံ ချဉ်းကပ်ကာ....

"ဒါယကာကြီး၊ ရှေးစကားလေးတစ်ခု ပြောပါရစေ။ ရှေးတုန်းက မုဆိုးတစ်ယောက်သည် ကြောင့်များထောင်၍ ယုန်သူငယ်လေးကို သတ်ခဲ့ဖူးပါသည်။ ထိုအခါ သွေးသံရဲရဲနှင့် သေပွဲဝင်ရရှာသော ယုန်သူငယ်ကိုကြည့်ကာ သမင်၊ ဒရယ်၊ ချေငယ်၊ စိုင်၊ ဆတ်တို့နှင့်တကွ ငှက်များပါမကျန်တုန်လှုပ် ချောက်ချားသွားကြပါသည်။ သည်အရပ်မှာ မနေရဲကြတော့သဖြင့် တစ်ညတည်းနှင့် အားလုံးကုန်ပြောင်းရွှေ့သွားကြပါသည်။

"ထို့အတူပင် ဤနယ်တစ်လျှောက်မှာ နေကြသော လူအပေါင်းသည် ကျွန်ုပ် ဤတောအုပ်ထဲက ဖြတ်သွားသည်ကို သိနေကြ၏။ ကျွန်ုပ်ကို ရက်စက်မညှာ သတ်လိုက်ကြပါလျှင် ဤတောအုပ်ထဲက ဘယ်ခရီးသည်မျှ ဖြတ်ဝံ့ကြတော့မည် မဟုတ်ပါ။ ထိုအခါ ဒါယကာကြီးတို့အဖို့ လာဘ်တိတ် သွားပါလိမ့်မည်။ ဆင်ခြင်စဉ်းစား သတိထားကြရန် ဖြစ်ပါသည်"

အဓိမုတ္တက ပြောပြသည်မှာ နှစ်ဘက်လုံး အကျိုးမယုတ်စေဖို့ ဖြစ်သဖြင့် ဓားပြခေါင်းဆောင်ကြီးက လွှတ်လိုက်ရန် အမိန့်ပေးလိုက်၏။ သို့သော်....

"အရှင်ဘုရား၊ ဤတောအုပ်သို့ ခရီးရင်ဆိုင်လာသူများနှင့် တွေ့လျှင် တပည့်တော်တို့ ရှိနေကြောင်းကို လုံးဝမပြောပါလေနှင့်။ ဤသစ္စာစကားကို စောင့်စည်းပြီး လိုရာခရီးသို့ ကြွတော်မူပါလော့"

"ကောင်းပါပြီ ဒါယကာကြီး၊ ဝန်ခံထားသောကတိသစ္စာကို တည်ကြည်စွာ စောင့်ရှောက်ပါမည်"

ဤသို့ ဝန်ခံ၍ ဓားပြများထံမှ ထွက်လာခဲ့ပြီး အပြန်မှာလည်း ဤတောအုပ်ထဲမှပင် ဖြတ်လာခဲ့၏။ အပြန်မှာတော့ သူတစ်ပါးတည်း မဟုတ်။ ခရီးဖော်တွေ တော်တော်များများ ပါလာကြ၏။ ပါလာလေသမျှ ခရီးသည်များသည် ဓားပြများ၏ လက်တွင်းသို့ သက်ဆင်းကြရပေသည်။ နှိပ်စက်ညှဉ်းပန်းမှု မျိုးစုံကို မရှုမလှ ခံကြရပေသည်။

ဤတွင် အမျိုးသမီးကြီးတစ်ဦးသည် အဓိမုတ္တက၏အမည်ကို တမ်းတရင်းရင်ကိုထု၍ ငိုနေလေရာ ဓားပြခေါင်းဆောင်ကြီးက ထူးထူးခြားခြား သတိထားမိ၍-

"အို အဒေါ်ကြီး၊ သင်သည် အဓိမုတ္တက၏ အမည်ကို ကြိမ်ဖန်များစွာ တသနေဘိ၏။ သင်နှင့် အဓိမုတ္တက မည်သို့ ပတ်သက်ပါသနည်း"

ဤသို့ မေးလိုက်သည်နှင့် အမျိုးသမီးကြီးသည် နဖူးမှ သွေးများကိုသုတ်ရင်း ဖြေလိုက်သည်မှာ....

"ကျွန်မမှာ အဓိမုတ္တက၏ မယ်တော်ဖြစ်ပါသည်။ ဤသူကတော့ သူ့ခမည်းတော် ဖြစ်ပါသည်။ အခြားသူအားလုံးမှာလည်း သူ့ညီ၊ သူ့အစ်ကိုနှင့် သူ့နှမများချည်း ဖြစ်ပါသည်"

"ခြော် အံ့သြဖွယ် ရှိပေစွတကား။ အရိယာဓာတ် မြင့်မြတ်သူတို့၏ ကျင့်ဝတ်တရားသည် ဖြောင့်မှန်ပေစွတကား။ ထားရှိခဲ့သော ကတိသစ္စာကိုငဲ့၍ အမိအဘ ဆွေမျိုးရင်းချာများကိုပင် မပြောဘဲ မတားဘဲနေနိုင်ခဲ့ခြင်းမှာ ထူးကဲလှပါဘိ တကား"

ဤသို့အားဖြင့် သာမဏေကျော်တစ်ပါးကို အကြောင်းပြုကာ ကျွန်ုပ်တို့ သာသနာတော်ဝယ် ရဟန်းလောင်းများစွာ ထွက်ပေါ်လာကြရပြန်ပေသည်။

**(သဂါထာဝဂ်၊ ဒေဝတာသံယုတ်၊ သဗ္ဗိသုတ်အဋ္ဌကထာ)**

အပြောကောင်းသဖြင့် ဓားပြတို့လက်မှ လွတ်မြောက်ခွင့်ရခဲ့သော အဓိမုတ္တကသည် အရှင်မဟာသာရိပုတ္တရာ၏ အနွယ်ထဲကဖြစ်၏။ ထို့အတူ အပြေးကောင်း၍ လွတ်လာသော သာမဏေတစ်ပါးမှာလည်း အရှင်မြတ်ကြီး၏ အနွယ်ထဲကပင် ဖြစ်ပေသည်။ သာသနာတော်နှင့် ပတ်သက်လာရုံမက သွေးသား ရင်းချာများလည်း ဖြစ်နေပေသည်။

မယ်တော်ကြီးဖြစ်သော ရူပသာရီ ပုဏ္ဏေးမကြီးမှ စာလာ၊ ဥပစာလာ၊ သီသူပစာလာဟူသော သမီးသုံးယောက်။ ဥပတိဿ၊ ဥပသေန၊ စုန္ဒနှင့် ရေဝတ ဟူသော သားလေးယောက်ဖွားမြင်ခဲ့ရာ အကြီးခြောက်ယောက်မှာ သာသနာ့ဘောင်သို့ ရောက်နေကြ၏။ သူ့ဆီမှာ အမွေဆက်ခံရန် သားထွေး ရေဝတတစ်ယောက်သာ ရှိတော့သည်။

သူ့အထက်က သား သမီးများသည် အရွယ်ရောက်သည်နှင့် ဗုဒ္ဓသာသနာတော်ထဲရောက်သွားကြ၏။ မိခင် ဖခင်များမှာ သားသမီးများ၏ ထက်သန်လှသော စိတ်ဆန္ဒကို မတားနိုင်၍သာ လက်လွှတ်လိုက်ကြရ၏။ ဖြစ်နိုင်လျှင် သည်သာသနာတော်အတွက် သားသမီးများပေးဆက်ဖို့ နေနေသာသာ ဆွမ်းတစ်ဇွန်း ဟင်းတစ်ဖတ်မျှ မလောင်းလှူလိုပေ။ ထို့ကြောင့် အထက်လူများကို မဆွဲမိသော် ရှိပစေ။ အထွေးဆုံးသား ရေဝတကိုတော့ မရ ရအောင် ဆွဲထားရပေမည်။ အကြီးလူများတုန်းက အိမ်ရာမထောင်၊ အနှောင်အဖွဲ့ မရှိကြသေးသဖြင့် လွတ်လွတ်ကျွတ်ကျွတ် ထွက်သွားနိုင်ခဲ့ကြ၏။ ယခု သားထွေးကိုတော့ သူတို့နောက် မလိုက်နိုင်ရအောင် တုပ်နှောင်ထားရပေမည်။ လောကီသားတို့အတွက် စိတ်အချရဆုံးသော အတုပ်အနှောင်ကား အိမ်ထောင်ချပေးခြင်း ဖြစ်၏။ ရေဝတသည် လောလောဆယ်မှာ အိမ်ထောင်ပြုရမည့် အရွယ်မရောက်သေး။ သို့သော်ကိစ္စမရှိပါ။ နှစ်ဘက်သော လူကြီးမိဘများ သဘော

တူလျှင် အရွယ်မရောက်မီကပင် အိမ်ထောင်ချပေးသော ဓလေ့ထုံးစံများသည် ရှေးပဝေသဏီကပင် ရှိနေခဲ့ပြီမဟုတ်ပါလား။ သည်တော့ သူတို့ကလည်း သည်ထုံးစံဖြင့်ပင် ရေဝတကို အပိုင်ချည်ထားကြရပါလိမ့်မည်။

ဤသို့ဖြင့်ကျောင်းသားအရွယ် ရေဝတသည် ဘမသိ ဘမသိနှင့် မင်္ဂလာအခမ်းအနားသို့ ဝင်ခဲ့ရ၏။ အိမ်ထောင်ရေးနှင့် ပတ်သက်၍ ဘာတစ်ခုမျှ မသိရသေးဘဲ ဘာကိုမျှ စိတ်မဝင်စားသေးဘဲ သတို့သားဘဝ ရောက်ခဲ့ရ၏။ တစ်ဖက်က သတို့သမီးမှာလည်း သူနှင့် ရွယ်တူ ကလေးမတစ်ယောက်သာဖြစ်၏။ ရေဝတနှင့် အမျိုးအနွယ်တူထဲက ဖြစ်၏။

ဂုဏ်ကြီးရှင် နှစ်ဘက်မိဘများက ထောင့်စေ့အောင် စီမံထားကြသဖြင့် မင်္ဂလာအခမ်းအနား အစီအစဉ်များသည် တစ်ခုပြီးတစ်ခု ချောမောစွာ ပြီးစီးသွားကြ၏။ နောက်ဆုံးအစီအစဉ်ကား သတို့သား၏ ဘွားအေကြီးကို အသစ်စက်စက် ဇနီးမောင်နှံတို့က ကန်တော့ကြရန် ဖြစ်ပေသည်။ အသက်ရာကျော်ရှိပြီ ဖြစ်သော ဘွားအေကြီးကို ကန်တော့ရခြင်းမှာ ဤသို့သော မင်္ဂလာအခမ်းအနားများအတွက် အမွန်မြတ်ဆုံး ဖြစ်ပေသည်။

တစ်လျှောက်လုံးလက်ပွန်းတတီးနေခဲ့ရသဖြင့် ရေဝတမှာလည်းသည်ဘွားအေကြီးကို ချစ်မြတ်နိုးပါ၏။ ညစဉ်ညတိုင်း သည်ဘွားအေကြီးကို ကန်တော့ပြီးမှ အိပ်ရာဝင်နေကျဖြစ်၍ သည်နေ့ မင်္ဂလာအခမ်းအနားမှာလည်း လိုလိုချင်ချင်ပင် ကန်တော့ခဲ့ပါ၏။ သို့သော် သည်ဘွားအေကြီးနှင့် ဆက်စပ်၍ လူကြီးမိဘများ ပြောလိုက်သောစကားတစ်ခွန်းကား သတို့သားရေဝတ၏ စိတ်ကိုညှိုးနွမ်းသွားစေပေသည်။

"အို သမီးငယ်၊ ဤသို့ ပူဇော်ကန်တော့ရသော ကုသိုလ်ကြောင့် ဤဘွားအေကြီးထက် အသက်ရှည်စွာ နေရပါစေသတည်း"

လူကြီးမိဘများ၏ စကားမှာ ဤမျှသာဖြစ်၏။ မိမိတို့ သားသမီးများကို အသက်ရှည်စွာ အနာမဲ့ကြောင်း ဆုမွန်ကောင်းပေးကြခြင်းသာ ဖြစ်၏။ မင်္ဂလာအလို့ငှာလည်းဖြစ်၏။ သို့ပါလျက် ဤစကားများက ရေဝတ၏ နားထဲတွင် မင်္ဂလာဖြစ်မလာပေ။ "ဘွားအေကြီးထက် အသက်ရှည်စွာ နေရပါစေ" ဆိုသော စကားအရ သတို့သမီးငယ်၏ အသက်ရာကျော်အဘွားအိုအဖြစ် မျှော်မှန်းကြည့် လိုက်မိ၍ ဖြစ်ပေသည်။

ရေဝတ၏ ဘွားအေကြီးသည် အသက်ရာကျော်ရှိပြီဖြစ်၏။ ထို့ကြောင့် အရေတွန့်တာတွေ၊ ဆံဖြူတာတွေ၊ သွားကျိုးတာတွေကို အထူးပြဆိုနေဖို့ မလိုပေ။ ယခု ပူဇော်ကန်တော့ခံမည့် ထိုင်ခုံပေါ်သို့ပင် သားသမီးများက ပွေ့၍ တင်ပေးထားရ၏။ အဘွားအိုနှင့် သတို့သမီးငယ်ကို တစ်လှည့်စီ ကြည့်ရင်း ရေဝတ၏

စိတ်ထဲမှာ ယောက်ယက်ခတ်နေကြ၏။ "ငယ်ရွယ်စဉ်က တသသနှင့် မည်မျှပင် အလှခြယ်နေကြပါစေ။ တစ်နေ့ကျတော့ ဤအဖြစ်မျိုး ရောက်ရမှာ ပါကလား။ တစ်နေ့ကျလျှင် မရှုမလှ ဖြစ်ရတော့မည့် ရုပ်ခန္ဓာအပေါ်မှာ ငါ တွယ်တာ၍ အကျိုး မရှိပါတကား။ ဤအရေးကို တွေးမြင်ကြ၍ပင် ငါ့ နှောင်တော်များ လွတ်ရာကျွတ်ရာ ထွက်ခွာသွားကြပါတကား။ ငါ့နှောင်တော်များလမ်းကြောင်းသို့ ယနေ့ပင် ငါလိုက်မှ ဖြစ်တော့မည်"

လူကြီးမိဘများက လောကီမင်္ဂလာပွဲကြီး ဆင်နွှဲနေဆဲတွင် သတို့သား ရေဝတက လောကုတ္တရာမင်္ဂလာပွဲ ဝင်နိုင်ရန် အကြံထုတ်လျက် ရှိနေ၏။ လူကြီးမိဘများက မင်္ဂလာရက်မြတ်မှာ မင်္ဂလာခန်းမထဲမှာပင် မင်္ဂလာယူနေဖို့ ပြောကြပါသေး၏။ သို့သော် ရေဝတက မနေပါ။ ရလာသော အကြံကို အကောင်အထည်ဖော်ရန် ကစားဖော်များရှိရာ ရွာလမ်းမကြီးသို့ ထွက်လာခဲ့၏။ သူ့ကစားဖော်များသည် တစ်ယောက်တစ်လှည့် အပြေးပြိုင်တမ်း ကစားလျက်ရှိရာ မင်္ဂလာဝတ်စုံနှင့် ရေဝတ ကလည်း ခါတိုင်းလိုပင် သူတို့နှင့် ဝင်ရောလိုက်၏။

သို့နှင့် ရေဝတ ပြေးလှည့်ရောက်လာ၏။ သုံးချီသုံးလား ပြေးကြရာ ပထမအချီတွင် နောက်ဖေး ထိုင်ချင်သလိုလိုပြုကာ နောက်ချန်နေခဲ့၏။ နောက်တစ်ချီမှာတော့ ပြိုင်ဘက်ကို ပြတ်နေအောင်ပြေးခဲ့၏။ ဤသို့ လူကြီး မိဘများကို နှစ်ကြိမ်တိုင်တိုင် အယုံသွင်းကြီး တတိယအကြိမ် အရောက်တွင်ကား ခြေဦးတည့်ရာသို့ တစ်ဟုန်ထိုး ပြေးထွက်ခဲ့ပေသည်။

အပြေးသန်လှသော ရေဝတသည် ကံအားလျော်စွာ ပံ့သကူသင်္ကန်း ဝတ်သော တောနေရဟန်းတို့နှင့် ဆုံမိ၏။ တွေ့စတုန်းကတော့ အဆင်တန်ဆာ အပြည့်အစုံနှင့်လည်းဖြစ်နေ၍ မည်သူ့သားမှန်းလည်း မသိရသေး၍ ရဟန်းများက ရှင်ပြုမပေးခဲ့ကြပေ။ နောက် အရှင်မဟာသာရိပုတ္တရာ၏ ညီထွေးဖြစ်ကြောင်း ပြောလျှင်ကား ဝမ်းမြောက်ဝမ်းသာ ကြိုဆိုကြပေသည်။

ထိုရဟန်းများကို အရှင်မဟာသာရိပုတ္တရာက မှာထားသည်မှာ "ငါ၏ မိဘများသည် သာသနာတော်၏ အပြင်ဘက်ကချည့် ဖြစ်ကြ၏။ သူတို့ ခွင့်ပြုမှသာဆိုလျှင် မည်သူမျှ ရှင်ရဟန်းပြုရတော့မည် မဟုတ်။ ထို့ကြောင့် ငါ့ညီဟူ၍ ဆိုလာသူတစ်ယောက်ယောက် ရောက်လာလျှင် ဖြစ်သည့်နည်းနှင့် ရှင်ဖြစ်အောင် ဆောင်ရွက်ပေးလိုက်ကြပါ" ဟူ၍ ဖြစ်၏။ ထို့ကြောင့် တောနေ ရဟန်းတို့က ရနိုင်သမျှ ပရိက္ခရာကို စုဆောင်းကာ ရေဝတကို ရှင်ပြုပေးလိုက်ကြပေသည်။

အပြေးကောင်းသော ရှင်ရေဝတသည် အသက်စေ့သောအခါ ရဟန်းဘောင် ရောက်၍ တောရဆောက်တည်ခဲ့၏။ သူများတွေ တောရဆောက်တည်သည်မှာ

သီးပင်စားပင်ပေါများသော တောအုပ်မှာလည်းဖြစ်၏။ စိမ့်ရေစမ်းရေ ပေါများရာကိုလည်း ရွေးချယ်ကြ၏။ ဆွမ်းခံရွာ နီး မနီးကိုလည်း ချင့်ချိန်ကြ၏။ ရေဝတနေသော တောကျောင်းသည်ကား ထိုအင်္ဂါရပ်များ လုံးဝ မရှိသော ကျောက်စရစ်ကုန်းနှင့် ချိုင့်ကမူများသာ ရှိ၏။ စိမ်းစိုသော အပင်ဆို၍ ပြောက်တိ ပြောက်ကျား ရှားပင်ကလေးများသာ ရှိကြပေသည်။ ထိုအရပ်မှာပင် ရေဝတ၏ ရဟန်းကိစ္စ ပြီးစီးအောင်မြင်ခဲ့ပေသည်။ ထို့ကြောင့်ပင် အထွေးဆုံးညီတော်သည် တောရ ဆောက်တည်သော အရာဝယ် အထူးမြတ်ဆုံး 'ဧတဒဂ်' ဂုဏ်ထူး ဆွတ်ခူးနိုင်ခဲ့ပေသည်။

ဤသို့အားဖြင့် ဘုရားရှင့် မြေးတော် သာသနာ့ အညွန့်အညှောက်ကလေးများသည် ကျွန်ုပ်တို့ မျက်မှောက်မှာပင် ခက်လက်ဝေဆာ မင်္ဂလာ ကျက်သရေရှိသော အပင်ကြီးများ ဖြစ်လာကြပေသည်။

**(အင်္ဂုတ္တရ အဋ္ဌကထာ၊ ဧကနိပါတ်၊ ခဒိရဝနိကရေဝတတ္ထေရဝတ္ထု)**

✳✳

## သက်နီးမဝတ်လိုက်ရသော ရဟန်းများ

လူ့ဘောင်လောကအတွင်းက ကိုယ်ကျင့်သီလ လုံခြုံ၍ သဒ္ဓါတရားနှင့် ပြည့်စုံသော အိမ်ထောင်ဦးစီးကို ဘုရားရှင်က ဟိမဝန္တာတောင်ကြီးနှင့် ဥပမာထား၍ ဟောကြားတော်မူခဲ့၏။

"ရဟန်းတို့၊ ဟိမဝန္တာတောင်မင်းကြီးကို အမှီပြု၍ သစ်ပင်ကြီးများသည် ငါးပါးသော ကြီးပွားခြင်းတို့ဖြင့် ကြီးပွားကြကုန်၏။ အဘယ်ငါးပါးတို့နည်း ဟူမူကား အခက်အရွက်၊ အခေါက်၊ အပွေး၊ အကာ၊ အနှစ် ဤသို့လျှင် ငါးပါးသော ကြီးပွားခြင်းတို့ဖြင့် ကြီးပွားကုန်ကြ၏။

"ရဟန်းတို့၊ ထို့အတူသာပင် သဒ္ဓါတရားနှင့် ပြည့်စုံသော အိမ်ထောင်ဦးစီးကို အမှီပြု၍ အိမ်သူအိမ်သားများနှင့်တကွ ဆွေမျိုး မိတ်သင်္ဂဟအပေါင်းတို့သည် ငါးပါးသောကြီးပွားခြင်းဖြင့် ကြီးပွားကြကုန်၏။ အဘယ်ငါးပါးတို့ နည်း ဟူမူကား သဒ္ဓါ၊ သီလ၊ သုတ၊ စာဂ၊ ပညာ ဤသို့လျှင် ငါးပါးသော ကြီးပွားခြင်းတို့ဖြင့် ကြီးပွားကြကုန်၏။

**(အင်္ဂုတ္တရပါဠိတော်၊ ပဉ္စကနိပါတ်၊ မဟာသာလပုတ္တသုတ်)**

လူဝတ်ကြောင်တို့အား ဟောကြားခဲ့သော ဤဒေသနာတော်ကို ကျွန်ုပ်တို့ သာသနာ့ဘောင်ကြီးနှင့် ဆက်စပ်ယှူလျှင်လည်း ရနိုင်သည်သာ ဖြစ်၏။ ဟိမဝန္တာတောင်မင်းကြီးကို အမှီပြု၍ သစ်ပင်များသည် ငါးပါးသော ကြီးပွားခြင်းဖြင့် ကြီးပွားရဘိသကဲ့သို့ တရားတော်၏ အရှင်သခင် တရားမင်းမြတ်ကို အမှီပြု၍ ကျွန်ုပ်တို့ သာသနာ့ဝန်ထမ်း အားလုံးသည် ငါးပါးသော ကြီးပွားခြင်းတို့ဖြင့် ကြီးပွားလာကြရ၏။

ဟိမဝန္တာတောင်ကြီးပေါ်မှ သစ်ပင်များသည် အရွယ်ရွယ် အစားစားနှင့် မျိုးမည်စုံစွာ ရှိကြ၏။ ထို့အတူပင် ရှင်တော်မြတ်၏ သာသနာတော်ကြီးမှာလည်း

အရွယ်ရွယ်အစားစားသော ရှင်ရဟန်းတို့ ရှိကြ၏။ အမျိုးအနွယ်ပေါင်းစုံမှ ဤသာသနာတော်တွင်းသို့ စုပြုံ ရောက်ရှိလာကြ၏။

အရွယ်အစားအားဖြင့် အဓိမုတ္တကတို့၊ ရေဝတတို့လို ငယ်ရွယ်စဉ် ကတည်းက သာသနာ့ဘောင်ရောက်လာခဲ့ကြသူများလည်း ရှိ၏။ အရှင်ရာဓတို့လို ခရမ်းသီးပိန်စားတုံး အရွယ်ကျမှ ဝင်ရောက်လာသူလည်း ရှိ၏။ တချို့က သာသနာ့ပြင်ပ အဖွဲ့အစည်းများမှထွက်ကာ သာသနာတော်နှင့် လျော်စွာ နေနိုင်အောင် လေးလတိုင်တိုင် လေ့ကျင့်ခန်းယူပြီးမှ ရဟန်းဘောင် ရောက်လာကြ၏။

ဤသို့ အနည်းနည်းအဖုံဖုံဖြင့် ရှင်ရဟန်းပြုလာကြသော ပုဂ္ဂိုလ် အားလုံးသည် ကျွန်ုပ်တို့၏ သီတင်းသုံးဖော်များ ဖြစ်ကြ၏။ ဘယ်နည်းနှင့် ရောက်လာလာ၊ ဘယ်ကပဲထွက်လာလာ သာသနာတော်တွင်းဝင်လာ၍ သာသနာတော်နှင့် လျော်စွာ နေတတ်သူမှန်သမျှကို ကျွန်ုပ်တို့ လက်ခံ ထွေးပိုက်ကြရပေမည်။ သာသနာတော်တွင်းသို့ ရာနှုန်းပြည့် မရောက်သေးသူကိုပင် သာသနာ့အသိအမြင် စင်ကြယ်သောအားဖြင့် ကျွန်ုပ်တို့ သီတင်းသုံးဖော်များအဖြစ်ဖြင့် ကျွန်ုပ်တို့ အလေးဂရု ပြုကြရပေသည်။

ဝိနည်းတော်က သတ်မှတ်ထားသော သက်နံကို မဝတ်လိုက်ရဘဲ ရဟန်းစာရင်းဝင်ခွင့်ရသော ပုဂ္ဂိုလ်နှစ်ပါးအကြောင်းကို ယခုတင်ပြရပါဦးမည်။

အကြောင်း ဆိုက်လာသည့်အခိုက် ဤနေရာမှာ ကျွန်ုပ်၏ အမြင်တစ်ကွက်ကို တင်ဆက်ရပါဦးမည်။ မနိုင်းယှဉ်အပ်သော ကျက်သရေမင်္ဂလာ အပေါင်းတို့ ခသောင်းဝပ်စင်းရာ သမ္မာသမ္ဗုဒ္ဓဟူ၍ မြတ်လှစွာသော ဘွဲ့နာမံတော်ကြီးကို ခံယူရရှိရာတွင် အခြားအခြားသော အကြောင်းတရားများလည်း ပါဝင်ကြမည် မလွဲပါ။ သို့သော် ကျွန်ုပ် သဘောပေါက်သမျှ အဓိက အကြောင်းတရားကို ရွေးထုတ်ရပါလျှင် လောကဓာတ် တစ်ခွင်လုံးကို တရားစည်မောင်း ရိုက်သောင်းတုန်ဟည်းစေနိုင်ခြင်းသာ ဖြစ်ပေသည်။

ဤအမြင် ပေါ်ပေါက်လာရသည်မှာ တော်တော်ကြီး ကြာခဲ့ပါပြီ။ ပုက္ကုသာတိ ပုဂ္ဂိုလ်ထူးနှင့် ဘုရားရှင်တို့ တွေ့ဆုံကြကတည်းက အစပြုလာခဲ့ပါသည်။

ထိုစဉ်က ကျွန်ုပ်အမြဲတမ်း အလုပ်အကျွေးဆုကြီးမရသေးပါ။ အခြားပုဂ္ဂိုလ်များ အကြောင်းသင့်သလို ပြုစုနေကြခိုက် ဖြစ်ပေသည်။ သို့ရာတွင် ထိုညနေက ဘုရားရှင်ကြွချီရာတွင်ကား ရဟန်းတစ်ပါးမျှ ပါမသွားပါ။ ဘဂ္ဂဝ မည်သော အိုးလုပ်သားကြီး၏ အလုပ်တဲဆီသို့ ဘုရားရှင် တစ်ပါးတည်းသာ ကြွချီတော်မူပေသည်။ မဂဓတိုင်းတစ်ခွင် ဒေသစာရီလှည့်လည်ရာမှ ရာဇဂြိုဟ်မြို့တော်အရောက်တွင် ဝေဠုဝန်ကျောင်းတော်ထိ ဝင်တော်မမူဘဲ တစ်ပါးတည်းခွဲ၍ ကြွချီတော်မူခြင်း ဖြစ်ပေသည်။

အကြောင်းထူးတစ်ခုခုရှိလျှင် ဤသို့ ကြွသွားနေကျဖြစ်၍ ကျွန်ုပ်တို့ အထူး အထွေ ဝေဖန်မနေကြပါ။ အရှင်မဟာသာရိပုတ္တရာ စသော မထေရ်မြတ်ကြီးများ နောက်ပါးမှ ကျွန်ုပ်တို့တစ်တွေ တိတ်ဆိတ်စွာပင် လိုက်ပါလာခဲ့ကြပါသည်။

ညနေတုန်းက တိတ်ဆိတ်စွာ လိုက်ပါခဲ့ကြသော ကျွန်ုပ်တို့သည် နောက် တစ်နေ့ နံနက်လင်းသည့်တွင်ကား ပြော၍ဆို၍ မပြီးနိုင်အောင် ဖြစ်ကြရပါတော့ သည်။

ယနေ့ညက ဇာတ်လမ်းကို ဘုရားရှင်ကလည်း ကျွန်ုပ်တို့ကိုမိန့်ကြားတော် မူပါ၏။ ကျွန်ုပ်တို့ကိုယ်တိုင်လည်း မြင်ကြရပါ၏။ သို့သော် ကျွန်ုပ်တို့ မြင်ခွင့် ရသောအချိန်မှာ အမျိုးကောင်းသား ပုက္ကုသာတိ အသက်မရှိတော့ပါ။ ရွာတံခါး အထွက်ရှိ အဝတ်ဟောင်းများစွန့်ပစ်ထားသည့် အမှိုက်ပုံကြီးနားတွင် မှောက်လျက် သား သေဆုံးနေပါပြီ။

သူသည် ဝေးလံလှစွာသော ဂန္ဓာရတိုင်းမှ ဤမဇ္ဈိမတိုင်းသို့ မရောက် ရောက် အောင် လှမ်းလာခဲ့သူဖြစ်၏။ ဘုရားရှင်ကို တစ်ခါမျှ မဖူးရသေးဘဲလျက် ဘုရား ရှင်၏ ဂုဏ်ကျေးဇူးများကို ကြည်ညို ကိုးစားခဲ့သူ ဖြစ်၏။ မြောက်မြားစွာသော စည်းစိမ်ဥစ္စာ ခြွေရံသင်းပင်းတို့ကို လွတ်လွတ်ကြီး စွန့်ခွာ၍ လာနိုင်ခြင်းမှာ ထိုအရာအားလုံးထက် ဘုရားဂုဏ်တော်များကို ကိုးစား၍ပင် ဖြစ်ပေသည်။ ဘုရား ဂုဏ်တော်များကို ပြောသံကြားဖြင့်ပင် ကိုးစားယုံကြည်ကာ သူ့ဘာသာ ရဟန်းပြု လာခဲ့၏။ သူ့ဘာသာ ပြုလာခဲ့ရသဖြင့် သူ့သင်္ကန်းများမှာ ကျွန်ုပ်တို့ကဲ့သို့ ဝိနည်း တော်နှင့် လျော်ညီစွာ ချုပ်လုပ်ထားသည် မဟုတ်ပါ။ ကြည်ညိုဖွယ်သော အရောင် အဝါလည်းမရှိပါ။ လမ်းတစ်လျှောက်မှာတွေ့ခဲ့ရသော ပရဗိုဇ်ရဟန်းတို့၏ မည်းမည်း ညစ်ညစ် အဝတ်အဆင်မျိုးသာ ဖြစ်ပေသည်။

ကွယ်လွန်သူ ပုက္ကုသာတိသည် ဘဂ္ဂဝ၏ အိုးလုပ်တဲကြီးဆီသို့ ဦးစွာရောက်နှင့် နေ၏။ ထို့ကြောင့် ဘုရားရှင်က တစ်ညတာ ကျိန်းစက်ရန်အတွက် ဘဂ္ဂဝထံ ခွင့်တောင်းသောအခါ....

"အရှင်ဘုရား၊ တဲကြီးထဲမှာ ရဟန်းတစ်ပါး ရောက်နှင့်နေပါသည်။ ထို ရဟန်းက ခွင့်ပြုပါလျှင် တပည့်တော်ခွင့်ပြုရန် ဝန်မလေးပါဘုရား" ဟု ဘဂ္ဂဝက လျှောက်၏။

ဤတွင် ဘုရားရှင်သည် တဲဝသို့ တစ်ဖန်ကြွတော်မူရ၏။ အတုမရှိ မြင့်မြတ်လှသော ပုဂ္ဂိုလ်မွန်ဖြစ်ပါလျက် ပိုင်စိုးပိုင်နင်း ဝင်တော်မမူခဲ့ပါ။ ရဟန်း အချင်းချင်း တန်းတူရည်တူ သဘောထားကာ အပြေအလည် ခွင့်တောင်းတော်မူခဲ့ ၏။ ပုက္ကုသာတိကလည်း မိမိနှင့်ဘဝတူ ရဟန်းတစ်ပါးဟုပင် သဘောထားကာ...

"ငါ့ရှင်၊ အိုးလုပ်တဲကြီးသည် ကျယ်ဝန်းပါ၏။ အရှင်ရဟန်း၊ ချမ်းသာစွာ နေပါလော့" ဟု ခွင့်ပြုခဲ့၏။

ထိုညက ဘုရားရှင်သည် ထက်ဝယ်ဖွဲ့ခွေ ထိုင်နေတော်မူခြင်းဖြင့် သီတင်းသုံးတော်မူခဲ့၏။ သီတင်းသုံးရာ ပလ္လင်မြတ်ကား အခြား မဟုတ်ပါ။ အိုးလုပ်တဲအတွင်းရှိ မြက်ခြောက်နှင့် ကောက်ရိုးများကို ကိုယ်တော်တိုင် စုဆောင်းကာ ကိုယ်တော်တိုင် ခင်းထားသော ပလ္လင် ဖြစ်ပေသည်။

ထိုပလ္လင်ထက်၌ သတိလက်ကိုင် ခိုင်မြဲစွာ သီတင်းသုံးနေတော်မူရာမှ သူ့နည်းတူ ထိုင်နေသော ပုက္ကုသာတိကို အားရကျေနပ်တော်မူသဖြင့်

"အို ရဟန်း၊ သင်သည် မည်သူ့ကိုရည်စူး၍ ရဟန်းပြုခဲ့ပါသနည်း။ သင်၏ ဆရာသည် မည်သူပါနည်း။ မည်သူ့တရားကို နှစ်သက်ပါသနည်း" ဟု နှုတ်ဆက်မေးမြန်းတော်မူခဲ့၏။

ဤတွင် ပုက္ကုသာတိကလည်း သူ့လို သာမန်ရဟန်းတစ်ပါးမျှသာ ထင်မှတ်နေဆဲဖြစ်၍--

"ငါ့ရှင်၊ သကျမျိုးနွယ်မှ ထွက်ခွာလာခဲ့သော ရဟန်းဂေါတမ ဟူ၍ ရှိ၏။ ထိုရဟန်းဂေါတမ၏ အရဟံစသော ဂုဏ်တော်အပေါင်းသည် ကမ္ဘာမြေအနှံ့ ဖြန့်ကျက် ကျော်စော၍ နေ၏။ ထိုရဟန်းဂေါတမကို ရည်စူး၍ ရဟန်းပြုခဲ့ပါ၏။ ထိုရဟန်းဂေါတမသည် ငါ၏ ဆရာဖြစ်၏။ ထိုရဟန်း ဂေါတမ၏ တရားကို ငါ နှစ်သက်၏"

"အို ရဟန်း၊ ထိုဘုရားရှင်သည် ယခု ဘယ်မှာရှိပါသနည်း"

"ငါ့ရှင်၊ ဤနေရာမှ မြောက်အရပ်တွင် သာဝတ္ထိဟူသော မြို့တော်ကြီး ရှိ၏။ ထိုမြို့တော်ကြီး၌ ဘုရားရှင်နေတော်မူပါသည်"

"အို ရဟန်း၊ ထိုဘုရားရှင်ကို သင်ဖူးမြင်ဖူးပါသလော။ ဖူးမြင်ရလျှင် သိနိုင်ပါမည်လော"

"ငါ့ရှင်၊ ထိုဘုရားရှင်ကို တစ်ကြိမ်တစ်ခါမျှ မဖူးမြင်ရသေးပါ။ ဖူးမြင်ရလျှင်လည်း သိနိုင်မည် မဟုတ်ပါ"

နှုတ်ဆက်ပြောဆိုကြရင်း မေးကြ ဖြေကြသော စကားစု ဖြစ်ပေသည်။ မှန်ပေသည် ပြောသံကြားရုံမျှဖြင့် လေးစားကြည်ညိုကာ ထိုဆရာသမား၏ ခြေတော်အစုံမှာ ခိုလှုံခွင့်ရရန် ဝေးလံလှသောအရပ်မှ ပင်ပန်းကြီးစွာလာခဲ့၏။ တွေ့မည့် တွေ့ပြန်တော့လည်း မိမိ တွေ့ချင် ဖူးချင်လှသော ဆရာသခင်နှင့် ပက်ပင်းပါ ဖူးတွေ့နေရ၏။ သို့ပါလျက် သူ့ခမျာ ဘုရားမှန်း မသိရှာ။ မသိ၍ပင် 'ငါ့ရှင်' ဟူ၍ မရိုမသေ သုံးနှုန်းခဲ့မိပေသည်။

မသိသေးသူက မသိ၍ သုံးနှုန်းခဲ့သည်ကို သိပြီးသော အရှင်မြတ်ကလည်း တားမြစ်ပိတ်ပင်မှု ပြုတော်မမူခဲ့ပါ။ "ရဟန်းတို့ ထွတ်ထား ဘုရား ကိုယ်တော်မြတ်ကို ရိုသေစွာဆက်ဆံရမည်"ဟု ညွှန်ကြားတော်မမူခဲ့ပါ။ ပုဂ္ဂိုလ်ရေးအရ ဘုရားမှန်း မသိသေးသော ဝေနေယျတစ်ပါးကို တရားရေး ဘက်ကသာ သိအောင်မြင်အောင် အလေးထား၍ ဟောကြားတော်မူခဲ့၏။

ဤသည်ကိုထောက်၍ ဗုဒ္ဓမြတ်စွာ၏ မန္တိုင်းယှဥ်အပ်သော အသရေတော်သည် အဓိကအားဖြင့် တရားတော်အပေါ်မှာ တည်ကြောင်း ကျွန်ုပ် တင်ပြခဲ့ခြင်း ဖြစ်ပေသည်။ မရွံ့မကြောက် ခြင်္သေ့မင်း ဟောက်သကဲ့သို့ ရဲရဲတောက် တရားတော်များ ဟောကြားခဲ့သော ဘုရားရှင်သည် အကြောင်း တစ်ခုခုနှင့် တစ်ပါးတည်း ကြွသွားရာတွင်ကား သာမန် ရဟန်းတစ်ပါးမျှသာ ဖြစ်နေပေသည်။ ထို့ကြောင့်ပင် ပါလိလေယျက တောသို့ ကြွသွားတော်မူစဉ်က တောဆောင့်ကြီးက သာမန် ရဟန်းတစ်ပါးထင်၍ နှင်လွှတ်ခဲ့ဖူးပြီ မဟုတ်ပါလော။

ပုဂ္ဂိုလ်အချင်းချင်း နီးနီးကပ်ကပ် ဖူးမြင်ရပါလျက် ဘုရားဟူ၍ မသိခဲ့သော ပုက္ကုသာတိသည် ဟောကြားသောတရားကို သဘောပေါက်လိုက် သည်တွင်ကား မပြောရဘဲနှင့် ဘုရားမှန်း သိပေတော့သည်။ သို့ပါလျက် သိလျှင် သိချင်း သူ့ခမျာ ကန်တော့ခွင့်မရပါ။ မိုးသီးမိုးပေါက်တမျှ အားသွန် ကြိုးချလျက်ရှိနေသော ဒေသနာတော်များ မပြီးဆုံးသေး၍ ဖြစ်ပေသည်။

"ရဟန်း၊ ယောကျ်ားတစ်ယောက်ဟူ၍ ပညတ်ထားရသော ဤကိုယ်ခန္ဓာသည် တကယ်စင်စစ်အားဖြင့် ဓာတ်ခြောက်ပါးတို့သာလျှင် ဖြစ်၏။ ဖဿ ခြောက်ပါးတို့၏ အစုအဝေးသာ ဖြစ်၏။ တစ်ဆယ့်ရှစ်ပါးသော စိတ်ခံစားမှုသာ ရှိ၏။ သမာဓိ ဝိပဿနာပညာကို မမေ့မလျော့ပွားများခြင်း၊ မှန်ကန်သော ဝစီသစ္စာကို စောင့်ရှောက်ခြင်း၊ လွှတ်လွှတ်ကျွတ်ကျွတ် စွန့်လွှတ်နိုင်ရန် ကျင့်သုံးခြင်း၊ စိတ်နှလုံး၏ ထာဝစဉ် ငြိမ်းအေးခြင်း အလို့ငှာ အေးချမ်းစွာ ကျင့်သုံးခြင်း၊ ဤသို့သော သစ္စာလေးပါး၌တည်သော ရဟန်းအား တဏှာ၊ မာန၊ ဒိဋ္ဌိဟူသော မာန်မူခြင်းတရားတို့ မဖြစ်ပေါ်နိုင်ပေ။ မာန်မူခြင်းမရှိ၊ ပကတိချုပ်လေပြီးသော ရဟန္တာပုဂ္ဂိုလ်ကို ငြိမ်းချမ်းသူဟူ၍ ခေါ်ဆိုအပ်၏"

ဤကား ထိုညကဟောကြားသော တရားတော်၏ အကျဉ်းချုပ် မာတိကာ ဖြစ်ပေသည်။

ဓာတ်ခြောက်ပါးဟူသည်မှာ ပထဝီ၊ တေဇော၊ အာပေါ၊ ဝါယောနှင့် အာကာသဟူသော ရုပ်အခြေခံဓာတ်များနှင့် ဝိညာဏဓာတ်အားဖြင့် ဓာတ်ခြောက်ပါး ဖြစ်၏။ ယောကျ်ား မိန်းမ စသည်အားဖြင့် ပညတ်ထားသော ဤခန္ဓာကိုယ်ကြီးကို

အရင်းအမြစ်ကစ၍ စိစစ်ကြည့်လိုက်ပါလျှင် ဤဓာတ်ခြောက်ပါးတို့သာ ရှိပေသည်။ ယောကျ်ား မိန်းမ၊ မောင်ဖြူ မောင်ညို စသည်ဖြင့် ပညတ်ထားလေသမျှသည် အဟုတ်ရှိ၊ တကယ်ရှိသည်များ မဟုတ်ကြပေ။ တကယ်မရှိသည်ကို ဖယ်၍ တကယ် ရှိသော ဓာတ်ခြောက်ပါးကို ဖဿခြောက်ပါး၊ စိတ် ခံစားမှု ၁၈ ပါးတို့ဖြင့် အကျယ် ဝေဖန်၍ထားပေသည်။

ဖဿခြောက်ပါးဟူသည်မှာ မျက်စိ၊နား၊ နှာခေါင်း၊ လျှာ၊ ကိုယ်ကာယ၊ မနောဓာတ် ဟူသော ဒွါရခြောက်ပါးသို့ အပြင်အာရုံများ ရိုက်ခတ်လာသော အခါ တွေ့ထိဆက်စပ်သော စိတ်သဘောဖြစ်၏။ ခြောက်မျိုးသော ဒွါရနှင့် အာရုံတို့ ဆုံမိကြသောအခါ အကောင်းအဆိုး အလယ်အလတ် ဟူသော သုံးမျိုးသော ခံစားမှုများ ပေါ်လာကြသဖြင့် ၁၈ ပါးသော စိတ်အာရုံတို့ ပေါ်ပေါက်လာကြ၏။

ဤသို့သော စိတ်ခံစားမှုများကို ဟောကြားရာမှ နောက်ဆုံး ဈာန်သမာပတ်များဆီသို့ ဒေသနာတော် ဆိုက်ရောက်လာခဲ့၏။ ပုက္ကုသာတိသည် ကောကိဈာန် သမာပတ်များကို တွယ်တာ ကပ်ငြိနေသူဖြစ်ကြောင်း ဘုရားရှင် သိတော်မူသဖြင့်

"ရဟန်း၊ ရူပါဝစရ ပဥ္စမဈာန်မှတစ်ဆင့် အရူပဈာန်လေးပါးသို့ တိုးတက် ပွားများလိုလျှင် ရနိုင်ပါသည်။ သို့ရာတွင် ထိုအရူပဈာန်သည်လည်း ပြုပြင် စီရင်ပေးမှ ဖြစ်နိုင်သောတရား ဖြစ်၏။ ခိုင်မြဲမှုမရှိ။ ချုပ်ပျောက် ပျက်စီးတတ်၏။ အိုနာသေ ဝဋ်ဒုက္ခနှင့် ဆက်ဆံလျက်ရှိ၏။

"ထို့ကြောင့် ထိုရဟန်းသည် ဘဝသံသရာ ဆက်ရေးပြတ်ရေးတို့တွင် ဘာကိုမျှ စိတ်မစေတော့ဘဲ လောကတစ်ခွင် မြင်မြင်သမျှ ဘာကိုမျှ မစွဲလမ်း တော့ပေ။ မစွဲလမ်းသဖြင့် ပူပန်စရာလည်း မရှိတော့ပေ။ ပူပန်မှုမရှိ၊ ပကတိ အေးငြိမ်းသော စိတ်သဘောကို ယခု မျက်မှောက်ဘဝမှာပင် ရရှိခံစားရ၏။ ဤသို့ သော ဘာဝနာဉာဏ်တို့ အထွတ်အထိပ် အရဟတ္တဖိုလ်သို့ ဆိုက်ရောက်သောအခါ 'ငါ့မှာ ဘဝဆက်စရာကုန်ပြီ။ သာသနာတော်၏ အဆုံးအမဖြင့် မြင့်မြတ်လှသော အကျင့်ကို ကျင့်သုံးပြီးပြီ။ သာသနာတော်၏ အဆုံးအမဖြင့် ပြုလုပ်ရမည့်ကိစ္စများ အလိုလို ပြီးစီးသွားကြပေပြီ။ ဤ နိဗ္ဗာန်တရားခံစားရေးအတွက် ဤနိဗ္ဗာန်မှာ အခါခါနား၍ နေရုံမှတစ်ပါး အခြားပြုဖွယ် မရှိတော့ပြီ' ဤသို့ ဟုတ်တိုင်းမှန်စွာ သိမြင်လာပေတော့သည်"

ဤဒေသနာတော် မဆုံးမီမှာပင် ပုက္ကုသာတိသည် အနာဂါမိမဂ်ဖိုလ်ထိ အသိဉာဏ်ပွင့်လင်းသွား၏။ ဤသို့ပွင့်လင်းခါမှ တရားဟောနေသူမှာ အခြား မဟုတ်။ မိမိက အမြတ်တနိုး ကိုးစားယုံကြည်လာခဲ့ရသော ဆရာသခင် ပါကလား ဟု သိလိုက်ရ၏။ သို့သော် မိုးသီးမိုးပေါက်တမျှ သွန်ချနေသော ဒေသနာတော်

မဆုံးသေးသဖြင့် ချက်ချင်း ကန်တော့ခွင့် မရသေးပါ။ ကာယကံ၊ ဝစီကံမြောက် ကန်တော့ခွင့်ရရန် ဒေသနာတော်ပြီးဆုံးအောင် စောင့်ဆိုင်းခဲ့ရပေသည်။ ဒေသနာတော် ပြီးဆုံးချိန်တွင် အရှေ့လောကဓာတ်မှ လင်းရောင်ခြည်များ သန်းလာခဲ့ပြီဟု ဘုရားရှင်က မိန့်ကြားတော်မူပေသည်။

'ငါ့ရှင်'ဟူ၍ သုံးနှုန်းခဲ့မိသော အပြစ်ကို ရိုသေစွာ ဝန်ချကန်တော့ပြီးနောက် ပုက္ကုသာတိသည် သာသနာ့ဝန်ထမ်း ရဟန်းတစ်ပါးအဖြစ် ချီးမြှောက်တော်မူပါရန် လျှောက်ထား၏။ သို့ရာတွင် သူ့မှာ ဝိနည်းတော်နှင့် လျော်ညီသော သပိတ်၊ သင်္ကန်း တို့ မပါလာသေးသဖြင့် ဘုရားရှင်က ရဟန်းပြုပေးတော် မမူနိုင်ပါ။ မသိသေးသော တရားကိုသိအောင် ဟောကြားတော်မူနိုင်သော ဘုရားရှင်သည် မရှိသေးသော ပစ္စည်း ကိုကား ရှိလာအောင် ပြုပေးတော် မမူနိုင်ပါ။ အခြေခံရှိသော အရာမှာသာ ကူညီ နိုင်၍ အခြေခံမရှိသောအရာ၌ ဘုရားသော်မှ မကူညီနိုင်ပါ။

ဤသို့အားဖြင့် ပုံသကူသင်္ကန်းစ ရှာဖွေရန် ဤအမှိုက်ပုံကြီးသို့ အရောက် တွင် သားဖောကပ်နေသော နွားမအငေ့ခံရ၍ နေရာမှာပင် အသက်ဆုံးရှုံးခဲ့ရ၏။ ဖြစ်ရပ်အမှန်ကို သိကြရသောအခါ ဒါယကာ ဒါယိကာမများက သူ၏ ရုပ်ကလာပ် ကို ကောင်းမွန်စွာ သဂြိုဟ်၍ အမှတ်တရ စေတီတစ်ဆူ တည်ထားကြပေသည်။

**(ဥပရိပဏ္ဏာ၊ ဓာတုဝိဘင်္ဂသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)**

ဥတ်ကမ္ပဝါစာဖြင့် သိမ်ထဲမှာ ရဟန်းမခံလိုက်ရသော်လည်း ဝိနည်းတော် နှင့် လျော်ညီသော အဝတ်သင်္ကန်း မဆင်မြန်းရသေးသော်လည်း 'အရှင်ပုက္ကု သာတိ' ဟု ကျွန်ုပ်တို့အားလုံးက အသိအမှတ် ပြုကြရပေသည်။ သူ့နည်းတူပင် သင်္ကန်းမဝတ်လိုက်ရဘဲ ရဟန်းစာရင်းဝင်သူ တစ်ဦးလည်း ရှိပါသေး၏။ အရှင် ပုက္ကုသာတိနှင့် တွေ့ဆုံရသည်မှာ ရာဇဂြိုဟ်မြို့တော်တွင်ဖြစ်၏။ သည်ပုဂ္ဂိုလ်နှင့် တွေ့ရသည်မှာကား သာဝတ္ထိမြို့တော်။ နိုင်ငံတခြား၊ မြို့တော် တခြားစီဖြစ်သော် လည်း တွေ့ကြုံရသည့်အချိန်မှာကား အတူတူပင် ဖြစ်ပါသည်။ နံနက်ခင်းမှာ ဆွမ်းခံရင်း တွေ့ကြုံရသည်ချည်း ဖြစ်ပါသည်။

ထိုနေ့နံနက်တွင် ဘုရားရှင့် နောက်တော်ပါးမှ ကျွန်ုပ် လိုက်ပါလာခဲ့၏။ မြို့တော်တွင်းမှာ အိမ်စဉ်အတိုင်း ဆွမ်းခံနေစဉ် ဘုရားရှင့် ခြေတော်ရင်းသို့ ပုဂ္ဂိုလ်ထူးတစ်ယောက်က ဦးခိုက်လာပေသည်။

ထိုသူကို ကျွန်ုပ်တို့တစ်ခါမျှ မမြင်ဖူးပါ။ သူလို အဝတ်အဆင်မျိုးကိုလည်း မမြင်ဖူးပါ။ မကြားစဖူး မကြုံစဖူးလောက်အောင် သူ့အဝတ်အဆင်များက ထူးခြား လှ၏။ ပျဉ်တိုပျဉ်စ သစ်ခက်စများကို နွယ်ကြိုးနှင့် သီ၍ ဝတ်ဆင်ထားပေသည်။ သူ့ခန္ဓာကိုယ် နွမ်းနယ်နေသည်ကို ထောက်၍ ဝေးလံလှသော အရပ်မှ ခရီးပြင်း

လျှောက်လာရသူဖြစ်နိုင်ပါသည်။ သူ့ရုပ်သွင်ကို ကြည့်သောအားဖြင့် ပင်လယ်ကမ်းစပ်က ဖြစ်ကြောင်း ခန့်မှန်း၍ ရပါသည်။

"အရှင်ဘုရား၊ တပည့်တော်အား တရားဟောတော်မူပါ။ တပည့်တော်အား နှစ်ရှည်လများ အကျိုးပွားမည့်တရား ဟောကြားတော်မူပါဘုရား"

ပျဉ်ချပ်ဝတ်ထားသူက ခြေတော်ရင်းသို့ ဝပ်စင်းမိသည်နှင့် တရားတောင်းလိုက်ပါတော့သည်။ ခရီးပန်းရာမှ အနားယူရေးထက် တရားသိရေး၊ ကျင့်သုံးရေးကို အလေးထားနေပုံကို ကျွန်ုပ် အကဲခတ်၍ ရပါသည်။

"ဗာဟိယ၊ တရားဟောရန်အခါ မဟုတ်သေး။ အိမ်စဉ်အတိုင်း ဆွမ်းခံဝင်နေကြတုန်း ဖြစ်သည်"

အလောတကြီး တရားတောင်းလာသူအား ဘုရားရှင်က အမည်နာမကို ထုတ်ဖော်၍ ငြင်းပယ်တော်မူလိုက်သည်။ ဗာဟိယဟု ထုတ်ဖော်လိုက်သောအမည်မှာ သူ့နာမည်ရင်း မဟုတ်နိုင်ပါ။ သမုဒ္ဒရာကမ်းစပ်မှ ဗာဟိယတိုင်းသားတစ်ဦးဖြစ်၍ အလွယ်တကူ ခေါ်ဝေါ်လိုက်သော အမည်သာ ဖြစ်ပါလိမ့်မည်။ ဘုရားရှင့်ရွှေနှုတ်တော်မှ ဦးစွာထုတ်ဖော်လိုက်သော ဤအမည်ကိုပင် ကျွန်ုပ်တို့ တစ်တွေက ဆက်လက်ခေါ်ဝေါ်ကြရပေမည်။

ပုက္ကုသာတိတုန်းက တရားတစ်ပုဒ်ဟောထုတ်ရန်အတွက် အိုးလုပ် တဲကြီးသို့ တမင်တကာ ကြွတော်မူခဲ့ရ၏။ ယခုတော့ တရားဟောရန်အတွက် ဘယ်ကိုမှ ကြွစရာ မလိုပြီ။ တရားနာမည့်သူက ခြေတော်ရင်းမှာ ဝပ်စင်းလျက် ရှိနေပေပြီ။ တရားနာမည့်သူက အသင့်ရှိနေခါမှ ဘုရားရှင်က "တရားဟောရန် အချိန်မဟုတ်သေးပါ" တဲ့။

ဤသို့ တားမြစ်လိုက်သည့်အတွက် တရားမဟောလို၍လားဟု အတွေးပွားစရာ မလိုပါ။ နောင်တော်မြတ်နှင့် နီးနီးကပ်ကပ် နေလာခဲ့သည်နှင့်အမျှ နောင်တော်မြတ်၏ စိတ်ဓာတ်ကို ကျွန်ုပ် အကဲခတ်လာခဲ့ပါသည်။ တရားရေးနှင့် ပတ်သက်လာလျှင် အလေးဂရုအပြုဆုံး ဖြစ်သည်ကို ကျွန်ုပ်၏ ပရိသတ်များလည်း ကြားနာခဲ့ကြရပြီးပါပြီ။

ဤသို့ သိစေချင် မြင်စေချင်သော မဟာကရုဏာတော်ရှင် ဖြစ်ပါလျက် ယခု ငြင်းပယ်ရသည်မှာ တရားမဟောလို၍ မဟုတ်နိုင်ပါ။ ဗာဟိယ၏ အခြေအနေကို ငဲ့ညှာ၍သာ ဖြစ်ပါလိမ့်မည်။

ဗာဟိယ၏ ကိုယ်ခန္ဓာဝယ် ပင်ပန်းနွမ်းနယ်သော အမူအရာများ မပျောက်သေးပါ။ ထို့ပြင် တရားသဘောကို သိလိုစိတ် ပြင်းပြလွန်းနေလျှင်လည်း သိရေး မြင်ရေး အထမမြောက်နိုင်ပါ။ ထို့ကြောင့် ပင်ပန်းမှုလည်း ပြေပျောက်စေ၊ စိတ်ဓာတ်

လည်း သမာသမတ် မျှတစေဟူသော သဘောဖြင့် အချိန်ဆွဲလိုက်ခြင်းသာ ဖြစ်နိုင်ပါသည်။

ဘုရားရှင်က အချိန်ဆွဲနေစဉ် ဗာဟိယကတော့ တရားဟောဖို့ချည်း တွင်တွင်လျှောက်၏။ တစ်ကြိမ်နှင့်မရတော့ နှစ်ကြိမ်၊ နှစ်ကြိမ်မှ သုံးကြိမ်ထိ လျှောက်၏။ သုံးကြိမ်လျှောက်သောအခါတွင်ကား ကျွန်ုပ်၏ ဘဏ္ဍာတိုက်ထဲသို့ အဖိုးထိုက်တန်ဆုံးသော ရတနာတုံးတစ်ခု တိုးလာပေတော့သည်။

"ဗာဟိယ၊ ထိုသို့ဖြစ်လျှင် ဤနည်းအတိုင်း ကျင့်သုံးပေလော့။ မြင်လျှင် မြင်ကာမတ္တ ဖြစ်လတ္တံ့။ ကြားလျှင် ကြားကာမတ္တ ဖြစ်လတ္တံ့။ နံလျှင် နံကာမတ္တ ဖြစ်လတ္တံ့။ စားလျှင် စားကာမတ္တ ဖြစ်လတ္တံ့။ ထိလျှင် ထိကာမတ္တ ဖြစ်လတ္တံ့။ သိလျှင် သိကာမတ္တ ဖြစ်လတ္တံ့။ ဗာဟိယ၊ ဤအတိုင်းသာလျှင် ကျင့်သုံးပေလော့"

အကျဉ်းချုပ်တရား နာကြားလိုသော ဗာဟိယအတွက် လိုရင်းအချက်ကို ဟောကြားတော်မူလိုက်ခြင်း ဖြစ်ပေသည်။

မြင်လျှင် မြင်ကာမတ္တဖြစ်ပါစေဟူရာ၌ တစ်စုံတစ်ခုသော ရူပါရုံကို မြင်သောအခါ မြင်စိတ်သည် ပကတိသဘောအားဖြင့် စင်ကြယ်သော စိတ် မနောသာဖြစ်၏။ မြင်အပ်သောရူပါရုံကို လောဘဖြင့်လည်း မတပ်မက်။ ဒေါသဖြင့်လည်း မပြစ်မှား။ မောဟဖြင့်လည်း တွေဝေခြင်း မရှိပေ။ ဤသို့အားဖြင့် မြင်စိတ်မှာ ကိလေသာမရှိ။ ပကတိ စင်ကြယ်နေသည့်အတိုင်း သူ့နောက်မှာဖြစ်ပေါ်လာသော ဝီထိစိတ်များကိုလည်း ထားပါ။ ကိလေသာ မယှဉ် စင်ကြယ်သော ဝိပဿနာဇောစိတ်များသာ ဖြစ်ပွားနေပါစေဟု အဓိပ္ပာယ်ရပေသည်။

အတိုချုံး၍ လိုရင်းကိုဟောထားသော ဤဒေသနာတော်ဝယ် အသုဘ၊ ဒုက္ခ၊ အနိစ္စ၊ အနတ္တ ဟူသော ရှုမြင်သုံးသပ်မှု အနုပဿနာ လေးမျိုးလုံး အကျုံးဝင်လျက်ရှိပေသည်။တစ်စုံတစ်ခုကို မြင်လိုက်သောအခါ ရောက်တတ်ရာရာ ဆက်လက်တွေးတောမှုမပြုဘဲ မြင်ကာမတ္တနှင့် ရပ်လိုက်သဖြင့် တင့်တင့်တယ်တယ် ဖွယ်ဖွယ်ရာရာ လိုချင်စရာဟူသော သုဘအယူ အစွဲမျိုး ပေါ်မလာနိုင်တော့ပေ။ သမထကမ္မဋ္ဌာန်းများ၌ အသုဘကမ္မဋ္ဌာန်းများ ထည့်သွင်းထားရသည်မှာ ဤသို့သော သုဘအယူအစွဲမျိုးကို ပယ်ချိုးနိုင်ရေး အတွက်သာဖြစ်၏။ ယခု မြင်လျှင် မြင်ကာမတ္တဖြင့် ရပ်လိုက်သောအခါ ထိုအယူအစွဲတွေ ပေါ်လာခွင့်မရတော့သဖြင့် အသုဘ ဘာဝနာကို တသီးတသန့် ပွားမနေရဘဲ ဝိပဿနာနှင့်အတူ အလိုလိုပွားပြီးသား ဖြစ်နေ၏။ အကျိုးတရားပေါ်မှ အကြောင်းတရားကို ရှုမြင်သုံးသပ်သောနည်းအရ ဖြစ်၏။ ထို့အတူပင် သုခ၊ နိစ္စ၊ အတ္တ အယူအစွဲတို့လည်း ကပ်ရောက်ခွင့်မရတော့သဖြင့် ဒုက္ခစသော ဘာဝနာများလည်း ပွားများပြီးဖြစ်ပေသည်။

ဤသို့သော ဝိပဿနာစခန်းကို ပရိညာသုံးပါးဖြင့် ဝေဖန်ကြည့်လျှင် ဉာတပရိညာနှင့် တီရဏပရိညာနှစ်ပါးကို တွေ့ရမည်ဖြစ်၏။ မြင်စိတ်တစ်ခု ဖြစ်ပေါ်လာသောအခါ ရောက်တတ်ရာရာ တွေးတောကြံစည်မှုမပြုဘဲ မြင်အပ်သော ရူပါရုံ သန့်သန့်ကိုလည်းကောင်း၊ မြင်တတ်သော စိတ်သန့်သန့်ကို လည်းကောင်း ရှုမြင်သုံးသပ်လိုက်သောအခါ ပြုသူမရှိ၊ ခိုင်းသူမပါ သူ့သဘောအလျောက် ဖြစ်ပေါ်နေသော တရားသဘောမျှပါကလားဟု သဘောပေါက်လာမည် ဖြစ်၏။ ဤသို့သဘောပေါက်ခြင်းကို ဉာတပရိညာဟု ဆိုရပေမည်။ ခြောက်ဒွါရ၌ ခြောက်အာရုံ ဆုံလာလေသမျှကို အနိစ္စလက္ခဏာ စသည်ဖြင့် ရှုမြင်သုံးသပ်သော သဘောပါနေသဖြင့် တီရဏပရိညာလည်း ပြည့်စုံပြီးဖြစ်၏။

ဤဒေသနာတော်ဖြင့် ဆုံးမဟောကြားပြီးနောက် ဘုရားရှင်နှင့် ကျွန်ုပ်တို့ ဆက်လက်၍ ဆွမ်းခံကြရ၏။ ဆွမ်းခံရာမှ အထွက်တွင်ကား ဗာဟိယ၏ ရုပ်အလောင်းကို ကျွန်ုပ်တို့ တွေ့ကြရ၏။ ပုက္ကုသာတိကဲ့သို့ နွားမ အဝှေ့ခံရ၍ သေဆုံးရခြင်းပင် ဖြစ်ပေသည်။

"ရဟန်းတို့၊ ဗာဟိယ၏ ရုပ်အလောင်းကို ညောင်စောင်းနှင့် တင်၍ ယူခဲ့ကြ။ မြို့ပြင်ထုတ်၍ မီးသင်္ဂြိုဟ်လိုက်ကြ။ သူ့အတွက် အမှတ်တရ စေတီ တစ်ဆူလည်း တည်လိုက်ကြ။ သူကား သင်ရဟန်းတို့၏ သီတင်းသုံးဖော် တစ်ပါး ဖြစ်ပေသည်"

သက်န်းမဝတ်လိုက်ရသော ရဟန်းတစ်ပါးအတွက် မိန့်မြွက်တော် မူရခြင်း ဖြစ်ပေသည်။ မှန်ပါသည်။ ပျဉ်ချပ်တွေ ဝတ်ထားလျက်ကပင် ဗာဟိယ၏ ရဟန်းကိစ္စသည် ထိုနေရာ ထိုခဏ၌ပင် ပြီးစီးခဲ့၏။ ကိလေသာ ကြားမခံဘဲ မဂ်လေးတန် ခရီးကို တစ်ဆက်တည်းပေါက်ကာ ရဟန္တာအရှင်မြတ်ကြီး ဖြစ်ခဲ့၏။ ထိုကဲ့သို့ အသိဉာဏ် လျင်မြန်သည့်အတွက် သူ ကွယ်လွန်ပြီးနောက် 'ဧတဒဂ်' ဂုဏ်ထူးဖြင့် ဘုရားရှင် ကိုယ်တော်တိုင် ချီးကျူးဂုဏ်ပြုတော်မူရပေသည်။

တရားဟောစဉ် တစ်ခဏ၌သာ တွေ့လိုက်ရသော ဗာဟိယ၏ နောက်ကြောင်း တစ်စွန်းတစ်စကို ဇေတဝန်ကျောင်းတော်ရောက်မှ ကျွန်ုပ် ကြားသိရပါ၏။ သူတို့တစ်တွေ မေးမြန်းထားကြသဖြင့် သူ့ဇာတ်ကြောင်း အကျဉ်းချုပ်ကို ပြောပြသွားခဲ့ပေသည်။

သူ့ခမျာ သမုဒ္ဒရာခရီးမှာ သင်္ဘောပျက်၍ အသက်မသေရုံ ကူးခတ်လာခဲ့ရသည် ဆိုပါ၏။ အဝတ်ဟူ၍ တစ်တိုတစ်စမျှ မပါတော့သဖြင့် အလွယ်တကူ တွေ့ရသော ပျဉ်တိုပျဉ်စများကို ကြိုးနှင့်သီ၍ ဝတ်ခဲ့ရ၏။ တွေ့ကရာ ခွက်တစ်လုံးဖြင့် သုပ္ပာရက သင်္ဘောဆိပ်က ရွာတွေထဲမှာ ထမင်းတောင်း၍ စားခဲ့ရ၏။ ဤတွင်မှ

ကြံကြံဖန်ဖန် ကံထချင်တော့ ရဟန္တာကြီး ဟူ၍ ဟိုးလေးတကျော် ဖြစ်ခဲ့ရသည် ဆိုပါ၏။

ယခုတော့ ပျဉ်ချပ်ဝတ် ရဟန္တာ အတုကြီးသည် ရဟန္တာအစစ် ဖြစ်၍ ပရိနိဗ္ဗာန်စံသွားပေပြီ။ ဤအကြောင်းများကို သုပ္ပာရက သဘောဆိပ်က သူ့ဒါယကာ ဒါယိကာမများထံ သတင်းစကား ပါးလိုက်ရပေသည်။

(ဥဒါန်း၊ ဗာဟိယသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)

❋❋

# ရနံ့ထုံသော အင်ကြင်းတော

ဟိမဝန္တာတောင်မင်းကြီးကို အမှီပြု၍ ပေါက်ရောက် ရှင်သန်နေကြသော သစ်ပင်ကြီး ငယ် မျိုးနွယ်ပေါင်းစုံကို တင်ပြခဲ့ပါပြီ။ ယခု ထိုသစ်ပင်များထဲမှ အနှစ်အသား အရှိဆုံးသော သစ်ပင်ကြီးများကို တစ်စုတစ်ဝေးတည်း တင်ပြပါဦးမည်။ အနှစ်အသားအရှိဆုံးသော သစ်ပင်ကြီးများ၏ ကြံ့တောင့်ကြံ့ခံ စုစည်းမိသော နေရာမှာလည်း အနှစ်အသားအရှိဆုံးသော အင်ကြင်းတောထဲမှာ ဖြစ်ပေသည်။

ထိုအင်ကြင်းတောထဲက အကြီးဆုံးသောအပင်ကြီးတွင် ကိုင်းခွကြီး နှစ်ခု ရှိ၏။ အဝေးကလှမ်းကြည့်လျှင် နွားဦးချိုကြီးနှစ်ချောင်း ထောင်နေသည်နှင့် တူလှ၏။ ထို့ကြောင့် ထိုအင်ကြင်းတောကို ကျွန်ုပ်တို့ မဇ္ဈိမဒေသ ဝေါဟာရအားဖြင့် ဂေါသိင်္ဂအင်ကြင်းတောဟု ခေါ်ဝေါ်ကြ၏။ ထိုတောထဲမှာ ကျွန်ုပ်တို့ ရက်အတန်ကြာ နေခဲ့ဖူး၏။ ပတ်ဝန်းကျင်မှ အလျဉ်းသင့်ရာ ကျေးရွာများတွင် ကျွန်ုပ်တို့ ဆွမ်းခံ၍ စားခဲ့ကြရ၏။ ထိုသို့နေရာတွင် ယခု တင်ပြမည့် ကြောင်းခြင်းရာများ ပေါ်ပေါက်လာကြပေသည်။

ဂေါသိင်္ဂအင်ကြင်းတောထဲမှာ ကျောင်းအဆောက်အအုံဟူ၍ လုံးဝ မရှိပါ။ သို့ပါလျက် ရက်အတန်ကြာ နေခဲ့ခြင်းမှာ ဤအင်ကြင်းတောသည် နှစ်မျိုးနှစ်ဖုံအားဖြင့် ပျော်မွေ့ဖွယ်ကောင်းနေသောကြောင့် ဖြစ်ပေသည်။

အင်ကြင်းပင်တို့ အများဆုံးပေါက်ရောက်ရာဖြစ်၍ အင်ကြင်းတောဟု ခေါ်ရသော်လည်း ဤတောတွင် အင်ကြင်းပင်တစ်မျိုးတည်း ရှိသည်မဟုတ်ပါ။ အခြားခြားသော စားပင် ပန်းပင်တို့လည်း ရှိသည်သာဖြစ်၏။ ရှိရှိသမျှ သစ်ပင်များသည် အခက်ချင်းယှက်၊ အရွက်ချင်းဆက်နေကြသဖြင့် အရိပ်အာဝါသကောင်းလှ၏။ စိမ့်ရေစမ်းရေနှင့် ရေကန်များလည်း ရှိနေ၏။ ထို့ထက် ကျွန်ုပ်တို့ အနှစ်သက်ဆုံးဖြစ်ရသည်မှာ ဤတောသည် ပတ် ဝန်းကျင်ရွာများနှင့် ကင်းလွတ်နေသောကြောင့် ဖြစ်ပေသည်။

ဤသို့ တောဇ၏ သဘာဝအခြေအနေက ပျော်မွေ့ဖွယ်ကောင်းသည့် နောက် ဝယ် ပုဂ္ဂိုလ်အားဖြင့်လည်း ပျော်မွေ့ဖွယ်ကောင်းနေပြန်ပါသေး၏။ ခြေခင်းလက်ခင်း သာယာသော နွေဦးကာလဖြစ်၍ ဘုရားရှင်ကိုယ်တော်တိုင် ဤတောသို့ ရှေ့ဆုံးက ကြွချီတော်မူခဲ့၏။ အတူတကွ ပါလာကြသော မထေရ်ကြီးများမှာလည်း ဂုဏ်အင်္ဂါ အသီးသီးဖြင့် ကျော်ကြားသူများချည်း ဖြစ်ကြ၏။ အရှင်မဟာသာရိပုတ္တရာ၊ အရှင် မဟာမောဂ္ဂလာန်တို့သာမက အရှင်မဟာကဿပလည်း ပါလာခဲ့၏။

ဤတစ်ခေါက်မှာလိုက်ပါလာသော အရှင်ရေဝတသည် အရှင်မဟာ သာရိ ပုတ္တရာ၏ ညီထွေးမဟုတ်ပါ။ ထို့ကြောင့် သူတို့ချင်း ကွဲပြားစေရန် သီတင်းသုံးဖော် များက ကင်္ခါရေဝတဟု ဘွဲ့အမည်ရှေ့မှာ 'ကင်္ခါ'ထည့်၍ ခေါ်ကြရ၏။ ဝိနည်း တော်က ခွင့်ပြုထားသော စားသောက်ဖွယ်ရာများကိုပင် အပ်မှအပ်ပါမည်လောဟု တွေးတောမှုများလှသဖြင့် ဤသို့ ချစ်စနိုးခေါ်ကြခြင်း ဖြစ်ပေသည်။

ဝိနည်းတော်ကို လေးစားလှသဖြင့် သီတင်းသုံးဖော်များ၏ ချစ်မြတ်နိုးခြင်း ခံရသော ဤမထေရ်သည် ဈာန်ဝင်စားသောအရာဝယ် အထူးမြတ်ဆုံး 'ဧတဒဂ်' ဂုဏ်ထူးဆွတ်ခူးခဲ့ပေသည်။ အခြားအခြားသော မထေရ်များမှာလည်း ဂုဏ်သိက္ခာ ကြီးမား၍ ထင်ရှားသူများသာ ဖြစ်ကြပေသည်။

ဤသို့အားဖြင့် တောကလည်း ပျော်မွေ့ဖွယ်ကောင်းလှပါ၏။ ပါလာသော ပုဂ္ဂိုလ်များကလည်း ကြည်ညိုဖွယ်ကောင်းလှ၏။ ထို့ထက် ထိုနေ့ညနေချမ်းကလေး မှာကား မှတ်တမ်းမတင်ဘဲမနေနိုင်အောင် ထူးထူးခြားခြား သာယာပါဘိ၏။ ထိုနေ့ ကား သံဃာတော်တို့ ဥပုသ်ပြုရာ တန်ခူးလပြည့်နေ့ဖြစ်၏။ အနောက် လောကဓာတ် မှ တောအုပ်ပေါ်ဝယ် နီနီရဲသောနေဝန်းကြီးသည် မေးတင်လျက်ရှိနေ၏။ တစ်နေ့တာ ကာလ၏ တာဝန်ဝတ္တရားများ ပြီးဆုံးခါနီးပြီမို့ ဤမြေပြင်ကို ဆည်းဆာရောင်ခြည် များဖြင့် နှုတ်ခွန်းဆက်နေ၏။ အရှေ့ဘက် တောအရေးမှာလည်း ဖြူဖြူဖွေးသော လဝန်းကြီး ထွက်ပြူလာ၏။ နေ့အကုန် ညအကူး ကြည်နူး ဖွယ် အချိန်ကလေးတွင် အင်ကြင်းရနံ့တို့ကလည်း ထူးထူးခြားခြား သင်းပျံ့လာကြ၏။ ရှုလေရာတွင် ပင်လုံး ကျွတ်ပွင့်နေသော အင်ကြင်းပင်တို့သည် လျှော်တေသင်္ကန်း ဆင်မြန်းထားသော ရသေ့ ကြီးများကဲ့သို့ နီကြင်ကြင်ဖြစ်နေကြ၏။ မြေတစ်ပြင်လုံးဝယ် ပန်းဝတ်မှုန်တို့ ဖြန့်ခင်း ကာ ပူဇော်ပွဲကြီး ကျင်းပနေသကဲ့သို့ ဖြစ်နေ၏။ ပန်းဝတ်ရည်ကို စုဆောင်းကြသော ပျားပိတုန်းမျိုးနွယ်အပေါင်းကလည်း တဝီဝီမြည်သံပေးနေကြ၏။ ဝတ်မှုန်ဝတ်ရည် ကို စိတ်ရှိတိုင်း သောက်သုံး ကြရသဖြင့် မြူးထူးပျော်ပါးနေကြဟန်တူပါသည်။

တစ်သက်တာမမေ့သာသော ထိုအချိန်ကလေးမှာပင် အစဉ်ထာဝရ လေးစား အပ်သော အရှင်မြတ်ကြီးနှစ်ပါးကို အတူတကွ ဖူးတွေ့လိုက်ရ၏။ တန်ခိုးအရာနှင့်

ရှုတင် ဆောက်တည်ရာတို့တွင် 'စေတဒဂ်' ဂုဏ်ထူးရ အရှင်မြတ်ကြီး နှစ်ပါးတို့ ပါတည်း။

အရှင်မြတ်ကြီးတို့သည် တစ်နေ့တာ အေးချမ်းငြိမ်သက်စွာ နေခဲ့ကြရာမှ ထွက်လာခြင်း ဖြစ်ပါလိမ့်မည်။ အရှင်မြတ်ကြီးတို့၏ ဦးတည်ရာသည် ဘုရားရှင်ရှိရာသို့လည်း မဟုတ်။ ကျွန်ုပ်တို့ဆီသို့လည်း မလာကြ။ အရှင်မဟာ သာရိပုတ္တရာ ရှိရာသို့သာ ဦးတည်နေကြ၏။ အရိပ်အခြည်ကို ကြည့်ခြင်းဖြင့် တခြားအရာ တွေးစရာမရှိ။ တရားစစ်သူကြီးထံမှ တရားတစ်ကွင်း နားသွင်းကြရန်သာ ဖြစ်ပေလိမ့်မည်။

အရှင်မြတ်ကြီး နှစ်ပါးလုံးပင် သာဝကတို့ သိသင့်သမျှ တရားများကို အကုန်အစင် သိမြင်ပြီးသား ဖြစ်ကြ၏။ လောကီရေးရာမှာသာ မသိနိုင်သေးသော ကြောင်းခြင်းရာများ ရှိနိုင်ပါသည်။ တရားရေးနှင့် ပတ်သက်၍ မသိသေးသော တရားအထူးအဆန်း ဟူ၍ လုံးဝ မရှိပါ။ သို့ပါလျက် တရားပွဲများရှိလျှင် သည် အရှင်မြတ်ကြီးများက တရားတော်နာ ရောက်လာကြ၏။ ကြိမ်ဖန်များစွာ ကြားနာခဲ့ရသော တရားကိုပင် ကြားနာ၍ မဝနိုင်ကြပါပေ။ ခါတိုင်းဆိုလျှင် အချိန်ရသမျှ ဒိဗ္ဗစက္ခုအဘိညာဉ်နှင့် နေခဲ့သော အရှင်အနုရုဒ္ဓါသည်လည်း အရှင်မြတ်ကြီးများ နောက်ပါးမှ လိုက်ပါသွား၏။

ဤတွင် ကျွန်ုပ်လည်း အရှင်ရေဝတကို အဖော်ညှိကာ တရားပွဲရှိရာသို့ ချဉ်းကပ်လာခဲ့၏။ ကျွန်ုပ်တို့ကို လှမ်းမြင်လိုက်သည်တွင် အရှင်မဟာသာရိပုတ္တရာက "လာခဲ့ပါ အရှင်အာနန္ဒာ၊ ဘုရားရှင်၏ အနီးအပါးမှာနေ၍ ပြုစုလုပ်ကျွေးခဲ့သော အရှင်အာနန္ဒာကို ကြိုဆိုပါ၏"

မိမိထက် သိတင်းငယ်သူဖြစ်ပါလျက် အရှင်မြတ်ကြီးက ကျွန်ုပ်ဘွဲ့အမည်မှာ 'အရှင်'တပ်၍ ဖိတ်ခေါ်လိုက်ပါသည်။

ဤနေရာမှာတော့ အရှင်မဟာကဿပနှင့် ကွာခြားလှပါ၏။ အရှင်မဟာကဿပဆိုလျှင် ကျွန်ုပ်ကို 'ငါ့ရှင်'တပ်၍သာ ခေါ်တတ်၏။ တစ်ခါတစ်ရံ ကြိမ်းမောင်းစရာများ ရှိလာလျှင် "သည်သူငယ်ကလေးသည် အတိုင်းအရှည်ကို မသိသေးချေတကား" ဟုပင် ဆိုတတ်ပါသေးသည်။ ရဟန်းဘဝ ရောက်သည်မှစ၍ ဤသို့ အဆိုခံခဲ့ရသော အကြိမ်ပေါင်း များလှပါပြီ။ သို့သော် ဤသို့ဆိုသဖြင့် အရှင်မြတ်ကြီးအပေါ် လုံးဝ စိတ်မကွက်ရိုး အမှန်ပါ။ မည်သူ့ကိုမျှ မခေါ်ခဲ့သော အသုံးအနှုန်းဖြင့် "သည်သူငယ်ကလေး" ဟု ခေါ်ဝေါ်ခြင်းသည် သူတကာထက် ပိုမို၍ ကျွန်ုပ်ကို ခင်မင်ရင်းနှီး၍ပင်ဖြစ်ပါသည်။ ဆိုမြည် ကြိမ်းမောင်းလေသမျှမှာလည်း သူနှင့် အင်မတန် ရင်းနှီးပါလျက် သူ့ခြေရာ မနင်းနိုင်သောကြောင့်

ဖြစ်ပါသည်။ သူ့နည်းတူ တည်တည်ငြိမ်ငြိမ်၊ ဣန္ဒြေရရ မနေတတ်သောကြောင့်သာ ဖြစ်ပါသည်။ သည်အကြောင်းများကို နောက်နောင်မှာလည်း ထပ်၍ ကြားနာကြရပါဦးမည်။

ထို့အတူပင် အရှင်မဟာသာရိပုတ္တရာက 'အရှင်'တပ်၍ ခေါ်သည်မှာလည်း ကျွန်ုပ်အပေါ် ခင်မင်ရင်းနှီး၍ပင် ဖြစ်ပါသည်။ ကျွန်ုပ်အပေါ် သူက ခင်မင် ရင်းနှီးသကဲ့သို့ ကျွန်ုပ်ကလည်း ထပ်တူထပ်မျှ မေတ္တာထားပါ သည်။ အရှင်မြတ်ကြီးက ကျွန်ုပ်အပေါ် ခင်မင်ရင်းနှီးရာတွင် ထင်ရှားသော အကြောင်းမှာ ဘုရားရှင်ကို ပြုစုလုပ်ကျွေးသောကြောင့် ဖြစ်ပါသည်။ ထို့အတူ ဘုရားရှင်ကိုယ်တော်တိုင်က အားထားရလောက်အောင် ဉာဏ်ပညာကြီးမားလှသော သာဝကကြီးအဖြစ်ဖြင့် ကျွန်ုပ်ကလည်း အားထားကြည်ညိုပါသည်။ ထို့ကြောင့်ပင် ကျွန်ုပ်ထံမှာ တပည့်ခံဝင်ရောက်လာသော သာမဏေသစ်၊ ရဟန်းသစ်များကို အရှင်မြတ်ကြီးထံပို့၍ ဥပဇ္ဈာယ်ယူပါစေသည်။ ဆရာမှတ်မှတ် တပည့်မှတ်မှတ် နေစေရန် ပို့လွှတ်ပါသည်။ ထို့အတူပင် အရှင်မြတ်ကြီးထံ တပည့်ခံလာကြသော သာမဏေသစ် ရဟန်းသစ်များလည်း ကျွန်ုပ်ထံ ရောက်လာကြပေသည်။

စကားစပ်မိလာသည့်အခိုက် ကျွန်ုပ်တို့နှစ်ပါး အတူ့အပြန် ခင်မင်ရင်းနှီးပုံကို သာဓကတစ်ခု ဆောင်ပြရပါဦးမည်။ တစ်ခါတုန်းက ဝေသာလီမြို့တော်က ပုဏ္ဏား တစ်ယောက်၌ သင်္ကန်းတစ်ထည် ရှိနေ၏။ သင်္ကန်းမှာလည်း သာမန် မဟုတ်။ အသပြာတစ်ထောင် ထိုက်တန်သော သင်္ကန်းဖြစ်နေ၏။ အဖိုးထိုက်တန်လှသော သင်္ကန်းကို ပုဏ္ဏားက သူများတကာနှင့်မတူအောင် လှူချင်နေ၏။ ပစ္စည်းလေးပါး ဒါယကာတို့သည် ဘုရားရှင်၏ လက်တော်သို့လည်း ဆက်ကပ်ခဲ့ကြ၏။ သံဃာတော်များကိုလည်း လှူဒါန်းခဲ့ကြ၏။ ရတနာသုံးပါးရှိသည့်အနက် ဘုရားရတနာနှင့်သံဃာရတနာကိုသာ လှူဒါန်းခဲ့ကြသည်။ သည်ပုဏ္ဏားကတော့ သူများတကာ မလှူခဲ့ကြဖူးသော တရားရတနာကိုမှ လှူချင်နေ၏။ သို့သော် တရားရတနာဟူသည် ဘုရားရှင်နှင့် သံဃာတော်များကဲ့သို့ အထည်ဒြပ်နှင့် မဟုတ်သဖြင့် သူ့ခမျာ အလှူရခက်၍ နေရပေသည်။

သို့နှင့် ပုဏ္ဏားသည် ဘုရားရှင်ထံတော်သို့ ဝင်ရောက်၍ မေးလျှောက်ရ၏။ ဤတွင် ဘုရားရှင်က–

"ပုဏ္ဏား၊ တရားရတနာကို ပူဇော်လိုသည်ဖြစ်အံ့။ အကြားအမြင် များသော ရဟန်းတစ်ပါးပါးကို လှူပေတော့"ဟု မိန့်တော်မူရာ....

"အကြားအမြင်များသော ရဟန်းကို ညွှန်ပြတော်မူပါ ဘုရား"

"ပုဏ္ဏား၊ ငါဘုရား မညွှန်ပြလိုပြီ၊ ရဟန်းများကိုသာ မေးပေတော့"

အလှူခံပုဂ္ဂိုလ်ကို ကိုယ်တော်တိုင် ညွှန်ပြတော်မမူဘဲ ရဟန်းသံဃာ အလိုကျ ရွေးချယ်ကြရန် လွှဲအပ်တော်မူလိုက်ပေသည်။ သို့နှင့် တရားရတနာကို ပူဇော်ရန် ရည်သန်ခဲ့သော သင်္ကန်းစသည် ကျွန်ုပ်လက်ဝယ်သို့ ရောက်လာပေတော့သည်။ တရားဒေသနာ မြောက်မြားစွာကို အာဂုံဆောင်ထားနိုင်သောကြောင့် ဖြစ်ပါလိမ့်မည်။

အသပြာတစ်ထောင် ထိုက်တန်အောင် ကောင်းမွန်နူးညံ့လှသော ဤသင်္ကန်းကို ကျွန်ုပ်ကိုယ်မှာ မဆင်မြန်းလိုပါ။ ကျွန်ုပ်ကိုယ်မှာ ဝတ်ဆင်ရသည်ထက် လက်ယာရံအရှင်မြတ်ကြီး ဝတ်ဆင်သည်ကို ပို၍ မြင်ချင်လှပါသည်။ သို့သော် တစ်ခုခက်နေသည်မှာ နိဿဂ္ဂိပါစိတ် သိက္ခာပုဒ်တစ်ခု ရှိနေ၍ ဖြစ်ပေသည်။

ရဟန်းတော်များအတွက် ဝိနည်းတော်ကခွင့်ပြုထားသော သင်္ကန်းများမှာ သင်းပိုင်၊ ကိုယ်ရုံကေသီ၊ နှစ်ထပ်ဟူသော တိစီဝရိတ်၊ မိုးရေခံသင်္ကန်း၊ အညစ်အကြေး မပေရန် အတွင်းခံ နိသီဒိုင်၊ အိပ်ရာခင်း၊ အနာလွှမ်းသင်္ကန်း၊ မျက်နှာသုတ်ပဝါနှင့် လိုအပ်ရာရာ ချုပ်စပ်၍သုံးရန် အဝတ်စဟူ၍ ကိုးမျိုး ရှိ၏။ ထိုသင်္ကန်းကိုးထည်ထဲက အဓိဋ္ဌာန်တင်လောက်သော၊ အဓိဋ္ဌာန်တင်ထိုက်သော သင်္ကန်းများကို အဓိဋ္ဌာန် တင်ထားရ၏။ အဓိဋ္ဌာန် တင်ခြင်းမှာ မိမိပစ္စည်းဟူ၍ သိသိမှတ်မှတ်ပြုထားခြင်း ဖြစ်ပေသည်။

ယခု ရရှိထားသော သင်္ကန်းမှာ အဓိဋ္ဌာန်တင်လောက်နေ၍ အဓိဋ္ဌာန် မတင်ဘဲမဖြစ်နိုင်။ သို့သော် ကျွန်ုပ်မှာ အဓိဋ္ဌာန်တင်၍ ဝတ်ဆင်မြဲသင်္ကန်းများက ရှိနေသည်။ အဓိဋ္ဌာန်မတင်ဘဲ ဝိကပ္ပနာပြုထားလျှင်လည်း ရနိုင်ပါ၏။ သို့သော် ဤသင်္ကန်းကို ဝိကပ္ပနာ မပြုလို။ ကျွန်ုပ်မှာ မွန်မွန်မြတ်မြတ်ရတိုင်း အရှင်မြတ်ကြီး အား လှူဒါန်းလို၏။ သို့သော် အရှင်မြတ်ကြီးက ဝေသာလီ ကူဋာဂါရကျောင်းတော်မှာ မရှိပေ။ သာကေတမြို့သို့ ရောက်နေ၏။ ဤအခက်အခဲကို ဖြေရှင်းနိုင်သူဟူ၍ ဘုရားရှင်သာရှိသဖြင့် ရှေ့တော်မှောက်သို့ ဝင်ရောက်လျှောက်ထားရာ–

'အာနန္ဒာ၊ သာရိပုတ္တရာသည် မည်မျှကြာလျှင် ပြန်လာမည်နည်း" ဟု မေးတော်မူ၏။

"အရှင်ဘုရား၊ ဤနေ့မှ ကိုးရက်မြောက်မှာသော် လည်းကောင်း၊ ဆယ်ရက်မြောက်မှာသော်လည်းကောင်း ခြေတော်ရင်းသို့ ဆိုက်ရောက်လာပါလိမ့်မည် ဘုရား"

ဤသို့ ကျွန်ုပ်က ပိုင်ပိုင်နိုင်နိုင် ဖြေကြားရခြင်းမှာ အကြောင်းရှိ၍ ဖြစ်၏။ အရှင်မြတ်ကြီး ခရီးထွက်လေတိုင်း ကျွန်ုပ်ကို အသိပေး၍သာ သွားတတ်၏။ ကိုယ်တိုင် မပြောနိုင်လျှင် ရဟန်းတစ်ပါးပါးကို လွှတ်၍ အသိပေး၏။ တခြားစီဝါဆိုသောအခါမှာပင် လာမည့်နေ့ကို ရှေ့ကသွားသော ရဟန်းများထံ အမှာစကား ပါးမြဲဖြစ်၏။ သူချိန်းထားသောရက်မှာလည်း မပျက်မကွက် ရောက်နေကျဖြစ်၏။

ထို့ကြောင့် ချိန်းထားသော ရက်ကို ကျွန်ုပ်က လျှောက်ထားလိုက်ရ၏။ ဤတွင် ဘုရားရှင်က–

"ရဟန်းသည် သင်္ကန်းကိစ္စ ပြီးဆုံးလတ်သော် ကထိန်ကို နုတ်ပြီးသော် ဆယ်ရက်တာကာလပတ်လုံး အပိုသင်္ကန်းကို ဆောင်နိုင်၏။ ထို့ထက်ပို၍ ဆောင်သော ရဟန်းအား စွန့်ခြင်း ဝိနည်းကံရှိသော ပါစိတ်အာပတ်သင့်၏"

အရှင်မဟာသာရိပုတ္တရာကို အကြောင်းပြုကာ မူလ ပညတ်ထားပြီးသော သိက္ခာပုဒ်ကိုပြင်ဆင်ဖြည့်စွက်၍ ပေးတော်မူပေသည်။ အဓိဋ္ဌာန် မတင်၊ ဝိကပ္ပနာ မပြုရသေးသော အဝတ်အထည်ဟူသမျှကို ဝိနည်းတော်အရ အပိုသင်္ကန်းဟု ခေါ်ဆိုရပေမည်။

ယခု ဂေါသိင်္ဂ အင်ကြင်းတောမှာ တရားနာလာကြသော အရှင်မြတ်များသည် ဤသို့သော ဝိနည်းသိက္ခာပုဒ်များကို အသက်နှင့်ထပ်တူ လေးစားကြပါ၏။ သို့ပါလျက် အရှင်မဟာသာရိပုတ္တရာက ကျွန်ုပ်ကို ဦးစွာပထမ နှုတ်ဆက်လိုက်ခြင်းသည် ကျွန်ုပ်အပေါ် ခင်မင်ရင်းနှီးမှုကို လက်တွေ့ပြလိုက်ခြင်းပင် ဖြစ်ပေသည်။ ထိုသို့ ခင်မင်ရင်းနှီးသောကြောင့်ပင် သိက္ခာကြီးသော မထေရ်များထက် ရှေးဦးစွာ ကျွန်ုပ်၏အမြင်ကို မေးမြန်းလိုက်ပေသည်။

"အာနန္ဒာ၊ ဂေါသိင်္ဂ အင်ကြင်းတောသည် ပျော်မွေ့ဖွယ်ကောင်းပေစွ။ ညဥ့်သည် အပြင်ကင်းစင် ကြည်လင်ပေစွ။ အင်ကြင်းပင်တို့ကလည်း ပင်လုံးကျွတ်မျှ ပွင့်ကြပေစွ။ ပန်းရနံ့တို့ သင်းပျံ့လွန်းပေစွ။ ဤအချိန် ဤအခါဝယ် ဤဂေါသိင်္ဂ အင်ကြင်းတောကို အဘယ်သို့သော ရဟန်းသည် ကျက်သရေတိုးအောင် စွမ်းဆောင်နိုင်မည်နည်း။"

ယနေ့ည တရားပွဲကို ဤမေးခွန်းဖြင့် စတင်လိုက်ပေပြီ။ ခါတိုင်း အကြိမ်များ၌ လေးနက်လှသော တရားသဘောများကို အရှင်မြတ်ကြီးကိုယ်တိုင် အကျယ်ဝေဖန်၍ ဟောခဲ့၏။ အနည်းနည်း အဖုံဖုံ အနုစိတ်၍ ဟောခဲ့၏။ ဤယနေ့မှာတော့ တစ်ပါးတည်း ဟောကြားသော တရားပွဲအစား တရားဝိုင်းတစ်ခု ဖြစ်လာပေတော့မည်။ ရောက်လာသမျှ အရှင်မြတ်အားလုံး တရားဝိုင်းမှာ ပါဝင်ကြရပေတော့မည်။ ဂေါသိင်္ဂ အင်ကြင်းတောကို အလှကျက်သရေ တင့်ဖြိုးဝေအောင် ကိုယ်စီကိုယ်င ပါဝင်ဆောင်ရွက်ကြရပေတော့မည်။

ဆောင်ရွက်ရန် တာဝန်သည် ပထမဦးစွာ ကျွန်ုပ်၏ ခေါင်းပေါ်သို့ ရောက်လာပေပြီ။ ခင်မင်ရင်းနှီးမှုဖြင့် ကျွန်ုပ်ထံ ဦးဦးဖျားဖျား ပေးအပ်လာသော တာဝန်ကို ကျွန်ုပ်ကလည်း လေးလေးစားစား ဆောင်ရွက်ရပါလိမ့်မည်။ ထို့ကြောင့် အရှင်မြတ်ကြီးအား လက်အုပ်ချီ အရိုအသေပြုကာ–

"အရှင်ဘုရား၊ ဂေါသိင်္ဂအင်ကြင်းတောကို ကျက်သရေတိုးအောင် စွမ်းဆောင်နိုင်သော ရဟန်းမှာ အကြားအမြင်များသော ရဟန်း ဖြစ်ပါသည်။ အင်္ဂါကိုးပါး အပြားရှိသော ဘုရားဟော ဒေသနာတော်များကို မမေ့မပျောက် စောင့်ရှောက်ထိန်းသိမ်းနိုင်သော ရဟန်း ဖြစ်ပါသည်။ ဘုရားရှင် ဟောကြားတော်မူခဲ့သော ဒေသနာများသည် အစ၊ အလယ်၊ အဆုံး ကောင်းခြင်းသုံးဖြာနှင့် ပြည့်စုံကြပါသည်။ သဒ္ဒါရော အနက်ပါ ပြည့်စုံကြပါသည်။ ဘာလေးတစ်ခု ပိုသွားသည်ဟူ၍ နုတ်ပယ်စရာမရှိပါ။ ဘာလေးတစ်ခု လိုနေသေးသည်ဟု ဖြည့်စွက်စရာ မရှိပါ။ ဘုရားဟော ဒေသနာတော်များသည် နိဗ္ဗာန်ကို မျက်မှောက်ပြုရေး၊ ကျင့်သုံးရေးကို ပြဆိုထားကြပါသည်။ ထိုဒေသနာများကို နှုတ်တက်အာဂုံပြန်ဆိုနိုင်ခြင်း၊ စိတ်ထဲမှာ စဉ်းစားကြည့်ရှုဖြင့် အထင်းသား အကွင်းသား ပေါ်လွင်နေခြင်း၊ အကျိုးရော အကြောင်းပါ ဉာဏ်ထဲမှာ ရှင်းလင်းပြတ်သားနေခြင်း၊ ပရိသတ်လေးပါးအလယ်တွင် စေ့စေ့စပ်စပ် လိပ်ပတ်လည်အောင် ဟောကြားနိုင်ခြင်း၊ စကားစဉ်မပြတ်ဘဲ လေသံမှန်မှန် ဖြင့် ဟောကြားနိုင်ခြင်း၊ တရားနာသူတို့၏ စိတ်သန္တာန်မှာ ပူးလာယှဉ်လာ တတ်သော ကိလေသာတို့ လုံးဝ မပူးမယှဉ်လာအောင် ဟောကြားနိုင်ခြင်း ဤသို့ အရည်အချင်းရှိသော ရဟန်းသည် ဂေါသိင်္ဂ အင်ကြင်းတောကို ကျက်သရေတိုး အောင် စွမ်းအောင်နိုင်ပါသည် ဘုရား"

အရှင်မြတ်ကြီးကို လေးစားသောအားဖြင့် စုံစုံစေ့စေ့ လျှောက်ထားလိုက်ရ၏။ ကျွန်ုပ်၏ အမြင်ကို မေးမြန်းထားသဖြင့် ကျွန်ုပ်၏ စိတ်ဓာတ်နှင့် လျောက်ပတ်ရာကို ဖြေလိုက်ရပေသည်။ ဤစကားကို ကြားနာရသော အရှင်မြတ်ကြီးများသည် ကျွန်ုပ်၏ ရည်ရွယ်ချက်ကို သဘောပေါက်ကြလိမ့်မည် ထင်ပါသည်။

မှန်ပါသည်။ အများပရိသတ်တို့ သိထားကြသည့်အတိုင်း ကျွန်ုပ်သည် ဘုရားဟော ဒေသနာတော်များကို နှုတ်ရော စိတ်ပါ ဆောင်ထားနိုင်သူ ဖြစ်ပါသည်။ ကျွန်ုပ်၏ သီတင်းသုံးဖော်များကိုလည်း ကျွန်ုပ်နှင့် ထပ်တူ ဆောင်စေလိုပါသည်။ ဒေသနာတော်များကို နှုတ်ရောစိတ်ပါ ဆောင်ထားသည့်အတွက် ဝိနည်းတော်အရ အပ်စပ်သောအမှု၊ မအပ်စပ်သောအမှုကို ကွဲကွဲပြားပြား သိနိုင်ပါသည်။ အပြစ် အလေး အပေါ့ကို ထင်ထင်ရှားရှား ခွဲခြားနိုင်ပါသည်။ ဒေသနာတော်ဟူသမျှကို ပိုင်နိုင်ပြီး ဖြစ်၍ သီလ၊ သမာဓိ၊ ဝိပဿနာ ပညာမှစ၍ နိဗ္ဗာန်ရသည့်တိုင်အောင် ဒေသနာတော်မှာ လာရှိသည့်အတိုင်း ပြည့်ပြည့်စုံစုံ လိုက်နာကျင့်သုံးနိုင်ပါလိမ့်မည်။

ဤသို့သော ရည်ရွယ်ချက်ဖြင့် ပြည့်ပြည့်စုံစုံ လျှောက်ထားသည်ကို အရှင်မြတ်ကြီးများကလည်း လေးလေးစားစား နားစိုက်လျက် ရှိကြပါသည်။ မေးခွန်းရှင် အရှင်မဟာ သာရိပုတ္တရာကလည်း စေ့စေ့စပ်စပ် မှတ်သားလိုက်သည့်

လက္ခဏာ ရှိပါသည်။ သို့သော် အဆုံးအဖြတ်ကား မပြုသေးပါ။ အမှားအမှန် မဝေဖန်သေးပါ။ ဤတရားဝိုင်းမှာ ယခုမှစ၍ ဖွင့်ရသေးသည် မဟုတ်ပါလော။ ထို့နောက် နောက်တစ်ပါးပြောင်း၍ မေးပြန်ပါ၏။

"ငါ့ရှင် ရေဝတ၊ အရှင်အာနန္ဒာကတော့ သူ့အမြင်ကို တင်လျှောက်သွားပေပြီ။ ထို့ကြောင့် ယခု သင့်ကို တစ်လှည့်မေးရပါဦးမည်။ ဤဂေါသိင်္ဂ အင်ကြင်းတောကို အဘယ်သို့သော ရဟန်းသည် ကျက်သရေတိုးအောင် စွမ်းဆောင်နိုင်မည်နည်း"

ပညာအရာ ဧတဒဂ်ဂုဏ်ထူးဆောင်ပုဂ္ဂိုလ်၏ အမေးကို ဈာန်ဝင်စားရာတွင် ဧတဒဂ် ဂုဏ်ထူးဆောင်ပုဂ္ဂိုလ်က ဖြေကြားသည်မှာ...

"အရှင်ဘုရား၊ ဂေါသိင်္ဂ အင်ကြင်းတောကို ကျက်သရေတိုးအောင် စွမ်းဆောင်နိုင်သောရဟန်းမှာ ဈာန်ဝင်စားလေ့ရှိသော ရဟန်းဖြစ်ပါသည်။ ဈာန်ကို အခြေပြု၍ ဝိပဿနာရှုသော ရဟန်းဖြစ်ပါသည်။ အေးချမ်း ငြိမ်သက်ရာ ကျောင်းသခ်မ်းတို့၌ အေးချမ်းငြိမ်သက်စွာ တရားကျင့်သုံးနေသော ရဟန်း ဖြစ်ပါသည် အရှင်ဘုရား"

သီတင်းသုံးဖော် ရဟန်းတော်များလည်း သူ့နည်းတူ စိတ်နှလုံးချမ်းမြေ့စွာ နေစေလို၍ လျှောက်ထားခြင်း ဖြစ်ပါလိမ့်မည်။

ခေါင်းဆောင်ပုဂ္ဂိုလ်ကြီးသည် အရှင်ရေဝတ၏ လျှောက်ထားချက်ကိုလည်း အမှားအမှန် မဝေဖန်သေးဘဲ အရှင်အနုရုဒ္ဓါသို့ ဆက်လက်၍ မေးတော်မူရာ....

"အရှင်ဘုရား၊ မျက်စိကောင်းသော ယောကျာ်းသည် ပြာသာဒ်ထက်မှ မြေပြင်သို့ ငုံ့ကြည့်လိုက်သောအခါ တစ်ထောင်မျှသော လှည်းဘီးများကို အထင်းသား အကွင်းသား မြင်ရဘိသကဲ့သို့ ဒိဗ္ဗစက္ခုအဘိညာဉ်ဖြင့် ကြည့်လိုက်သောအခါ တစ်ထောင်သော လောကဓာတ်တို့ကို အထင်းသား အကွင်းသား မြင်ရပါသည်။ ဤသို့ ဒိဗ္ဗစက္ခုအဘိညာဉ်ရသော ရဟန်းသည် ဂေါသိင်္ဂ အင်ကြင်းတောကို ကျက်သရေတိုးအောင် စွမ်းဆောင်နိုင်ပါသည် ဘုရား"

အရှင်အနုရုဒ္ဓါ၏ ရည်ရွယ်ချက်ကလည်း သီတင်းသုံးဖော်များ အတုယူရေး အတွက်သာ ဖြစ်ပါလိမ့်မည်။ ဒိဗ္ဗစက္ခုအဘိညာဉ်ဖြင့် သတ္တဝါ အနန္တတို့၏ ဖြစ်ပျက်ပုံ ဓာတ်လမ်းစုံကို သိမြင်၍ ထိုသို့သော ဝဋ်ဘုံကြီးကို ငြီးငွေ့ထိတ်လန့်ကာ ဝဋ်မှလွတ်ရာ မြိုက်ချမ်းသာကို မျက်မှောက်ပြုကြရန် ဖြစ်ပါလိမ့်မည်။

အရှင်အနုရုဒ္ဓါပြီးတော့ အရှင်မဟာကဿပ၏ အလှည့်ဖြစ်ပါသည်။

"အရှင်ဘုရား၊ တပည့်တော်တို့၏ သာသနာတော်ကြီးတွင် ကိလေသာကို ခါတွက်ကြောင်း ဓုတင်အကျင့်များရှိကြပါသည်။ ထိုအကျင့်များတွင် တောရဆောက်တည်သောအာရညိကဓုတင်၊ နေ့စဉ် ဆွမ်းခံစားသော ပိဏ္ဍပါတိကဓုတင်၊ ပံ့သကူ

သက်န်းကိုသာ ဝတ်ရုံသော ပံသုကူလိကစုတင်၊ သင်္ကန်းသုံးထည်ကိုသာ အဓိဋ္ဌာန် တင်၍ နေ့စဉ်နေ့စဉ်ဝတ်ရုံသော တေစီဝရိက စုတင်တို့ ပါဝင်ကြပါသည်။ ဤသို့ သော စုတင်အကျင့်များကို ကိုယ်တိုင် လည်းကျင့်၍ မိမိနည်းတူ ကျင့်သုံးသူများ ကိုလည်း ချီးမွမ်းတတ်သော ရဟန်းသည် ဂေါသိင်္ဂအင်ကြင်းတောကို ကျက်သရေ တိုးအောင် စွမ်းဆောင်နိုင်ပါသည် ဘုရား"

ဘုရားရှင်၏ကိုယ်စားလှယ်ဖြစ်သော ဤအရှင်မြတ်ကြီး၏ ရည်ရွယ်ချက် ကလည်း သာသနာတော်ကြီးအတွက်သာ ဖြစ်ပါလိမ့်မည်။ ဤသို့သော စုတင် အကျင့်များဖြင့် ပစ္စည်းလေးပါးတို့အပေါ်တွင် သာယာကပ်ငြိမှုများကို ညှိုးခြောက် စေလျက် ကျန်သော ကိလေသာတို့ကိုလည်း အကုန်အစင် ခါတွက်နိုင်စေရန် ဖြစ်ပါလိမ့်မည်။

တတိယ မဟာသာဝကကြီး ဖြေဆိုပြီးနောက် အလှည့်ကျသူ ဒုတိယ မဟာသာဝကကြီးကလည်း–

"အရှင်ဘုရား၊ ရဟန်းနှစ်ပါးတို့သည် အဘိဓမ္မာတရားတို့ကို ဆွေးနွေး ကြပါသည်။ တစ်ပါးနှင့်တစ်ပါး အပြန်အလှန်မေးမြန်း၍ အပြန်အလှန် ဖြေကြားကြ ပါသည်။ ဤသို့ မေးမြန်းကြသဖြင့် နှစ်ပါးလုံးပင် တွန့်တို ဆုတ်နစ်ခြင်းမရှိကြပါ။ ထိုရဟန်းတို့၏ တရားဆွေးနွေးသံမှာ စမ်းရေလျှဉ် တသွင်သွင်စီးသကဲ့သို့ အစဉ် မပြတ် ဆက်စပ်လျက်ရှိ၏။ ထိုသို့ အဘိဓမ္မာ တရား ဟောကြားနိုင်သောရဟန်းသည် ဂေါသိင်္ဂအင်ကြင်းတောကို ကျက်သရေတိုးအောင် စွမ်းဆောင်နိုင်ပါသည် ဘုရား"

ဤအရှင်မြတ်ကြီးသည် သမာဓိပါရမီတွင် အထွတ်အထိပ်ရောက်ပြီး သူ ဖြစ်၏။ ထိုသမာဓိ အထောက်အကူဖြင့် အဘိဓမ္မာဉာဏ် ထက်သန်လှသည်ဖြစ်ရာ ခန္ဓာ၊ အာယတန၊ ဓာတ် စသော အဘိဓမ္မာတရားများကို အနုစိတ် ဟောကြားနိုင် ပေသည်။ တရား တစ်မျိုးနှင့်တစ်မျိုး မရောထွေးစေဘဲ နာကြားရသူတို့အား ဉာဏ်အမြင်ရှင်းအောင် ဟောကြားနိုင်ပေသည်။ ထို့ကြောင့် သူ့နည်းတူ ထက်သန် လှသော အဘိဓမ္မာဉာဏ်ဖြင့် သိမ်မွေ့လှသော တရားသဘောတို့တွင် သက်ဝင် ကျက်စားနိုင်စေရန် ရည်သန်လိမ့်မည် ထင်ပါသည်။

တန်ခိုးအရာ ဧတဒဂ်ဂုဏ်ထူးဆောင် အရှင်မြတ်ကြီးသည် မိမိအမြင်ကို ဤသို့ တင်ပြပြီးနောက်...

"အရှင်သာရိပုတ္တရာဘုရား၊ တပည့်တော်တို့အားလုံး၏ အမြင်များကို အသီးသီး လျှောက်ထား၍ ပြီးကြပါပြီ။ ထို့ကြောင့် တပည့်တော်တို့က တစ်ဖန် အရှင်ဘုရားကိုမေးပါရစေ။ အဘယ်သို့သော ရဟန်းသည် ဂေါသိင်္ဂအင်ကြင်းတော ကို ကျက်သရေတိုးအောင် စွမ်းဆောင်နိုင်ပါမည်နည်း"

တရားစစ်သူကြီး၏ အလှည့် ရောက်လာပြီမို့ တစ်ဆက်တည်း လျှောက်ထားလိုက်ရပေသည်။

ဤတွင် တရားစစ်သူကြီး အရှင်မဟာသာရိပုတ္တရာက....

"အို အရှင်တို့၊ ဂေါသိင်္ဂ အင်ကြင်းတောကို ကျက်သရေတိုးအောင် စွမ်းဆောင်နိုင်သော ရဟန်းမှာ မိမိစိတ်ကို မိမိအလိုသို့ပါအောင် စွမ်းဆောင်နိုင်သူ ဖြစ်ပါသည်။ ထိုရဟန်းသည် စိတ်သွားရာသို့ မလိုက်ပါပေ။ ဥပမာအားဖြင့် ပြည့်ရှင်မင်းမှာသော်လည်းကောင်း၊ အမတ်ကြီးမှာသော်လည်းကောင်း အရောင်အသွေး အမျိုးမျိုးသော အဝတ်အထည်များသည် သေတ္တာကြီးနှင့်အပြည့် ရှိကုန်ရာ၏။ ထိုမင်းသည်လည်းကောင်း၊ အမတ်ကြီးသည် လည်းကောင်း နံနက်တစ်ခါ၊ နေ့လယ်တစ်ခါ၊ ညနေတစ်ခါ အဝတ်လဲရာတွင် မိမိနှစ်သက်ရာအဝတ်ကို လဲလှယ် ဝတ်ဆင်ဘိသကဲ့သို့ တရားပြည့်သော ရဟန်းသည်လည်း နံနက်မှာ ဖြစ်စေ၊ နေ့လယ်မှာဖြစ်စေ၊ ညနေမှာဖြစ်စေ မိမိနေလိုသော သမာပတ်ဖြင့် နေထိုင်ပါသည်။ လောကီလောကုတ္တရာ သမာပတ်များကို အလဲအလှယ် ဝင်စားနိုင်ပါသည်။ ထိုသို့သော ရဟန်းသည် ဂေါသိင်္ဂအင်ကြင်းတောကို ကျက်သရေတိုးအောင် စွမ်းဆောင်နိုင်ပါသည်"

ပညာပါရမီတွင် အထွတ်အထိပ်ရောက်ပြီးသူဖြစ်၍ ဤသို့ မိန့်တော်မူခြင်း ဖြစ်ပေသည်။ မှန်ပါသည်။ လောကုတ္တရာ ပညာရှိသူများသည်သာလျှင် မိမိစိတ်ကို မိမိလိုရာ ထားနိုင်ကြပါသည်။

ဤအရှင်မြတ်ကြီး၏ ရည်ရွယ်ချက်မှာလည်း ယခင်အရှင်မြတ်ကြီးများအတိုင်းသာ ဖြစ်ပါလိမ့်မည်။ သီတင်းသုံးဖော် သံဃာတော်များလည်း သူ့နည်းတူ ဉာဏ်ပညာ ထက်မြက်ကြစေရန် ရည်သန်ပါလိမ့်မည်။ ထက်မြက်သော ဉာဏ်ပညာဖြင့် မိမိတို့စိတ်ကို အပြင်အပ အာရုံများဆီသို့ အနည်းငယ်မျှ မရောက်စေဘဲ သမာပတ်တစ်မျိုးမျိုးဖြင့် နေနိုင်ကြစေရန် ဖြစ်ပါလိမ့်မည်။

ယခု တရားဝိုင်းမှာရှိနေကြသော ပုဂ္ဂိုလ်အားလုံး လျှောက်ထား၍ ပြီးကြပါပြီ။ တစ်ပါးနှင့်တစ်ပါး ရှုမြင်ပုံချင်း မတူသဖြင့် တင်ပြပုံချင်း လုံးဝမတူကြပါ။ မိမိတို့ အလေ့အလာများရာ၊ မိမိတို့ စိတ်ဓာတ်နှင့်ဆီလျော်ရာကိုသာ ဖြေခဲ့ကြပေသည်။ ဤအဖြေများ၏ အမှားအမှန်ကို မည်သို့ ဝေဖန်ရပါမည်နည်း။ မည်သူက ဝေဖန်ပါမည်နည်း။ သည်ဝိုင်းမှာ ဂုဏ်သိက္ခာ အကြီးဆုံးသည် အရှင်မဟာသာရိပုတ္တရာ ဖြစ်၏။ သူ၏ တရားကို ကြားချင် နာချင်၍ပင် ကျွန်ုပ်တို့ အားလုံး စုဝေးလာခဲ့ကြ၏။ ထို့ကြောင့် အရှင်မဟာ သာရိပုတ္တရာကသာ ရွေးချယ်ပေးလျှင် အားလုံးက ကျေနပ်စွာ လက်ခံကြပါလိမ့်မည်။ သို့သော် ဤအရှင်မြတ်ကြီးကား တင်ပြချက် အားလုံးအပေါ် အမှားအမှန် မဝေဖန်ပါ။ သည်တရားဝိုင်းထဲတွင် သူ့ကိုယ်ပိုင်

အမြင်ကိုလည်း တင်ပြထား၍ ဝေဖန်ရခက်နေသလား မသိပါ။ ထို့ကြောင့် တရားဝိုင်း ခေါင်းဆောင်က တရားဝိုင်းတစ်ခုလုံးကို ဘုရားရှင်ရှေ့တော်မှောက်သို့ သယ်ဆောင်ကာ

"အရှင်ဘုရား၊ မည်သူ၏ တင်ပြချက်သည် မှန်ကန်ပါသနည်း" ဟု မေးလျှောက်ရ၏။

ဘုရားရှင်ကိုယ်တော်မြတ်ကြီးက "သာရိပုတ္တရာ၊ သင်တို့အားလုံး၏ တင်ပြချက်များသည် ကိုယ့်အကြောင်းနှင့်ကိုယ် မှန်ကန်သည်ချည်း ဖြစ်ကြ၏။ မမှန်ကန်သော တင်ပြချက်ဟူ၍ မရှိပါပေ။ သို့ရာတွင် ငါဘုရား၏ တင်ပြချက်ကိုလည်း ကြားနာကြကုန်။

"သာရိပုတ္တရာ၊ ရဟန်းသည် ဆွမ်းစားပြီးနောက် ဆိတ်ငြိမ်ရာသို့ ချဉ်းကပ်လျက် ထက်ဝယ်ဖွဲ့ခွေ ထိုင်နေ၏။ ကိုယ်ကို ဖြောင့်မတ်စွာထား၏။ သတိလက်ကိုင် ခိုင်မြဲစေလျက် ဤသို့ အဓိဋ္ဌာန်ပြု၏။ 'ငါ၏ စိတ်သည် ဘာအာရုံတစ်ခုကိုမျှ မယူမစွဲမူ၍ လွတ်ရာကျွတ်ရာ မရောက်သေးသမျှ ငါသည် ဤပ္လင်္ကကိုမဖျက်ဘဲနေအံ့' ဤသို့ အဓိဋ္ဌာန်ပြုကာ ဆက်လက်၍ ထိုင်နေ၏။ ဤသို့သော ရဟန်းသည် ဂေါသိင်္ဂအင်ကြင်းတောကို ကျက်သရေတိုးအောင် စွမ်းဆောင်နိုင်ပေသည်"

ဤတင်ပြချက်ကား ကိုယ့်အကြောင်းနှင့်ကိုယ် ထောက်ဆ၍ မှန်ကန်ရသော တင်ပြချက် မဟုတ်ပေ။ သာသနာ့ဝန်ထမ်း ရဟန်းအားလုံးနှင့် တိုက်ရိုက် သက်ဆိုင်နေသော တင်ပြချက်ဖြစ်၏။ ဤတင်ပြချက်သည် ဗောဓိပင်နှင့် ရွှေပလ္လင်ဝယ် ကိုယ်တော်တိုင် အဓိဋ္ဌာန်ဝင်ခဲ့ပုံပင်ဖြစ်၍ တပည့်သား ရဟန်းများလည်း သူ့နည်းတူ အဓိဋ္ဌာန်ဝင်ကြရန် ဘုရားရှင် ရည်ရွယ်တော်မူပါလိမ့်မည်။ အရဟတ္တဖိုလ် ရောက်သည်အထိ မဆုတ်မနစ် ကြိုးစားကြရန် ဘုရားရှင် ရည်ရွယ်တော်မူပါလိမ့်မည်။

ဤသို့သော ရည်ရွယ်ချက်ကို ရိပ်စားမိကြသဖြင့် ဤမိန့်ခွန်းတော်သည် ဂေါသိင်္ဂအင်ကြင်းတောကို ကျော်လွန်မွေးပျံ့လျက် ရှိနေပေသည်တကား။

(မူလပဏ္ဏာသ၊ မဟာဂေါသိင်္ဂသုတ်ပါဠိတော်နှင့် အဋ္ဌကထာ၊
နိဿဂ္ဂိပါဠိတ်၊ ပထမကထိနသိက္ခာပုဒ်ပါဠိတော်နှင့် အဋ္ဌကထာ)

**

# အမြတ်ဆုံးချမ်းသာ

ဂေါသိင်္ဂအင်ကြင်းတောမှာတုန်းက တစ်ထိုင်တည်း ရဟန္တာဖြစ်သည်ထိ စွမ်းဆောင်နိုင်သော ရဟန်းကို ဘုရားရှင် ချီးမွမ်းတော်မူခဲ့၏။ ထိုသို့သော ရဟန်းသည်သာ ဂေါသိင်္ဂအင်ကြင်းတောကို ကျက်သရေတိုးအောင် စွမ်းဆောင်နိုင်သည်ဟု ဟောကြားတော်မူခဲ့၏။ ဤသို့ ဟောကြားတော်မူသည်မှာ အရှင်မြတ်ကြီးတို့ ဆွေးနွေးခဲ့သော စကားစဉ်အရ ဖြစ်၏။ တိုက်ရိုက်ဟောကြားထားသော ဒေသနာမှ ရနိုင်သမျှ အနက်အဓိပ္ပာယ်များကို ဆောင်ယူရပါလျှင် ထိုသို့သော အာဇာနည် အရှင်မြတ်သည် သာသနာတော်ကြီးတစ်ခုလုံး၏ ကျက်သရေဆောင် ဖြစ်ပေသည်။

ဗောဓိပင်နှင့် ရွှေပလ္လင်မှာတုန်းက ကိုယ်တော်တိုင် နမူနာပြခဲ့သော ဤလမ်းစဉ်အတိုင်း အမီလိုက်နိုင်ရန် ကျွန်ုပ်တို့ သီတင်းသုံးဖော်များ ကြိုးစားကြပါ၏။ ကြိုးစားသလောက် ခရီးရောက်သူများ ထွက်ပေါ်လာပါ၏။ ထိုအထဲမှာ ရဟန်းငယ်လေးတွေလည်း အပါအဝင် ဖြစ်ပေသည်။

သူတို့၏ မျက်နှာလေးတွေက နုပျိုကြ၏။ နုပျိုသူတို့မှာ တွေ့ရတတ်သော မာန်မာန အမူအရာမရှိ။ ပကတိ သန့်ရှင်းကြည်လင်ကြ၏။ သန့်ရှင်း ကြည်လင်သော စိတ်အစဉ်က သူတို့၏ မျက်နှာပေါ်သို့ အရိပ်ထင်နေခြင်း ဖြစ်ပေသည်။

လောကီရေးရာဘက်က ကြည့်လျှင် သူတို့၏ တစ်သက်တာဝယ် မျှော်လင့်ချက်တွေ တသီကြီး ရှိနေကြ၏။ ကျန်းမာသန်စွမ်းသော ကိုယ်ခန္ဓာ၊ ရဲရင့်ခိုင်မာသော စိတ်ဓာတ်တို့ဖြင့် စစ်သူရဲကောင်းကြီးများ ဖြစ်လာနိုင်ကြ၏။ နိုင်ငံရေးရာ လေ့လာတတ်ကျွမ်းမှုဖြင့် မင်းတိုင်ပင် အမတ်ကြီးများ ဖြစ်လာနိုင်ကြ၏။ မိဘများ၏ အရောင်းအဝယ် လုပ်ငန်းများကို ဆက်ဆံခြင်းဖြင့် သူဌေးသူကြွယ်ကြီးများ ဖြစ်လာနိုင်ကြ၏။ အများနည်းတူသားနှင့် မယားနှင့် သိုက်သိုက်ဝန်းဝန်း နေမည်ဆိုလျှင်နေနိုင်သူများချည်းဖြစ်၏။ သို့ပါလျက် လောကီဘက်က မျှော်လင့်ချက်တသီကြီးကို စွန့်လွှတ်ကာ သာသနာတော် အတွင်းသို့ ဝင်လာခဲ့ကြ၏။ ရှင်တော်

မြတ်၏ အပြုအမူကို အတုယူကာ မဆုတ်မနစ် အားသစ်သောအားဖြင့် အထွတ်ထိပ်သို့ ရောက်လာခဲ့ကြ၏။ ရောက်လေရာအရပ်ဝယ် အမျှော်လွတ်ရာ တရားနှင့် စိတ်နှလုံးချမ်းမြေ့စွာ နေလာခဲ့ကြ၏။

ဤသို့ အမျှော်လွတ်ရာတရားနှင့် ထာဝစဉ် နေနိုင်ရေးသည် ကျွန်ုပ်တို့ သာသနာတော်ကြီး၏ ပန်းတိုးတိုင်ဖြစ်၏။ အမျှော်လွတ်ရာ တရားကို မျက်မှောက်ပြုကာ အမျှော်လွတ်စွာ နေနိုင်ခြင်းသည် ကျွန်ုပ်တို့ သာသနာတော်ကြီးကထိုက်ထိုက်တန်တန်ပေးအပ်လိုသော ဆုထူးဆုမြတ် ဖြစ်ပေသည်။

ဤဆုလာဘ်သည် ထူးမြတ်သောဆုလာဘ်ဖြစ်၍ ထူးမြတ်သော ပညာရှင်တို့သာလျှင် ဆွတ်ခူးနိုင်ကြ၏။ ဆွတ်ခူးထားသော ဆုလာဘ်ဖြင့် ဘဝတစ်သက်တာတွင် စိတ်နှလုံးချမ်းမြေ့စွာ နေထိုင်သွားနိုင်ကြ၏။ ဤအဆင့်ထိ လက်လှမ်းမမီနိုင်သူတို့မှာ ဤဆုလာဘ်နှင့် ပတ်သက်၍ ငြင်းချက်ထုတ်စရာကိုသာ ရှာကြံ၍ နေကြပေသည်။

ဤသို့ ရှာကြံနေသူများသည် အပြင်အပက အဖွဲ့အစည်းများမှာသာ ရှိသည်မဟုတ်။ ကျွန်ုပ်တို့ သာသနာတော်အတွင်းမှာလည်း ရှိနေပေသည်။ ကျွန်ုပ်တို့နှင့် အတူနေ၊ အတူစား၊ အတူသွားလာနေကြသော ပုဂ္ဂိုလ်များထဲမှာပင် ရှိနေပေသည်။ သူကား အခြားမဟုတ်။ နာမည်ကြီးလှသော အရှင်ဥဒါယီ ဖြစ်ပေသည်။

ကျွန်ုပ်တို့ သာသနာတော်ဝယ် 'ဥဒါယီ'ဟူ၍ ဘွဲ့အမည်တူ သုံးပါးရှိကြ၏။ ဘုရားရှင်အား ဇာတိချက်ကြွေ မွေးရပ်မြေသို့ ပြန်ကြွလာစေရန် ကဗျာလင်္ကာဖြင့် ပင့်ဆောင်ခဲ့သော အရှင်ဥဒါယီကား အတန်ငယ်အသားညိုသောကြောင့် 'ကာဠုဒါယီ' ဟု ခေါ်တွင်၏။ အရှင်ကာဠုဒါယီနှင့်အတူ လက်ဝဲရံ မဟာသာဝက လေးဆယ်စာရင်းဝင် အရှင်ဥဒါယီကိုကား ကြီးမြတ်သော ဂုဏ်ကျေးဇူးများကြောင့် မဟာဥဒါယီဟု ခွဲခြား၍ ခေါ်ဝေါ်ကြရ၏။ ယခုတင်ပြရမည့် ပုဂ္ဂိုလ်ကား ဟိုစပ်စပ် သည်စပ်စပ်ပါတတ်သောကြောင့် လျှပ်ပေါ်လော်လီတတ်သောကြောင့် 'လာဠုဒါယီ' ဟု အမည်ပေးထားကြရပေသည်။

သည်အရှင်ဥဒါယီ၏ လျှပ်ပေါ်လော်လီပုံကား ဝိနည်းပိဋကတ်မှာ မှတ်တမ်းဝင်လျက် ရှိပါ၏။ သူသည် ပါရာဇိက ကျသည်အထိကား ကျူးကျူးလွန်လွန်မရှိခဲ့ပါ။ သို့သော် ရောက်လေရာရာတွင် အမျိုးသမီးများနှင့် ထိကပါး ရိကပါးနေခဲ့၏။ ကိုယ်ထိလက်ရောက်မထိရသောအခါ စကားဖြင့် ထိတတ် ရိတတ်ပါသေး၏။ မိမိကိုယ်တိုင် မတော်တလျော်ပြုရုံမက သူနှင့်ပတ်သက်သော ရဟန်းများကိုလည်း နည်းပေးလမ်းပြ လုပ်တတ်ပါ သေး၏။ သူ့အမူအကျင့်များကို တားဆီးနိုင်ရန် သံဃာဒိသိသ်သိက္ခာပုဒ်များ ပညတ်ခဲ့ရပေသည်။

ဤသိက္ခာပုဒ်များ ပညတ်ခဲ့စဉ်က ပြစ်မှုကျူးလွန်ခဲ့သော အရှင်ဥဒါယီအား ဘုရားရှင်က အမျိုးမျိုး ကဲ့ရဲ့တော်မူခဲ့၏။ သံဃာ့ပရိသတ် အလယ်တွင် ခေါင်းမဖော်ရဲလောက်အောင် ရှုတ်ချတော်မူခဲ့၏။ ဘုရားရှင် ကြိမ်းမောင်းစဉ်တွင် သူ့ခမျာ မျက်နှာညှိုးငယ်စွာ ကျုံ့ကျုံ့ကလေး ထိုင်နေရ၏။ ဘယ်သူနှင့်မျှ မျက်နှာချင်း မဆိုင်ရဲသဖြင့် ခေါင်းငိုက်စိုက်ချထားရ၏။ သည်လိုပုံကို မြင်ရပြန်တော့လည်း သူ့စရိုက်ဆိုးများကို သည်နေရာမှာပင် အဆုံးသတ်တော့ မှာလိုလို။ သို့သော် သူ့ကို ကျွန်ုပ်တို့ အားလုံးက မယုံပါ။ ထိမိခိုက်မိသည့် တစ်ခဏတွင် ညှိုးခွေသွားသောထိကရုံးပင်ပမာ မကြာမီ ခေါင်းထောင်လာဦးမည့်သူ ဖြစ်ပါသည်။ ယခင် သိက္ခာပုဒ်များ ပညတ်စဉ်ကလည်း ဤသို့ပင် ခေါင်းလျှိုခဲ့ဖူးသည် မဟုတ်ပါလော။

**(သံဃာဒိသိသ်၊ ဒုတိယ၊ တတိယ သိက္ခာပုဒ်များ)**

ကျွန်ုပ်တို့ ထင်ကြေးပေးခဲ့သည့်အတိုင်းပင် ညှိုးခွေနေခဲ့သော ထိကရုံးပင်သည် မကြာမီ ခေါင်းထောင်လာပေသည်။ သည်တစ်ခါတော့ အမျိုးသမီးများနှင့် မပတ်သက်ပါ။ တရားသဘောနှင့်သာ ပတ်သက်ပါသည်။ သာသနာတော်ကြီးအတွက် အချက်အချာအကျဆုံး နိဗ္ဗာန်တရားတော်နှင့်သာ ပတ်သက်နေပေသည်။

သည်တုန်းက ကျွန်ုပ်ဘို့အားလုံး ရာဇဂြိုဟ်မြို့တော်ရောက်နေခိုက် ဖြစ်၏။ ဘုရားရှင်နှင့် အတူတကွ ဝေဠုဝန်ကျောင်းတော်မှာ သီတင်းသုံးခိုက် ဖြစ်၏။ ရဟန်းပရိသတ်များတွင် အရှင်မဟာသာရိပုတ္တရာလည်း ပါလာသဖြင့် ဝေဠုဝန်ကျောင်းတော်တွင် တရားပွဲကြီးများ နေ့စဉ်နေ့တိုင်း ကျင်းပကြရ၏။

ထိုညနေက တရားပွဲတွင် အရှင်မြတ်ကြီးသည် နိဗ္ဗာန်တရားကို အသားချ၍ ဟောကြား၏။ ဟောကြားရင်းက နိဗ္ဗာန်တရားတော်၏ အေးမြ ချမ်းသာသော ဂုဏ်ကျေးဇူးကို ချီးကျူးသောအားဖြင့် "အို... ငါ့ရှင်တို့၊ ဤနိဗ္ဗာန်သည် ချမ်းသာလေစွတကား။ ငါ့ရှင်တို့၊ ဤနိဗ္ဗာန်သည်ချမ်းသာလေစွ တကား"ဟု ကြိမ်ဖန်များစွာ မြွက်ဆိုပေသည်။ ဤတွင် ပွဲတိုင်းကျော် အရှင်ဥဒါယီက သံဃာပရိသတ်ထဲမှ ထ၍ လျှောက်လာခဲ့ခြင်း ဖြစ်ပေသည်။

တကယ်တော့ဖြင့် ဤသို့သော တရားသဘောသည် သူ့အရာ မဟုတ်ပါ။ သူ လက်လှမ်းမီနိုင်သော တရားမျိုးလည်း မဟုတ်ပါ။ နိဗ္ဗာန်နှင့် ပတ်သက်၍ ပဋိပတ် ပဋိဝေဓ စခန်းများကို အသာထားပါဦး။ ပရိယတ်သဘောဖြင့် ဟောပြောနိုင်ရန်ပင် သူ မစွမ်းနိုင်သေးပါ။ သို့ပါလျက် သံဃာ့ ပရိသတ်အလယ်မှ သူ ရဲဝံ့စွာ ထလာခဲ့ပေပြီ။ ပညာဂုဏ်ထူးဆောင် အရှင်မြတ်ကြီးနှင့် အလေးနက်ဆုံးသော တရားသဘောကို အပြန်အလှန်ဆွေးနွေးရန် ချဉ်းကပ်လာပေပြီ။

ဟန်ပါပါလှမ်းလာသော သူ့အမူအရာနှင့် ရွှင်လန်းတက်ကြွသော သူ့မျက်နှာများက တကယ့်သာသနာ့အာဇာနည်ကြီးပမာ ဖြစ်ပါ၏။ အကြောင်းမသိရှာသေးသော ရဟန်းငယ်ကလေးများ ကြည်ညိုစရာ ဖြစ်ပါ၏။ အားကျမည်ဆိုကလည်း ကျလောက်ပါ၏။ သို့သော် ကျွန်ုပ်တို့ကတော့ သူ့သဘော သူ့မနောကို အထင်းသား၊ အရှင်းသား၊ သိထားပြီးဖြစ်ပါသည်။

မတော်မလျော်ပြုကျင့်ခဲ့သဖြင့် အမှုနှင့်လျော်အောင် သူ့ကို ဘုရားရှင်က ကြိမ်းမောင်းတော်မူခဲ့ရ၏။ သံဃာ့ ပရိသတ်အလယ်မှာ ကဲ့ရဲ့ရှုတ်ချတော် မူခဲ့ရ၏။ သည့်အတွက် သာသနာ့အသိုက်အဝန်းထဲဝယ် သူ့နာမည် ညှိုးမှိန်ခဲ့ရ၏။ သူ့ဂုဏ်သိက္ခာ ကျဆင်းခဲ့ရ၏။ ထို့ကြောင့် သူ့နာမည် ပြန်လည်၍ တက်လာအောင်၊ သူ့ဂုဏ်သိက္ခာကို အဖတ်ဆည်နိုင်အောင် သူ ကြိုးစားရပေလိမ့်မည်။ ဤသို့ကြိုးစားရန် ဤတရားပွဲကပင် အခွင့်အရေး ပေးလာခဲ့ပေပြီ။ ပေးလာအောင် အခွင့်အရေးကို အရှင်ဥဒါယီက လက်လွှတ်မခံနိုင်ပါ။ ထို့ကြောင့် ....

"အရှင်သာရိပုတ္တရာ၊ နိဗ္ဗာန်မှာ ဝေဒနာသဘောဖြင့်ခံစားရန် လုံးဝမရှိပါ။ ဝေဒနာသဘောဖြင့် ခံစားရန် လုံးဝမရှိသော နိဗ္ဗာန်တွင် ချမ်းသာခြင်း ဟူ၍ ရှိနိုင်ပါဦးမည်လော"

အရှင်မြတ်ကြီးထံ လက်အုပ်ချီလျက် ပိုင်ပိုင်နိုင်နိုင်ကြီး မေးခွန်းထုတ်လိုက်ပါ၏။ ချီထားသောလက်အုပ်သည် ရိုသေဂါရဝရှိပုံကို သရုပ်ပြရုံမျှ ဖြစ်၏။ သူ့အတွင်းသဘောကတော့ ဤမေးခွန်းဖြင့် အရှင်မြတ်ကြီးကို သိက္ခာချလိုက်ရန်ပင် ဖြစ်၏။ 'ဝေဒနာ'ဟူသည် အချုပ်အားဖြင့် သုခ၊ ဒုက္ခ၊ ဥပေက္ခာဟူ၍ သုံးမျိုးရှိ၏။ နိဗ္ဗာန်တရားတွင် သုံးမျိုးသော ဤဝေဒနာများဖြင့် တစ်စုံတစ်ရာ ခံစားရန် မရှိဟု ကြားဖူးနားဝရှိထား၏။ သို့ပါလျက် အရှင်မဟာသာရိပုတ္တရာက သံဃာ့ပရိသတ်အလယ်တွင် "ဤနိဗ္ဗာန်သည် ချမ်းသာလေစွ"ဟု မြွက်ကြားလိုက်ပေသည်။ 'ပညာဂုဏ်ထူးဆောင် အရှင်မြတ်ကြီးသည် သည်တစ်ခါတော့ တက်တက်စင်အောင် မှားသွားလေပြီတကား'။

သံဃာ့ပရိသတ်အလယ်တွင် အရှင်မဟာသာရိပုတ္တရာကို သိက္ခာချလိုက်ရသည့်အတွက် အရှင်ဥဒါယီသည် မိန့်မိန့်ကြီး ပြုံးလျက်ရှိ၏။ ဘုရားရှင်၏ ကိုယ်တော်စားဖြစ်၍ မည်သူတစ်ဦးတစ်ယောက်ကမျှ အန်တုဖက်ပြိုင် မပြုရဲသော အရှင်မြတ်ကြီးကို ယခု သူက အန်တုဖက်ပြိုင် အနိုင်ရခဲ့ပြီ မဟုတ်ပါလော။ ဤသို့ အနိုင်ရခဲ့သည့်အတွက် ကျဆင်းခဲ့ရလေသမျှသော သူ့သိက္ခာများကို ပြန်၍ဆည်နိုင်ပေတော့မည်။ အပျက်သဘောဖြင့်ကျော်ကြားခဲ့သော သူ့ နာမည်သည် သည်ကရှေ့မှာတော့ ရဲရဲတောက် သာသနာ့အာဇာနည်ကြီးအဖြစ် နာမည်ကြီးလာပေတော့မည်။

သို့ရာတွင် သူ့ရည်မှန်းချက်များ တစ်ခုမျှ အကောင်အထည် ပေါ်မလာပါ။ အရေးပါ အရာရောက်လှပြီဟု ထင်မှတ်ထားသော သူ့မေးခွန်းသည် အရှင်မြတ်ကြီး အပေါ် မည်သို့မျှ အရာမရောက်ပါ။ လက်ပံပင်မှာ ပေါက်စားခဲ့သော သစ်တောက်ငှက်က ရှားပင်ကို လာစမ်းသကဲ့သို့သာ ဖြစ်ပေသည်။ မတန်မရာ လာစမ်းသဖြင့် ရှားပင်မှာ ဘာမျှမဖြစ်ဘဲ သစ်တောက်ငှက်မှာသာ နှုတ်သီးကျိုးသွားရပေသည်။

"ငါ့ရှင် ဥဒါယီ၊ ဤနိဗ္ဗာန်မှာ ဝေဒနာသဘောဖြင့် ခံစားရန် လုံးဝ မရှိခြင်းသည်ပင် ချမ်းသာခြင်း ဖြစ်ပေသည်"

မဆင်မခြင်တောက်လာသော သစ်တောက်ငှက်ကို ရှားပင်က မည်သို့မျှမပြုဘဲ မိမိ၏ ခိုင်မာသော သဘောကိုသာ ပြလိုက်ရပေသည်။

**(အင်္ဂုတ္တရပါဠိတော်၊ နဝကနိပါတ်၊ နိဗ္ဗာနသုခသုတ်)**

အရှင်ဥဒါယီ နားလည်ထားသော ချမ်းသာခြင်းမှာ ဝေဒနာသဘောဖြင့် တစ်စုံတစ်ရာ ခံစားရသော လောကီချမ်းသာခြင်း ဖြစ်၏။ သရုပ် တရားကိုယ် ကောက်လျှင် သုခဝေဒနာကို ရမည်ဖြစ်၏။ ခံစားပုံ အခြေအနေအရ သုခ၊ ဒုက္ခ၊ ဥပေက္ခာဟူ၍ သုံးမျိုးသုံးစား ခွဲခြားထားရသော်လည်း ဝေဒနာဟူသမျှ၏ အရင်းအမြစ်ကို စိစစ်ကြည့်လျှင် ဆင်းရဲခြင်းကိုသာ တွေ့ရပေမည်။ ထို့ကြောင့် ဘုရားရှင်ကလည်း "ဝေဒနာ ခံစားမှုမှန်သမျှ ဒုက္ခသာတည်း" ဟု ဟောတော်မူပေသည်။

မှန်ပါသည်။ ဒုက္ခဝေဒနာသည် ခံစားနေစဉ်မှာပင် ဆင်းရဲပုံ ထင်ရှားပါ၏။ အများတကာ တောင့်တကြသော ချမ်းသာခြင်း သုခဝေဒနာ ဆိုသည်မှာလည်း တကယ်တော့ သူချည်းသက်သက် ခံစားရသည် မဟုတ်ပါ။ ကံအားလျော်စွာ ခံစားနေရဆဲမှာပင် သာယာလှသော ဤဝေဒနာလေး ချုပ်ပျောက်သွားမှာ စိုးရိမ်ရသော ဒုက္ခဝေဒနာက မကွေမကွာ လိုက်ပါလာပေသည်။ ဥပေက္ခာဝေဒနာကိုတော့ သာမန်ပုဂ္ဂိုလ်တို့ သိနိုင်ခဲပါသည်။ သို့သော် သိနိုင်စွမ်းရှိသူတို့ကတော့ ဒုက္ခဟူ၍သာ နားလည်ကြပေသည်။

ဤသို့ဆိုသဖြင့် နိဗ္ဗာန်ကိုမျက်မှောက်ပြုသော မဂ်ဉာဏ် ဖိုလ်ဉာဏ်တို့တွင် ဝေဒနာစေတသိက် မယှဉ်ရတော့ပြီလောဟု စောဒနာရန် ရှိ၏။ သို့သော် ကျွန်ုပ်ဆိုလိုသည်မှာ ဤသဘောမဟုတ်ပေ။ ဒုက္ခနိရောဓသစ္စာထိုက်သော နိဗ္ဗာန်တွင် ခံချင်စရာ၊ စံချင်စရာ၊ ယူချင်စရာ၊ ရချင်စရာ တစ်စုံတစ်ရာ ဘာမျှမရှိသော သုညတသဘောကို တင်ပြလိုရင်းသာ ဖြစ်ပေသည်။

ဤသို့သော သုညတသဘောကို အတွင်းမနောထိ သက်ဝင်ထားသူတို့သာ နိဗ္ဗာန်ချမ်းသာပုံကို နားလည်ကြမည်ဖြစ်၏။ ဝေဒနာမပါသော သန္တိသုခကိုကိုယ်တိုင် ကိုယ်ပိုင် မခံစားရသေးပါလျှင်ကား တော်ရုံတန်ရုံနှင့် နားလည်ဖို့ မလွယ်ပေ။

ထို့ကြောင့်ပင် ဟတ္ထကမင်းသားအား ဘုရားရှင်က ဥပမာပြု၍ မေးခွန်းထုတ်ကာ ဟောကြားတော်မူခဲ့ရပေသည်။

ထိုနေ့တုန်းက ဟတ္ထကမင်းသားသည် အပေါင်းအဖော်များနှင့်တကွ ကျွန်ုပ်တို့ရှိရာ ယင်းတိုက်တောသို့ ရောက်လာ၏။ သူသည် မွေးခါစ အချိန်တုန်းက ဘုရားရှင့်လက်တော်ပေါ် ရောက်ခွင့်ကြုံခဲ့၏။ အာဠဝိတိုင်း၏ အရှင် သူ့ခမည်းတော် မယ်တော်များလည်း သာသနာ့အလုပ်အကျွေးများသာ ဖြစ်ကြ၏။ ထို့ကြောင့် ဟတ္ထကသည် လူမှန်း သိတတ်လာကတည်းက ဘုရားရှင်ထံ ဆည်းကပ်ခဲ့ရ၏။ ကျွန်ုပ်တို့ သိတင်းသုံးဖော်များထံ မကြာခဏ ရောက်လာတတ်၏။ ဤသို့ ရတနာ နှစ်ပါးနှင့် ရင်းနှီးစွာဆည်းကပ်လာခဲ့သော ဟတ္ထကသည် တရားရတနာနှင့် ပတ်သက် ၍ကား ခပ်စိမ်းစိမ်းသာဖြစ်နေ၏။ ထို့ကြောင့် သူ မမျှော်လင့်ခဲ့သော နေရာတွင် ဘုရားရှင်ကို ဖူးတွေ့လိုက်ရသောအခါ တအံ့တသြ ဖြစ်သွားရပေသည်။

"အရှင်ဘုရား၊ ညတုန်းက ချမ်းသာစွာ ကျိန်းစက်ခဲ့ရပါ၏လော"

ရိုသေစွာ ဦးချရှိခိုး၍ နှုတ်ဆက်စကား လျှောက်ထားလိုက်၏။ နှုတ်ဆက် စကားထဲမှာပင် အံ့သြစိတ်ဖြင့် မေးမြန်းလိုသော အရိပ်နိမိတ်များ ပါလာပေပြီ။

"မင်းသား၊ ညတုန်းက ချမ်းသာစွာကျိန်းခဲ့ရပါ၏။ ဤကမ္ဘာပေါ်ဝယ် ချမ်းသာစွာ အိပ်ရသောပုဂ္ဂိုလ်များတွင် ငါဘုရားအပါအဝင် ဖြစ်ပေသည်"

မေးလိုရိပ်ကို သိပြီးသော ဘုရားရှင်က အလိုက်သင့် ဖြေကြားတော်မူ လိုက်ရာ....

"အရှင်ဘုရား၊ ဆောင်းတွင်းညသည် အေးလွန်းလှပါသည်။ တပို့တွဲအကုန် တပေါင်းလအကူး ယခုလို အချိန်မျိုးမှာ နှင်းတွေက ထူထူထဲထဲ ကျတတ်ပါသည်။ မိုးတွင်းတုန်းက ပေါ်ပေါက်ခဲ့သော နွားခွာရာများသည် ယခုတော့ ခြေမချရဲ လောက်အောင် ခက်ထရော်ကြမ်းတမ်း၍ နေကြပါသည်။ အရှင်ဘုရားထိုင်နေသော မြက်အခင်းကလည်း ပါးလွန်းလှပါသည်။ ဤ ယင်းတိုက်ပင်၏ အရွက်များကလည်း ကျဲလှပါသည်။ ဝတ်ရုံထားသော သင်္ကန်းများကလည်း ပါးပါးလွှာလွှာ ဖြစ်၍ အေးစက်နေကြပါလိမ့်မည်။ အေးစက်လှသော ဆောင်းတွင်းလေများကလည်း အရပ်လေးမျက်နှာမှ ဝှေ့ယမ်း တိုက်ခတ်နေကြပါသည်။ သို့ပါလျက် ဘုရားရှင်သည် 'ချမ်းသာစွာ ကျိန်းခဲ့ရပါ၏' ဟု မိန့်တော်မူဘိ၏။ ဤစကားသည် တပည့်တော် အတွက် အသိခက်လှပါသည် ဘုရား"

စည်းစိမ်ခံစားမှုမဖက်၊ ငြိမ်းအေးမှုသက်သက်ဖြစ်သော ချမ်းသာခြင်းကို နားမလည်သေးသည့်အတွက် ဤသို့ပင် ဝန်ခံလျှောက်ထားလိုက်၏။ ဤတွင် ဘုရားရှင်က

"မင်းသား၊ အသိရခက်နေလျှင် သင့်ကို ပြန်၍ မေးပါဦးမည်။ ဤမေးခွန်းကို သင် ကြိုက်သလို ဖြေနိုင်ပေသည်။ လူ့ဘောင်လောကဝယ် သူဌေးသူကြွယ်တို့ နေထိုင်ရာ တိုက်အိမ်များရှိကြ၏။ ယခုလို ဆောင်းတွင်းမှာ ဆိုလျှင် ပြင်ပလေစိမ်း မဝင်နိုင်အောင် တံခါးပေါက်ရှိသမျှ ပိတ်ထားကြ၏။ ထိုတိုက်အိမ်ကြီးများထဲတွင် ခမ်းနားထည်ဝါလှသော ခုတင်များ အစီအရီ ရှိနေကြ၏။

"မင်းသား၊ လက်လေးသစ်မျှ အမွေးရှည်သော ကော်ဇောကြီးများ၊ အဖြူရောင် သက်သက် ကော်ဇောများ၊ ရတနာမျိုးစုံ စီခြယ်ထားသော ကော်ဇောများ၊ မင်္ဂလာ ကျက်သရေရှိလှသော ဝံပိုင့်ရေ ကော်ဇောများ အစီအရီခင်းထားကြ၏။ ခုတင်များ ထက်မှာ ဖိတ်ဖိတ်တောက်သော မျက်နှာကျက်များ ရှိနေကြ၏။ ခုတင် ပေါ်ဝယ် အနီခြယ်ထားသော ခေါင်းအုံးနှင့် ခြေတင်စရာများရှိနေကြ၏။ ပြင်ပက အလင်းရောင် အစား နံ့သာဆီမီးများ ထွန်းညှိထားကြ၏။ ထိုစည်းစိမ်ရှင်အား မယားလေးယောက် တို့က စိတ်တိုင်းကျ ပြုစုလုပ်ကျွေးလျက်ရှိကြ၏။ ဤနေရာတွင် သင်မင်းသားကို မေးရန်ဖြစ်၏။ ထိုစည်းစိမ်ရှင်သည် ချမ်းသာစွာ အိပ်ရပါမည်လော။ မအိပ်ရဘဲ ရှိပါမည်လော"

"အရှင်ဘုရား၊ ထိုစည်းစိမ်ရှင်သည် ချမ်းသာစွာအိပ်ရပါသည် ဘုရား။ ဤကမ္ဘာ ပေါ်ဝယ် ချမ်းသာစွာအိပ်ရသော သူတို့တွင် တစ်ယောက် အပါအဝင် ဖြစ်ပါ သည်ဘုရား"

သူနှင့် အကျွမ်းတဝင်ရှိပြီးသော အကြောင်းရပ်မျိုးဖြစ်နေ၍ ဟတ္ထကက မတုံ့မဆိုင်း ဖြေဆိုလိုက်လေရာ....

"မင်းသား၊ သင့်ကို နောက်တစ်ခု မေးပါဦးမည်။ ထိုစည်းစိမ်ရှင်အား ရာဂကြောင့်သော်လည်းကောင်း၊ ဒေါသကြောင့်သော်လည်းကောင်း၊ မောဟကြောင့် သော်လည်းကောင်း ကိုယ်ရောစိတ်ပါ အပူမီးတွေ လောင်မြိုက်နေငြားအံ့။ ထို စည်းစိမ်ရှင်သည် ချမ်းသာစွာ အိပ်ရပါဦးမည်လော"

"ချမ်းသာစွာ မအိပ်နိုင်တော့ပါ ဘုရား"

"မင်းသား၊ ရာဂ၊ ဒေါသ၊ မောဟစသော ကိလေသာတို့ကို ငါဘုရား၏ စိတ်သန္တာန်မှာ အပြီးတိုင်ပယ်ခဲ့ပြီးပြီ။ အရင်းအမြစ်ကို ဖြတ်ပြီးပြီ။ အစအနမျှ ရှာမရတော့ပြီ။ ထို့ကြောင့် ငါဘုရားသည် ချမ်းသာစွာ အိပ်ရပေသည်။"

လောကီစည်းစိမ်များထက်အဆတစ်ရာမကသာလွန်သော လောကုတ္တရာ စည်းစိမ်ကြီးကို ညွှန်ပြတော်မူလိုက်ပေသည်။

(အင်္ဂုတ္တရ ပါဠိတော်၊ တိကနိပါတ်၊ ဟတ္ထကသုတ်)

ဤဒေသနာတော်ကြီးကို ကြားနာပြီးချိန်မှစ၍ ဟတ္ထကၡ၏ စိတ်ဓာတ်များ ပြောင်းလဲ၍ သွားကြပေသည်။ မင်းပိုမင်းလွှင်ပီပီ သူသည် လောကီ စည်းစိမ်များကို မက်မောခဲ့၏။ စည်းစိမ်ရှင်ကြီးများကို အားကျခဲ့၏။ ယခု ဤဒေသနာတော်ကို ကြားနာပြီးသည်တွင်ကား သူ့ဦးတည်ချက်များ ပြောင်းသွားကြပေပြီ။ ပူလောင်မှု မကင်းသော လောကီစည်းစိမ်များအပေါ်မှာ တွယ်တာ ကပ်ငြိမှု မရှိတော့ဘဲ လောကုတ္တရာစည်းစိမ်ကြီးသို့ သုံးမဂ်၊ သုံးဖိုလ်ဖြင့် ချဉ်းကပ်သွားပေသည်။

သာမန် မင်းသားဘဝကပင် အခြေအရံများခဲ့သော ဟတ္ထကသည် အရိယာ သာဝက ဖြစ်လာသောအခါ သာ၍ပင် များပေသည်။ ရတနာ သုံးပါးနှင့် စပ်၍ ဆောင်ရွက်ဖွယ်ရှိလေတိုင်း သူ့နောက်ပါးဝယ် ငါးရာမျှသော သာဝကတို့ လိုက်ပါ လာမြဲဖြစ်ပေသည်။

ဤသို့ လိုက်ပါလာကြစေရန် သူ့ဘက်ကလည်း တာဝန် ကျေပွန်လှ၏။ ပစ္စည်းဥစ္စာ ချို့တဲ့သူကို ရက်ရက်ရောရော ပေးကမ်း၏။ စိတ်ဓာတ် စရိုက် ကြမ်းတမ်းသူများကို သာယာညင်းပျောင်းစွာ ပြောဆို၍ သိမ်းသွင်း၏။ အလုပ်ကိစ္စ မနိုင်မနင်း ဖြစ်နေသူများကို ကိုယ်ရောစိတ်ပါ ကူညီ ဆောင်ရွက်ပေး၏။ မိမိက ဘုရင်မွေးသည့် မင်းသွေးဖြစ်နေသော်ငြားလည်း သာမန် လူများကို တန်းတူထား၍ ဆက်ဆံ၏။ ဤသို့ သင်္ဂဟဝတ္ထုကြလေးပါးဖြင့် ချီးမြှောက်တတ်သည့်အတွက် ဟတ္ထကမင်းသားမှာလည်း ကျွန်ုပ်တို့ သာသနာတော်ဝယ် 'တေဒဂ်' ဂုဏ်ထူးဆောင် တစ်ယောက်အဖြစ် ထင်ရှားလာပေသည်။

**(အင်္ဂုတ္တရ၊ ဧကနိပါတ် အဋ္ဌကထာ၊ ဟတ္ထကအာဠဝကဝတ္ထု)**

အာဠဝီတိုင်းက တေဒဂ်ဂုဏ်ထူးဆောင်တစ်ယောက် ပေါ်ပေါက်လာ ချိန်တွင် မလ္လတိုင်းမှ ဒါယကာတစ်ယောက်ကား ဤဆုမြတ်ကြီးကို ချောက်ကမ်းပါးကြီးကဲ့သို့ ကြောက်အားပိုသည်ဟု ဆိုပါ၏။

ဤစကားကိုတစ်ဆင့်ကြားနှင့် တင်ပြခြင်း မဟုတ်ပါ။ ကျွန်ုပ်နားနှင့် ဆတ်ဆတ် ကြားရသည့်အတိုင်း တင်ပြခြင်း ဖြစ်ပါသည်။

ကြောက်အားပိုသူနှင့် တွေ့ဆုံခဲ့ရသည်ကား မလ္လတိုင်းအတွင်းရှိ ဥရုဝေလ ကပ္ပရွာကြီး ဖြစ်ပေသည်။

ဤရွာမှာ အတည်တကျဝါဆို၍နေထိုင်သော ရဟန်းမရှိသေးသဖြင့် အခိုင် အမာဆောက်လုပ်ထားသော ကျောင်းတိုက်တာဟူ၍ မရှိသေးပါ။ ရောက်လာသည့် အခိုက် နေထိုင်ဖြစ်ရုံမျှ မဏ္ဍပ်ကနား ထိုးပေးထားကြရ၏။ ဤနေရာသည် မဟာဝုန် တောကြီး၏ အစွန်အဖျားဖြစ်သဖြင့် သစ်ရိပ်ဝါးရိပ် ကောင်းလှ၏။ ရာသီဥတု မျှတသော အချိန်အခါဖြစ်၍ ကျွန်ုပ်တို့ နေရာထိုင်ခင်း ကျယ်ကျယ်ပြန့်ပြန့် ရှိပါ၏။

သို့သော် ယာယီနေရာဖြစ်၍ ဘုရားရှင်အတွက် သီးသန့်နေရာ မရှိနိုင်ပါ။ ဇေတဝန်ကျောင်းတော်မှာလို ဂန္ဓကုဋီ မရှိနိုင်ပါ။ ကျွန်ုပ်တို့နှင့် တစ်ပြေးတည်းနေရာမှာပင် အထွတ်အမြတ်ဆုံးနေရာကို ဘုရားရှင်အတွက် သတ်မှတ်ထားရပေသည်။ ထို့ကြောင့်ပင် တစ်ပါးတည်း လွတ်လွတ်လပ်လပ်နေနိုင်ရန် မဟာဝုန်တောကြီးထဲသို့ ဘုရားရှင် ကြွချီတော်မူရပေသည်။ ကျွန်ုပ်ကိုကား ပြန်လာချိန်ထိ ဤနေရာမှာ နေရစ်ရန် မိန့်ကြားတော်မူခဲ့ပေသည်။

အမြတ်တမ်း အလုပ်အကျွေးဘဝ ရောက်လာချိန်မှစ၍ ကျွန်ုပ်သည် နောက်တော်ပါးမှ ဖဝါးခြေထပ် လိုက်ပါခဲ့ရ၏။ ရေပူရေချမ်း ကမ်းလှမ်းခဲ့ရ၏။ ခြေဆုပ်လက်နယ် ပြုစုခဲ့ရ၏။ ယခုတော့ ကျွန်ုပ်ကို 'ဤနေရာမှာသာ နေရစ်တော့'ဟု မိန့်တော်မူခဲ့ပေပြီ။ ပြုစုသူမပါဘဲ တစ်ပါးတည်းခွဲ၍ ကြွတော်မူပေပြီ။ ကျွန်ုပ် ပြုစုခဲ့သမျှကို ပြန်လှန်စစ်ဆေးကြည့်တော့လည်း မနှစ်သက်ဖွယ်ရာဟူ၍ မတွေ့မိပါ။ သို့ပါလျက် ကျွန်ုပ်ကို ဘာကြောင့်များ တစ်ပါးတည်း ခွဲထားတော်မူခဲ့ပါသနည်း။ ဘုရားရှင် ပြုတော်မူလေသမျှ အမှုကိစ္စများမှာ အကြောင်းမဲ့ဟူ၍ မရှိနိုင်ပါ။ ကျွန်ုပ် ဉာဏ်စွမ်းဖြင့် ကြိုတင် မသိနိုင်၊ မမြင်နိုင်သော အကြောင်းတစ်ခုခု ရှိရပါလိမ့်မည်။

ကျွန်ုပ် အစဉ်းစားရကျပ်နေဆဲတွင် တပုဿမည်သော ဒါယကာ တစ်ယောက် ရောက်လာပေသည်။ တပုဿသည် ဥရုဝေလကပ္ပရွာကြီးမှ ထင်ရှားသော သူဌေးကြီး တစ်ယောက်ဖြစ်၏။ ပစ္စည်းဥစ္စာ ကြွယ်ဝချမ်းသာသည်နှင့်အမျှ ရတနာသုံးပါးကို လည်း ကြည်ညိုလှ၏။ အလှူရေစက် လက်နှင့်မကွာသူ ဖြစ်၏။ သို့သော် သူ့သဒ္ဓါကား ရဟန်းတော်တို့၏ တည်ငြိမ်သောဣန္ဒြေကို ဖူးမြင်ရ၍သာဖြစ်၏။ ကိုယ်တွင်း သန္တာန်က အမှန်တရားကို ထိုးဖောက် မြင်နိုင်စွမ်း မရှိသေးပေ။ ထို့ကြောင့်

"အရှင်အာနန္ဒာဘုရား၊ တပည့်တော်တို့ ကာမဘုံသားများသည် ကာမဂုဏ်တို့မှာ မွေ့လျော်ပျော်ပါးကြပါသည်။ ဝမ်းသာအားရ ခံစားကြပါသည်။ တပည့်တော်တို့လို ဒါယကာများအဖို့ ကာမဂုဏ်မှ လွတ်မြောက်ရာ နိဗ္ဗာန်ဟူသော တရားကြီးသည် ချောက်ကမ်းပါးကြီးကဲ့သို့ ကြောက်ဖွယ်လိလိ ရှိလှပါသည်။ ဤသာသနာတော်ကြီးဝယ် ငယ်ရွယ်သောရဟန်းတို့သည် ကာမဂုဏ်မဖက် ငြိမ်သက်သော တရားတော်၌ သက်ဝင်တည်နေကြပါသည်။ ကာမဘုံသား လူအများနှင့် ရဟန်းတို့ကြားဝယ် ဤနိဗ္ဗာန်နှင့် ပတ်သက်၍ သဘောထားချင်း ကွာခြားလှပါသည် ဘုရား"

သူ့သဘောထားကို ရိုးသားစွာ လျှောက်ထားပေသည်။ ဒုက္ခကို ကြောက်ရမည့်အစား ဒုက္ခလွတ်ရာ မြတ်ချမ်းသာတရားကိုမှ ကြောက်ရှာပေသည်။ ကာမဂုဏ်ချမ်းသာကိုသာသိ၍ ကာမဂုဏ်မဖက် ငြိမ်သက်စွာ ခံစားရသော ဝိမုတ္တိအရသာကို မခံစားရဖူးသေးသမျှ ဤသို့ပင် ကြောက်နေကြရပါလိမ့်မည်။

မကြောက်သင့်သည်ကို ကြောက်နေသည့်အတွက် တပုဿကို ကျွန်ုပ် သနားလိုက်မိပါ၏။ သို့သော် သေသေချာချာ တွက်ကြည့်လိုက်သောအခါ သူ့အတွက် သနားစရာဖြစ်နေသော ဤစကားသည် ကျွန်ုပ်အတွက် ဝမ်းသာစရာ ဖြစ်နေပေသည်။

"ဤနေရာမှာနေရစ်ခဲ့"ဟူသော အမိန့်တော်ကြီးကြောင့်သာ ကျွန်ုပ်သည် နောင်တော်မြတ်နှင့် ခွဲခွာ၍ နေခဲ့ရ၏။ ဤအမိန့်တော်ကြီးသာ မထွက်လာလျှင် မဟာဝုန်တောကြီးထဲဝယ် နောင်တော်မြတ်နှင့် အတူတကွ ရှိနေပေလိမ့်မည်။ တစ်စုံတစ်ရာသော စကားဖြင့် သုတ္တန်ဒေသနာကြီး တစ်ခုခုကို ကြားနာနေရပေလိမ့်မည်။ ယခုလည်း တပုဿ လျှောက်ထားလိုက်သော စကားများက ဤအခွင့်အရေးကို ပေးကြပါတော့မည်။ ထို့ကြောင့် ဤစကားလက်ဆောင်ဖြင့် တပုဿနှင့် အတူ မဟာဝုန်တောကြီးထဲသို့ လိုက်သွားခဲ့ပါသည်။

ဤသို့သွားရင်းက ဘုရားရှင်၏ အမိန့်တော်ကို ဖီဆန်ရာများကျသွားမည်လားဟု ကျွန်ုပ် တွန့်ဆုတ်ဆုတ် ဖြစ်မိသေး၏။ သို့သော် ကျွန်ုပ်၏ ပြဿနာကို ကျွန်ုပ်ဘာသာ အဖြေထုတ်နိုင်လာပါသည်။ ရှင်တော်မြတ်ထံတော်မှ ပန်ဆင်ခဲ့သော ဆုများတွင် တစ်စုံတစ်ရာ သံသယရှိ၍လျှောက်ထားလိုလျှင် အချိန်မရွေး ချဉ်းကပ်နိုင်ခွင့် ရရှိထားသည် မဟုတ်ပါလော။

ရရှိထားသော ဆုလာဘ်ကို ထိုနေ့က ကျွန်ုပ် ကောင်းကောင်းကြီး အသုံးချလိုက်ရပေသည်။ ဤသို့ အသုံးချလိုက်ရသည့်အတွက် သာသနာတော်အတွက် ကျေးဇူးများလှသော သုတ္တန် ဒေသနာတော်တစ်ပုဒ် ပေါ်ထွက်လာပေသည်။

တပုဿ၏ စကားလက်ဆောင်ကို ရှေ့တော်မှောက်သို့ တင်ပြလိုက်သောအခါ ဘုရားရှင် မိန့်ကြားတော်မူသည်မှာ....

"အာနန္ဒာ၊ ဤစကား မှန်ပေစွ၊ အာနန္ဒာ၊ ဤစကား မှန်ပေစွ။ ငါဘုရားကိုယ်တော်တိုင်လည်း သမ္မာသမ္ဗောဓိဉာဏ် မရခင်က ဤသို့ ဖြစ်ခဲ့ဖူးပေသည်။ 'ကာမဂုဏ်မှ ထွက်မြောက်ရာ ဤနိဗ္ဗာန်သည် ငြိမ်သက်စွာ တကား' ဟု အခါခါ နှလုံးသွင်းကြည့်သော်လည်း ငါ၏ စိတ်သည် ထွက်မြောက်ရာသို့ လွတ်လွတ်ကျွတ်ကျွတ် ရောက်မသွားပေ။ တည်ကြည်ခိုင်မာခြင်း မရှိပေ။ ဤတွင် အကြောင်းကို ရှာကြည့်လိုက်သောအခါ 'ငါသည် ကာမဂုဏ်တို့၏ အပြစ်ကို မမြင်သေး။ ကာမဂုဏ်တို့၏ အပြစ်ကိုရှုဆင်ခြင်၍ ကြိမ်ဖန်များစွာ မပွားရသေး။ ထွက်မြောက်ကြောင်း အကျင့်၏ အကျိုးကျေးဇူးကို မခံစားရသေး။ ထိုအကျိုးကျေးဇူးကို ထပ်ကာထပ်ကာ မမှီဝဲရသေး။ ထို့ကြောင့် ငါ၏စိတ်သည် ထွက်မြောက်ရာသို့ လွတ်လွတ်ကျွတ်ကျွတ် ရောက်မသွားပေ။ တည်ကြည်ခိုင်မာခြင်း မရှိပေ။

"အာနန္ဒာ၊ ထိုသို့အကြောင်းကို ရှာတွေ့ပြီးလျှင် ထွက်မြောက်ရာသို့ လွတ်လွတ်ကျွတ်ကျွတ် ရောက်နိုင်စေရန် တည်ကြည်ခိုင်မာခြင်းရှိစေရန် ငါဘုရားသည် ကာမဂုဏ်တို့၏ အပြစ်ကို မြင်အောင်ရှု၏။ ကာမဂုဏ်တို့၏အပြစ်ကို မြင်အောင်ရှု၍ ကြိမ်ဖန်များစွာ ပွားများ၏။ ထွက်မြောက်ကြောင်း အကျင့်၏ အကျိုးကျေးဇူးကို အရယူခဲ့၏။ ထိုအကျိုးကျေးဇူးကို ထပ်ကာ ထပ်ကာ မှီဝဲ၏"

ဤဒေသနာကြားရရုံနှင့် တပုဿတစ်ယောက် အကြောက်ပြေသွားရန် ရှိပေသည်။

မှန်ပါသည်။ ကာမဂုဏ်မှထွက်မြောက်ရာ နိဗ္ဗာန်တရားကြီးကို ချောက်ကမ်းပါးကြီးကဲ့သို့ ကြောက်အားမပိုနိုင်ရန် ကျွန်ုပ်တို့သည် ဦးစွာပထမ ကာမဂုဏ်တို့၏ အပြစ်ကို မြင်အောင် ရှုကြရမည်ဖြစ်၏။ သန်လျက်သွားမှ ပျားရည်စက်ကို လျက်မှားမိ၍ လျှာပြတ်ရသော ဒုက္ခသစ္စာကိုဦးစွာပထမ နားလည်ကြရမည်ဖြစ်၏။ သစ္စာလေးပါးတရားတော်မှာပင် ဘုရားရှင်က ဒုက္ခသစ္စာကို ဦးစွာပထမ ဟောကြားတော်မူထားသည်ဖြစ်ရာ ဒုက္ခကို ဒုက္ခဟူ၍ ပိုင်ပိုင်နိုင်နိုင် သိမြင်ထားပါမှ ဒုက္ခလွတ်ရာ ရောက်လာကြမည် မဟုတ်ပါလော။

(အင်္ဂုတ္တရပါဠိတော်၊ နဝကနိပါတ်၊ တပုဿသုတ်)

**

# လူမှုရေးတရားတော်

ကျွန်ုပ်တို့ ရရှိထားသော လူ့ဘဝကို ဒုလ္လဘတရား ငါးပါးထဲမှာ ထည့်သွင်းထား ရ၏။ အကောင်ရေကို အသာထား၊ အမျိုးအစားကိုပင် မရေတွက်နိုင်သော ပိုးမွှား တိရစ္ဆာန်များနှင့် နှိုင်းစာကာ ရနိုင်ခဲသော လူ့ဘဝကို စေ့စေ့စပ်စပ် သုံးသပ်ကြည့် လျှင်ကား ဒုက္ခသစ္စာတုံးကြီး ဖြစ်နေသည်ကို တွေ့ကြရပါလိမ့်မည်။

ဤလူ့ဘဝကြီးကို စလိုက်သည်နှင့် ကျွန်ုပ်တို့သည် ငိုခန်းနှင့် ကြုံခဲ့ရ၏။ အချိန်တန်၍ လာမြဲလမ်းသို့ ပြန်ကြရတော့လည်း ငိုခန်းကို ရှောင်လွှဲ၍ မရနိုင်ပါ။ ပုခက်နှင့် သင်္ချိုင်းကုန်းတို့ စပ်ကြားမှာလည်း ငိုခန်းတွေက မရေ မတွက်နိုင်အောင် ပေါ်လှပါ၏။ ဤသို့ငိုကြွေးရလေသမျှ အခံရခက်လှသော သဘောကြောင့် ဒုက္ခဟု ခေါ်ဆိုရ၏။ ထိုဒုက္ခသည် မည်သူ့ကိုမျှ မျက်နှာ မလိုက်ပေ။ သမုဒယသစ္စာတည်း ဟူသော အကြောင်း ရှိလေသမျှ လူမျိုးမရွေး၊ အဆင့်အတန်းမရွေး၊ အသက်အရွယ် မရွေး၊ ဒုက္ခနှင့် ကြုံတွေ့ရသည်ချည်း ဖြစ်၏။ သည်ဒုက္ခဖြစ်လာပြီဆိုလျှင်လည်း မည်သူမဆို ပူဆာလောင်ပြင်း ဆင်းရဲကြသည်ချည်း ဖြစ်၏။ ဤသို့ မျက်နှာ မလိုက်သော သဘောကြောင့် သစ္စာထိုက်သည်ဟု ဆိုရပေမည်။

သစ္စာထိုက်သော ဒုက္ခတရားကို တစ်ဖန်ထပ်၍ ခွဲခြမ်းလိုက်သောအခါ ...

၁။ သိလျှင်လွှတ်နိုင်သော ဒုက္ခနှင့်

၂။ သိသော်လည်း မလွှတ်နိုင်သော ဒုက္ခဟူ၍ နှစ်မျိုးနှစ်စား ရှိပေသည်။

သိလျှင်လွှတ်နိုင်သော ဒုက္ခကား စိတ်ဒုက္ခဖြစ်၏။ ကျွန်ုပ်တို့ စိတ် သန္တာန် မှာ မကြာမကြာ ပေါ်လာတတ်သော စိတ်ပူစိတ်ယုတ် စိတ်အရှုပ်များ ဖြစ်ကြ၏။ ထိုစိတ်ဒုက္ခတို့သည် သူ့အလျောက်ဘာသာ ဖြစ်လာကြသည် မဟုတ်ပေ။ ဘယ် တန်ခိုးရှင် အာဏာရှင်ကမှ စေတစ်လုံးနှင့် မန်းမှုတ်လွှတ်လိုက်သည် မဟုတ်ပေ။ အလို တစ်ခုခုနှင့်ပြုမိကြသော သမုဒယသစ္စာကြောင့်သာ ဖြစ်ပေါ်လာရ၏။ သမုဒယသစ္စာ

တည်းဟူသော အလိုတစ်ခုခုနှင့် ပြုလေသမျှ ဒုက္ခမှလွဲ၍ ဘာကိုမျှ မရနိုင်ပါ။ ထို့ကြောင့် ကိလေသာဝဋ်ဒုက္ခ အပေါင်းမှ လွတ်လိုလျှင် လွတ်ရာကို သိကြရပါလိမ့်မည်။ လွတ်ရာကိုသိ၍ သိသလို ကျင့်သုံးနိုင်သည်နှင့်အမျှ စိတ်ဒုက္ခအပေါင်းမှ လွတ်ငြိမ်းချမ်းသာခွင့် ရနိုင်ကြပါလိမ့်မည်။

ယခု ပြု၍ရသည်မဟုတ်။ လွန်လေပြီးသော ပုရိမတဏှာကြောင့် ရရှိထားသော ရုပ် နာမ် ခန္ဓာကြီးကား ဝိပါက ဝဋ်တရားသာဖြစ်၍ တရားသိသော်လည်း လွတ်ငြိမ်းခွင့် မရနိုင်ပါ။ ပူချိန်တန် ပူမည်သာ။ အေးချိန်တန် အေးမည်သာဖြစ်၏။ ညောင်းညာကိုက်ခဲခြင်း၊ ဆာလောင်မွတ်သိပ်ခြင်းတို့ကလည်း နေ့စဉ်နှင့်အမျှ ဒုက္ခပေးနေကြမည်သာ ဖြစ်၏။ သည်ဒုက္ခများ ခံစားရာတွင် စိတ်နှင့်မကင်းသော်လည်း အရင်းမှာကား ကိုယ်ခန္ဓာကြီးနှင့် ပတ်သက်သော ဒုက္ခသာဖြစ်၏။ ထို့ကြောင့် ဘုရား ရဟန္တာအရှင်မြတ်ကြီးတို့မှာပင် ကာယိကဒုက္ခကို ပယ်သတ်၍ မရနိုင်ကြသဖြင့် ဖလှယ်၍ ပေးတော်မူကြရ၏။ ဆာလောင်မှုကို ဖြေဖျောက်ရန် ဆွမ်းခံကြွတော်မူကြရ၏။ ရောဂါ တစ်စုံတစ်ရာ ဖြစ်လာသောအခါ သင့်လျော်သော ဆေးဝါးဓာတ်စာတို့ဖြင့် ကုစားကြရ၏။ ဘုရားရှင်၏ လေနာရောဂါရစဉ်က အရှင်ဥပဝါဏ ရေနွေးနှင့် တင်လဲရှာ၍ ဆက်ကပ်ခဲ့ပုံတို့ကို ကျွန်ုပ်၏ ပရိသတ်များ မှတ်မိကြဦးမည် ထင်ပါသည်။

ဤသို့အားဖြင့် ဝိပါကဝဋ်ဒုက္ခကြီးမှ ရာနှုန်းပြည့် မလွတ်ကြသော်လည်း လွတ်နိုင်သမျှ လွတ်အောင် ပြုခွင့်ကား ရှိနေပေသည်။ ထို့ကြောင့် ဝိနည်းပိဋက၊ ဘေသဇ္ဇခန္ဓကတွင် ရောဂါအမျိုးမျိုးကို ကုစားရန် ဆေးဝါး ပစ္စည်းမျိုးစုံကို ဘုရားရှင် ညွှန်ကြားတော်မူခဲ့၏။ သာသနာ့ဝန်ထမ်း ရဟန်းများအတွက် ညွှန်ပြခဲ့သော်လည်း ဒါယကာ ဒါယိကာမများလည်း ဤဆေးများကို သုံးနိုင်သည်သာဖြစ်၏။ ထို့အတူပင် အခြား အခြားသော လူမှုဒုက္ခများမှ လွတ်မြောက်စေကြောင်း နည်းလမ်းတော်များကိုလည်း ဘုရားရှင် ညွှန်ပြတော်မူခဲ့ပေသည်။

သတ္တလောကကြီးတစ်ခုလုံးတွင် လူသည် အသိဉာဏ် အဆင့်အတန်း အမြင့်ဆုံး ဖြစ်၏။ သို့သော် ထိုလူသားတို့သည် မိမိတစ်ယောက်တည်း ရပ်တည်၍ မရနိုင်ပါ။ ရရှိထားသော မနုဿတ္တ လူ့ဘဝ တည်တံ့ခိုင်မြဲရေးအတွက် တစ်ယောက်နှင့် တစ်ယောက် အမှီသဟဲပြု၍သာ နေခဲ့ကြရ၏။ ဤတွင် လူမှုဆက်ဆံရေးသဘောဖြစ်ပါလာကာ မိသားစု ဟူ၍ ရှိလာရ၏။ သားချင်းဆွေမျိုး ဟူ၍ ရှိလာရ၏။ မိတ်ဆွေသူငယ်ချင်း ဟူ၍ ရှိလာရ၏။

မိသားစုအတွင်းမှာ ဖြစ်စေ၊ သားချင်းဆွေမျိုးများနှင့် ဖြစ်စေ၊ မိတ်ဆွေသူငယ်ချင်းများနှင့် ဖြစ်စေ သင့်တင့်ညီညွတ်စွာ နေနိုင်စေရန် စုစည်းပေးသော

တရားကား ချစ်ခြင်းမေတ္တာဖြစ်၏။ ချစ်ခြင်းမေတ္တာ၏ စေ့ဆော်မှုကြောင့် လူတို့သည် တစ်ယောက်အပေါ် တစ်ယောက် ကူညီကြ၏။ စောင့်ရှောက်ကြ၏။ ပြုစုလုပ်ကျွေး မွေးမြူကြ၏။ ဤသို့ မေတ္တာတုံ့ပြန် ဆက်ဆံကြခြင်းကို ဘုရားရှင်ကလည်း ချီးမြှောက် အားပေးခဲ့တော်မူပေသည်။ ရာဇဂြိုဟ်မြို့သား သိင်္ဂါလ သတို့သားအား ထောင့်ပေါင်းစုံမှ လူမှုရေး တာဝန်အသီးသီးကို ဟောကြားတော်မူခဲ့ပေသည်။

ထိုအထဲမှာ မိဘနှင့် သားသမီးများ ဆက်ဆံရာတွင် မိဘများဘက်က ထားရှိရမည့် တာဝန်များမှာ....

မကောင်းမှုကို တားမြစ်ခြင်း၊
ကောင်းမှုကို အားပေး ချီးမြှောက်ခြင်း၊
ငယ်ရွယ်စဉ်မှာ ပညာသင်ပေးခြင်း၊
သင့်လျော်သော အိမ်ထောင်ချပေးခြင်း၊
သင့်လျော်သော အချိန်မှာ အမွေပစ္စည်း လွှဲအပ်ပေးခြင်း–

တို့ဖြစ်၏။

ထို့အတူ သားသမီးများဘက်ကလည်း....

ကျွေးမွေးပြုစုခြင်း၊
လုပ်ငန်းဆောင်တာများ ဆက်ခံဆောင်ရွက်ခြင်း၊
မျိုးနွယ်စည်းကမ်းကို စောင့်စည်းခြင်း၊
အမွေပစ္စည်း ဆက်ခံစောင့်ရှောက်ခြင်း။
ကွယ်လွန်လေပြီးသော မိဘများအတွက် ကောင်းမှုပြု၍ အမျှပေးဝေခြင်း

ဟူ၍ တာဝန်ငါးရပ် ရှိပေသည်။

မိဘနှင့်သားသမီးများ၏ တာဝန်များမှာ ငါးပါးစီ အညီအမျှ ဖြစ်၏။ ဤတာဝန်များကို သူ့ဘက် ကိုယ့်ဘက် ကျေပွန်စွာ ထမ်းဆောင်သွားကြလျှင် ချမ်းမြေ့သာယာသော မိသားစုအဖြစ် စာရင်းဝင်နိုင်ကြမည် ဖြစ်၏။ နှစ်ဘက်သော တာဝန်များတွင် မိဘများ၏ တာဝန်ငါးရပ်ကိုကား ဘုရားရှင်က အထူး တိုက်တွန်းနေရန် မလိုပါ။ သားသမီးအပေါ် ချစ်အားပိုကြသဖြင့် ကျေပွန်သည် ထက်ပင် ပိုချင်ကြသေး၏။ ဤသို့ မိဘများဘက်က တာဝန် ကျေကြသော်လည်း သားသမီးများ အလှည့်မှာတော့ တာဝန်မကျေချင်ကြပေ။ ထို့ကြောင့် ဘုရားရှင်က မိဘများဘက်က မဲတင်းပေးတော်မူရ၏။

"ရဟန်းတို့၊ ဗြဟ္မာ ဟူသည်မှာ မိခင် ဖခင် တို့၏အမည် ဖြစ်၏။ လက်ဦး ဆရာဟူသည်မှာလည်း မိဘတို့သာ ဖြစ်၏။ မိဘတို့သည် ရှေးဦးစွာ ပူဇော်ထိုက်သော

နတ်ကောင်း နတ်မြတ်များလည်း ဖြစ်ကြ၏။ စားဦးစားဖျား ကျွေးမွေးထိုက်သော အလှူခံပုဂ္ဂိုလ်များလည်း ဖြစ်ကြ၏။ အကြောင်းကား မိဘများသည် သားသမီးတို့အတွက် ကျေးဇူးဂုဏ်အနန္တ ကြီးမားကြ၏။ သားသမီး တို့ကို ဖဝါးလက်နှစ်လုံး ပခုံးလက်နှစ်သစ်မှ လူဖြစ်အောင် ကျွေးမွေးပြုစုခဲ့ကြ၏။ ထူးထွေဆန်းပြားလှသော ဤကမ္ဘာလောကကြီးကို ပြသကြကုန်၏။ ထို့ကြောင့် ဤသို့ဆိုရခြင်း ဖြစ်ပေသည်"

မိဘများဘက်က ပံ့ပိုးပေးလိုက်သော ဒေသနာတော် တစ်ပုဒ်ပင် ဖြစ်ပေသည်။

အများတကာက ဗြဟ္မာကြီးများကို ဟိုအထက်ကောင်းကင်သို့ မျှော်ကြည့်နေကြ၏။ ပြိုးပြိုးပြက်ပြက် အရောင်တွေလက်နေမည့် ရုပ်ပုံများကို မှန်းဆကြည့်နေကြရ၏။ သို့သော် ဤဒေသနာတော်အရ ကြည့်တတ်ကြလျှင် မိမိတို့ အိမ်ဦးခန်းမှာပင် ဗြဟ္မာကြီးများကို မြင်ကြရမည်ဖြစ်၏။ ထက်ကောင်းကင်က ဗြဟ္မာကြီးများသည် မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာ ဟူသော ဗြဟ္မစိုရ်တရားလေးပါးနှင့် နေကြသည်ဟု ပညာရှိများ ဆိုခဲ့ကြ၏။ ယခု အိမ်ဦးခန်းမှ ဗြဟ္မာကြီးများကလည်း သားသမီးတို့အပေါ် ဗြဟ္မစိုရ်တရား ပွားများကြသည်သာ ဖြစ်ပေသည်။

ပညာသင်ပေးသော ဆရာများသည် စကားပီသ၍ လူမှန်းသူမှန်း သိမှသာ သင်ပေးနိုင်ကြ၏။ မိဘများကား သားသမီးများ ဂူဂူဝါးဝါး ဆိုတတ်ကတည်းက စကားတစ်လုံးစ၊ နှစ်လုံးစ သင်ပေးခဲ့ကြ၏။ လက်ကလေးများ လှုပ်ယမ်းနိုင်ကတည်းက ကတတ်အောင် သင်ပေးခဲ့ကြ၏။ ဝမ်းလျားမှောက်ရာမှ ထိုင်နိုင်အောင်၊ ထိုင်ရာမှ မတ်တတ်ရပ်၍ သွားနိုင်အောင် စိတ်ရှည်လက်ရှည် သင်ပေးခဲ့ကြ၏။ ထို့ကြောင့် မိဘများသည် သားသမီးများ၏ လက်ဦးဆရာများ ဖြစ်ပေသည်။

ကျွန်ုပ်တို့ ရောက်လေရာရာ မြို့များတွင် ဥယျာဉ်၊ ရေကန်များအနီးအနားမှာ နတ်ကွန်းများ ရှိနေကြ၏။ ကျောင်းကန် မရှိသေးသောအခိုက်မှာ ကျွန်ုပ်တို့သည် ထိုနတ်ကွန်းများမှာ တည်းခိုခဲ့ကြရ၏။ နတ်ကွန်းတည်ကာ ပူဇော်ထားကြသော နတ်များက လူတို့အား မည်သို့ ကျေးဇူးပြုမည် မပြုမည် ကျွန်ုပ် မသိပါ။ သို့သော် အိမ်ဦးခန်းက နတ်ဒေဝများကား ငါးပါးသော အကျိုးတရားတို့ကို လက်ငင်းလက်တွေ့ ပေးနိုင်ကြသဖြင့် မြင့်မြတ်သော အလှူခံ ပုဂ္ဂိုလ်တို့ ဖြစ်ကြပေသည်။

**(အင်္ဂုတ္တရ၊ စတုက္ကနိပါတ်၊ ပတ္တကမ္မဝဂ်၊**

**ဗြဟ္မသုတ်ပါဠိတော်နှင့် အဋ္ဌကထာ)**

ဤသို့ မိဘများ၏ ဂုဏ်ကျေးဇူးကိုထုတ်ဖော်ရင်း တစ်ဖက်မှလည်း တာဝန်ပျက်ကွက်သူများ သတိသံဝေဂရကြရန် စီမံတော်မူရပါသေးသည်။ ထိုသံဝေဂကဗျာလေးတစ်ပုဒ်ကား

"သူတို့လေးယောက် ဖွားမြောက်လာကတည်းက ငါ ဝမ်းမြောက်ခဲ့၏။ သူတို့ တစ်စတစ်စ လူလားမြောက်လာသည်ကို ငါ နှစ်လို၏။ သို့ပါလျက် သူတို့က မယားနှင့် အလိုတူ အလိုပါပြုကာ ငါ့ကို အိမ်မှနှင်ထုတ်ကြ၏။ ဝက်ကို ခွေးတွေ ဟောင်သကဲ့သို့ပင် ဖြစ်၏။

"မိုက်ရိုင်းယုတ်မာလှသော မြေဖုတ်ဘီလူးတို့သည် သားယောင်ဆောင်၍ ငါ့နား ကပ်လာကြ၏။ ဖေဖေ ဖေဖေဟု ပလီပလာ ဆိုလာကြ၏။ ထိုသို့ ပလီခဲ့သူ တို့ကပင် သေခါနီးသော ဖခင်ကြီးကို ရက်ရက်စက်စက် စွန့်ပစ်ကြကုန်၏။

"ခိုင်းစေ၍ မရနိုင်တော့သော မြင်းအိုကြီးကို စားခွက်မှဆွဲထုတ်ကြသကဲ့သို့ သားဆိုးသားမိုက်တို့ ဖခင်အိုကြီးမှာလည်း အိမ်မှ နှင်ထုတ်ခံထားရသဖြင့် အိမ်တကာလည်၍ တောင်းစားနေရ၏။

"ငါ့လက်ထဲက တောင်ဝှေးသည် အဘစကား နားမထောင်သော သား လေးယောက်ထက် မြတ်ပါသေး၏။ ဤတောင်ဝှေးသည် နွားဆိုးတို့ကိုလည်း ကာကွယ်ပေး၏။ ခွေးဆိုးတို့ကိုလည်း တားဆီးပေး၏။ ညအခါ မှောင်မိုက်ထဲဝယ် သူ့ကို ရှေ့ကထား၍ သွားရ၏။ ကျင်းတွေ ချိုင့်တွေ ရှိသောအခါ ထောက်ရတည်ရာ ရ၏။ မတော်တဆ လဲကျသွားရာမှာလည်း သည်တောင်ဝှေးကိုပင် ထောက်၍ ပြန်ထခဲ့ရပေသည်"

ဤသို့ အနက်အဓိပ္ပာယ်ရှိသောကဗျာလေးပုဒ်ကိုဘုရားရှင်ကိုယ်တော်တိုင် စီကုံးတော်မူကာ ပုဏ္ဏားအိုကြီးတစ်ယောက်အား နှုတ်တိုက်ချ၍သင်ပေး တော်မူရ၏။ အသက်အရွယ်အိုရသည့်အထဲတွင် စားရမဲ့၊ သောက်ရမဲ့ဖြစ်နေသဖြင့် ပုဏ္ဏားအို ကြီးမှာ အသိဉာဏ် ထိုင်းမှိုင်းနေရှာ၏။ သည်ကဗျာလေးပုဒ်ကိုပင် ရက်ပေါင်း များစွာ သင်ယူရ၏။ ပုဏ္ဏားအိုကြီး နှုတ်တိုက်ရသည်အထိ ဘုရားရှင်ကလည်း အခေါက်ခေါက် အခါခါ ချပေးတော်မူရပေသည်။

အမှန်တော့ ပုဏ္ဏားကြီးသည် သူဌေးကြီးတစ်ဦး ဖြစ်ခဲ့၏။ ရှိရှိသမျှ ငွေနှင့် ပစ္စည်းများကို သားလေးယောက်ကို မသေခင် အမွေပေးမိသဖြင့် အတိဒုက္ခ ရောက်ခဲ့ရ၏။ မယားစကား နားထောင်၍ သားလေးယောက်လုံးက သူ့ကို တစ်ယောက်ပြီး တစ်ယောက် နှင်ထုတ်လိုက်၍ အိမ်တကာလည်၍ တောင်းစား နေရ၏။ ဤတွင် ကြံရာမရရှာသော ပုဏ္ဏားကြီးသည် ဘုရားရှင်ထံ ရောက်လာ၍ ကံကောင်းသွားပေသည်။

ဘုရားရှင် သင်ပေးလိုက်သော ကဗျာလင်္ကာများကို နှုတ်တိုက်ရအောင် သင်ယူကာ ပုဏ္ဏားအိုကြီးသည် ကောင်းကောင်းကြီး အသုံးချနိုင်ခဲ့၏။ သား လေးယောက်လုံး တက်ရောက်သော အစည်းအဝေးကြီးသို့ဝင်ကာ ဤကဗျာ လင်္ကာ

များ ရွတ်ဆိုပြလိုက်ခြင်းဖြင့် သားလေးယောက်လုံး အထိတ်တလန့်ဖြစ်ကာ ဖခင်ကြီးကို ပြုစုလုပ်ကျွေးကြရပေတော့သည်။

**(ဓမ္မပဒ အဋ္ဌကထာ၊ နာဂဝဂ်၊ ပုဏ္ဏားအိုကြီးနှင့် သားများဝတ္ထု)**

မိသားစုအသိုက်အဝန်းဖြင့် နေကြရာတွင် မိဘနှင့်သားသမီးတို့မှာ တာဝန်အသီးသီးရှိသကဲ့သို့ လင်နှင့်မယားတို့၏တာဝန်များကိုလည်း ဘုရားရှင် ဟောကြားထားပေသည်။ ထိုတွင် လင့်ဘက်က ထားရှိရမည့် တာဝန်များမှာ

ချစ်ခင်မြတ်နိုးခြင်း
မခန့်လေးစား မပြုခြင်း
အငယ်အနှောင်း မထားခြင်း
စည်းစိမ်ဥစ္စာ အပ်နှံခြင်း
ဝတ်စားတန်ဆာ ဆင်ယင်ခြင်း

ထို့အတူ မယားဘက်မှလည်း

အိမ်တွင်းလုပ်ငန်းများ လုပ်ကိုင်ခြင်း
မှီခိုသူများကို ထောက်ပံ့ကျွေးမွေးခြင်း
အငယ်အနှောင်း မထားခြင်း
ရှိပြီးဥစ္စာကို စနစ်တကျ ထိန်းသိမ်းခြင်း
လုပ်ငန်းကိစ္စ ဟူသမျှ၌ ကျွမ်းကျင်ခြင်း

ဟူ၍ တာဝန်ငါးရပ် ရှိပေသည်။

ဤတာဝန်များကို သေသေချာချာ ပြန်ကြည့်လျှင် အမျိုးသမီးများကို တမင်သက်သက် နှိမ့်ချထားခြင်း လုံးဝမရှိသည်ကို တွေ့ရပါလိမ့်မည်။ ထို့အတူပင် အမျိုးသားများကိုလည်း အထူးတလည် အခွင့်အရေးပေးထားခြင်း မရှိပါ။ ကျွန်ုပ်တို့ ခေတ်ကာလ အခြေအနေအရ စီးပွားရှာဖွေကြရာတွင် အမျိုးသားများက အိမ်အပြင်ထွက်၍ ရှာဖွေကြရ၏။ အမျိုးသမီးများမှာမူ စီးသောရေကို ကန်သင်းဆည်သကဲ့သို့ ရရှိလာသောပစ္စည်းများကို အဖိတ်အစဉ် မရှိအောင် ထိန်းသိမ်းကြရပေသည်။ ဤသို့ အိမ်တွင်းနှင့်အိမ်ပြင် လုပ်ငန်းချင်း ကွဲပြားရုံမျှသာ ရှိကြ၏။ အခြားသော လူမှုအခွင့်အရေးများကား တန်းတူညီမျှ ရရှိကြပေသည်။

တာဝန်ကိုယ်စီဖြင့် ကြည်ဖြူစွာနေထိုင်ကြသော မိသားစု အသိုက်အဝန်းမှ တစ်ဆင့် လူမှုဆက်ဆံရေးနယ်ပယ်ကိုဖြန့်၍ ကြည့်လိုက်သောအခါ ဆရာသမားများကို တွေ့ရပေသည်။

အချို့ ဖခင်များသည် မိမိကိုယ်တိုင် ပညာတတ်ထားသဖြင့် သားသမီးများကို ကိုယ်ကိုယ်တိုင် ပညာသင်ပေးနိုင်ကြ၏။ သို့သော် ဖခင်အများစုကား ဆင့်ပွား

သင်ပေးနိုင်သည်အထိ မစွမ်းနိုင်။ စွမ်းနိုင်သူများကျတော့လည်း စီးပွားရေးတစ်ဖက်နှင့်မို့ အချိန်မရ။ ဤတွင်မိဘများနှင့် တန်းတူထား၍ လေးစားရသော ဆရာသမားများ ပေါ်ပေါက်လာကြရ၏။

ဆရာနှင့်တပည့် ဆက်ဆံရေးမှာလည်း တာဝန်အသီးသီး ရှိကြရာ ဆရာသမားတို့၏ တာဝန်များမှာ....

အနေအထိုင်တတ်အောင် ဆုံးမခြင်း
ပညာတတ်အောင် သင်ကြားပေးခြင်း
မိမိတတ်သမျှ မခြွင်းမချန် သင်ပေးခြင်း
မိတ်ဆွေ အလုပ်ရှင်များထံ အပ်နှံပေးခြင်း
ဘေးအန္တရာယ် ကြုံသောအခါ ကာကွယ်ပေးခြင်း–

ထို့အတူတပည့်များဘက်မှလည်း

ထကြွလုံ့လရှိခြင်း
ခရီးဦးကြိုဆိုခြင်း
ဆုံးမစကားကို နားထောင်ခြင်း
ဖြေဆုပ်လက်နယ် ပြုစုလုပ်ကျွေးခြင်း
ပညာကို လေးစားစွာ သင်ယူခြင်း–

ဟူ၍ တာဝန်ငါးရပ်ရှိပေသည်။

ဆရာတပည့် ဆက်ဆံရေးမှာလည်း တစ်ဖက်စီးနင်း သဘောမျိုး မပါရှိပေ။ နှစ်ဘက်လုံးအတွက် ဘုရားရှင်ဟောကြားထားသော တာဝန်များသည် နှစ်ဘက်စလုံးအတွက် အကျိုးကျေးဇူးများစေရန်သာ ဖြစ်၏။ ပညာပေးသူနှင့် ပညာယူသူ နှစ်ဦးလုံးအတွက် မေတ္တာ၊ စေတနာနှင့် အသိပညာပွားများရေး အတွက်သာ ဖြစ်ပေသည်။

**(ပါထိကဝဂ်ပါဠိတော်၊ သိင်္ဂါလသုတ်)**

ကျွန်ုပ်တို့သာသနာတော်တွင်းသို့ ရဟန်းပြုကာ ဝင်လာလိုသူများ အတွက် ဝိနည်းတော်၌ ကန့်သတ်ချက်များ ရှိနေပေသည်။ ကန့်သတ်ချက်များတွင် 'သူတစ်ပါး၏ ကျွန်ဖြစ်သူများအား ရဟန်းခံမပေးရ' ဟူသော အချက်တစ်ချက်ပါဝင်၏။ ကျွန် ဟူရာ၌ အိမ်ပေါက်ကျွန်ဖြစ်စေ၊ ငွေဝယ်ကျွန်ဖြစ်စေ၊ စစ်ပွဲမှလက်ရ ဖမ်းဆီးလာသော ကျွန်ဖြစ်စေ၊ မိမိအလိုအလျောက် ကျွန်ခံလာသူဖြစ်စေ ကိုယ့်စိတ်နှင့် ကိုယ့်ကိုယ် လွတ်လွတ်လပ်လပ် လုပ်ပိုင်ခွင့်မရှိသူမှန်က ရဟန်းပြုခွင့် မရနိုင်ပေ။

ဤသို့ ပညတ်ထားသည်မှာ ကျွန်ုပ်တို့သာသနာတော်ကြီးက လူနှင့်လူချင်း စာနာထောက်ထားမှုကင်းလှသော စနစ်ဆိုးကြီးကို ထောက်ခံထား၍ မဟုတ်ပေ။

သာသနာတော်ကြီး အရှိန်အဟုန်နှင့် တိုးတက်စည်ပင်လာဆဲတွင် မလိုလားအပ်သော လူမှုရေး ပဋိပက္ခများကို ရှောင်ကွင်းရန်မျှသာ ဖြစ်ပေသည်။

(ဝိနည်းမဟာဝဂ်၊ မဟာခန္ဓက အဋ္ဌကထာ၊ ဒါသဝတ္ထုကထာ)

ထို့ကြောင့် ဘုရားရှင်က ထိုလူတန်းစားနှစ်ရပ်၏ တာဝန်များကို သတ်မှတ်ရာတွင် အလုပ်ရှင်နှင့်အလုပ်သမား သဘောလောက်သာထား၍ ဟောကြားတော်မူခဲ့ပေသည်။

သိင်္ဂါလသုတ္တန် ဒေသနာတော်အရ အလုပ်ရှင်၏တာဝန်ငါးရပ်မှာ

လုပ်သားကို ခွန်အားနှင့် တန်ရုံသာ ခိုင်းစေခြင်း

လုပ်ခ ရိက္ခာပေးခြင်း

ထိခိုက်ဖျားနာသော် ဆေးကုပေးခြင်း

စားကောင်းသောက်ဖွယ် ဝေငှခြင်း

အခါအားလျော်စွာ အားလပ်ခွင့်ပေးခြင်း–

တို့ ဖြစ်၏။

ထို့အတူ အလုပ်သမားတို့ဘက်မှလည်း

အိပ်ရာမှ စောစောထခြင်း

နောက်ကျမှ အိပ်ရာဝင်ခြင်း

ခိုးဝှက်မှု မပြုခြင်း

အလုပ်ကောင်းကောင်း လုပ်ခြင်း

အလုပ်ရှင်၏ ဂုဏ်သတင်းကို ဖြန့်ဝေခြင်း–

ဟူ၍ တာဝန်ငါးရပ် ရှိပေသည်။

ဤဒေသနာတော်ကို ဟောကြားသည်မှာ ရာဇဂြိုဟ်မှာ ဖြစ်၏။ သို့သော် မည်သည့်မြို့ရွာ၊ မည်သည့်နိုင်ငံမှာဖြစ်စေ ဤတာဝန်အသီးသီးကို ကျေပွန်စွာ ထမ်းဆောင်သွားကြလျှင် အလုပ်သမားရော အလုပ်ရှင်ပါ နှစ်ဦးနှစ်ဘက် အကျိုးများကြမည်သာ ဖြစ်၏။ ကျွန်ုပ်တို့ခေတ်တွင်သာမက နောင်လာမည့် ခေတ်အဆက်ဆက်မှာလည်း ဤဒေသနာတော်များက လောက လူ့ဘောင်၏ အကျိုးစီးပွားကို ဆောင်နေကြပါလိမ့်မည်။

ထို့အတူပင် မိတ်ဆွေအချင်းချင်းဆက်ဆံရေး တာဝန်များမှာလည်း နေရာမရွေး ခေတ်ကာလမရွေး စံနမူနာယူထိုက်လှပါ၏။

မိတ်ဆွေချင်းချင်း ဆောင်ရွက်ရန် တာဝန်ငါးရပ်မှာ...

ထောက်ပံ့ ပေးကမ်းခြင်း

ချိုချိုသာသာ ပြောဆိုခြင်း

အကျိုးစီးပွားကို ဆောင်ရွက်ခြင်း
မိမိနှင့် တန်းတူထားခြင်း
စကားသစ္စာ တည်ကြည်ခြင်း–

တို့ဖြစ်၏။

မိတ်ဆွေချင်းချင်း မေတ္တာဖြင့်ဆက်ဆံကြရသော်လည်း တွေ့သမျှ လူတိုင်းကိုကား မိတ်ကောင်း ဆွေကောင်းဟုယုံမှတ်၍ မရနိုင်ပါ။ မိတ်ဆွေတု ကိုရှောင်၍ မိတ်ဆွေစစ်များနှင့် ပေါင်းမိဖို့ အလွန် အရေးကြီးပေသည်။ ထိုတွင်…

ယူရုံ ယူ၍ မပေးလိုသောသူ
နှုတ်နှင့်သာ မြှောက်၍စားတတ်သူ
အလိုက်အထိုက်သာ ပြောတတ်သူ
မကောင်းမှုများသို့ သွေးဆောင်သူ

ဤသူလေးယောက်ကား ဝေးဝေးက ရှောင်သင့်သော မိတ်ဆွေတုများ ဖြစ်ကြ၏။ ရာသက်ပန်ပေါင်းသင်းထိုက်သော မိတ်ဆွေစစ်ကား

အကျိုးကျေးဇူး ပြုတတ်သူ
အေးအတူ ပူအမျှ သဘောထားသူ
အကျိုးရှိရာကိုသာ ညွှန်ကြားသူ
သနားကြင်နာတတ်သောသူ– တို့ ဖြစ်၏။

လောက လူ့ဘောင်မှာကဲ့သို့ပင် ကျွန်ုပ်တို့ သာသနာ့ဘောင်မှာလည်း ဤသို့သော မိတ်ဆွေစစ်များ လိုအပ်လှပေသည်။

မိတ်ဆွေတုကို ဝေးဝေးကရှောင်၍ မိတ်ဆွေစစ်များအပေါ် တာဝန် ငါးရပ်ဖြင့် အပြည့်အဝ ဆက်ဆံသည့်အတွက် မိတ်ဆွေများဘက်မှလည်း…

မိမိမေ့လျော့ခိုက် အသက်အန္တရာယ် ကာကွယ်ပေးခြင်း
မိမိမေ့လျော့ခိုက် ပစ္စည်းဥစ္စာ စောင့်ရှောက်ပေးခြင်း
ကြောက်လန့်နေခိုက် အားပေးနှစ်သိမ့်ခြင်း
အန္တရာယ်ကြုံသော် စွန့်ပစ်မသွားခြင်း
သားစဉ်မြေးဆက် မေတ္တာသက်ဝင်ကြခြင်း–

ဟူ၍ ငါးမျိုးသော တုံ့ပြန်မှုများ ရရှိနိုင်ပေသည်။ မေတ္တာကို မေတ္တာနှင့် တုံ့ပြန်ခြင်းသာ ဖြစ်ပေသည်။

ဤသို့ မိတ်ကောင်း ဆွေကောင်းများ၏ ကူညီစောင့်ရှောက်မှုဖြင့် စီးပွားဥစ္စာ ဖြစ်ထွန်းလာချိန်တွင် မိမိကိုယ်တိုင်ကလည်း ဥစ္စာပျက်စီး ကြောင်းကို ရှောင်ကြဉ် နိုင်မှသာ တည်တံ့ပါလိမ့်မည်။

ဥစ္စာပျက်စီးကြောင်း ခြောက်မျိုးမှာ

အရက်သေစာ သောက်စားခြင်း

အချိန်မတော် လမ်းသလားခြင်း

ပွဲလမ်းသဘင် အသွားများလွန်းခြင်း

လောင်းကစား ဝါသနာထုံခြင်း

လူပေါင်းမှားခြင်း

အပျင်းထူခြင်း– တို့ဖြစ်ကြ၏။

ဆောင်သင့်သည်ကို ဆောင်၍၊ ရှောင်သင့်သည်ကို ရှောင်နိုင်ရန် ဘုရားရှင်က ပြည့်ပြည့်စုံစုံ ဟောကြားတော်မူခဲ့ပေသည်။

(ပါထိကဝဂ် ပါဠိတော်၊ သိင်္ဂါလသုတ်)

ဤဟောကြားချက်များနှင့်အညီ ကျင့်သုံးနေထိုင်ခြင်းဖြင့် ရရှိလာသော ပစ္စည်းများသည် ပစ္စည်းရှင်တို့အား လေးမျိုးသော အခြင်းအရာအားဖြင့် ချမ်းသာ သုခ ပေးနိုင်ကြ၏။

"ငါ့မှာ တရားသဖြင့် ကြိုးစားရှာဖွေထား၍ ပစ္စည်းများစွာ ရရှိထားပေပြီ" ဟုတွေးတော၍ ကြည်နူးရသော 'အတ္ထိသုခ'။

"တရားသဖြင့် ကြိုးစားရှာဖွေထားသော ပစ္စည်းများကို ငါသည် သုံးလည်း သုံးရပေပြီ၊ လှူလည်း လှူရပေပြီ"ဟု တွေးတော၍ ကြည်နူးရသော 'ဘောဂသုခ'။

"ငါ့မှာ သူများထံမှ ကြွေးမြီဟူ၍ တစ်စုံတစ်စမျှ မယူခဲ့ရတကား" ဟု တွေး တော၍ ကြည်နူးရသော 'အာနဏျသုခ'။

"တရားသဖြင့် ကြိုးစားရှာဖွေထားသော ပစ္စည်းများရှိနေသဖြင့် အပြစ် မကင်းသော အမှုများမှ လွတ်ရလေစွ"ဟု တွေးတော၍ ကြည်နူးရသော 'အနဝဇ္ဇသုခ'။

ဤသို့လျှင် တရားသဖြင့် စီးပွားရှာသူများအဖို့ တရားသဖြင့် ရရှိနိုင်သော ဆုလာဘ်လေးမျိုး ရှိကြပေသည်။ လောကုတ္တရာချမ်းသာကဲ့သို့ တည်တံ့ခိုင်မြဲသော သဘောမရှိစေကာမူ ဘဝခရီးကြမ်းကို ပင်ပန်းကြီးစွာ လှမ်းလာရသူများအဖို့ ခေတ္တ ခဏနားခိုစရာကွန်းရိပ်သာတို့ ဖြစ်ကြပါပေသည်။ ကွန်းရိပ်သာမှာ ခေတ္တခဏ နားခိုကာ အားဖြည့်ပြီးနောက် တည်တံ့ ခိုင်မြဲသော လောကုတ္တရာ ချမ်းသာခြင်းသို့ အရောက်ချီတက်ကြရမည် ဖြစ်ပေသည်။

(အင်္ဂုတ္တရပါဠိတော်၊ စတုက္ကနိပါတ်၊ ပတ္တကမ္မဝဂ်၊ အာနဏျသုတ်)

ဤသဘောကို သုံးဆယ့်ရှစ်ဖြာ မင်္ဂလာတရားတော်များ စီစဉ်ထားပုံဖြင့် လည်း သိသာလှပါ၏။ ရှေ့ပိုင်းတွင် လူမိုက်နှင့်မပေါင်းရ။ ပညာရှိထံ ဆည်းကပ် ရမည် စသည်ဖြင့် လူတော်လူကောင်းတစ်ယောက် ဖြစ်မြောက်ရေးအတွက်

စည်းကမ်းချက်များ ချမှတ်ထား၏။ လူမှုရေးစည်းကမ်းများမှ တစ်ဆင့်တက်၍ တရားနာရေး၊ ကျင့်သုံးရေးများဆီသို့ တစ်စချင်း ဦးတည်လာခဲ့၏။ နောက်ဆုံးမှာကား နိဗ္ဗာန်ကို မျက်မှောက်ပြုရေး၊ ကောင်းဆိုး နှစ်တန် လောကဓံကို ခံနိုင်ရည်ရှိသော အရဟတ္တဖိုလ်ထိ ဆိုက်ရောက်အောင် ပို့ဆောင်ထားပေသည်။

ထို့ကြောင့်ပင် သာသနာ့ဝန်ဆောင် အရှင်မြတ်ကြီးများက "ဘုရားရှင် ဟောတော်မူသော ဒေသနာတော်များသည် အမျိုးအစား ကွဲပြားစေကာမူ နိဗ္ဗာန် မျက်မှောက်ပြုရေးဟူ၍ ဦးတည်ချက် တစ်ခုတည်းသာ ရှိကြ၏" ဟု မိန့်ဆိုကြခြင်း ဖြစ်ပေသည်။ **(ခုဒ္ဒကပါဌ၊ မင်္ဂလသုတ်အဋ္ဌကထာ)**

✻✻

# ခမည်းတော်သစ်၊ မယ်တော်သစ်

လူမှုရေး တရားတော်များ တင်ပြစဉ်က ဇနီးမောင်နှံ ရာသက်ပန် ပေါင်းနိုင်ရေးကိုပါ တင်ပြရန် အစီအစဉ်ရှိပါ၏။ သို့သော် ဤဒေသနာတော်မှာ ခမည်းတော် မယ်တော်ကြီးများအား ဟောကြားထားသဖြင့် ဤအခန်းမှာမှ တစ်ပေါင်းတည်း တင်ပြလိုက်ရပေသည်။

ဘုရားရှင်၏ ခမည်းတော်ကြီး သုဒ္ဓေါဒနသည် ထီးဖြူတော်အောက်ဝယ် အရဟတ္တဖိုလ်ရ၍ ပရိနိဗ္ဗာန်ပြုသွားခဲ့၏။ မယ်တော် မဟာမာယာဒေဝီမှာလည်း သားတော်လေး ခုနစ်ရက်အရတွင် ကွယ်လွန်ခဲ့၏။ ကျွေးမယ်တော် ဖြစ်သော မဟာပဇာပတိ ဂေါတမီတော့ ရှိပါသေး၏။ အသက်အရွယ် ကြီးရင့်လှပြီဖြစ်သော အရှင်မကြီးသည် ယခုအခါ မယ်တော်ကြီးဘဝထက် သမီးတော်ဘဝကို ပိုမို၍ နှစ်ခြိုက်နေပေပြီ။ ယိုယွင်းလာသော ခန္ဓာဒုက္ခကြီးနှင့် တွေ့ရလေ သူ့ခမည်းတော်ဘုရားကို ကျေးဇူးတင်လေ။ ခမည်းတော်ဘုရားထံမှ အမွေခံရသော အမြိုက်တရားတော်ကြီးကြောင့်သာလျှင် သက်ကြီး ရွယ်အိုဘဝတွင် စိတ်နှလုံး အေးချမ်းစွာ နေထိုင်ရပေသည်။ ဤကျေးဇူးများကို ကိုယ်တိုင်ပေးဆပ်သောအားဖြင့် ခမည်းတော်ဘုရားကို ခြေဆုပ်လက်နယ် ပြုစု၍ မဖြစ်နိုင်ပါ။ ဓမ္မအားဖြင့် သူမပါ ငါမနှောသည့် ဓာတ်သဘာဝများချည့် ဖြစ်သော်လည်း လောကအားဖြင့် နယ်နိမိတ် ခွဲခြား၍ ထားရပေသည်။ ထို့ကြောင့် မဟာပဇာပတိ ဂေါတမီအရှင်မကြီးသည် ခမည်းတော်ဘုရားကို ပြုစုရမည့် တာဝန်များကို သူ့သမီးတော် ရဟန်းမများကို ဆုံးမဩဝါဒပေးခြင်းဖြင့် လဲလှယ်၍ ပြုစုနေပေသည်။

ဤသို့ ခမည်းတော်ကြီး သုဒ္ဓေါဒနနှင့် မယ်တော် မဟာ မာယာဒေဝီတို့သည် သက်မဲ့အဖြစ်ဖြင့် သားတော်ဘုရားကို မျက်ကွယ်ပြုခဲ့ကြပြီ ဖြစ်၏။ သက်ရှိမယ်တော်ကြီး မဟာပဇာပတိ ဂေါတမီမှာလည်း မယ်တော် ဘဝထက် သမီးတော်

ဘဝတွင် ပိုမို၍ မွေ့လျော်နေပြီ ဖြစ်၏။ ဤတွင် ကျွန်ုပ်တို့ နောင်တော်မြတ်အဖို့ ခမည်းတော်သစ်၊ မယ်တော်သစ်များ ပေါ်ပေါက်လာကြရပြန်ပေသည်။

ခမည်းတော်ကြီး၏ အမည်မှာ နကုလပိတာ၊ မယ်တော်ကြီး၏ အမည်မှာ နကုလမာတာတို့ ဖြစ်ကြ၏။ နာမည်ရင်းများ မဟုတ်ပါ။ သူတို့ အိမ်ထောင်ဦးတွင် သားကလေးတစ်ယောက် ဖွားမြောက်ခဲ့ရာ နကုလဟု အမည်မှည့်ထားကြ၏။ မောင်မြွေပါဟု အဓိပ္ပာယ်ရ၏။ မြွေပါသတ္တဝါလေးသည် လျင်မြန်သည်။ ဖျတ်လတ်သည်။ လိမ္မာပါးနပ်သည်။ ရဲစွမ်းသတ္တိရှိသည်။ သူတို့၏သားဦးကလေး ကိုလည်း ထိုကဲ့သို့သော ဂုဏ်သတ္တိများ ရှိစေလိုသဖြင့် နကုလဟု မှည့်ထားကြခြင်းဖြစ်ပေသည်။

ကင်ပွန်းတပ်မင်္ဂလာသဘင် ကျင်းပသည်မှာ သားလေး နကုလ အတွက်သာ ဖြစ်၏။ သို့သော် ဤမင်္ဂလာပွဲပြီးသည့် နံနက်တွင်ကား သား နှင့်အတူ သူ့မိဘများပါ ကင်ပွန်းတပ်ပြီး ဖြစ်ကြတော့၏။ မိခင်သည် ကလေးအဖေကို နာမည်ရင်းဖြင့် မခေါ်တော့ဘဲ နကုလပိတာ ခေါ်၏။ သူမြတ်နိုးလှသော သားအဖနှစ်ယောက်လုံးကို တစ်ပေါင်းတည်းခေါ်လိုက်ခြင်း ဖြစ်၏။ ထို့ပြင် ဖခင်ကလည်း ကလေးအမေကို သူ ချစ်မြတ်နိုးလှသော သားနှင့် တစ်ပေါင်းတည်းပြုကာ နကုလမာတာဟု ခေါ်ပေသည်။ သူတို့ လင်မယားချင်း ချစ်စနိုးခေါ်ကြရာမှ တစ်ဆင့် ဘေးပတ်ဝန်းကျင်ကပါ ဤနာမည်များကို အသုံးပြုလာကြရပေသည်။

သူတို့နေရပ်မှာ ဘဂ္ဂတိုင်း၊ သုသုမာဂရီမြို့ ဖြစ်၏။ ထိုမြို့ကို တည်ထောင်စဉ်က မိကျောင်းတစ်ကောင် အသံမြည်ခဲ့သည်ကို အကြောင်းပြု၍ သုသုမာဂရီမြို့ဟု အမည် တွင်လာကြောင်း မြို့သမိုင်း အဆိုရှိ၏။ ဗာရာဏသီမြို့အနီးရှိ ဣသိပတန မိဂဒါဝုန်ကဲ့သို့ပင် ဤမြို့အနီးရှိ ဘေသကဠာ တောအုပ်ကိုလည်း ဘေးမဲ့ကြေညာ ထားပေသည်။ အရိပ်အာဝါသ ကောင်းလှသော ထိုတောအုပ်တွင် ကျွန်ုပ်တို့အတွက် ကျောင်းသင်္ခမ်းများ ရှိနေပေသည်။

ထိုမြို့သို့ ဘုရားရှင်နှင့်အတူ ကျွန်ုပ်တို့ရောက်သွားချိန်တွင် ဒါယကာကြီး ရော ဒါယိကာမကြီးပါ အသက်အရွယ် ကြီးကြပါပြီ။ နှစ်ယောက်စလုံး အသက် ခုနစ်ဆယ် ပတ်ဝန်းကျင် ရောက်နေကြပါပြီ။ အသက်အရွယ် အိုမင်းလာ၍ သူတို့၏ အသားအရေများ ခြောက်ခန်းလှပါပြီ။ သို့သော် သူတို့၏ နှလုံးသားမှ ချစ်ခြင်း မေတ္တာကား မခြောက်သေးပါ။ မခန်းသေးပါ။ လူငယ် လူရွယ်များကဲ့သို့ အရှိန်နှင့် အဟုန်နှင့် မဟုတ်တော့သော်လည်း စိမ့်စမ်းရေပမာ တသွင်သွင်စီးဆင်းလျက်ကား ရှိနေပေသည်။ ကြည်မြဲ ကြည်လျက်၊ အေးမြဲအေးလျက် ရှိနေပေသည်။

သူတို့၏ ချစ်ခြင်းမေတ္တာမှာ ကျွန်ုပ်တို့ သီတင်းသုံးဖော်များ ပွားများနေ ကြသည့် ဗြဟ္မစိုရ် မေတ္တာကဲ့သို့ကား မဟုတ်ပါ။ အရှိန်ပြင်းလှသော ကာမဂုဏ်

အချစ်မျိုးလည်း မဟုတ်ပါ။ ထိုနှစ်မျိုး၏ စပ်ကြားက မိသားစု အချစ်မျိုးသာ ဖြစ်ပါသည်။ စာပေပရိယတ် အသုံးအနှုန်းအားဖြင့် 'ဂေဟသိတ ပေမ'ဟု ခေါ်နိုင်မည် ထင်ပါသည်။

သူတို့နှစ်ယောက် ဆက်ဆံပုံကိုကြည့်ကာ ကျွန်ုပ်တို့သည် တစ်ခါတစ်ရံ ပြုံးချင်သလိုလို ဖြစ်ကြရ၏။ သူတို့နှစ်ယောက်ကဖြင့် လွန်းကြင်ငှက်များကို အားကျနေသလား မသိပါ။ တကယ်ဆိုလျှင် ကျွန်ုပ်တို့ တောကျောင်းသည် သူတို့မြို့နှင့် တော်တော်လှမ်း၏။ ကျွန်ုပ်တို့လို ခရီးသွားနေကျ ရဟန်း သံဃာများအတွက် ဆွမ်းစား၍ မြိန်ရုံမျှ ဖြစ်သော်လည်း သူတို့လို အဘိုးအို၊ အဘွားအိုများအတွက်ကား တော်တော်ကြီး အားစိုက်လာရ၏။ သို့ပါလျက် ဒါယကာကြီးသည် နေ့စဉ်နှင့်အမျှ ကျွန်ုပ်တို့ တောကျောင်းသို့ လာနေကျဖြစ်၏။ သူလာလျှင် ဒါယိကာမကြီးကလည်း တစ်ပူးတွဲတွဲ ပါလာသည်သာ ဖြစ်၏။ နကုလနှင့်တကွ သားသမီးများအားလုံး အိမ်ထောင်ခွဲသွားကြပြီမို့ သူတို့ချင်း ပိုမို၍ တွယ်တာလာသလား မသိပါ။

ကျောင်းသို့ရောက်လျှင် သူတို့သည် သူတို့၏သားဘုရားရှင့် ရှေ့တော်မှောက် ဝင်ရောက်ကြ၏။ ပထမဦးစွာ ဖူးတွေ့ရစဉ်ကပင် ဘုရားရှင်အပေါ် သားတည်းဟူသော ချစ်ခြင်းမေတ္တာဖြင့် ဖြန့်ကျက်ခဲ့ကြ၏။ စားကောင်းသောက်ဖွယ် ထူးထူးခြားခြားလေးများ ရလာလျှင် ဘုရားရှင်ကို ပထမဦးစွာ ဆက်ကပ်ပြီးမှ ကျန်သမျှကို နှစ်ယောက်သား ဝေငှ၍ စားကြ၏။ အဘိုးအို အဘွားအိုတို့၏ နုပျိုသော မေတ္တာစိတ်ကို အသိအမှတ်ပြုသောအားဖြင့် ဘုရားရှင်ကလည်း သားတည်းဟူသော အသုံးအနှုန်းကို ခွင့်ပြု၍ ထားတော်မူပေသည်။

အသစ်ပေါ်လာကြသော ခမည်းတော် မယ်တော်တို့သည် သူတို့ သားတော်ထံမှ တရားစကားများ ကြားနာကြပြီးလျှင် ကျောင်းဝင်းတစ်ခွင် လှည့်လည်ကြရပြန်၏။ အမှိုက်တလင်း လှည်းကျင်းစရာရှိလျှင် တစ်ယောက်က တံမြက်လှည်း၏။ တစ်ယောက်က အမှိုက်ကျုံး၏။ ပေါင်းမြက်သစ်ပင်များ ရှုပ်ထွေးနေလျှင် တူရွင်းတို့နှင့် ထိုး၍ ရှင်းကြ၏။ သံဃာတော်များ၏ သောက်ရေအိုးများ၌ ရေနည်းနေလျှင် ရေတစ်အိုးကို နှစ်ယောက်သား လက်ဆွဲ၍ ခပ်ထည့်ကြ၏။ သားတော်ဘုရားသည် သူတို့၏ နှလုံးသည်းပွတ် ဖြစ်သကဲ့သို့ပင် သားတော်ဘုရား၏ တပည့်များကြောင့် လည်း သူတို့၏ နှလုံးခွန်အား တိုးပွားရသည်ဟု ဆိုကြပေသည်။

ကျောင်းဒါယကာကြီး အနာထပိဏ်၊ ကျောင်းအမကြီး ဝိသာခါတို့ တေဒင်္ဂ ဂုဏ်ထူး ဆွတ်ခူးရာတွင် သက်ဆိုင်ရာပုဂ္ဂိုလ်များသာ တစ်ယောက်တည်း ရရှိကြ၏။ ကျောင်းဒါယကာကြီး အနာထပိဏ်၏ ဇနီးနှင့် ကျောင်းအမကြီး ဝိသာခါတို့၏ ခင်ပွန်းသည်တို့ မပါဝင်ကြပေ။ ယခု ခမည်းတော် မယ်တော်များကား သူတို့ထက်

ကုသိုလ်ထူးသည်ဟု ဆိုနိုင်ပေသည်။ ဘုရားသွား ကျောင်းတက် လက်တွဲမပျက်ခဲ့သော သူတို့ဇနီးမောင်နှံသည် တေဒင်္ဂဂုဏ်ထူး ဆွတ်ခူးရာတွင်လည်း ထပ်တူညီမျှ ရရှိကြပေသည်။

ကျောင်းဒါယကာကြီး အနာထပိဏ်နှင့် ကျောင်းအမကြီးဝိသာခါ တေဒင်္ဂဂုဏ်ထူး ဆွတ်ခူးနိုင်သည်မှာ ဆွမ်း၊ သင်္ကန်း၊ ကျောင်း၊ ဆေး လေးပါးသော ပစ္စည်းတို့ကို သူတကာတို့ထက် ရက်ရက်ရောရော လှူဒါန်းခဲ့ကြသောကြောင့်ဖြစ်၏။ ယခု ခမည်းတော်၊ မယ်တော်ကြီးများ တေဒင်္ဂ ဂုဏ်ထူး ဆွတ်ခူးသည်မှာကား ဆွမ်းတွေ၊ သင်္ကန်းတွေနှင့် ဘာမျှမဆိုင်ပါ။ အဘိုးအို၊ အဘွားအိုတို့၏ နုပျိုလန်းဆန်းသော ချစ်ခြင်းမေတ္တာနှင့်သာ သက်ဆိုင်နေပေသည်။

"အရှင်ဘုရား၊ တပည့်တော်တို့ နှစ်ယောက်လုံး နုပျိုငယ်ရွယ်စဉ်ကပင် လက်ထပ် ပေါင်းသင်းခဲ့ကြပါသည်။ ထိုအချိန်မှစ၍ တစ်ယောက်အပေါ် တစ်ယောက် သစ္စာစောင့်ခဲ့ကြပါသည်။ အခြားသူတစ်ယောက်ယောက်နှင့် ဖောက်ပြားရန်မှာ ကာယကံမြောက်ဖို့ မဆိုထားနှင့်၊ စိတ်အားဖြင့်ပင် မပြစ်မှားခဲ့ကြပါ။ သို့ပါ၍ ယခုဘဝမှာလည်း တပည့်တော်တို့နှစ်ယောက် သေတစ်ပန် သက်တစ်ဆုံး ရှင်ပြိုင်းစွာ ပေါင်းသင်းလိုပါသည်။ နောက်နောင် ဘဝသံသရာမှာလည်း အစဉ်အမြဲလက်တွဲ၍ သွားလိုကြပါသည် ဘုရား"

ငြိမ့်ငြိမ့်သွင်သွင် စီးဆင်းနေသော စိမ့်စမ်းရေမှ ထွက်ပေါ်လာသော အသံများပါတည်း။ ခမည်းတော်ကြီးက ပထမဦးစွာ လျှောက်ထားကာ မယ်တော်ကြီးကလည်း သူ့နောက်ပါးမှ ဖဝါးခြေထပ် လိုက်ပါလာပေသည်။ တကယ့်မေတ္တာရှင်၊ တကယ့်သစ္စာရှင်များပါတကား။

သစ္စာရှင်၊ မေတ္တာရှင်တို့၏ စမ်းရေစီးသံများကို နာခံရာမှ ကျွန်ုပ်သည် ဘုရားရှင်၏ ဒေသနာတော်တစ်ပုဒ်ကို ပြေး၍ သတိရလိုက်မိ၏။

"ရဟန်းတို့၊ ယုတ်စွအဆုံးအားဖြင့် လက်ဖျစ်တစ်တွက်မျှလည်း ဖြစ်သော ဘဝကိုလည်း ငါ ဘုရား မချီးမွမ်းပေ။ ဥပမာအားဖြင့် အနည်းငယ်မျှသော မစင်သည် အနံ့ဆိုးသကဲ့သို့ပင် လက်ဖျစ်တစ်တွက်စာမျှသော ဘဝသည်လည်း ဆင်းရဲသည်သာ ဖြစ်ပေသည်"

သူတို့ ချစ်လှစွာသော သားတော်ဘုရားကတော့ ဘဝဆိုလျှင် လက်ဖျစ်တစ်တွက်ကလေးကိုမျှ မချီးမွမ်းပါတဲ့။ ဘဝဟူ၍ ရရှိလာလျှင် ဘယ်လောက်ပင်တိုတောင်းသော်လည်း ဆင်းရဲဒုက္ခချည်းဟု ပြတ်ပြတ်သားသား မိန့်ကြားတော်မူခဲ့၏။ ခေတ္တခဏလေးပင် ဖြစ်စေကာမူ ဘဝဟူသည် ဆင်းရဲသည်သာဖြစ်ကြောင်း မစင်နှင့် ဥပမာပြုတော်မူခဲ့၏။ ယခု သူ့ခမည်းတော်၊ မယ်တော်ကြီးများကမူ ဤသို့သော

ဘ၀ကိုမှ တောင့်တနေကြချေပြီ။ ယခု ဘ၀တွင်မက နောက်နောင်ဘ၀များမှာပင် အစဉ်အမြဲ လက်တွဲ၍ သွားချင်ကြပါသေးသည်တဲ့။ သူတို့ တောင့်တသော ဆုသည် သူတို့ သားတော်ဘုရား၏ စကားတော်နှင့် ဆန့်ကျင်ဘက် ဖြစ်မနေပြီလော။

"အို ဒါယကာကြီး ဒါယိကာမကြီးတို့၊ ဇနီးမောင်နှံနှစ်ယောက် တို့သည် ယခုဘ၀မှာလည်း သေတစ်ပန်သက်တစ်ဆုံး ရွှင်ပြုံးစွာ ပေါင်းသင်း လိုကြပါလျှင်၊ နောက်နောင် ဘ၀သံသရာမှာလည်း အစဉ်အမြဲလက်တွဲ၍ သွားလိုကြပါလျှင်၊ နှစ်ယောက်စလုံး သဒ္ဓါတရားအားဖြင့် တူညီကြကုန်ရာ၏။ ကိုယ်ကျင့်သီလအားဖြင့် တူညီကြကုန်ရာ၏။ ပေးကမ်းစွန့်ကြဲမှုဖြင့် တူညီကြကုန်ရာ၏။ အသိပညာအားဖြင့် တူညီကြကုန်ရာ၏။ ထိုသို့သော ဇနီးမောင်နှံတို့သည် တောင့်တအပ်သောဆုနှင့် ပြည့်စုံနိုင်ကြပေသည်"

ဤနေရာ ဤတစ်ခဏတွင် ဖြစ်ပေါ်လာသော ပြဿနာသည် ဤနေရာ ဤတစ်ခဏမှာပင် ပြေပျောက်၍သွားပေပြီ။ ခမည်းတော်ကြီး မယ်တော်ကြီးတို့အား ဟောကြားသော ဤဒေသနာတော်သည် ပရမတ္ထသစ္စာနှင့် သမုတိသစ္စာ နှစ်ပါးကို နယ်ခြား၍ ပေးလိုက်ပေသည်။

ပရမတ္ထသစ္စာအားဖြင့် ကျွန်ုပ်တို့ ရရှိထားသော ဘ၀သည် ဒုက္ခသစ္စာဖြစ်၏။ ဘယ်လောက်ပင်တိုတောင်းသော်လည်း အကောင်းမရှိ၊ မကောင်းအတိသာ ဖြစ်၏။ ဘုရားရှင်၏ ကျေးဇူးတော်ကြောင့် ကျွန်ုပ်တို့သည် ဒုက္ခသစ္စာကို ဒုက္ခသစ္စာအတိုင်း သိကြ မြင်ကြပါ၏။ သို့သော် ဒုက္ခသစ္စာကို ကျွန်ုပ်တို့ ပယ်စွန့်၍ မရနိုင်သေးပါ။ ပယ်စွန့်၍မရနိုင်သဖြင့် ဉာဏ်ပညာဖြင့် ပိုင်းခြားကာ သိရုံ သိထားရမည့်တရား ဖြစ်ပါသည်။

ဒုက္ခသစ္စာကို ဒုက္ခသစ္စာအတိုင်း သိမြင်ပြီးသည့် နောက်မှာလည်း ကျွန်ုပ်တို့သည် ဤသစ္စာ၏ နယ်ပယ်အတွင်းမှာပင် သမုတိသစ္စာ အချိုးမပျက် ဆက်လက်၍ နေကြရပါဦးမည်။ လောကထွတ်ထား မြတ်ဘုရားဟူသည်မှာ တကယ်တော့ဖြင့် သမုတိသစ္စာသာဖြစ်၏။ ကျွန်ုပ်တို့ သာသနာ့ဘောင်သို့ ဉတ္တိစတုတ္ထ ကမ္မဝါစာဖြင့် ဝင်ရောက်လာသော ရဟန်းများသည် သမုတိသံဃာများ ဖြစ်ကြ၏။ ဘုရားရှင်၏ အမိန့်တော်အာဏာစက်ဖြင့် သမုတ်ထားသော ရဟန်းများ ဖြစ်ကြ၏။ ဘုရားရှင်၏ အာဏာစက်မှ ပေါက်ဖွားလာရသဖြင့် ဘုရားရှင်၏ ဝိနည်း စည်းကမ်းများကို ရိုသေစွာ လိုက်နာကြရ၏။ ဝိနည်းတော်လာ တာဝန်များကိုလည်း ကျေပွန်စွာ ထမ်းဆောင်ကြရ၏။

ထို့အတူပင် ဒါယကာ၊ ဒါယိကာမများဘက်မှာလည်း သမုတိသစ္စာအရ သတ်မှတ်မှုများ ရှိနေပေသည်။ မိသားစု အသိုက်အဝန်းဖြင့် နေကြရသဖြင့်

ထမ်းဆောင်စရာ တာဝန်တွေ ကိုယ်စီကိုယ်င ရှိနေကြပေသည်။ ဤတာဝန်များကို မပျက်မကွက်ထမ်းဆောင်ရင်း ဇနီးမောင်နှံ ရာသက်ပန် ခိုင်မြဲစေကြောင်း နည်းလမ်းကောင်းများကိုလည်း လက်တွေ့ကျင့်သုံးကြရပါလိမ့်မည်။

ဘုရားရှင်၏ ဤဒေသနာတော်သည် အိမ်ထောင်ရှင် အားလုံးအတွက် ဖြစ်၏။ ဘုရားရှင်၏ တပည့်သာဝကအဖြစ် မခံယူစေကာမူ ဤအင်္ဂါလေးပါးနှင့်သာ ပြည့်စုံပါလျှင် ရာသက်ပန် ပျော်ရွှင်စွာ ပေါင်းသင်းနိုင်သော အိမ်ထောင်ရှင်များ ဖြစ်နိုင်ကြ၏။ ဤသို့အားဖြင့် ဤဒေသနာတော်သည် သမုတိသစ္စာနယ်အတွင်းမှာ အချိုးကိုက်စွာ နေနိုင်ရေးကိုသာ ညွှန်ကြားထား၏။ ဤဒေသနာတော်ကြောင့် ပရမတ္ထ သစ္စာနယ်ကြီး တိမ်ကောမသွားနိုင်ပါ။ သစ္စာနှစ်မျိုး၏ နယ်မြေကို ပိုင်းပိုင်းခြားခြား နားလည်ထားပါလျှင် သစ္စာနှစ်မျိုးစလုံးကို ဆန့်ကျင်ဘက် မဟုတ်ဘဲ မိတ်ဘက်အဖြစ်ဖြင့် ရှုမြင်နိုင်ကြပါလိမ့်မည်။

ဤသို့အားဖြင့် အသစ်ပေါ်လာကြသော ခမည်းတော်နှင့် မယ်တော်တို့သည် သူတို့၏ သားတော်ဘုရားထံမှ တေဒဂ်ဂုဏ်ထူးကို ဆွတ်ခူးနိုင်ခဲ့ကြ၏။ ဆွတ်ခူးနိုင်ခြင်းအကြောင်းကား အခြားမဟုတ်ပါ။ သူတို့ ဇနီးမောင်နှံ ဘဝအဆက်ဆက် လက်တွဲလိုပါကြောင်း ရင်းနှီးကျွမ်းဝင်စွာ လျှောက်ထားခဲ့ခြင်းကြောင့်သာ ဖြစ်ပေသည်။

ဤနမူနာကိုထောက်သဖြင့် သမုတိသစ္စာကို ပရမတ္ထသစ္စာနှင့် ထပ်တူထပ်မျှ ဘုရားရှင် အလေးထားတော်မူကြောင်း ကျွန်ုပ်တို့ သိရှိကြရပေသည်။

**(အင်္ဂုတ္တရပါဠိတော်၊ စတုက္ကနိပါတ်၊ ပထမသမဇီဝိသုတ်။ အင်္ဂုတ္တရ အဋ္ဌကထာ၊ ဧကကနိပါတ်၊ နကုလပိတုဂဟပတိဝတ္ထု၊ နကုလမာတာဝတ္ထု)**

ဘုရားရှင်ထံ အကျွမ်းတဝင် လျှောက်ထားခဲ့သဖြင့် တေဒဂ်ဂုဏ်ထူးကို ဆွတ်ခူးနိုင်ခဲ့သော ခမည်းတော်ကြီးသည် အကျွမ်းဝင်သောကြောင့်ပင် 'သူ့ခန္ဓာ ငါ မစွက်ရေး' တရားတော်ကို ကြားနာခွင့်ရခဲ့ပေသည်။

ကျွန်ုပ်တို့ ဘေသကဠာတောကျောင်းသို့ နေ့စဉ် လာနေကျဖြစ်သော ခမည်းတော်ကြီးသည် ရက်အတန်ကြာ ပြတ်လပ်နေခဲ့၏။ ကျွန်ုပ်တို့ကလည်း သုသုမာရဂိရိမြို့သို့ ဆွမ်းခံမရောက်ဖြစ်ဘဲ ပတ်ဝန်းကျင်ကျေးရွာများမှာ ရသမျှဖြင့် ရောင့်ရဲခဲ့ကြ၏။ ကျွန်ုပ်တို့က ရသမျှဖြင့် ရောင့်ရဲနိုင်သော်လည်း ခမည်းတော်ကြီးကတော့ မရောင့်ရဲနိုင်ပါ။ ယိုင်နဲ့နဲ့ကိုယ်ခန္ဓာကို တောင်ဝှေးတစ်ချောင်းဖြင့် ထောက်ကူကာ ကျွန်ုပ်တို့ တောကျောင်းသို့ တရွေ့ရွေ့ လျှောက်လာခဲ့ပေသည်။

ခမည်းတော်ကြီး မရောင့်ရဲနိုင်သည်မှာ စီးပွားရေးအတွက် မဟုတ်ပေ။ ကာမဂုဏ်ခံစားမှုအတွက်လည်း မဟုတ်ပေ။ နေ့စဉ်ရက်ဆက် ဖူးမြော်လာခဲ့သော သားတော်ဘုရား၏ မျက်နှာတော်ကို ဖူးမြော်ရေးအတွက်သာ ဖြစ်၏။

စောစောပိုင်းရက်များမှာတုန်းက သူ၏ စိတ်အလိုနှင့် ကိုယ်ခန္ဓာသည် တစ်သားတည်း ဖြစ်ခဲ့၏။ သားတော်ဘုရားကို နေ့စဉ်ရက်ဆက် ဖူးမြော်လိုသော သူ့စိတ်နောက်သို့ သူ့ခန္ဓာကိုယ်က တစ်ပါတည်း လိုက်နိုင်ခဲ့၏။ စိတ်သွားရာ ကိုယ်ပါသည်ဟု ဆိုနိုင်ပါ၏။ သို့သော် လွန်ခဲ့သော ရက်အနည်းငယ် အတွင်းမှာကား စိတ်သွားရာ ကိုယ်မပါနိုင်တော့ပေ။ အရွယ်ကလည်း ရှစ်ဆယ်ဝန်းကျင်၊ ဥတုရာသီကလည်း ရုတ်တရက်ပြောင်းလဲ လိုက်သဖြင့် သူ့ခမှာ အိပ်ရာပေါ် လဲခဲ့ရ၏။ သေကံ မရောက်သေး၍သာ သူ့ခမျာ ဖျားရာမှ ထလာနိုင်ခဲ့၏။ နာလန်ထလာသည် ဆိုသော်လည်း ရှင်းရှင်းကြီး ပျောက်သေးသည်မဟုတ်ပါ။ ရေချိုးခွင့် မရသေးပါ။ သားတော် ဘုရားကို ဖူးတွေ့လိုသော စိတ်ဇောများဆောင်သဖြင့်သာ တုန်တုန် ယင်ယင်နှင့် လှမ်းလာရခြင်း ဖြစ်ပေသည်။

"အရှင်ဘုရား၊ တပည့်တော်သည် သက်ကြီးရွယ်အိုဖြစ်သဖြင့် မကျန်းမမာ ဖြစ်ခဲ့ရပါသည်။ မကြာခဏ ဖျားနာခဲ့ရပါသည်။ အဖျားရောဂါ ဒဏ်ကြောင့် တပည့်တော်သည် နေ့စဉ်ရက်ဆက် ဘုရားဖူး မရောက်နိုင်ခဲ့ပါ။ စိတ်နှလုံးကို ပွားစေတတ်သော သံဃာတော် အရှင်မြတ်များကိုလည်း နေ့စဉ်ရက်ဆက် မဆည်းကပ်နိုင်ခဲ့ပါ။ သို့ဖြစ်ပါ၍ တပည့်တော်၏ အကျိုးစီးပွား များစေကြောင်း တရားကောင်းများ ဟောကြားတော်မူပါဘုရား"

အားနည်းသော ကိုယ်ခန္ဓာနှင့်အတူ သူ့စကားသံများကလည်း တုန်တုန်ယင်ယင် ရှိပါဘိ၏။ အကျိုးစီးပွားများစေကြောင်းဟု သူရည်ညွှန်းခဲ့သည်မှာ သူ့ကိုယ်ခန္ဓာ အဖျားအနာကင်းရေးပင် ဖြစ်ပါလိမ့်မည်။ ကျန်းမာ ချမ်းသာစွာဖြင့် နေ့စဉ်ရက်ဆက် ကျွန်ုပ်တို့ တောကျောင်းသို့ အရောက်လာနိုင်ရေးသာ ဖြစ်ပါလိမ့်မည်။

သားအရင်းတမျှ ချစ်ခင်၍ အားကိုးတကြီး လျှောက်ထားလာသော ခမည်းတော်ကြီးအား သူ့သားတော်ဘုရားကတော့ "ဟုတ်ပေသည် ဒါယကာကြီး၊ ဟုတ်ပေသည် ဒါယကာကြီး" ဟူ၍သာ အလိုက်သင့် မိန့်ကြားတော်မူ၏။ ထိုမှ ဆက်လက်၍....

"ဒါယကာကြီး၊ ဤခန္ဓာကိုယ်ကြီးသည် အမြဲတစေနာလျက်ရှိ၏။ ထိမိ ခိုက်မိရုံနှင့် ကွဲအက်တတ်သော ငှက်ဥများကဲ့သို့ ဖြစ်နေ၏။ အပြင်က ထိခိုက်မှုကို မခံနိုင် လောက်အောင် အရေပြားသည် ပါးလွှာလွန်း၏။ ဤသို့သော ခန္ဓာကိုယ်ကြီး ရရှိထားပါလျက် 'ငါကျန်းမာသည်၊ အနာကင်းသည်' ဟု တစ်စုံတစ်ယောက်က ဝန်ခံလာငြားအံ့။ တစ်ခဏလေးအတွက်ပင် ဖြစ်ပါစေ။ ထိုဝန်ခံမှုကို သူရူးတို့၏ အပြုအမူဟူ၍ သတ်မှတ်ရန်မှ တစ်ပါး အခြားလမ်း မရှိပေ"

ဤသို့မိန့်ကြားခဲ့သော စကားစုတွင် အားတက်စရာဟူ၍ တစ်ချက်မျှ မပါပေ။ ခမည်းတော်ကြီးကတော့ သူ့သားတော်အတွက် ဘုရားရှင်၏ တန်ခိုးတော်ကို မျှော်ကိုးဟန် တူပါသည်။ သူ မျှော်ကိုးမည်ဆိုကလည်း မျှော်ကိုးထိုက်ပါ၏။ အထွတ်အထိပ်သို့ရောက်လေပြီးသော စိတ်တန်ခိုးတော်သည် သူ၏ ရောဂါဝေဒနာအပေါင်းကိုလည်း ကုစား၍ ပေးလိုက ပေးနိုင်ပါလိမ့်မည်။ ခမည်းတော်ကြီးအား ကျန်းမာပကတိ ချမ်းသာစွာ ရှိစေလိုလျှင် အစွမ်းထက်လှသော စိတ်တန်ခိုးကို အသုံးပြုတော်မူရပါလိမ့်မည်။ သို့ပါလျက် စိတ်တန်ခိုးတော်ကို ဘုရားရှင် အသုံးပြုတော်မမူပါ။ ကိုယ်ခန္ဓာကြီး၏ ချို့တဲ့မှုများကိုသာ ထင်ရှားအောင် မိန့်ကြားတော်မူလိုက်ပေသည်။ ခမည်းတော်ကြီး၏ ချစ်ခြင်းမေတ္တာကို လျစ်လျူရှုတော်မူလိုက်ချေပြီလော။

ဤသို့ မဟုတ်ကြောင်းကို ကျွန်ုပ် ကောင်းကောင်းသိပါသည်။ တစ်ဆက်တည်း မိန့်ကြားတော်မူခဲ့သော ဒေသနာတော်မှာပင် ခမည်းတော်အပေါ် ထားရှိသော ဖြဟ္မစိုရ်မေတ္တာစိတ်ကို ကျွန်ုပ်တို့ သုံးသပ်မိကြပါသည်။

"ထို့ကြောင့် ဒါယကာကြီးသည် ဤသို့ ကျင့်သုံးသင့်၏။ 'ကိုယ်ခန္ဓာကြီး နာလျက်ရှိသော်လည်း ငါ၏ စိတ်သည်ကား မနာစေနှင့်' ဟူ၍ပင် ဖြစ်ပေသည်"

သားတော်ဘုရား၏ အနန္တမေတ္တာစိတ်ဖြင့် မွှမ်းထုံထားသော စကားတော်များဖြစ်ပေသည်။ အကယ်၍ ခမည်းတော်ကြီး၏ ရောဂါကို တန်ခိုးတော်ဖြင့် ကုစားပေးလျှင် ခေတ္တခဏသာ ကျန်းမာနိုင်ပါလိမ့်မည်။ အသွေးအသား ခြောက်ခန်းနေသော ကိုယ်ခန္ဓာသည် ဤရောဂါမှလွတ်လျှင် ဟိုရောဂါနှင့် တွေ့ရဦးမည်သာဖြစ်၏။ အကယ်၍ ရောဂါဝေဒနာဟူသမျှ ဘဝတစ်လျှောက်လုံး မကျရောက်အောင် စွမ်းဆောင်နိုင်သည် ဆိုစေဦး။ ခမည်းတော် တစ်ယောက်တည်းသာ ခံစားရပါလိမ့်မည်။ အခြားသူများအဖို့ အကျိုးသက်ရောက်မည် မဟုတ်ပါ။

ယခုဟောကြားသော ဒေသနာတော်သည်ကား သာဝကအားလုံးအတွက် အကျိုးကျေးဇူးများလှပေသည်။ ခေတ္တခဏ ရောဂါကင်းရေး မဟုတ်ဘဲ ရာသက်ပန် ချမ်းသာရေး ဖြစ်ပေသည်။ ဤဒေသနာတော် တန်ခိုးဖြင့် ကင်းနိုင်ပျောက်နိုင်သော အနာရောဂါများကို အကျယ်ပွား၍ ကြည့်လျှင် ၁၅၀၀ မျှပင် ရှိပါပေသည်။

ပူပန်စေတတ်၊ နှိပ်စက်တတ်သော ကိလေသာအနာအပေါင်းကို ကောင်းကောင်းကြီး ကုစားနိုင်သော ဒေသနာတော်ကို ကြားနာပြီးနောက် ခမည်းတော်ကြီးသည် ရှေ့တော်မှောက်မှ ထွက်ခွာလာခဲ့၏။ ထုံးစံအတိုင်း သူကြည်ညိုလေးစားသော သံဃာတော်များထံ ဆည်းကပ်ရန် ဖြစ်ပေသည်။

လာစဉ်တုန်းကတော့ ဒါယကာကြီး၏ မျက်နှာသည် နေထိပန်းကဲသို့ ညှိုးနွမ်းလျက်ရှိ၏။ သူ့ခြေလှမ်းများသည် ကတိမ်းကယိုင် ရှိလှ၏။ ယခု ရှေ့တော်မှောက်မှ ပြန်ထွက်ချိန်မှာတော့ နေထိပန်းကို မိုးရေဖျန်းခဲ့ပြီ ဖြစ်၏။ ဖြည်းဖြည်းမှန်မှန် လှမ်းလာပုံကလည်း ဣန္ဒြေရလှ၏။ လာစဉ်တုန်းကနှင့် လုံးဝ ခြားနားနေသော အခြေအနေများကို အကဲခတ်မိသူများတွင် အရှင်မဟာသာရိပုတ္တရာလည်း တစ်ပါးအပါအဝင် ဖြစ်နေ၏။

"ဒါယကာကြီး၊ ဒါယကာကြီး၏ ဣန္ဒြေများသည် ကြည်လင်ကြပါပေသည်။ မျက်နှာအဆင်းသည် ရွှေလမင်းကဲ့သို့ ပါပေတည်း။ ယနေ့ ဘုရားရှင့် ရှေ့တော်မှ တရားတော်များ နာကြားခဲ့ရပါ၏လော"

"အရှင်ဘုရား၊ တပည့်တော်ကဲ့သို့ အကျွမ်းတဝင်ရှိသူအဖို့ အဘယ်မှာ တရားမနာရဘဲ ရှိပါမည်နည်း"

အရှင်မဟာသာရိပုတ္တရာ၏ မေးခွန်းကို ဒါယကာကြီးက ဤသို့ တုံ့ပြန်ကာ သူ့သားတော်ဘုရားက တိုက်ကျွေးလိုက်သော အမြိုက်ရသာ ဒေသနာတော်ကို တစ်ကျော့ပြန် လျှောက်လိုက်ပါ၏။ သူ့အသံနှင့် သူ့ဟန်သည် ရွှင်လန်းတက်ကြွလှပါ၏။ ပြုံးမြမြ သူ့မျက်နှာကြီးသည် ပါးရေ နားရေတွေ တွန့်နေပါလျက် နှစ်သက်ဖွယ် ဖြစ်နေပါ၏။ သူ့စကားသံထဲဝယ် တရားနာခဲ့ရသည့်အတွက်သာမက ဘုရားရှင်နှင့် အကျွမ်းတဝင် ဖြစ်နေသည်ကိုပါ ဂုဏ်ယူနေပုံကို ကျွန်ုပ် အကဲခတ်လိုက်မိပါသည်။

"ဒါယကာကြီး၊ သို့ဖြစ်လျှင် ဘုရားရှင်ကို ကိုယ်ရောစိတ်ပါ နာပုံနှင့် ကိုယ်သာ နာ၍ စိတ်မနာပုံများကို ဆက်လက်၍ မေးလျှောက်ခဲ့ပါသေးသလော"

"အရှင်ဘုရား၊ ဤသို့သော အနက်အဓိပ္ပာယ်ကိုသိရှိရန် အရှင်ဘုရားထံ တမင်တကာ လာခဲ့ရပါသည်။ ဤအနက်အဓိပ္ပာယ်ကို အရှင်ဘုရား ဟောကြားတော်မူပါ ဘုရား"

အမေးရော အဖြေပါ အကျွမ်းတဝင် ရှိကြပါဘိ၏။ အကျွမ်းတဝင် ခင်မင်စွာ မေးမြန်းသည်ကို ဖြေကြားရင်း ဒါယကာကြီးက တရားတောင်းလိုက်၏။ အရှင်မြတ်ကြီးထံမှ ဤသို့ စကားရိပ်သန်းလာလျှင် တရားတစ်ပွဲတော့ ဖြစ်လာပေတော့မည်။ ဘုရားရှင် ဟောကြားသည့် ဒေသနာတော်ကို အခြေပြုကာ အကျယ်အားဖြင့် ဝေဖန်၍ ဟောကြားပေတော့မည်။ ဤသဘောကို အတပ်သိပြီးဖြစ်၍ ဒါယကာကြီးက အရိပ်ကို အကောင်အထည် ဖော်လိုက်ရပေသည်။ ဤကဲ့သို့ ရင်းနှီးကျွမ်းဝင်သူချင်း မေတ္တာတုံ့ပြန် ဆက်ဆံနေကြပုံကို ရှုမြင်ရသည့်အတွက် ကျွန်ုပ်၏ နှလုံးစိတ်ဝမ်း ချမ်းမြေ့ရပါသည်။

နကုလပိတာ ဒါယကာကြီး မေးလျှောက်ချက်အရ အရှင်မဟာ သာရိပုတ္တရာ အကျယ်အားဖြင့် ဝေဖန်ဟောကြားသည်မှာ ခန္ဓာငါးပါးကို အခြေပြု၍ ထားပေသည်။

"ဒါယကာကြီး၊ ဤသို့ဖြစ်လျှင် ရိုသေစွာ နာကြားလော့။ ဤ ကမ္ဘာမြေပေါ်မှာ သာသနာတော်ကြီး ထွန်းလင်းနေသော်လည်း အချို့သူတို့မှာကား မှောင်မိုက်နေဆဲသာ ဖြစ်၏။ သူတို့သည် ဘုရားရှင်နှင့်တကွ အရိယာသူတော်ကောင်းများကို မျက်ဝါးထင်ထင် ဖူးမြင်ကြရပါ၏။ သို့သော် အရိယာတို့ရရှိထားသော တရားကို မမြင်၊ အရိယာတို့၏ တရားမှာ မကျွမ်းကျင်၊ အရိယာတို့၏ အဆုံးအမကို မခံယူ မကျင့်သုံးနိုင်ကြပေ။ သို့ဖြစ်၍ ခန္ဓာငါးပါးဖြင့် ဖွဲ့စည်းထားသော ဤခန္ဓာကိုယ်ကြီးကို ငါဟူ၍ လည်းကောင်း၊ ငါ့ဟာဟူ၍လည်းကောင်း စွဲယူထားကြ၏။ ဤသို့ စွဲယူထားကြသဖြင့် ခန္ဓာငါးပါးဖြင့် ဖွဲ့စည်းထားသော ဤကိုယ်ခန္ဓာကြီး ဖောက်ပြန်ချွတ်ယွင်းလာသောအခါ စိုးရိမ်ပူဆွေး ငိုကြွေးကြရ၏။ ဝမ်းနည်းကြေကွဲ စိတ်ဆင်းရဲကြရ၏။ ဤကား ကိုယ်ရောစိတ်ပါ နာရပုံဖြစ်ပေသည်။

"ဒါယကာကြီး၊ ဤကမ္ဘာမြေပေါ်မှာ သာသနာတော်ကြီး ထွန်းလင်းနေသဖြင့် ဘုရားရှင်၏ တပည့်သာဝကသည် ဘုရားရှင်နှင့်တကွ အရိယာ သူတော်ကောင်းများကို အသားမျက်စိ၊ ဉာဏ်မျက်စိ နှစ်ပါးစုံဖြင့် ဖူးမြင်ရ၏။ အရိယာတို့၏ တရားကို ပိုင်ပိုင်နိုင်နိုင် ကျွမ်းကျင်ထား၏၊ အရိယာတို့၏ အဆုံးအမကို ခံယူ ကျင့်သုံး၏။ သို့ဖြစ်၍ ခန္ဓာငါးပါးဖြင့် ဖွဲ့စည်းထားသော ဤကိုယ်ခန္ဓာကြီးကို ငါ ဟူ၍လည်းကောင်း၊ ငါ့ဟာ ဟူ၍လည်းကောင်း မစွဲယူတော့ပေ။ ဤသို့ မစွဲယူကြသဖြင့် ခန္ဓာငါးပါးဖြင့် ဖွဲ့စည်းထားသော ဤကိုယ်ခန္ဓာကြီးက ဖောက်ပြန်ချွတ်ယွင်းလာသော်လည်း စိုးရိမ်ပူဆွေး ငိုကြွေးရန် မရှိတော့ပေ။ ဝမ်းနည်းကြေကွဲ စိတ်ဆင်းရဲရန် မလိုတော့ပေ။ ဤကား ကိုယ်သာနာ၍ စိတ်မနာပုံ ဖြစ်ပေသည်"

အရှင်မဟာသာရိပုတ္တရာဟောကြားသော ဤဒေသနာကို ကျွန်ုပ် ဉာဏ်ဖြင့် တစ်ဆင့်ရှင်းပြရသော်–

ကျွန်ုပ်တို့ ကိုယ်ခန္ဓာမှာ ပေါ်ပေါက်လာသော အနာရောဂါတို့ကို သင့်လျော်သော ဆေးဝါးဓာတ်စာတို့ဖြင့် ကုစားနိုင်ကြပါ၏။ ကုစားသဖြင့် ချမ်းသာရာ ရရှိခဲ့ကြပါ၏။ သို့သော် ထိုချမ်းသာခြင်းကား ခေတ္တခဏ အနားယူရန်မျှသာ ဖြစ်၏။ ဘယ်မျှလောက် ပြုပြင်ပြုပြင် ဘယ်လိုပင် ကုစားကုစား တစ်ခုခုမှားသည်နှင့် အနာရောဂါ ရကြမည်သာ ဖြစ်၏။ ဘဝအကြောင်း ကောင်းလွန်းလှသော အရှင်ဗာကုလတို့လို ပုဂ္ဂိုလ်မျိုးမှာပင် အမည်တပ်နိုင်သော အနာရောဂါ မရှိရုံသာဖြစ်၏။ အိုနာ အိုရောဂါနှင့်ကား မကင်းနိုင်ကြပါချေ။

ကျွန်ုပ်တို့ တစ်သက်တာတွင် ဘယ်အချိန်မှာ ဘာအစားအစာကြောင့် ဘာရောဂါဖြစ်သည်ဟု မကြာခဏ ပြောခဲ့ကြရ၏။ သို့သော် အရင်းအမြစ်ကို စိစစ်ကြည့်လျှင်ကား ထိုအချိန်မတိုင်မီ ထိုအစားအစာနှင့် မတွေ့မီကတည်းကပင် အနာရောဂါတို့၏ အခြေခံက ရှိနေပါပြီ။ သုံးဆယ့်နှစ်ကောဋ္ဌာသတို့ဖြင့် တည်ဆောက်ထားသော ဤခန္ဓာသည်ပင် အနာရောဂါဟူသမျှ၏ ဘူမိနက်သန် မဟုတ်ပါလော။

ထို့ကြောင့် ဤကိုယ်ခန္ဓာကြီး၌ အနာရောဂါ ပေါ်လာခြင်းသည် ဖြစ်လာသမျှ ပျက်စီးရသော ဓမ္မတာလမ်းရိုးဟောင်းကြီး အတိုင်းသာ ဖြစ်၏။ ဤလမ်းရိုးဟောင်းကြီးကို လျှောက်သွားရာတွင် မည်သူ့ကို ဝမ်းနည်းစေဟူသော သဘောမရှိပေ။ မည်သူမည်ဝါ ခွဲခြားခြင်း မရှိပေ။ မည်သူ့မျက်နှာကိုမျှ ထောက်ထားခြင်းမရှိပေ။ မိမိတို့ အတ္တအယူအစွဲဖြင့် 'ငါ မနာချင်၊ ငါ့လင်၊ ငါ့မယား မနာစေချင်၊ ငါ့သား ငါ့သမီး မနာစေချင်'ဟု တောင့်တကြသော်လည်း အနတ္တတရားသည် အတ္တအလိုသို့ တစ်ရွေးသားမျှ လိုက်ပါလာမည် မဟုတ်ပေ။ အနတ္တတရားသည် အနတ္တဟူသော သူ့သဘောကိုသာ ဆောင်လိမ့်မည် ဖြစ်ပေသည်။

ဤသို့ အနတ္တ သဘာဝအပေါ်၌ အသိဉာဏ် အမြင်သန်လာလျှင် ခန္ဓာကို နှစ်လွှာ ခွဲနိုင်မည် ဖြစ်၏။ အနာလွတ်နိုင်သော ခန္ဓာနှင့် အနာမလွတ်နိုင်သော ခန္ဓာတို့ကို ပိုင်းခြားတတ်လာမည်ဖြစ်၏။ နကုလပိတာ ဒါယကာကြီးအား ဘုရားရှင် ဟောကြားခဲ့သည့်အတိုင်း အသွေးအသားတို့ဖြင့် ဖွဲ့စည်းထားသော ခန္ဓာကြီးရထားလေသမျှ မည်သူမျှ အနာကင်းသည်ဟု မဆိုနိုင်ပေ။ ထို့ကြောင့် ဤကိုယ်ခန္ဓာသည် အနာမလွတ်နိုင်သော ခန္ဓာ ဖြစ်၏။ တရားသိလည်း မလွတ်နိုင်ပေ။ တရားမသိလည်း မလွတ်နိုင်ပေ။ ဝိပါကဝဋ္ဋဒုက္ခကို ထပ်တူထပ်မျှ ခံကြရမည်သာ ဖြစ်ပေသည်။

အနာလွတ်နိုင်သော ခန္ဓာကား ဤရုပ်ခန္ဓာနှင့် တွဲစပ်ဖြစ်ပေါ်လာသော စိတ်ခန္ဓာဖြစ်၏။ စောစောက တင်ပြခဲ့သည့်အတိုင်း အတ္တစွဲဖြင့် 'ငါ မနာချင်၊ ငါ့လင်၊ ငါ့မယား မနာစေချင်' စသည်ဖြင့် တောင့်တကြသော်လည်း ငါ့အလိုမလိုက်၊ ငါ့အကြိုက် မပါနိုင်ချေ။ ထိုအခါ 'ငါ့မှ နာရလေခြင်း၊ ငါ့လင်၊ ငါ့မယားမှ နာရလေခြင်း' စသည်ဖြင့် စိတ်ပူစိတ်ဆွေးတို့ ပေါ်ပေါက်လာရ၏။ ဤသို့ပေါ်ပေါက်လာသော အနာတို့သည် စိတ်ခန္ဓာမှာ ပေါ်ပေါက်လာကြသဖြင့် စိတ်နာဟု ဆိုရပေမည်။ နာမ်ခန္ဓာ လေးပါးလုံးကို တစ်ပေါင်းတည်းပြုကာ လွယ်ကူအောင် သုံးနှုန်းထားခြင်း ဖြစ်ပေသည်။

အတ္တ အယူအစွဲတည်းဟူသော အကြောင်းကြောင့် ပေါ်ပေါက်လာကြသော စိတ်နာတို့သည် အကြောင်းချုပ်သဖြင့် ချုပ်ပျောက်ကြရ၏။ ဤသို့ ချုပ်ပျောက်

ရသော စိတ်နာတို့မှာပေါက်ပြီးမှ ပျောက်သွားသော အနာတို့မဟုတ်ပါ။ ပေါက်စေတတ်သော အကြောင်းမှစ၍ ပျောက်ပြီးဖြစ်၍ မပေါက်ရဘဲ သူ့အလိုလို ပျောက်နေသော အနာတို့ ဖြစ်ပေသည်။ ထို့ကြောင့် စိတ်အနာတို့သည် စိတ်ကို မှီ၍ ပေါက်ကြရသကဲ့သို့ ပျောက်တော့လည်း စိတ်မှာပင် ပျောက်ကြရပေသည်။ ဤသို့ အနာကင်းစင်၍ ပကတိအတိုင်း ကြည်လင်နေသော စိတ်အစဉ်ကား အနာလွတ်သော ခန္ဓာပေတည်း။

အနာမလွတ်နိုင်သော ခန္ဓာနှင့် အနာလွတ်နိုင်သော ခန္ဓာတို့ကို ခွဲခြားရန်ကား ဉာဏ်ပညာ၏ အရာဖြစ်၏။ ဤဉာဏ်ပညာဖြင့် ခန္ဓာကို နှစ်လွှာခွဲကာ ကျွန်ုပ်တို့သည် တရားသိသော်လည်း မလွတ်နိုင်သော ဝိပါက ဝဋ်ဒုက္ခကြီးကို သတိသမ္ပဇဉ်ဖြင့် သည်းခံကြရပါလိမ့်မည်။ 'ငါ့မှ နာရသလား၊ ငါ့သား ငါ့သမီးမှ နာရသလား' စသည်ဖြင့် စိတ်နာတွေ မမွေးမိအောင် သတိဆောင်ကြရပါလိမ့်မည်။ စိတ်အနာမရှိ ပကတိ လွတ်မြောက်နေသော စိတ်အစဉ်ဖြင့် နေတတ်အောင် လေ့ကျင့်ကြရပါလိမ့်မည်။ အလေ့အကျင့် ရင့်သန်ခိုင်မာလာသည်နှင့်အမျှ စိတ်အနာသက်သာကြပါလိမ့်မည်။ ကိုယ်ခန္ဓာကြီးက နာမျိုးမို့ နာနေပါသော်လည်း စိတ်ခန္ဓာကား အနာမရှိ ပကတိအတိုင်း ချမ်းသာနေပါလိမ့်မည်။

ဤသို့ အလေ့အကျင့်မရှိဘဲ ပေါက်လွတ်ပဲစား နေကြလျှင်ကား စိတ်အနာတွေ တင်းကျမ်း ပေါက်လာကြပါလိမ့်မည်။ စိတ်အနာတွေ ပေါက်လာသဖြင့် ကိုယ်ခန္ဓာအနာများက လျော့သွားမည် မဟုတ်ပါ။ ကိုယ်နာမှာ စိတ်နာဆင့်သဖြင့် နှစ်ဆပို၍ ဆင်းရဲကြရပါတော့သည်။

ထို့ကြောင့် ဒုက္ခဘုံမှာ ကြုံလာသည့်အခိုက် မည်သူမျှ မလွတ်မြောက်နိုင်သော ကိုယ်အနာပေါ်မှာ စိတ်နာတွေ မဆင့်လာစေဘဲ သက်သောင့်သက်သာ နေတတ်ကြရန် ဤဒေသနာတော်က ညွှန်ပြထားပေသည်။

**(ခန္ဓသံယုတ်၊ နကုလပိတုသုတ်ပါဠိတော်နှင့် အဋ္ဌကထာ)**

❋❋

## ပွဲတွေ့ နာလန်ထဆေးကြီးများ

သားတည်းဟူသော ချစ်ခြင်းဖြင့် ချဉ်းကပ်လာသော ခမည်းတော်ကြီးအား သူ့သားတော်ဘုရားက ဗြဟ္မစိုရ်တရားဖြင့် တုံ့ပြန်တော်မူခဲ့ပုံတို့ကို ကျွန်ုပ်၏ ပရိသတ်များ ကြားနာခဲ့ကြရပါပြီ။ ထိုမေတ္တာရှင်တို့၏ ဇာတ်လမ်းကိုပင် ဤအခန်းမှာလည်း ထပ်မံ၍ ဖော်ကျူးရပါလိမ့်မည်။

သူတို့မြို့သို့ ရောက်ခါစတုန်းက သူတို့၏ သစ္စာနှင့် သူတို့၏ မေတ္တာကို ဘုရားရှင့် ရှေ့တော်မှောက်မှာ ထုတ်ဖော်ခဲ့ကြ၏။ သူတို့၏မေတ္တာမှာ ကာမဂုဏ် အချစ်ထက် ပို၍ သိမ်မွေ့သော ဂေဟာဿိတပေမ ဖြစ်နိုင်ကြောင်း ကျွန်ုပ်ခန့်မှန်းချက် ပေးခဲ့၏။ ထို့နောက်တွင်ကား ဘုရားရှင်ထံမှ တရားတော်များ နေ့စဉ်လိုလို ကြားနာရသဖြင့် သူတို့နှစ်ယောက်လုံး အရိယာဉာဏ် အမြင်မှန်ကို ရကြပေသည်။ အမြင်မှန်နှင့် ယှဉ်လာသဖြင့်သူတို့၏ ချစ်ခြင်းမေတ္တာသည် ခြောက်ခန်း၍ မသွားပါ။ ယုတ်လျော့၍ မသွားပါ။ ကိုယ်ကျိုး ကိုယ့်တွက်တာ ငဲ့ကွက်မှုများ ကင်းစင်သွားသဖြင့် ပို၍ပင် ချစ်ခင်ကြပါသေးသည်။ ကာမဂုဏ် ခံစားမှုကင်းသော ချစ်ခြင်းမေတ္တာဖြင့် ကြင်နာစွာ ဆက်ဆံလာကြသည်မှာ တစ်ဆယ့်ခြောက်နှစ်တိုင်တိုင် ကြာခဲ့ပါပြီ။

ဗြဟ္မစိုရ်မေတ္တာဖြင့် ချစ်ခင်ကြသော မေတ္တာရှင် နှစ်ဦးတို့အနက် ဒါယိကာမကြီး၏ မေတ္တာကို ဖော်ကျူးခွင့်ရသည်မှာ ဒါယကာကြီး အဖျားရောဂါရသောကြောင့် ဖြစ်ပါသည်။

ယခင်တစ်ခါ ဖျားတုန်းကတော့ သူ့ဘာသာ နာလန်ထ၍ ဘုရားရှင်ထံ မရောက်ရောက်အောင်သွားခဲ့၏။ ကိုယ်သာနာ၍ စိတ်မနာသော တရားတော်ကို ကြားနာခဲ့ရ၏။ ယခုတစ်ချီမှာတော့ ယခင်ကလို ရက်ပိုင်းမျှ နာလန် မထနိုင်တော့ပေ။ ရက်မှလသို့ပင် ကူးလာခဲ့၏။ ဒါယိကာမကြီးက ဆရာကောင်း သမားကောင်းများ

ပင့်ကာ ဆေးဝါးကုသပါသော်လည်း ဒါယကာကြီး၏ အဖျားရောဂါက လျော့သွားသည်မရှိပေ။ ဆေးစွမ်းထက် ရောဂါက အားကောင်းနေပေသည်။ ဆေးဝါးဓာတ်စာများ မှိဝဲနေသည့် ကြားကပင် သူ့ကိုယ်ခန္ဓာသည် ညှိုးနွမ်းသည်ထက် ညှိုးနွမ်းလာတော့သည်။ တစ်နေ့တခြား အင်အားဆုတ်ယုတ်၍ လာတော့သည်။ သည်တစ်ခါတော့ သည်တောင်က တက်လာနိုင်လိမ့်မည် မထင်ဟု ဆေးဆရာများက လက်လျှော့စကား ဆိုကြ၏။ ဤစကားကြားသည်နှင့် သားသမီးများ မျက်ရည်နှင့် မျက်ခွက်ဖြစ်ကုန်ကြသည်ဟု ဆိုပေသည်။

သားတွေ သမီးတွေ တရှုပ်ရှုပ် ငိုနေကြစဉ် သူကိုယ်တိုင်ကတော့ မျက်ရည်တစ်စက်မျှ မကျခဲ့ပါဟု ဒါယိကာမကြီးက ကျွန်ုပ်ကို လျှောက်ထားခဲ့၏။ "ဤသို့ မျက်ရည်မကျခြင်းမှာ ဒါယကာကြီးကို မချစ်ခင်၍လော" ဟု ကျွန်ုပ်က ရင်းနှီးစွာမေးလိုက်ရာ "မချစ်ခင်၍ မဟုတ်ပါဘုရား" ဟု ပြန်လျှောက်ခဲ့ပေသည်။

ဒါယကာမကြီး ပြောကြားသောစကား မှန်ပါသည်။ ဒါယကာကြီးအပေါ် ချစ်ခင်၍ပင် အစွမ်းထက်သော ဆေးဝါးများ တိုက်ကျွေးခဲ့၏။ လူမမာ ခံတွင်းတွေ့မည့် အစားအသောက်ကလေးများကို ကိုယ်တိုင်ချက်ပြုတ်၍ ကျွေးမွေးခဲ့၏။ ဝေဒနာသက်သာနိုင်သမျှ သက်သာစေရန် ကိုယ်ဖိရင်ဖိ ပြုစုခဲ့၏။ သူဘယ်လိုပင် ပြုစုသော်လည်း အပျက်သဘောကို တားဆီး၍ မရနိုင်တော့ပါ။ သူ့ကိုထား၍ သမ္မာရင့်ပြီးသော သမားတော်ကြီးများပင် မတတ်နိုင်တော့ပါ။ လူမမာ ဒါယကာကြီးအတွက် အစွမ်းထက်သော ဆေးဝါးဓာတ်စာဟူ၍ ရှာမတွေ့နိုင်တော့ပါ။ ရာသက်ပန်လက်တွဲလာခဲ့ရသော ဘဝခရီးဖော်သည် မကြာမီ လက်တွဲဖြုတ်၍ သွားတော့မည်ပါတကား။

ဤသို့သော အခြေအနေသည် ဒါယိကာမကြီး၏ အသည်းနှလုံးများကို ဆွဲနုတ်ပစ်လိုက်ခြင်းပင် ဖြစ်၏။ ယူကျုံးမရ စိတ်သောကများ ရင်နှင့်အပြည့် ဆို့တက်လာကြသဖြင့် စကားတစ်ခွန်းမျှ မပြောနိုင်။ ဆေးအိတ်လွယ်ကာ ထွက်ခွာသွားသော သမားတော်ကြီးကိုမှ နှုတ်မဆက်နိုင်ပါ။ ဒါယကာကြီးဆီမှ လွှဲဖယ်ထားခဲ့သော သူ့မျက်လုံးအစုံဝယ် မျက်ရည်ဝဲ၍ လာချေပြီ။ ဤ မျက်ရည်သည် ဗြဟ္မစိုရ်မေတ္တာကြောင့်တော့ မဟုတ်နိုင်ပါ။ ဗြဟ္မစိုရ်မေတ္တာ၏ နောက်ပါးက မသိမသာ ခိုဝင်လာခဲ့သော တဏှာပေမ သမုဒယကြောင့်သာ ဖြစ်ပါသည်။

ဤသဘောကို ရိပ်မိသဖြင့် ကျအံ့ဆဲဆဲ မျက်ရည်များကို ဒါယိကာမကြီးက အချိန်မီ တားဆီးလိုက်ရ၏။ ရင်ထဲက ဝေဒနာများကို အားတင်းကာ သိမ်းဆည်းလိုက်ရ၏။ သေသဘောကိုပင် မသေစေချင်သော အာသဝတို့ကြောင့် ရင်ထဲမှာ ပေါ်လာရသောဝေဒနာတို့သည် ဖြစ်ဆဲမှာလည်း အခံရခက်၏။ ဖြစ်ပြီး၍

ချုပ်သွားပြန်တော့လည်း သူတို့ ဒဏ်ချက်က ရင်ထဲမှာကျန်ခဲ့သေး၏။ မည်မျှပင် တရားနှင့် သိမ်းဆည်းနိုင်ပါသော်လည်း လက်လွှန်ထားမိသော ဝေဒနာဒဏ်ကိုကား ခံစားရသေးသည်သာ။ သည်ဝေဒနာတို့ နောက်မှာ အသစ် အသစ်ဖြစ်ပေါ်လာအောင် မထူထောင်ဘဲနေပါမှ သည်ဒဏ်ချက်များက ပြေပျောက်၍ သွားကြပေသည်။

ယခုတော့ ဒါယိကာမကြီး ရင်ထဲမှာ ဝေဒနာဒဏ်ရာတို့ မရှိတော့ပါ။ မျက်လုံးအစုံဝယ် သောကမျက်ရည်တို့ မခိုလာတော့ပါ။ တရားတော်၏ ကျေးဇူးဖြင့် သူ့ကိုယ်သူ တည်ငြိမ်စွာ ဆောက်တည်၍ရလာပါပြီ။ အိပ်ရာထက်ရှိ ကျေးဇူးရှင်ကြီး ထံသို့ စိတ်နှလုံးအေးချမ်းစွာ ချဉ်းကပ်နိုင်ပါပြီ။ သမားတော်ကြီးတို့၏ အစွမ်းထက် ဆုံးသော ဆေးများဖြင့် ကုစား၍ မရနိုင်သော လူမမာအား ပြုစုရန်ကျန်တော့သည်မှာ သစ္စာ မေတ္တာ ဆေးတော်ကြီးများသာ ရှိပါတော့သည်။ ထို့ကြောင့်–

"အို နကုလတို့အဖေ၊ သေချိန်ကျ၍ သေရမည်ဆိုလျှင် အစွဲတန်းလန်းနှင့် မသေပါနှင့်။ အစွဲတန်းလန်းနှင့်သေရခြင်းကို သားတော်ဘုရားကလည်းကဲ့ရဲ့တော်မူပါ သည်။ သို့ဖြစ်၍ အစွဲကင်းကွာ စိတ်သက်သာစေရန် ဤသို့ နှလုံးသွင်းစေလိုပါသည်။

"နကုလတို့ အမေသည် 'ငါ ကွယ်လွန်လျှင် သားသမီးတို့ကို ကျွေးမွေး နိုင်တော့မည် မဟုတ်၊ အိမ်ထောင်တစ်ခုလုံးကို ဟာကွက်မရှိအောင် ထိန်းသိမ်းနိုင် တော့မည် မဟုတ်' ဟု အကယ်၍ တွေးပူမိပါလျှင် ထိုအတွေး ထိုအပူကို ချက်ချင်း ပင် စွန့်လွှတ်လိုက်ပါ။ ကျွန်မသည် ဗိုင်းငင်ဝါဖတ် ကျွမ်းကျင်ပါသည်။ သား သမီးများကို ကျွန်မ ကျွေးမွေးနိုင်ပါသည်။ အိမ်ထောင်ကို ဟာကွက်မရှိအောင် ထိန်းသိမ်းနိုင်ပါသည်။

"နကုလတို့အမေသည် 'ငါ ကွယ်လွန်လျှင် နောက်အိမ်ထောင်ပြုလိမ့်မည်' ဟု အကယ်၍ တွေးပူမိပါလျှင် ထိုအတွေး ထိုအပူကို ချက်ချင်းပင် စွန့်လွှတ်လိုက်ပါ။ သင်ကွယ်လွန်သော်လည်း ကျွန်မသည် နောက်အိမ်ထောင်ပြုမည် မဟုတ်ပါ။ ကျွန်မတို့နှစ်ယောက်စလုံး တစ်ဆယ့်ခြောက်နှစ်တိုင်တိုင် မောင်လို နှမလို နေလာ ခဲ့ကြပြီ ဖြစ်ပါသည်။

"နကုလတို့အမေသည် 'ငါ ကွယ်လွန်လျှင် ဘုရားရှင်နှင့် သံဃာတော် များထံ ဆည်းကပ်တော့မည်မဟုတ်' ဟု အကယ်၍ တွေးပူမိပါလျှင် ထိုအတွေး ထိုအပူကို ချက်ချင်းပင် စွန့်လွှတ်လိုက်ပါ။ သင် ကွယ်လွန်သောအခါ ကျွန်မသည် ဘုရားရှင်နှင့် သံဃာတော်များထံ ပို၍ ဆည်းကပ်ရပါဦးမည်။

"ထို့ပြင် ကျွန်မသည် အခြားအခြားသော ဘုရားတပည့်မများကဲ့သို့ မြင့်မြတ် စင်ကြယ်သော သီလ သမာဓိနှင့် ပြည့်စုံပါသည်။ ဤသာသနာတော်ဝယ် မဂ်ပညာ ဖိုလ်ပညာဖြင့် ထောက်ရာတည်ရာ ရပြီး ဖြစ်ပါသည်။ ထို့ကြောင့် နကုလတို့အဖေ

သေချိန်ကျ၍ သေရမည်ဆိုလျှင် အစွဲတန်းလန်းနှင့် မသေပါနှင့်။ အစွဲတန်းလန်းနှင့် သေရခြင်းသည် ဆင်းရဲလှပါသည်။ အစွဲတန်းလန်းနှင့် သေရခြင်းကို သားတော်ဘုရားကလည်း ကဲ့ရဲ့တော်မူပါသည်"

ဒါယကာကြီး နံဘေးမှာထိုင်လျက် ပြည့်ပြည့်စုံစုံ ပြောပြထားသော စကားစု ဖြစ်ပါသည်။ မေတ္တာရှေ့ထား၍ ပြောကြားသည် ဆိုသော်လည်း ဤစကားစုတွင် ဒါယကာကြီးအတွက် အားတက်စရာ ဟူ၍ လုံးဝမပါပါ။ ဒါယကာကြီး ကွယ်လွန်သွားသော်လည်း ဒါယိကာမကြီးဘက်က အခြေအနေ မပျက်နိုင်ပုံများသာ ပါရှိပေသည်။ နေရေးအတွက် မျှော်လင့်ချက် လုံးဝမပေးဘဲ စိတ်လွတ် ကိုယ်လွတ် သေနိုင်ရေးကိုသာ ဦးတည်ထားပေသည်။

ထူးဆန်းသည်ဟု ဆိုရမည်လား မသိပါ။ သေရေးကိုသာ ဦးတည်ထားသော ဤစကားစုသည် နကုလပိတာ ဒါယကာကြီးအား သေမင်းခံတွင်းမှ ကယ်ထုတ်ခဲ့ပေသည်။

ဟိုတစ်ခါက ဒါယကာကြီးသည် 'ကိုယ်သာ နာ၍ စိတ်မနာရေး' တရားတော်ကို ကြားနာခဲ့ရ၏။ ထိုတရားတော်၏ ကျေးဇူးကြောင့် ပြင်းထန်လှသော အဖျားရောဂါကို သူ သည်းခံနိုင်ခဲ့၏။ ငါမဟုတ်သော ကိုယ်ခန္ဓာကြီး၏ အလုပ်ထဲမှာ ငါဝင်၍ မရှုပ်ဘဲ နေနိုင်ခဲ့ပါ၏။ ဤသို့ မိမိအတွက် မပူဘဲနေနိုင်ခဲ့သော ဒါယကာကြီးသည် ဒါယိကာမကြီးအတွက်ကား နောက်ဆံတင်းမိ၏။ တစ်ယောက်တည်း ကျန်ခဲ့မည့်အရေးများကို တွေးပူမိ၏။ မည်သူက တွေးတွေး၊ မည်သူ့အတွက် တွေးတွေး တွေး၍ ပူလေသမျှ လူကို ဒုက္ခပေးသည်ချည်း ဖြစ်၏။ ထို့ကြောင့် ကိုယ်နာပေါ်မှာ စိတ်နာဆင့်ကာ ဆေးမတိုးနိုင်အောင် ဖြစ်ခဲ့ရ၏။ ယခုတော့ ဒါယိကာမကြီးက သတိပေးလိုက်သဖြင့် စိတ်အနာတွေ ကင်းသွားပါပြီ။ မည်သူ့အတွက်မျှ မတွေး တော့ဘဲ၊ မပူတော့ဘဲ လွတ်ရာငြိမ်းရာတရားနှင့် နေနိုင်လာပါပြီ။ ဤသို့ စိတ်ဝန်တာ မဖိစီးတော့သဖြင့် ကိုယ်ခန္ဓာကလည်း နာလန်ထလာခြင်း ဖြစ်ပါသည်။

အစာရေစာဝင်၍ ထူထူထောင်ထောင်ဖြစ်လာလျှင်ပင် ဒါယကာကြီးသည် တောင်ဝှေးတစ်ချောင်းဖြင့် ကျောင်းတော်သို့ လျှောက်လာခဲ့၏။ သူ့ဒါယိကာမကြီး ပြောလေသမျှကို ဘုရားရှင်ထံ လျှောက်ထား၏။ ဤတွင်ဘုရားရှင်က ကြင်နာတတ်သော၊ အကျိုးပြုတတ်သော၊ တရားပြ၍ ဆုံးမတတ်သော မယားကောင်းကို ရသဖြင့် ခမည်းတော်ကြီးအဖို့ ကုသိုလ်ကံ ကောင်းလှကြောင်း မိန့်ကြားတော်မူပေသည်။ (အင်္ဂုတ္တရ၊ ဆက္ကနိပါတ်၊ နကုလပိတုသုတ်ပါဠိတော်နှင့် အဋ္ဌကထာ)

နကုလပိတာ ဒါယကာကြီးကဲ့သို့ ကိုယ်နာပေါ်မှာ စိတ်နာပါခဲ့သူများသည် ကျွန်ုပ်တို့ သီတင်းသုံးဖော်များထဲမှာလည်းရှိခဲ့ဖူးပါသည်။ သူကား ပဥ္စဝဂ္ဂီငါးပါးထဲက အရှင်အဿဇိနှင့် ဘွဲ့တူ ရဟန်းတစ်ပါး ဖြစ်၏။ အရှင်အဿဇိ၏ စိတ်အနာမှာ နကုလပိတာ ဒါယကာကြီး၏ စိတ်အနာနှင့်ကား မတူပါ။ နကုလပိတာ ဒါယကာကြီးကဲ့သို့ ဒါယိကာမကြီး၏ ရှေ့ရေးကို တွေးပူရန် မရှိပါ။ ခါတိုင်း အလွယ်တကူ ဝင်စား၍ရနေကျ လောကီဈာန် သမာပတ်ကို ယခုဝေဒနာသည်းချိန်မှာ ဝင်စား၍ မရတော့သောကြောင့်သာ ဖြစ်ပေသည်။

ထိုစဉ်တုန်းက ဘုရားရှင်သည် ရာဇဂြိုဟ်မြို့တော်က ဝေဠုဝန်ကျောင်းတော်မှာ သီတင်းသုံးတော်မူခိုက် ဖြစ်၏။ အရှင်အဿဇိကား ကဿပသူဌေးကြီး ဆောက်လုပ်လှူဒါန်းထားသော ကဿပါရုံကျောင်းမှာ နေ၏။ အရှင် အဿဇိက အလုပ်အကျွေး ရဟန်းတစ်ပါးလွှတ်၍ ပင့်သောကြောင့် ထိုကျောင်းသို့ ဘုရားရှင် ကြွတော်မူခဲ့ရပေသည်။ အရပ်တော်နောက်မှ အရိပ်ပါလာသည့်အကြောင်းကိုကား အထူးတင်ပြဖွယ် လိုမည်မထင်ပါ။

သူ့ကျောင်းထဲသို့ ဘုရားရှင် ဝင်တော်မူလိုက်လျှင် အရှင်အဿဇိသည် ညောင်စောင်းထက်မှာပင် ရှိနေ၏။ အိပ်ရာက လုံး၀ မထနိုင်သဖြင့် ပက်လက် အိပ်နေရင်းကပင် အရိုအသေပြုရ၏။ ဤတွင် ဘုရားရှင်က–

"အဿဇိ၊ ညောင်စောင်းပေါ်မှာ သက်သာစွာနေပါဘိ။ သည်မှာ ရှိသောနေရာ များ၌ ငါဘုရား ထိုင်၍ရပါသည်"

ဤသို့ ကရုဏာဖြင့် မိန့်တော်မူ၍ ခင်းထားသော နေရာမှာ ထိုင်တော်မူပြီး–

"အသို့နည်း အဿဇိ။ ရောဂါဝေဒနာ သက်သာပါ၏လော"

"မသက်သာပါ အရှင်ဘုရား။ ရောဂါဝေဒနာများက အလျော့မရှိ အတိုးချည်း ရှိနေကြပါသည် ဘုရား"

ဘုရားရှင်၏ အမေးကို အရှင်အဿဇိက ဟုတ်တိုင်းမှန်စွာ လျှောက်ထား လိုက်ရာ–

"အသို့နည်း အဿဇိ။ သင့်မှာ နောင်တတစ်ဖန် ပူပန်ခြင်း၊ နှလုံးမသာခြင်း ကင်းပါ၏လော"

"မကင်းပါအရှင်ဘုရား။ နောင်တတစ်ဖန် ပူပန်ခြင်း၊ နှလုံးမသာ ခြင်းတို့ မြောက်မြားစွာ ရှိနေကြပါသည် ဘုရား"

"သို့ဖြစ်လျှင် မိမိ၏ အကျင့်သီလကို မိမိကိုယ်တိုင် စိတ်ချနိုင်ပါ၏ လော"

"စိတ်ချနိုင်ပါသည် အရှင်ဘုရား"

"သို့ဖြစ်ပါလျက် အဘယ့်ကြောင့် နောင်တတစ်ဖန် ပူပင်နေရပါသနည်း။ နှလုံးမသာ ဖြစ်နေရပါသနည်း"

"အရှင်ဘုရား၊ ယခင်ရှေးအခါ ဖျားနာတုန်းက တပည့်တော်သည် စတုတ္ထဈာန် သမာပတ်ဖြင့် ထွက်သက်ဝင်သက်များကို ချုပ်ငြိမ်းစေလျက် ငြိမ်သက်စွာ ထိုင်နေနိုင်ပါသည်။ ယခုတစ်ဖန် ဖျားနာသည်တွင်ကား သည်သမာပတ်ကို ဝင်စား၍ မရနိုင်တော့ပါ။ ဤတွင် 'ငါသည် ဤသာသနာတော်မှ ရှုံးနိမ့်ခဲ့သူများ ဖြစ်လေမလား' ဟု တွေးမိပါသည်။ ထိုသို့တွေးရာမှ နောင်တတစ်ဖန် ပူပန်ခြင်း၊ နှလုံးမသာခြင်းတို့ ဖြစ်ပေါ်လာရပါသည် ဘုရား"

"အဿဇိ၊ ဤသို့တွေးတော၍ ပူပန်ခြင်းသည် လောကီဈာန် သမာပတ်ကို အနှစ်သာရ ဟူ၍လည်းကောင်း၊ ရဟန်းတို့ကျင့်ထုံး အထွတ်အမြတ်ဆုံးဟူ၍ လည်းကောင်း မှတ်ထင်သော ရဟန်း ပုဏ္ဏားတို့ အတွက်သာ ဖြစ်၏။ ငါဘုရား၏ သာသနာတော်တွင်ကား ဤလောကီဈာန် သမာပတ်သည် အနှစ်သာရ မဟုတ်ပေ။ ရဟန်းတို့ ကျင့်ထုံး အထွတ်အမြတ်ဆုံး မဟုတ်ပေ။ ဝိပဿနာနှင့် မဂ်ဉာဏ် ဖိုလ်ဉာဏ်တို့သာလျှင် အနှစ်သာရ ဖြစ်ကြ၏။ ရဟန်းတို့ ကျင့်ထုံး အထွတ်အမြတ်ဆုံး ဖြစ်ကြ၏။ သို့ပါလျက် သင်သည် လောကီဈာန် သမာပတ် ဆုံးရှုံးကာမျှဖြင့် အဘယ့်ကြောင့် နောင်တတစ်ဖန် ပူပန်ရမည်နည်း။ အဘယ့်ကြောင့် နှလုံးမသာ ဖြစ်ရပါမည်နည်း"

ဤသို့ ဘုရားရှင်က အရှင်အဿဇိကို အားပေး နှစ်သိမ့်တော်မူပြီးမှ ခန္ဓာငါးပါးတို့အပေါ်မှာ လက္ခဏာသုံးတန်တင်၍ ထင်ရှားအောင် ဟောပြောတော်မူလေရာ ထိုနေရာမှာပင် ရဟန္တာအရှင်မြတ်တစ်ပါး တိုးပွားလာပေသည်။ စိတ်နာတွေ ကင်းစင်သွားပြီမို့ မကြာမီ နာလန်ထဖို့သာ ရှိပါတော့သည်။

**(ခန္ဓသံယုတ်၊ ထေရဝဂ်၊ အဿဇိသုတ်ပါဠိတော်နှင့် အဋ္ဌကထာ)**

ဤသို့အားဖြင့် နာလန်ထဆေးတော်ကြီးများ ပွဲတွေ့ခဲ့ပေါင်း များလှပြီမို့ အရှင်ဂိရိမာနန္ဒ နေမကောင်းရာသို့လည်း ကြွရောက်၍ ကယ်တင် တော်မူပါရန် ဘုရားရှင်အား ကျွန်ုပ် လျှောက်ထားခဲ့၏။ သည်တစ်ခါတော့ ဘုရားရှင်က ကိုယ်တော်တိုင် ကြွတော်မမူဘဲ ကျွန်ုပ်အား ကိုယ်စား စေလွှတ်တော်မူပေသည်။

"အာနန္ဒာ၊ ဂိရိမာနန္ဒအား ဆယ်ပါးသော သညာတို့ကို သင်သွား၍ ဟောကြားပါလျှင် ဂိရိမာနန္ဒ ချက်ချင်းပင် နာလန်ထလာပါလိမ့်မည်"

ဤသို့ မိန့်ကြားတော်မူပြီးနောက် သညာဆယ်ပါး၏ အနက်အဓိပ္ပာယ်ကို ကိုယ်တော်တိုင် ဖွင့်ပြတော်မူပေသည်။ ဤဒေသနာတော်၌ သညာ ဟူသည်မှာ ဉာဏ်ပညာဖြင့် သိသိမှတ်မှတ် ပြုခြင်းကို ဆိုလိုပါသည်။

၁။ အနိစ္စသညာဟူသည်မှာ ခန္ဓာငါးပါး၏ မမြဲသောသဘောကို သိသိမှတ်မှတ် ပြုခြင်း ဖြစ်၏။

၂။ အနတ္တသညာဟူသည်မှာ ခန္ဓာငါးပါး၏ အတ္တမဟုတ်ပုံကို သိသိမှတ်မှတ် ပြုခြင်း ဖြစ်၏။

၃။ အသုဘသညာ ဟူသည်မှာ ခန္ဓာကိုယ်ကြီးကို သုံးဆယ့်နှစ် ကောဋ္ဌာသ ခွဲစိတ်၍ သာယာတပ်မက်ဖွယ် မရှိပုံကို သိသိမှတ်မှတ် ပြုခြင်း ဖြစ်၏။

၄။ အာဒီနဝသညာဟူသည်မှာ ခန္ဓာကိုယ်ကြီးပေါ်မှာ ရောဂါမျိုးစုံ ပေါ်ပေါက်လာကြ၍ ကြောက်မက်ဖွယ်ကောင်းပုံကို သိသိ မှတ်မှတ် ပြုခြင်း ဖြစ်၏။

၅။ ပဟာနသညာ ဟူသည်မှာ ကာမဂုဏ် ခံစားလိုသော အကြံ၊ ဖျက်လို ဖျက်ဆီးပြုလိုသောအကြံနှင့် အနိုင်အထက် နှိပ်စက်လိုသော အကြံ များ ပေါ်ပေါက်လာသောအခါ ထိုအကြံများ ရှေ့ဆက်၍ မပွားစေဘဲ ရပ်တန်းက ရပ်သွားစေရန် ကျင့်သုံးသောအားဖြင့် သိသိမှတ်မှတ် ပြုခြင်းဖြစ်၏။

၆။ ဝိရာဂသညာ ဟူသည်မှာ ရာဂကုန်ရာ နိဗ္ဗာန်ကို မျက်မှောက်ပြုသော အားဖြင့် သိသိမှတ်မှတ် ပြုခြင်း ဖြစ်၏။

၇။ နိရောဓသညာမှာလည်း ဝိရာဂသညာအတိုင်း ဖြစ်၏။

၈။ သဗ္ဗလောကေ အနဘိရတသညာ ဟူသည်မှာ လောကတစ်ခုလုံး ကို စွဲလမ်းတွယ်တာမှု မပြုတော့ဘဲလွတ်လွတ်ကြီး နေလိုသောအား ဖြင့် သိသိမှတ်မှတ် ပြုခြင်း ဖြစ်၏။

၉။ သဗ္ဗသင်္ခါရေသု အနိစ္စာသညာ ဟူသည်မှာ သင်္ခါရတရား ဟူသမျှကို စက်ဆုပ်ရွံ့ရှာဖွယ် အဖြစ်ဖြင့် သိသိမှတ်မှတ်ပြုခြင်း ဖြစ်၏။

၁၀။ အာနပါနသတိကိုကား ထွက်လေဝင်လေကို သတိကပ်၍ သုံးသပ် ခြင်းဖြစ်ကြောင်း သိကြပြီးဖြစ်ပါသည်။

ဤသညာဆယ်ပါးကို ဘုရားရှင်ထံမှ ကျေညက်စွာသင်ယူပြီးလျှင် ကျွန်ုပ် သည် အရှင်ဂိရိမာနန္ဒရှိရာသို့ လာခဲ့၏။ အိပ်ရာပေါ်မှာ ပက်လက်ကလေး ရှိနေ

သော အရှင်ဂိရိမာနန္ဒအား ဘုရားရှင်ထံမှ သင်ကြားခဲ့လေသမျှကို တစ်သဝေမတိမ်း ဟောပြလိုက်၏။ ဤတွင်စောစောက ညှိုးနွမ်းနေခဲ့သော မျက်နှာသည် မိုးဆန်းပန်းသို့ လန်းလာခဲ့၏။ ကိုယ်နှာအပေါ်မှာ ထပ်ဆင့်လာသော စိတ်နာများ သက်သာသွားသောကြောင့် ဖြစ်ပါလိမ့်မည်။ စိတ်နာများ ပျောက်ခြင်းသည်ပင် ဤခန္ဓာကိုယ်ကြီး၏ အသက်ရှည်ရာ အနာမဲ့ကြောင်း ဖြစ်ပုံကို နာလန်ထလာသော အရှင်ဂိရိမာနန္ဒက သက်သေခံလျက် ရှိပေသည်။

(အင်္ဂုတ္တရပါဠိတော်၊ ဒသကနိပါတ်၊ သစိတ္တဝဂ်၊ ဂိရိမာနန္ဒသုတ်)

✳✳

# ကျောင်းဒကာကြီး အနာထပိဏ်

ဘုရားရှင်၏ ဓမ္မဒေသနာ ဆေးတော်ကြီးများကိုစားသုံးရသဖြင့် နာလန်ထလာသူများတွင် ကျောင်းဒါယကာကြီး အနာထပိဏ်လည်း အပါအဝင် ဖြစ်ပေသည်။

ဘုရားရှင်နှင့်တကွ ကျွန်ုပ်ရှိနေခိုက်မှာဆိုလျှင် ကျောင်းဒါယကာ ကြီးသည် ကျောင်းတော်သို့ နေ့စဉ်နေ့တိုင်းလာခဲ့၏။ ဘုရားဖူးခြင်း၊ တရားနာခြင်း၊ သံဃာတော်များအတွက် လိုအပ်ရာရာ လှူဒါန်းခြင်းသည် သူ၏ နေ့စဉ်ဝတ္တရားများ ဖြစ်၏။ ယခု နောက်ပိုင်းမှာတော့ ဤဝတ္တရားများကို နေ့စဉ်ရက်ဆက် မပြုနိုင်တော့ပါ။ အသက်အရွယ်က စကားပြောလာပြီမို့ ရက်ပျက်များ ရှိလာခဲ့ပါပြီ။

သည်တစ်ခါဖျားရာမှာကား တော်တော်ပြင်းထန်ဟန် တူပါသည်။ ကျွန်ုပ်တို့ ဒေသစာရီ လှည့်လည်ရာမှ ပြန်ရောက်လာလျှင် လာချင်း သူ့ အလုပ်သမားတစ်ယောက်က အရှင်မဟာသာရိပုတ္တရာထံ လာ၍ လျှောက်၏။ ကျောင်းတော်သို့ မလာနိုင်တော့သော ဒါယကာကြီးထံသို့ ကိုယ်တော်တိုင် ကြွရောက်၍ တရားဟောရန် ဖြစ်၏။ အရှင်မဟာသာရိပုတ္တရာက ခေါ်ယူသဖြင့် ကျွန်ုပ်လည်း နောက်ပါရဟန်း အဖြစ် ကျောင်းဒါယကာကြီးအိမ်သို့ လိုက်လာခဲ့၏။

ပစ္စည်းဥစ္စာ ကြွယ်ဝလှသော ကျောင်းဒါယကာကြီးအဖို့ ဆေးဝါး ဓာတ်စာများ လိုလေသေး မရှိပါ။ သာဝတ္ထိမြို့တော်မှ ကျော်ပေ့ဆိုသော သမားတော်ကြီးများလည်း သူ့ထံပါးမှာ ရှိနေကြ၏။ ထိုဆေးဝါးနှင့် ထိုသမားတော်ကြီးများသည် ကျောင်းဒါယကာကြီး၏ ကိုယ်ခန္ဓာကိုသာ ကုစားနိုင်ကြ၏။ ဓာတ်ကြီးလေးပါးတို့ မညီမမျှ ဖြစ်နေသည်ကိုသာ ညီမျှအောင် ပြုပြင်ပေးနိုင်ကြ၏။ စိတ်ထဲမှာ ခံစားနေရသော ရောဂါကိုကား မည်သို့မျှ မတတ်နိုင်ကြပါ။

စိတ်ထဲမှာ အခံရခက်နေသဖြင့် စိတ်ရောဂါဟု ဆိုလိုက်ရသော်လည်း ကျောင်းဒါယကာကြီး၏ စိတ်ထဲမှာ အလိုဆိုးများကား မရှိနိုင်ပါ။ ဇေတဝန်

ကျောင်းတော်ကြီး ဆောက်လုပ်ပြီးချိန်မှစ၍ ရတနာသုံးပါးအတွက်သာ လုံးပန်းနေခဲ့သော ကျောင်းဒါယကာကြီးသည် ယခုလို နေမကောင်းထိုင်မသာ ဖြစ်လာချိန်တွင် ဘုရားရှင်ကို ပိုမို တမ်းတပေလိမ့်မည်။ သံဃာတော်များကို ပိုမို၍ အားကိုးပေလိမ့်မည်။ ရွှင်လန်း နှစ်သိမ့်ဖွယ်ရာ တရားဒေသနာတော်များကို နေ့စဉ်နေ့တိုင်း နာကြားလိုပေလိမ့်မည်။ သူ တမ်းတသော၊ သူ အားကိုးသော ပုဂ္ဂိုလ်များက သည်ကျောင်းတော်မှာချည့် ကျောက်ချ၍ မနေနိုင်ကြပေ။ အခြားအခြားသော တိုင်းပြည်မြို့ရွာများသို့လည်း အလှည့်ပေးကြရသေး၏။ ထို့ကြောင့် ပစ္စည်းဥစ္စာ လိုရာရနိုင်သော ကျောင်းဒါယကာကြီးအဖို့ ဤမှာဘက်တွင်ကား အလိုမပြည့်နိုင်အောင် ဖြစ်ခဲ့ပေလိမ့်မည်။ အလိုဟူသည် ရုန့်ရင်းကြမ်းတမ်းသော အလိုကြောင့်သာ ဆင်းရဲသည် မဟုတ်ပါ။ သိမ်မွေ့သော အလိုကြောင့်လည်း အထိုက်အလျောက်တော့ ဆင်းရဲဆေးသည်သာ ဖြစ်၏။ အလိုမပြည့်နိုင်သော စိတ်ရောဂါက ဖိစီးနေသဖြင့် သမားတော်ကြီး၏ ဆေးချက်က အစွမ်းမထက် ဖြစ်နေဟန်တူပါသည်။

ကျောင်းဒါယကာကြီး၏ စိတ်ရောဂါကို အရှင်မဟာသာရိပုတ္တရာက ဘုရားရှင်၏ ဆေးတော်ကြီးဖြင့် ကုစားပေး၏။ ဓမ္မဒေသနာတော် ဆေးကြီး ဖြစ်သဖြင့် ကျောင်းဒါယကာကြီး၏ ကိုယ်တွင်းသို့ ခံတွင်းမှ သွင်းပေး၍ မဖြစ်ပါ။ ကျောင်းဒါယကာကြီး၏ စိတ်နှလုံးအတွင်းသို့ နားဝမှ သွတ်သွင်းပေးရပါသည်။

"ကျောင်းဒါယကာကြီး၊ နှလုံးစိတ်ဝမ်း ချမ်းမြေ့စွာ ရှိပါလော့။ သေလွန်ပြီးနောက် အပါယ်လေးပါး ကျရောက်မည့်အရေး တွေးတော၍ ပူပန်ရသူများမှာ ရတနာသုံးပါးကို မကြည်ညိုသူ၊ ကိုယ်ကျင့်သီလ ကျိုးပေါက်သူ၊ မိစ္ဆာအမြင်ရှိသူများသာ ဖြစ်ကြ၏။ ကျောင်းဒါယကာကြီးမှာကား ရတနာမြတ်သုံးပါးကို မတုန်မလှုပ် ယုံကြည်မြတ်နိုး၏။ မကျိုးမပေါက် မပြောက်မကျားသော ကိုယ်ကျင့်သီလရှိ၏။ မှန်ကန်သော အမြင်ရှိ၏။ မှန်ကန်သော အကြံရှိ၏။ မှန်ကန်သော စကားကိုဆို၏။ မှန်ကန်သော အလုပ်ကို လုပ်၏။ မှန်ကန်သော အသက်မွေးမှုရှိ၏။ မှန်ကန်သော လုံ့လဝီရိယ ရှိ၏။ မှန်ကန်သော သတိရှိ၏။ မှန်ကန်သော သမာဓိရှိ၏။ ထို့ကြောင့် သင် ကျောင်းဒါယကာကြီးအား သေလွန်ပြီးနောက် အပါယ်လေးပါး ကျရောက်ရမည့်အရေးကို တွေးတောပူပန်နေစရာ မလိုတော့ပါ"

ဤဆေးများကို အရှင်မဟာသာရိပုတ္တရာ တိုက်ကျွေးသည် မှန်ပါ၏။ သို့သော် အရှင်မြတ်ကြီးက သတိပေးရုံမျှသာဖြစ်ပါသည်။ ကျောင်းဒါယကာကြီး၏ စိတ်သန္တာန်မှာ ခိုင်မာစွာ တည်ရှိနေသော ဂုဏ်ကျေးဇူးများကို ထုတ်ဖော်ချီးကျူးရုံမျှသာ ဖြစ်ပါသည်။

ဤဆေးတော်ကြီးများကို နားဖြင့် သောက်ပြီးနောက် ကျောင်းဒါယကာကြီးသည် ပက်လက်နေရာမှ ထထိုင်တော့၏။ ကျွန်ုပ်တို့ ရောက်လာကတည်းက သူ့ရောဂါတစ်ဝက် သက်သာသွားဟန်တူပါသည်။ ယခု ဓမ္မဒေသနာ ဆေးတော်ကြီးကို မှီဝဲရသည်တွင်ကား သူ့ရောဂါများ သဲလဲစင်သွားကြပေသည်။ သောတာပန်၏ ဂုဏ်အင်္ဂါတို့နှင့် ပြည့်စုံနေသူမှာ ဘယ်အချိန်မှ ရတနာသုံးပါးနှင့် မကင်းကွာကြောင်း သဘောပေါက်သွားသောကြောင့် ဖြစ်ပါလိမ့်မည်။

တစ်ထိုင်တည်းနှင့် နာလန်ထလာသော ကျောင်းဒါယကာကြီးသည် သူစားနေကျ ပန်းကန်များဖြင့် ကျွန်ုပ်တို့နှစ်ပါးအား ဆွမ်းဆက်ကပ်ပါ၏။ ဆွမ်းစားပြီးနောက် အရှင်မဟာသာရိပုတ္တရာက ဆွမ်းအနုမောဒနာ ပြုတော်မူပါ၏။ ကျောင်းဒါယကာကြီးအိမ်မှ ပြန်လာပြီးနောက် ကျွန်ုပ်သည် ဘုရားရှင်ထံတော်မှောက် ဝင်ရောက်ကာ အရှင်မဟာသာရိပုတ္တရာ၏ ဟောကြားချက်များကို တစ်ဆင့် လျှောက်ထားရာ....

"အာနန္ဒာ၊ သာရိပုတ္တရာသည် ပညာရှိပေစွ။ အာနန္ဒာ၊ သာရိပုတ္တရာသည် ပညာကြီးပေစွ။ သောတာပတ္တိမဂ်ဖိုလ်တို့၏ အင်္ဂါတို့ကို ဆယ်မျိုးဆယ်ပုံ ဝေဖန်၍ ဟောကြားနိုင်သည်မှာ ချီးကျူးဖွယ် ကောင်းပေစွ"ဟူသော ချီးကျူးသံကို ကျွန်ုပ် ဝမ်းမြောက်စွာ ကြားနာလိုက်ရပေသည်။

**(မဟာဝဂ်၊ သောတာပတ္တိသံယုတ်၊ ပထမအနာထပိဏ္ဍိကသုတ်)**

ဆေးချက်တွေ့ကာ ကျန်းမာလာပြီးနောက် ကျောင်းဒါယကာကြီးသည် ကျွန်ုပ်တို့ ကျောင်းတော်သို့ နေ့စဉ်မှန်မှန် လာနိုင်ပြန်၏။ ကျောင်းတော်သို့ လာရင်းက တစ်ခါတစ်ရံ တိတ္ထိများ၏ ကျောင်းများသို့လည်း ခြေဦးလှည့်တတ်၏။ သာသနာ့ပြင်ပက ပုဂ္ဂိုလ်များနှင့် တွေ့ဆုံသည့်အခိုက် တရားသဘောများကို နှီးနှောခဲ့ကြသည်ဟု ဆိုပါ၏။

ကျောင်းဒါယကာကြီး ရောက်သွား၍ အပြန်အလှန် နှုတ်ဆက် စကားများ ပြောဆိုကြပြီးလျှင် တိတ္ထိများက....

"ကျောင်းဒါယကာကြီး၊ ဖြေကြားပါလော့။ ရဟန်းဂေါတမသည် မည်သို့သော အမြင် ရှိပါသနည်း"

"အရှင်တို့၊ ဘုရားရှင် သိမြင်ထားသော တရားများကို တပည့်တော် ပြည့်ပြည့်စုံစုံ မသိရသေးပါ ဘုရား"

တိတ္ထိများ၏ မေးခွန်းကို ကျောင်းဒါယကာကြီးက လေးစားစွာ ဖြေကြား၏။ အမြင်မတူ အယူခြားနေကြသော်လည်း လူ့စည်းစိမ်ဟူသမျှ စွန့်လွှတ်ထားနိုင်ကြသည်ကို ထောက်ထား၍ပင် ဖြစ်ပါလိမ့်မည်။

"ကျောင်းဒါယကာကြီး၊ ရဟန်းဂေါတမ၏ တရားအားလုံးကို ပြည့်ပြည့်စုံစုံ မသိရသေးလျှင် ရှိစေတော့။ ရဟန်းများ၏ အမြင်ကိုသာ ဖြေကြားပါလော့"

"ရဟန်းတော်များ သိမြင်ထားသော တရားများကိုလည်း တပည့်တော် ပြည့်ပြည့်စုံစုံ မသိရသေးပါ ဘုရား"

တိတ္ထိများမေးလေသမျှကို ကျောင်းဒါယကာကြီးကတော့ ငြင်းဆိုလျက်သာ ရှိနေ၏။ သို့သော် တိတ္ထိများကတော့ လက်မလျှော့ကြသေးပါ။

"ရှိစေတော့ ကျောင်းဒါယကာကြီး။ ရဟန်းများ၏ တရားအားလုံးကို ပြည့်ပြည့်စုံစုံ မသိရသေးလျှင် သင့်အမြင်ကိုသာ ဖြေကြားပါလော့"

"အရှင်တို့၊ တပည့်တော်၏ အမြင်ကို ဖြေကြားဖို့ကား မခက်ခဲပါ။ သို့သော် တပည့်တော် မဖြေကြားမီ အရှင်တို့၏ တရားများကို နာကြားလိုပါသေးသည်။ ကြားနာပြီးလျှင် တပည့်တော်ဘက်က ဆက်လက်ဖြေကြားမည် ဖြစ်ပါသည် ဘုရား"

ဤသို့ ပြောလိုက်သည့်နောက်ဝယ် တိတ္ထိရဟန်းများ၏ တရားမျိုးစုံ ထွက်အန်လာကြ၏။ သူတို့သည် ကျွန်ုပ်တို့ သာသနာတော်ကြီးကို အတိုက်အခံ ပြုခဲ့ကြ၏။ သို့သော် သူတို့အချင်းချင်းကား မညီညွတ်ကြပါ။ တချို့က ဤလောကကြီးကို မြဲသည်ဟု ယူဆကြ၏။ တချို့ကတော့ သူတို့နှင့် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်ကာ ဤလောကကြီးကို မမြဲဟု ယူဆကြပြန်သည်။

ဤသာသနာနှင့် ထပ်တူထပ်မျှ သူတို့တစ်တွေ အလေးထား၍ အငြင်းပွားနေကြသည်မှာ ဤလောကကြီးသည် အဆုံး ရှိ, မရှိ၊ ဇီဝနှင့် ခန္ဓာကိုယ်သည် အတူတူလော, တခြားစီလော၊ သတ္တဝါများ သေဆုံးပြီးနောက် ဘဝဆက်သေးသလော၊ ဘဝပြတ်သွားသလော စသည်တို့ဖြစ်၏။ ဤပြဿနာများထဲမှ တစ်ခုခုကို စွဲယူထားမိသူသည် မိမိစွဲယူထားသည်ကိုသာ အမှန်ဟု တစ်ထစ်ချ သတ်မှတ်ထား၏။ အခြား အယူအဆကိုကား အားလုံး အမှားချည့်ကြွေးကြော်ကြ၏။

သူတို့နယ်ပယ်မှာ ယခုထက်တိုင်ရေးကြီးခွင်ကျယ် လုပ်နေရသော အယူအဆများကို အသီးသီး တင်ပြပြီးနောက် ကျောင်းဒါယကာကြီးက ကတိထားခဲ့သည့် အတိုင်း မိမိအမြင်ကို တင်ပြပေသည်။

"အရှင်တို့၊ အရှင်တို့ထဲမှ တစ်ပါးသော ပုဂ္ဂိုလ်သည် ဤလောကကြီးသည် မြဲ၏ဟု ဆိုခဲ့၏။ ထိုအဆိုကို တပည့်တော်က အမှား အမှန် မဝေဖန်လိုပါ။ သူ့ဘာသာရှိနေသော လောကကြီးကို တပည့်တော်က မြဲသည်၊ မမြဲသည်လုပ်၍ ခေါင်းရှုပ် ခံမနေချင်ပါ။ တပည့်တော် နားလည်ထားသည်မှာ ဤသို့ တစ်ထစ်ချ ယူစွဲထားခြင်းသည်ပင် အမြင်မှားခြင်း ဖြစ်နေပါသည်။ တရားကိုယ်ကောက်လျှင် ဒိဋ္ဌိစေတသိက်ကို ရပါသည်။ ထိုဒိဋ္ဌိသည် မိမိကိုယ်တိုင်က မသင့်မတင့် နှလုံးသွင်း

မိ၍သော်လည်းကောင်း၊ သူတစ်ပါး၏ ပြောကြားချက်ကို ကိုယ်ပိုင်ဉာဏ်ဖြင့် မဝေဖန်ဘဲလက်ခံစွဲယူ လိုက်မိ၍သော်လည်းကောင်း ဖြစ်ပေါ်လာရပါသည်။ ထိုဒိဋ္ဌိ စေတသိက်သည် အစဉ်ထာဝရ တည်နေနိုင်သော တရားမဟုတ်ပါ။ သူ့အလို အလျောက် ပေါ်ပေါက်လာရိုး မရှိပါ။ အထက်ပါအကြောင်းနှစ်ရပ်ဖြင့် စေ့ဆော် ပြုလုပ် ပေးပါမှ ဖြစ်လာရသော တရားဖြစ်ပါသည်။ အကြောင်းကိုစွဲ၍ ဖြစ်ပေါ်လာ သော အကျိုးတရားဖြစ်ပါသည်။ အကြောင်းရှိမှ ပေါ်လာရသော တရားဖြစ်၍ ထိုဒိဋ္ဌိ စေတသိက်သည် အမြဲမရှိပါ။ မမြဲသော သဘောသည်ပင် ဆင်းရဲဒုက္ခ ဖြစ်နေ ပါသည်။ ထို့ကြောင့် အယူဝါဒရှင်သည် ကိုယ့်အယူနှင့်ကိုယ် ဆင်းရဲတွင်း သက်ဆင်း နေရပါသည် ဘုရား"

လောကကြီးသည် မြဲပါသည်ဟုယူစွဲထားသော ပုဂ္ဂိုလ်ကို ဤသို့ လျှောက်ထား ပြီးနောက် ဆက်လက်၍ လောကကြီး မမြဲပါဟု ယူစွဲသော ပုဂ္ဂိုလ်ကိုလည်း ဤနည်းအတိုင်းပင် ကျောင်းဒါယကာကြီးက လျှောက်ထားခဲ့၏။

ဤနေရာတွင်ကျွန်ုပ်တို့ စဉ်းစားရန် ရှိနေပါသည်။ လောကကြီး မြဲပါသည်ဟု ယူစွဲထားခြင်းသည် အမြင်မှားသက်သက်သာဖြစ်၍ ဒိဋ္ဌိဟု ဆိုရပါမည်။ ဤအဆိုကို အလွယ်တကူ လက်ခံနိုင်ကြမည်ဖြစ်သော်လည်း နောက်တစ်မျိုး အတွက်ကား အတွေးရခက်စရာ ရှိလာပါသည်။ ဘုရားရှင် ကိုယ်တော်တိုင်က သင်္ခါရတရားမှန်သမျှ မမြဲကြောင်း ဟောကြားတော်မူခဲ့၏။ ယခု ပုဂ္ဂိုလ်ကလည်း သင်္ခါရ လောကကြီး၏ မမြဲပုံကိုပင် တင်ပြထားပါ၏။ သို့ပါလျက် သူ့အယူကို အဘယ့်ကြောင့် ဒိဋ္ဌိ စာရင်းထဲ ထည့်လိုက်ရပါသနည်း။

ဤသို့ စဉ်းစားရခက်နေပါက ကျောင်းဒါယကာကြီး၏ စကားထဲမှာပင် အဖြေ ရှာကြစေလိုပါသည်။ ဤလောကကြီးကို မြဲ၏ဟု ဆိုချင်ဆို၊ မမြဲပါဘူးဟု ဆိုချင်ဆို။ ဤအဆိုများကို ကျောင်းဒါယကာကြီးက အမှားအမှန် မဝေဖန်ပါ။ သူ့ဘာသာရှိနေသော လောကကြီးကို မြဲသည် မမြဲသည် လုပ်၍ ခေါင်းရှုပ်ခံမနေပါ။ မိမိနှစ်သက်သော အချက် တစ်ခုခုအပေါ်မှာ လေ့နံ့ဓားထစ် စွဲယူထားခြင်းကိုသာ ဒိဋ္ဌိဟုကောက်ယူခြင်းဖြစ်ပါသည်။ မိမိ၏ အယူသာ မှန်၏။ အခြားအယူများ လုံးဝ မမှန်ကန်ဟူသော စကားရပ်များကလည်း ဤသို့ ကောက်ယူရန် လမ်းညွှန်လျက် ရှိကြပေသည်။

ဤသို့အားဖြင့် မမြဲသော လောကကို မမြဲဟု စွဲယူထားသော ငါ့အယူ၊ ငါ့အမြင်၊ ငါ့တရား စသည်ဖြင့် ငါ တစ်လုံးကို ရှေ့တန်းတင်လိုက်သည်နှင့် တစ်ပြိုင် နက် ဒိဋ္ဌိစာရင်း ဝင်သွားရတော့၏။ သူဆိုသည့်အတိုင်း လောကကြီး မမြဲသည်မှာကား အမှန်ဖြစ်၏။ သို့သော် အမှန်ပေါ်တွင် ဉာဏ်မကပ်လာသရွေ့ကား အမှန်တရားက

မကာယ်နိုင်ပါ။ အမှန်ကို လက်ကိုင်ထားကာ ငြင်းခုံနေရင်းကပင် ဒိဋ္ဌိလက်တွင်း သက်ဆင်းရပေသည်။

ထို့ကြောင့် ကျောင်းဒါယကာ အရိယာသာဝကကြီးသည် ဒိဋ္ဌိ၏ လက်ညှိုး ညွှန်ပြရာနောက်သို့ လိုက်ပါ၍ ကြည့်မနေတော့ဘဲ လက်ညှိုး ညွှန်ပြနေသော ဒိဋ္ဌိကိုသာ တိုက်ရိုက်ကြည့်ခဲ့၏။ လက်ညှိုးက ညွှန်ပြထားသော လောကကြီး မြဲ၊ မမြဲကို ခေါင်းရှုပ်ခံ စဉ်းစားမနေတော့ဘဲညွှန်ပြနေသော လက်ညှိုးကိုသာ တိုက်ရိုက် ကြည့်၍ ချေျာက်ထားလိုက်ပေသည်။

ဤသို့ အချက်ကျကျ ချေျာက်ထားပြီးလျှင် မိမိကိုယ်တိုင် ဒုက္ခချုပ်ရာ စခန်းသို့ တက်လှမ်းခဲ့ပုံကို တိတ္ထိရဟန်းတို့အား ကျောင်းဒါယကာကြီးက ချေျာက် ထားခဲ့ပေသည်။

အယူဝါဒ ကွဲပြားသူတို့ အလယ်တွင် မိမိသိမြင်ထားသော တရားသဘောကို အချက်ကျကျ ရှင်းပြနိုင်သည့်အတွက် ဇေတဝန်ကျောင်း ဒါယကာကြီးအား သိက္ခာ ဝါတစ်ရာရပြီးသော မထေရ်ကြီးနှင့်နှိုင်းယှဉ်ကာ ဘုရားရှင် ချီးမွမ်းတော်မူရပေသည်။

**(အင်္ဂုတ္တရပါဠိတော်၊ ဒသကနိပါတ်၊ ဒုတိယပဏ္ဏာသက၊ ဉပါလိဝဂ်၊ ကိံဒိဋ္ဌိကသုတ်)**

တရားသဘောနှင့်ပတ်သက်၍ အမြင်ရှင်းခဲ့သော ကျောင်းဒကာကြီးသည် လူမှုရေးမှာလည်း အမြင်ရှင်းရှင်း ထားတတ်ပုံကို တင်ပြရပါဦးမည်။

ကျောင်းဒါယကာကြီး၏ အိမ်သည် သာယာသော ဆိပ်ကမ်းသဖွယ်ဖြစ်၍ လူဝင်လူထွက် စဲသည်မရှိ။ စီးပွားရေးနှင့် ဆက်စပ်၍ ရောက်လာကြသည်လည်း ရှိ၏။ ဆွေမျိုးဆက်စပ်၍ ရောက်လာကြသည်လည်း ရှိ၏။ လူမှုဝတ္တရား ကျေပွန်လှသဖြင့် လာလာသမျှ ဆွေမျိုးမိတ်သင်္ဂဟအပေါင်းသည် အိမ်ရှင်များအပေါ် ကျေနပ်ကြပါ၏။ သို့သော် သည်အိမ်မှာ အတွင်းလူလုပ်နေသော လူတစ်ယောက် ကိုကား သူတို့ မကျေနပ်နိုင်အောင် ဖြစ်နေကြ၏။ မကျေနပ်ရခြင်းအကြောင်း ကလည်း မည်မည်ရရ ရှိသည်တော့ မဟုတ်ပါ။ မိဘများက ချစ်စနိုး ကျီစယ်သော သဘောဖြင့် အမှတ်မထင် ခေါ်ဝေါ်ခဲ့ကြသော နာမည်ကြောင့်သာ ဖြစ်ပါ၏။ သူ့ နာမည်ကား 'ကာဠကဏ္ဏီ' ဟူပါ၏။

ကာဠကဏ္ဏီဟူသည်မှာ လူယုတ်မာဟု အဓိပ္ပာယ်ရ၏။ သို့သော် ကာဠ ကဏ္ဏီကား စိတ်ဓာတ်အားဖြင့် ယုတ်ညံ့မှုမရှိပါ။ စိတ်ဓာတ်အားဖြင့် မယုတ်ညံ့၍ပင် ငယ်သူငယ်ချင်းချင်း ယခုထက်တိုင် ခိုင်မြဲနေကြခြင်းဖြစ်၏။

စိတ်ဓာတ်အရာ မယုတ်မာသော ကာဠကဏ္ဏီသည် ကံမကောင်း အကြောင်း မလှခိုက်မှာကား စီးပွားပျက်ကိန်းနှင့် ကြုံရရှာ၏။ မိမိဘာသာ နာလန်ထူရန် မစွမ်းနိုင်တော့သဖြင့် ငယ်သူငယ်ချင်းထံ ခိုဝင်လာရ၏။ ကျောင်းဒါယကာကြီး

ကလည်း မြေမှုန့်ကစားဖက် သူငယ်ချင်းကို အခိုင်းအစေအရာမှာ မထားပါ။ မိသားစုနှင့် အတူနေအတူစား ထားခဲ့၏။ မကြာမီပင် ကာဠကဏ္ဏိသည် ယုံကြည်အားကိုးရသော အတွင်းလူ တစ်ယောက် ဖြစ်လာတော့၏။

ခေတ္တခဏသာ ရောက်လာကြသူများသည် ကာဠကဏ္ဏိ၏ အရည်အချင်းကို မသိကြ။ သူတို့ သိသည်မှာ နားကလောလှသော အမည်ဆိုးကြီးသာ ဖြစ်၏။ ထို့ကြောင့် ကျက်သရေမင်္ဂလာမရှိသော ဤသူကို အိမ်မှနှင်ထုတ်ရန် တိုက်တွန်းကြ၏။ သို့သော် ကျောင်းဒါယကာကြီးကား သူတို့စကားကို နားမထောင်နိုင်ပါ။ အမည်ဟူသည် အလွယ်တကူ ခေါ်နိုင်ရုံမျှသာ ပညတ် ထားရပုံ၊ အမည်အပေါ်မှာ ပညာရှိတို့ အလေးတမူ မရှိကြပုံများကိုသာ ပြောပြရ၏။

သို့နှင့် ကျောင်းဒါယကာကြီးသည် မိမိ၏ လယ်လုပ်သားရွာကြီးသို့ ခရီးထွက်လာခဲ့ရာ အိမ်တွင် ကာဠကဏ္ဏိက အကြီးအမှူးလုပ်နေရ၏။ အိမ်ရှင်သူဌေး မရှိတော့ဟူသော သတင်းစကားဖြင့် တစ်ညသောအခါ ဓားပြတို့ ချဉ်းကပ်လာကြ၏။ ကာဠကဏ္ဏိကလည်း ကျောင်းဒါယကာကြီး မရှိခိုက်တွင် သူ့တာဝန် လုံးလုံးဖြစ်နေ၍ တစ်ညလုံး နိုးနိုးကြားကြား နေခဲ့သဖြင့် ဓားပြများ လက်ရမဦးခင် အသင့်ပြင်ဆင်ပြီး ဖြစ်နေ၏။ အိမ်နေသူအပေါင်းကို ဦးဆောင်ကာ ဓားပြများကို အိမ်ထဲမှ ခုခံကာကွယ်၏။ အိမ်ရှင်သူဌေး မရှိခိုက်အလွယ်တကူပင် ဝင်နိုင်လိမ့်မည်အထင်နှင့် လာခဲ့သော ဓားပြများသည် ပါလာသမျှလက်နက်များကို စွန့်ပစ်ကာ အသက်လု၍ ပြေးခဲ့ကြရပေသည်။ ဤသို့အားဖြင့် လူတစ်ယောက်အတွက် နာမည်သည် အဓိက မဟုတ်။ စိတ်ဓာတ်အရည်အချင်းသာ အဓိကဖြစ်ပုံကို ကျောင်းဒါယကာကြီးကိုယ်တိုင် သက်သေထူနိုင်လာပေပြီ။

**(ဧကနိပါတ် ဇာတ်အဋ္ဌကထာ၊ ကာဠကဏ္ဏိဇာတ်၏ ပစ္စုပ္ပန်ဝတ္ထု)**

ကာဠကဏ္ဏိအပေါ် သူငယ်ချင်းကောင်းပီသစွာ ဆက်ဆံခဲ့သော ကျောင်းဒါယကာကြီးသည် သားသမီးများအတွက်လည်း တာဝန်ဝတ္တရား ကျေပွန်ခဲ့ပါ၏။ ကျောင်းဒါယကာကြီးတွင် သားတစ်ယောက်၊ သမီး နှစ်ယောက်ရှိရာ သမီးနှစ်ယောက်ကား မိဘခြေရာ နင်းနိုင်ကြပါ၏။ သဒ္ဓါရော ပညာပါ ပြည့်စုံကြပါ၏။ သားဖြစ်သူ မောင်ကာလမှာကား မိဘခြေရာ အသာထား၍ နမများနှင့်ပင် မယှဉ်နိုင်ပေ။

နေ့စဉ်နှင့်အမျှ သူတို့အိမ်တွင် သင်္ကန်းရောင်တွေ ထိန်ထိန်ဝင်းနေ၏။ နေ့စဉ်လိုလို တရားသံတွေ ကြားနာနေရ၏။ သို့ပါလျက် မောင်ကာလသည် မည်သည့် ရဟန်းသံဃာနှင့်မျှ အကျွမ်းတဝင် မရှိပေ။ သည်တံခါးက ရဟန်းများ ဆွမ်းခံကြွလာလျှင် ဟိုတံခါးက ခပ်သုတ်သုတ်ထွက်သွား၏။ တရားသံ ဆိုသည်မှာလည်း သူ့အတွက် နားငြီးစရာချည်း ဖြစ်ခဲ့၏။ သူ့နားမှာ ထာဝစဉ် ကြားချင်

နေသည်ကား ကြွေအံမှ ကြွေစေ့များပစ်ချသံဖြစ်၏။ သူငယ်ချင်း အပေါင်းအသင်းတို့၏ ဟေးလားဝါးလား အော်ဟစ်သံများ ဖြစ်ကြ၏။

ကျောင်းဒါယကာ အရိယာသာဝကကြီးက သားတစ်ယောက်ကို အပျော်အပါး အကစားဘက်လိုက်ရန် ခွင့်ပြုထားပါသလောဟုဆိုလျှင် တမင်တကာ ခွင့်ပြုထား သည်တော့ မဟုတ်ပါ။ တားမနိုင်၊ ဆီးမရသဖြင့် လက်လျှော့ထားရခြင်းသာ ဖြစ်၏။ စီးပွားရေး၊ လူမှုရေးများ၌ အကွက်စေ့စေ့ ဆောင်ရွက်နိုင်ခဲ့သော ကျောင်းဒါယကာ ကြီးသည် သည်သားအရေးမှာကား ဟာကွက် ပေါ်နေခဲ့၏။ ဤသို့ ပေါ်လာရ ခြင်းမှာလည်း အရည်အချင်း မရှိ၍တော့ မဟုတ်ပါ။ အရည်အချင်း အပေါ်မှာ သားတည်းဟူသော ချစ်ခြင်းမေတ္တာက ဖုံးလွှမ်းထား၍သာ ဖြစ်ပါလိမ့်မည်။

အထွေးဆုံးသော သားကလေးဟူ၍ အစစ အလိုလိုက်ခဲ့လေသမျှ အမိုက်အားပေး ဖြစ်ခဲ့ရ၏။ မိဘများ မပြောရက်၊ မဆိုရက်ဖြစ်ခဲ့လေသမျှ မောင်ကာလ ရောင့်တက်ဖို့ချည်း ဖြစ်နေ၏။ ဤအခြေအနေကို စောစောက ကြိုတင်၍ မြင်ထားလျှင် ကောင်းလေစွ။ သို့သော် ယခုတော့ မောင်ကာလ အရိုးရင့်လာချေပြီ။ အရိုးရင့်လာသည်နှင့်အမျှ သူ့အလေ့အကျင့်များကလည်း စွန့်နိုင်ပယ်နိုင်ဖို့ ခက်ခဲလာချေပြီ။

သည်အချိန်ကျမှ သည်သားကို အတင်းအကျပ် ဆုံးမ၍ ရပါဦးမည်လော။ ရနိုင်သည် ဆိုစေဦးတော့၊ ကျောင်းဒါယကာကြီးမှာ အကျပ်မကိုင်ရက်ပါ။ နဂိုက စိတ်နှလုံး နူးညံ့ရသည့်အထဲတွင် ကျောင်းအစ်မကြီး မျက်နှာကိုလည်း ကြည့်ရသေး၏။ သားနှင့်ပတ်သက်လာလျှင် သူက အဖြစ်သည်းလှ၏။ သားမျက်နှာ ကွက်ခနဲ ပျက်သွားလျှင်ပင် သူ့မှာ အစားခက် အနေခက် ဖြစ်ရတော့၏။ ကျောင်းဒါယကာကြီးကဲ့သို့ တရားလက်ကိုင် မခိုင်မြဲသေးသဖြင့် ပူစရာရှိလျှင် ဆောက်တည်ရာ မရလောက်အောင် ပူတော့၏။ သူအဖြစ်သည်းလွန်း၍ပင် သည်ကလေး သည်မျှလောက် ပေပေတေတေ ဖြစ်လာရသည်ဟု ဆွေမျိုးများက ဆိုကြ၏။

ဆွေမျိုးများက အမြင်မတော် အကြားမတော်၍ ဆိုကြသော်လည်း ကျောင်းဒါယကာကြီးကတော့ မဆိုရက်ပါ။ သားဆိုးကို အပြစ်မဆိုရက် သကဲ့သို့ မယားအပေါ်မှာလည်း ကရုဏာ သက်ရပေသည်။ သို့ဖြစ်၍ အမေလည်း မျက်ရည်မကျရ၊ သားလည်း စိတ်မညစ်ရသော နည်းလမ်းကိုသာ ရှာကြံရပါမည်။

ကျောင်းဒါယကာကြီး၏ အကြံဉာဏ်သည် ဝါတွင်း ဥပုသ်နေ့ တစ်နေ့မှာ အကောင်အထည် ပေါ်လာပါ၏။ ကျွန်ုပ်တို့ ကျောင်းတော်သို့ ရောက်ခဲ့လှသော မောင်ကာလသည် ထိုနေ့မှာပင် ဆိုက်ဆိုက်မြိုက်မြိုက် ရောက်လာပါ၏။ လူကြီးသူမ

ဥပုသ်သည်များနှင့်အတူ ဘုရားရှင့် ရှေ့တော်မှောက်မှာ ဥပုသ်သီလ ဆောက်တည်ပါ၏။ သို့သော် ဥပုသ်သည် အသစ်စက်စက် မောင်ကာလကို နေ့လယ်တရားပွဲမှာကား မတွေ့ရတော့ပါ။ တချောင်ချောင် သွား၍ အိပ်နေဟန်တူပါသည်။

ဥပုသ်စောင့်ခြင်း ဟူသည်မှာ ရဟန္တာ အရှင်မြတ်ကြီးတို့၏ အပြုအမူကို အတုယူခြင်း ဖြစ်၏။ ရဟန္တာအရှင်မြတ်ကြီးတို့သည်–

၁။ သူတစ်ပါးအသက်ကို မသတ်ကြကုန်။

၂။ သူတစ်ပါးဥစ္စာကို မခိုးကြကုန်။

၃။ မေထုန်အကျင့်ကို မကျင့်ကြကုန်။

၄။ မုသားစကား မပြောကြကုန်။

၅။ ထန်းရည် အရက် မသောက်ကြကုန်။

၆။ နေ့လွဲညစာ မစားကြကုန်။

၇။ ကခုန် တီးမှုတ်ခြင်း၊ ပွဲလမ်းသဘင် ကြည့်ရှု နားထောင်ခြင်း၊ ပန်းနံ့သာ လိမ်းကျံပန်ဆင်ခြင်း မပြုကြကုန်။

၈။ မြင့်သောနေရာ၊ အဖိုးတန်သော ဖိမ်ခံသောနေရာတို့၌ မနေကြကုန်။

ဤကျင့်ဝတ်များကို ရာသက်ပန်ကျင့်သုံးနေကြသော ရဟန္တာ အရှင်မြတ်ကြီးတို့၏ အပြုအမူကို အတုယူသောအားဖြင့် တတ်စွမ်းနိုင်သမျှ အချိန်ပိုင်းဖြင့် ဒါယကာ ဒါယိကာမများက ကျင့်သုံးတည်ဆောက်ခြင်းကို ဥပုသ်စောင့်သည်ဟု ဆိုရပေသည်။ ကြောင့်ကြဗျာပါရ မရှိ။ ပကတိ အေးချမ်းစွာနေထိုင်တော်မူကြသော ရဟန္တာအရှင်မြတ်ကြီးတို့၏ ချမ်းသာ သုခကို ခံစားနိုင်သမျှ ခံစားကြရန် ဖြစ်ပေသည်။

မောင်ကာလ ဥပုသ်စောင့်လာသည်မှာကား ဤသို့သော ချမ်းသာသုခအတွက် မဟုတ်ပါ။ ဖခင်ကြီးထံမှ ငွေတစ်ရာရရေးအတွက်သာ ဖြစ်ပါ၏။

ဖခင်ပေးသော ငွေတစ်ရာကို အပေါင်းအသင်းများနှင့် သုံးဖြုန်းပစ်လိုက်ပြီးလျှင် နောက်တစ်ဥပုသ်ကျတော့လည်း မောင်ကာလ ရောက်လာပြန်၏။ သည်တစ်ခါတော့ ဥပုသ်ယူရန်မျှသာ မဟုတ်တော့ပါ။ တရားနာသည့် ပရိသတ်များတွင်လည်း သူ့ကို တွေ့လာရပေသည်။

ဥပုသ်သည် မောင်ကာလသည် ထိုညက ကျောင်းမှာပင် နေခဲ့၏။ နံနက်လင်းခါမှ ကျွန်ုပ်တို့နှင့်အတူ မြို့တွင်းသို့ လိုက်ပါလာခဲ့၏။ မောင်ကာလ၏ အမူအရာသည် လာစဉ်တုန်းကနှင့် လုံးဝမတူအောင် ခြားနားလှ၏။ ဘုရားရှင်နှင့် တကွ ရဟန်းတော်များကို စိတ်ပါလက်ပါ အရိုအသေပြု၏။ ကျွန်ုပ်တို့နှင့်အတူ လိုက်ပါရန် ချဉ်းကပ်လာရာတွင် တစ်စုံတစ်ခုသော ကိစ္စအတွက် ရှက်စနိုးဖြစ်

နေသည်ကို ကျွန်ုပ် အခဲခတ်မိ၏။ သူရှက်နေသော ကိစ္စကို သူ့အိမ်ရောက်ခါမှ အတိအကျ သိကြရ၏။ ဘုရားရှင်နှင့်တကွ ကျွန်ုပ်တို့ အားလုံး ဆွမ်းစားပြီးသော အခါ ကျောင်း ဒါယကာကြီးက ငွေတစ်ထောင်ထုပ်ကို သားရှေ့မှာချလိုက်ကာ

"ငါ့သား၊ ကျောင်းတော်သွား၍ ဥပုသ်စောင့်လျှင် ဥပုသ်စောင့်ပြီး တရား နာခဲ့လျှင် ငွေတစ်ထောင်ပေးမည်ဟု ဖခင် ပြောခဲ့ပေသည်။ ယခု ငါ့သား တာဝန် ကျေပွန်ခဲ့ပြီမို့ ငွေတစ်ထောင်ပေးပါတော့မည်။ ငါ့သားလိုရာ အသုံးပြုပါလော့"

တကယ့်အချိန်ကောင်းမှာမှ ကျောင်းဒါယကာကြီးက အကဲစမ်းလိုက်ခြင်း ဖြစ်ပေသည်။ ဘုရားရှင် ဟောကြားသော တရားတော်က သူ့ သားအပေါ် မည်မျှ လောက် ဩဇာသက်ရောက်သည်ကို သိထား၍ပင် ဖြစ်ပါလိမ့်မည်။

ယခင် ဥပုသ်ထွက်တုန်းက သူရထိုက်သည့် ငွေတစ်ရာတိတိကို သူ့လက်ထဲ ထည့်ပါမှ အစားအစာ လက်ခံခဲ့သည်ဟု ဆိုပါ၏။ သည်ကနေ့မှာတော့ ဘာမျှ မရခင်ကပင် စားသောက်ခြင်းကိစ္စ ပြီးခဲ့ပေသည်။ လမ်းတုန်းကပင် ဤအရေးကြောင့် ရှက်အားပိုခဲ့သော မောင်ကာလသည် သူလေးစားသော ဘုရားရှင် ရှေ့တော်မှောက် တွင် ဤငွေကို မည်သို့ ယူရပါမည်နည်း။

"အိမ်ရှင်သူဌေး၊ စည်းစိမ်ဥစ္စာဟူသမျှတို့ထက် အဆတစ်ရာမကသာသော သောတာပတ္တိ မဂ်ဉာဏ် ဖိုလ်ဉာဏ်ကို သင့်သားကာလ ရရှိပြီးပေပြီ"

မောင်ကာလ အဖြေရ ခက်နေဆဲတွင် ဘုရားရှင်က မိန့်မြွက်တော်မူလိုက်၏။

ပူဆာမရှိ၊ ပကတိအေးမြလှသော တရားတော်သည် လှူပေလှူတေ မောင်ကာလ၏ စိတ်နှလုံးကိုပင် ဖုံးလွှမ်းနိုင်စွမ်း ရှိပါပေသည်တကား။

**(ဓမ္မပဒအဋ္ဌကထာ၊ လောကဝဂ်၊ အနာထပိဏ်သူဌေးသား ကာလသတို့သားဝတ္ထု၊ အင်္ဂုတ္တရပါဠိတော်၊ တိကနိပါတ် မဟာဝဂ်၊ ဥပေါသထသုတ်)**

စကားစပ်မိလာသည့်အခိုက် ကျောင်းဒါယကာကြီး၏ ကျေးဇူးဂုဏ် များကို တော်တော်စုံအောင် တင်ပြခဲ့ပါပြီ။ ရတနာသုံးပါးနှင့် တရင်းတနှီး ဆက်ဆံလာခဲ့ သော သာသနာ့ဖခင်ကြီးဖြစ်၍ သူ၏ ဂုဏ်ကျေးဇူးများမှာ ပြောပြ၍ ကုန်နိုင် ခန်းနိုင်ဖွယ် မရှိပါ။ သို့သော် အခြားအခြားသော ကြောင်းခြင်းရာများကို တင်ပြရန် ရှိနေသေးသဖြင့် ကျောင်းဒါယကာကြီး၏ အတ္ထုပ္ပတ္တိကို အဆုံးသတ်ရပါတော့မည်။ အဆုံးသတ်နိုင်ရေးအတွက် အစကို ပြန်ကောက်ရပါဦးမည်။

ဤအခန်းကို စတင် ပြောပြစဉ်က အရှင်မဟာသာရိပုတ္တရာ၏ တရားတော်ကို ကြားနာရ၍ နာလန်ထလာပုံကို ကျွန်ုပ်၏ ပရိသတ်များ ကြားနာခဲ့ကြရ၏။ ဤတွင် ကျွန်ုပ်၏ ပရိသတ်များ လေ့နံ့စားထစ် စွဲယူ မထားရန် ရှင်းပြရပါဦးမည်။ တရားတော်၏ ကျေးဇူးကြောင့် ကျောင်းဒါယကာကြီး နာလန်ထလာခဲ့သည်မှာ

အမှန်ဖြစ်၏။ သို့သော် ထိုအမှန်တွင် အတိုင်းအတာ ရှိနေသည်ကို သတိပြုကြရန် ရှိပါသည်။ ဟိုယခင် ဖျားနာခဲ့စဉ်က ကျောင်းဒါယကာကြီးမှာ ဇီဝဓာတ်အား ကောင်းသေး၏။ ထို့ကြောင့် စိတ်ကို ကုပေးလိုက်ရုံနှင့် ကိုယ်ပါ နာလန်ထနိုင်ခဲ့၏။ ယခုတစ်ခါ ဖျားနာရာမှာတော့ အသက်က စကားပြောလာပြီ ဖြစ်၏။ မီးစာ ကုန်ခါနီး၍ ဆီကလည်း ခန်းလုဆဲဆဲ ဖြစ်နေ၏။ ထို့ကြောင့် သည်တစ်ခါကြွလာ ရာတွင် အရှင်မဟာသာရိပုတ္တရာက နှုတ်ဆက်သော သဘောဖြင့် မဟောဖူးသေး သော တရားတော်ကို ဟောလိုက်ပေတော့သည်။

အရှိန်အဟုန်ကောင်းကောင်းနှင့် ဟောကြားခဲ့သော တရားတော်ကိုအကျဉ်းချုံး လိုက်လျှင် အတွင်းအာယတနခြောက်ပါး၊ အပြင်အာယတန ခြောက်ပါး၊ ဝိညာဏ် ခြောက်ပါး၊ ဖဿခြောက်ပါး၊ ဝေဒနာခြောက်ပါး၊ ဓာတ်ခြောက်ပါး၊ ခန္ဓာငါးပါး၊ အရူပသမာပတ် လေးပါးတို့နှင့်တကွ မျက်မှောက်လောက၊ တမလွန် လောကများ ပါဝင်ကြ၏။ အချုပ်အားဖြင့် မြင်သမျှ၊ ကြားသမျှ၊ တွေ့ထိထားသမျှ အပေါ်ဝယ် အစွဲအလမ်း မထားဘဲ လွတ်လွတ်ကြီး နေနိုင်စေရန် အရှင်မဟာသာရိပုတ္တရာက တရားပြ၍ ဆုံးမပေးသည်။

ယခင်တစ်ခါ တရားနိဂုံးချုပ်စဉ်တုန်းက ပျော်စရာ ရွှင်စရာကောင်းခဲ့ သလောက် ယခု တရားပွဲမှာတော့ ဝမ်းနည်းစရာများဖြင့် နိဂုံးချုပ်လိုက်ရ၏။ တရား တော်ဆုံးသွားသည်နှင့် ကျောင်းဒါယကာကြီး မျက်ရည်ဖြိုင်ဖြိုင် ကျလာသောကြောင့် ဖြစ်ပါသည်။

"ကျောင်းဒါယကာကြီး၊ စည်းစိမ်ဥစ္စာကို အစွန့်ရ အခွာရ ခက်နေပါသလား"

ကျောင်းဒါယကာကြီးအား နှစ်သိမ့်ပေးနိုင်ရန် စကားတစ်စ ရလိုရငြား ကျွန်ုပ်က ဤသို့ မေးလိုက်ရာ

"စည်းစိမ်ဥစ္စာများကို အစွန့်ရအခွာရ ခက်နေ၍ မဟုတ်ပါဘုရား။ ဘုရားရှင် နှင့်တကွ အရှင်ဘုရားတို့ထံမှာ ဆည်းကပ်သောအားဖြင့် လေးနက်လှသော တရားဒေသနာများ ကြားနာခဲ့ရပေါင်း များလှပါပြီ။ သို့သော် ဤမျှလောက် တရား အမျိုးမျိုးတွေကို ဝေဖန်၍ ခမ်းခမ်းနားနား ဟောကြားသော တရားကို မနာခဲ့ ရဖူး၍ ငိုကြွေးမိခြင်း ဖြစ်ပါသည် ဘုရား"

ကျောင်းဒါယကာကြီးက အဖြစ်မှန်ကို လျှောက်ထားလိုက်၏။ ဤတွင် အရှင်မဟာသာရိပုတ္တရာက

"ဒါယကာကြီး၊ ဤသို့ တရားအမျိုးမျိုးကို အကျယ်တဝင့် ဝေဖန်၍ ဟော ကြားသော တရားကို ဒါယကာ၊ ဒါယိကာမများ မနှစ်သက်ကြပါ။ သာသနာ့ဝန်ထမ်း ရဟန်းများသာ နှစ်သက်ကြပါသည်။ ထို့ကြောင့် ယခုမှ ဟောရခြင်းဖြစ်ပါသည်"

"ထိုသို့ဖြစ်လျှင် ဒါယကာ၊ ဒါယိကာမများကိုလည်း ဤသို့သော တရားကို ဟောကြားတော်မူပါ ဘုရား။ လူတွေထဲမှာလည်း ပညာဉာဏ် ထက်မြက်သူများ ရှိကြပါသည်။ ကြားရ၊ နာရလျှင် နားလည် သဘောပေါက်ကြပါလိမ့်မည်ဘုရား"

ကျောင်းဒါယကာကြီး၏ စကားကို ဝေဖန်စဉ်းစားရင်း ကျွန်ုပ်တို့သည် ကျောင်းတော်သို့ ပြန်လာခဲ့ကြ၏။ ထိုနေ့ ညနေချမ်းမှာပင် ကျောင်းဒါယကာကြီး ကွယ်လွန်ကြောင်း ကျွန်ုပ်တို့ ကြားသိရပေသည်။

**(ဥပရိပဏ္ဏာသ၊ အနာထပိဏ္ဍိကောဝါဒသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)**

ကျောင်းဒါယကာကြီး ကွယ်လွန်ခြင်းသည် ကျွန်ုပ်၏ တစ်သက်တာ မှတ်တမ်းတွင် အကျခန်းကို နိဒါန်းပျိုးလိုက်ခြင်းဖြစ်၏။ ရှေ့ပိုင်းမှာတုန်းက ဝမ်းမြောက်စရာ အတက်ခန်းများကို အားပါးတရ ကြားနာခဲ့ရပြီမို့ ယခု အကျခန်း ကိုလည်း မလွဲသာ မရှောင်သာ ကြားနာကြရပါလိမ့်ဦးမည်။ သည်ကရှေ့မှာတော့ ဝမ်းနည်းစရာ အခန်းများကို မကြာခဏ ကြားနာကြရပါတော့မည်။

ကျောင်းဒါယကာကြီး ကွယ်လွန်သွားသော်လည်း ကျန်ရစ်သော မိသားစု တို့က သာသနာတော်ကို ယခင်အတိုင်း ပြုစု လုပ်ကျွေးကြပါ၏။ သို့သော် အိမ်ရောက်သွား၍ မြင်နေကျ မျက်နှာကို မမြင်ရသဖြင့် ကျွန်ုပ် စိတ်ထဲမှာ ဟာတိဟာတာ ဖြစ်ခဲ့ရ၏။ တချို့ ရဟန်းများဆိုလျှင် မျက်ရည်တဝဲဝဲ ဖြစ်ကြရ၏။ မိမိတို့ အားလုံးအပေါ် ဖခင်ကြီးသဖွယ် စောင့်ရှောက်လာခဲ့သော ဂုဏ်ကျေးဇူးများကို ယခု သူ မရှိတော့ခါမှ ပို၍ သိလာကြသည် မဟုတ်ပါလော။

ကျောင်းဒါယကာကြီးအတွက် မျက်ရည်ဝဲခဲ့သူများတွင် ကျွန်ုပ် အပါအဝင် ဖြစ်ကြောင်း ဟုတ်တိုင်းမှန်စွာ ဝန်ခံရပါလိမ့်မည်။ အပြန်အလှန် သံယောဇဉ်ကြီးခဲ့ သူများဖြစ်၍ ကျွန်ုပ်စိတ်မှာ ထိခိုက်လှပါသည်။ သို့သော် သူ့အတွက် ဖြစ်ပေါ်ရသော ဒေါမနဿဝေဒနာကို သူ့အတွက် ဟောကြား ခဲ့သော ဒေသနာဖြင့်ပင် ကျွန်ုပ်ဘာသာ ကုစားရပေသည်။

"အိမ့်ရှင်သူဌေး၊ ကောင်းမွန်စွာမိုးထားသော အိမ်၌ ခေါင်အုပ်သည်လည်း မိုးလုံ၏။ အခြင်ရနယ်နှင့် နံရံများသည်လည်း မိုးလုံ၏။ မိုးလုံသဖြင့် မပုပ်မဆွေးဘဲ ကောင်းစွာ တည်တံ့နိုင်ကြ၏။

"ထို့အတူပင် စိတ်တစ်ခုကို စောင့်ရှောက်သည်ရှိသော် ကာယကံလည်း လုံခြုံပြီး ဖြစ်၏။ ဝစီကံလည်း လုံခြုံပြီးဖြစ်၏။ ဒုစရိုက်အပေါင်းမှ လုံခြုံပြီးဖြစ်၍ ကံသုံးပါးလုံး ကောင်းမွန်စွာတည်တံ့နိုင်ကြ၏။ ထိုသို့ ကံသုံးပါးလုံး ကောင်းမွန်သော သူ၏ သေခြင်းသည် ကောင်းသောသေခြင်းပင် ဖြစ်ပေသည်"

ကျွန်ုပ်အကဲခတ်မိလေသမျှတွင် ကျောင်းဒါယကာကြီး၏ ကံသုံးပါးလုံးမှာ အပြစ်တင်လောက်စရာဟူ၍ မမြင်မိပါ။ သို့ဖြစ်၍ သူ၏ သေဆုံးခြင်းသည် ကောင်းသော သေဆုံးခြင်းသာ ဖြစ်ပေသည်။ ဤဒေသနာတော်သည်ပင် ကျွန်ုပ်အတွက် ဖြေဆေးတစ်ခွက် ဖြစ်ပါတော့သည်။

**(အင်္ဂုတ္တရပါဠိတော်၊ တိကနိပါတ်၊ သမ္မောဝဂ်၊ အရက္ခိတသုတ်)**

**

# ကျောင်းအမကြီး ဝိသာခါ

ကျွန်ုပ်တို့ သာသနာတော်ဝယ် ဇေတဝန်ကျောင်းဒါယကာကြီးသည် ဖခင်သဖွယ် ဖြစ်ခဲ့၏။ ထို့အတူပုဗ္ဗာရုံ ကျောင်းအမကြီး ဝိသာခါသည်လည်း ကျွန်ုပ်တို့အားလုံး၏ မိခင်ကြီးသဖွယ် ဖြစ်၏။ လှူဒါန်းပေးကမ်းခြင်း၌ မွေ့လျော်သူများဖြစ်၍ သူတို့နှစ်ဦးစလုံးပင် ဧတဒဂ်ဂုဏ်ထူး ဆွတ်ခူးနိုင်ခဲ့ကြ၏။ ထင်ရှားကျော်ကြားသော သူတို့ အမည်များနောက်ဝယ် အိမ်ထောင်ဖက်တို့၏ အမည်များမှာ မှေးမှိန်၍ နေကြရ၏။ ယောကျ်ား မိန်းမ မဟူ ခေါင်းဆောင်နိုင်သော အစွမ်းသတ္တိရှိလျှင် ရှိသလို နာမည်ကျော်ကြား လူသိများစမြဲ ဖြစ်ပေသည်။

ဇေတဝန်ကျောင်းဒကာကြီးနှင့် ပုဗ္ဗာရုံ ကျောင်းအမကြီးတို့၏ အခြား တူညီချက် တစ်ခုလည်း ရှိခဲ့ပါသေးသည်။ ကျောင်းဒါယကာကြီး အနာထပိဏ်သည် ကျွန်ုပ်တို့ ရှေ့မှောက်မှာပင် မျက်ရည်စက်လက် ဖြစ်ခဲ့ရဖူး၏။ ထို့အတူ ကျောင်းအမကြီး ဝိသာခါသည်လည်း ကျွန်ုပ်တို့ ရှေ့မှာပင် ငိုကြွေးခဲ့ဖူးပေသည်။ သို့သော် ငိုကြွေးသည်မှာ တရားကြောင့်တော့ မဟုတ်ပါ။ သူ့မြေးမလေး သေဆုံးသောကြောင့် ဖြစ်ပေသည်။

ကျောင်းအမကြီးသည် ပစ္စည်းဥစ္စာ ကြွယ်ဝသကဲ့သို့ သားသမီး အကျိုးပေးလည်း ကောင်းလှ၏။ မွေးဖွားသမျှ သားသမီးအားလုံး အဖတ်တင်ကာ ကျန်းမာချမ်းသာစွာ ကြီးပြင်းလာကြ၏။ သား ဆယ်ယောက်၊ သမီး ဆယ်ယောက်။ အားလုံး နှစ်ကျိပ်တိတိ ရှိ၏။ အရွယ်ရောက်ပြီးသော သားသမီးများမှ ပေါက်ဖွားလာသော မြေးများလည်း အပြိုင်းအရိုင်း ရှိလာကြပြီဖြစ်၍ ဤသို့ သားသမီးတွေ၊ မြေးတွေ ပေါသည့်ကြားဝယ် သားတစ်ယောက်မှ ပေါက်ဖွားသော မြေးမကလေးသည် သူ့အသည်းစွဲ ဖြစ်နေ၏။

သူတို့အိမ်သည် ကျွန်ုပ်တို့ အားလုံး၏ မိဘအိမ်သဖွယ် ဖြစ်၏။ တခြားအိမ်များက ဆွမ်းခဲဖွယ် ပြည့်စုံစွာရပြီးသော်လည်း သူတို့အိမ်တော့ ရောက်ဖြစ်သေးသည်သာ ဖြစ်၏။ တစ်ခါတစ်ခါတွင်ကား တခြားသို့ ဆွမ်းခံမထွက်ရတော့ဘဲ သူတို့အိမ်မှာပင် ဆွမ်းကိစ္စ ပြီးစီးခဲ့ကြရ၏။ ဆွမ်းစားပြီးချိန်မှာလည်း မုန့်ခဲဖွယ် ရသာမျိုးစုံကို သုံးဆောင်ရပြန်၏။ ကျောင်းအမကြီး၏ သံဃာ့ဝေယျာဝစ္စကိစ္စများတွင် အခြားမြေးများ၊ သား သမီးများအကူအညီပေးကြသည် မှန်ပါသည်။ သို့သော် သူတို့အားလုံးကို ကျောင်းအမကြီးက အားရလှသည် မရှိပေ။ သူတို့တစ်တွေမှာ ထထကြွကြွ ရှိကြသော်လည်း သဒ္ဓါတရား ထက်သန်ကြသော်လည်း ကျောင်းအမကြီး အားရလောက်အောင် ရှေ့လာဘ်ကို မမြင်တတ်ကြပေ။ နေ့စဉ်ပြုနေကျကိစ္စများကိုပင် ကျောင်းအမကြီးခိုင်းမှ လုပ်တတ်ကြ၏။ သားတစ်ယောက်မှ ပေါက်ဖွားလာသော သည်မြေးမကလေးကား သူတို့ကြားမှာ တစ်မူထူးခြားသူကလေး ဖြစ်၏။ လုံ့လဝီရိယအရာ၊ စေတနာသဒ္ဓါတရားအရာတွင် သူများထက်သာသည်ဟု မဆိုနိုင်သော်လည်း ရှေ့လာဘ်မြင်သော နေရာတွင်ကား သူ့ဘွားအေကြီးကပင် ချီးကျူးရပေသည်။

ရှေ့လာဘ်မြင်သော သည်မြေးမကလေးသည် ဘွားအေကြီးအပေါ် ချစ်အားပိုသလောက် ဘွားအေကြီး၏ အလိုကို သိတတ်၏။ ဘွားအေကြီး စိတ်ကျေနပ်အောင် ပြောဆိုတတ်၏။ သူ့ရုပ်ရည်ကလေးကလည်း လူကြီးသူမများ မေတ္တာသက်ဝင်စရာပင် ဖြစ်၏။ ထို့ကြောင့် သည်ကလေးမအား ဘွားအေကြီး အသည်းစွဲဖြစ်နေခြင်းမှာ စွဲထိုက်၍ စွဲသည်ဟု ဆိုစရာ ဖြစ်ပါပေသည်။ အိမ်တွင်းကိစ္စများတွင် သူ့ကို အားကိုးရသကဲ့သို့ အပြင်အပ ထွက်စရာရှိတော့လည်း သည်မြေးမကလေး ပါမှ သွားတတ်သလို ဖြစ်လာရပေသည်။

ပုဗ္ဗာရုံကျောင်းတော်သို့ ကျောင်းအမကြီး ရောက်လာပြီဆိုလျှင် အခြားအခြားသော မြေးများ၊ သားသမီးများသာ လူလဲနှင့် လိုက်ပါကြ၏။ သည်မြေးမကလေးကား ဘယ်တော့မှ ကျန်ရစ်သည် မရှိပေ။ နံနက်ခင်းမှာဆိုလျှင် စားကောင်းသောက်ဖွယ် ပစ္စည်းများပါလာကြ၏။ ညနေခင်းမှာ ဆိုလျှင် အဖျော်ရှစ်မျိုးတွင် တစ်မျိုးမျိုးသော်လည်းကောင်း၊ ပန်းနံ့သာများသော်လည်းကောင်း ပါလာကြ၏။ ပါလာလေသမျှမှာ သည်ကလေးမ ခေါင်းပေါ်ကချည်း ဖြစ်၏။ ဤသို့ ဘွားအေကြီး၏ လက်ကသုံးတောင်ဝှေး ဖြစ်နေသူကလေးကိုမှ မရဏ ရှင်သေမင်းက ရုတ်တရက် ခေါ်သွားပေပြီ။

နေ့စဉ်လိုလို လှူဒါန်းနေသော၊ နေ့စဉ်လိုလို ဆည်းကပ်နေသော ဘုရားရှင်ထံတော်ပါးမှ ဤသို့သော တရားများကို ကျောင်းအမကြီး ကြားနာရပေါင်း များလှ

ပါပြီ။ ကွေးသောလက် မဆန့်ခင်၊ ဆန့်သောလက် မကွေးခင် သေဆုံးကြသော ဖြစ်ရပ်များကိုလည်း တွေ့ကြုံဖူးပေါင်း များလှပါပြီ။ သို့ပါလျက် ဤသို့ဖြစ်ပျက် သူများထဲတွင် သူချစ်သော မြေးမကလေး ပါဝင်မည်ဟုကား သူတစ်ခါမျှ မတွေး မိခဲ့။ မြေးမကလေးအပေါ် ရစ်သိုင်းထားသော သံယောဇဉ်ကြိုးများက သူ့အသိဉာဏ် ကိုပါ မလှုပ်သာအောင် တုပ်နှောင်ထားကြပေသည်။

ဖြစ်လာသော တရားမှန်သမျှ ပျက်ရသည်ဟူ၍လည်းကောင်း၊ မွေးလာသူ မှန်သမျှ သေရမည်ဟူ၍လည်းကောင်း ဤတရားများကို ဟိုယခင် ခုနစ်နှစ်သမီး အရွယ်ကပင် သူကြားနာလာခဲ့ရ၏။ တကယ်တော့ဖြင့် မိသားစုအသိုက်အအုံ ဟူ၍ ဖြစ်လာခြင်းမှာ ဇရပ်ပေါ်မှာ နားခိုလာကြသော ခရီးသည်များနှင့် ဘာမျှ မခြားလှပေ။ ခရီးသည်များပီပီ အချိန်တန်လျှင် လူချင်းခွဲ၍ ခရီးဆက်ကြရမည့် သူချည်း ဖြစ်၏။ ပေါင်းလာဆုံလာကတည်းကပင် ခွဲခွာရမည့် သဘောက ထက်ကြပ် မကွာ ပါလာပြီးသားဖြစ်၏။ ထို့ကြောင့် အချိန်တန်၍ မိမိရှေ့က ထွက်ခွာသွားသူ များကို မသွားစေလိုသော သဘောဖြင့်မည်သို့ပင် တားဆီးသော်လည်း ရနိုင်မည် မဟုတ်ပါ။ တားဆီး၍ မရနိုင်သော သဘာဝကို တားလို ဆီးလိုသော အလိုအာသဝ တွေ ပြင်းထန်သလောက် ဒုက္ခရောက်ကြရမည်သာ။ ထိုဒုက္ခများ ဖြစ်ပေါ်လာခြင်းမှာ သွားလေသူများကြောင့်ဟု ဆိုရသော်လည်း သွားလေသူများမှာ သဘာဝ သက်သက်မျှ ဖြစ်၍ အဓိကအကြောင်း မဟုတ်ပါ။ တားဆီး၍ မရနိုင်သော သဘာဝကို တားဆီးလိုသော အာသဝများသာလျှင် အဓိကအကြောင်း ဖြစ်ပေသည်။

ဤအကြောင်းများကို ပုဗ္ဗာရုံ ကျောင်းအမကြီး ကောင်းကောင်းသိပြီး ဖြစ်ပါ၏။ အလိုအာသဝတွေကြောင့် ဒုက္ခရောက်ရပုံသာမက အလိုအာသဝတွေ မစွက်ဖက်သဖြင့် ငြိမ်သက်သောသုခကိုလည်း သူကိုယ်တိုင် မျက်မှောက်ပြုခဲ့ဖူးပြီး ဖြစ်ပါ၏။ တစ်ကြိမ် တစ်ခါ မျက်မှောက်ပြုပြီးသည်နောက် ဘာဝနာအား ကောင်းကောင်းနှင့် ဆက်ကာ ဆက်ကာ ပွားများပါလျှင် ဤဒုက္ခများမှ ရာနှုန်းပြည့် လွတ်မြောက်မည်ဖြစ်၏။ သို့ပါလျက် သူက ဘာဝနာအမှုကို လျစ်လျူရှုခဲ့၏။ ဘာဝနာအမှု ပြုမည့်အစား လူ့ရေးတန်းရေးများသာ လုံ့လစိုက်ခဲ့၏။ ထို့ကြောင့် သူသိထားသော တရားကြီးက သူ့ကို မကယ်နိုင်တော့ဘဲ သောက ပရိဒေဝတို့ နှိပ်စက်တိုင်း ခံနေရခြင်း ဖြစ်ပေ သည်။

ရင်ထဲက အပူဒဏ်ကို ခံနိုင်ရည်ရှိလေမည်လောဟု ကျောင်းအမကြီး တစ် ကိုယ်လုံးကို ရေလောင်း၍ ပေးကြရ၏။ ဆံပင်များရော အဝတ်များပါ ရွှဲရွှဲစို၍ နေကြ၏။ ဤသို့သော ပူပုံမျိုးဖြင့် ချစ်လှသော မြေးမကလေးကို သုသာန်ထိ လိုက်ပို့ ခဲ့၏။ သုသာန်က ပြန်လာလျှင်ကား သူ့အိမ်သို့ မလိုက်သေးပေ။ အိမ်ရောက်၍

မြေးမကလေး၏ ခြေရာလက်ရာကလေးများကို မြင်လိုက်ရလျှင် သူ ဆောက်တည်နိုင်တော့မည် မဟုတ်ပေ။ သူ့ ဒုက္ခကို ကယ်တင်နိုင်သည်မှာ ဘုရားရှင်သာ ရှိတော့သည်။ တောက်လျှောက် မေ့လျော့လာသည့်ကြားမှ ယခုလို သတိရလာသည်မှာ သူ့အတွက် ကံကောင်းထောက်မခြင်းသာ ဖြစ်၏။ ကျောင်းအမကြီး ကံကောင်းသကဲ့သို့ သောကငြိမ်းကြောင်း တရားကောင်းတစ်ပုဒ် ရလိုက်သဖြင့် ကျွန်ုပ်တို့တစ်တွေလည်း ကံကောင်းသူများ ဖြစ်ကြပါသည်။

"ဝိသာခါ၊ ခေါင်းရောကိုယ်ပါ ရေစွတ်စိုလျက် အဘယ့်ကြောင့် ရောက်လာရပါသနည်း"

ရှေ့တော်မှောက်သို့ ရောက်လာသည်နှင့် ဘုရားရှင်က မေးတော်မူ လိုက်ရ၏။ အကြောင်းမှန်ကို သိပြီးဖြစ်သော်လည်း စကားစထွက်ရန် လမ်းခင်းပေးရခြင်းဖြစ်ပေသည်။ ဘုရားရှင်ခင်းပေးသော လမ်းပေါ်သို့ ကျောင်းအမကြီးက မျက်ရည်စက်လက်နှင့် လျှောက်လာခဲ့သဖြင့်

"ဝိသာခါ၊ သင့်မှာ သားဆယ်ယောက်၊ သမီး ဆယ်ယောက်ရှိပြီးဖြစ်၏။ မြေးတွေကလည်း များလှစွာ၏။ အကယ်၍ သာဝတ္ထိမြို့တော်ရှိ လူဦးရေနှင့်အမျှ သားတွေ၊ မြေးတွေ ရဦးမည်ဆိုလျှင်ကော သင် လိုချင်ပါဦးမည်လော"

မေ့လျော့နေသော တရားများ ပြန်ပေါ်လာစေရန် ဘုရားရှင်က မေးခွန်းထုတ်တော်မူလိုက်ရ၏။ ဤမေးခွန်းကို သားသမီးတွေ တစ်လှေကြီးဖြင့် သိုက်သိုက်ဝန်းဝန်း နေလာခဲ့သော ကျောင်းအမကြီးက 'လိုချင်ပါသေးသည် ဘုရား' ဟု လျှောက်၏။

"ဝိသာခါ၊ ဤသို့ဆိုလျှင် တစ်ဆင့် မေးပါဦးမည်။ သာဝတ္ထိမြို့တော်ကြီးမှာ တစ်ရက် တစ်ရက်တွင် လူမည်မျှလောက် သေဆုံးကြပါသနည်း"

"တစ်ရက် တစ်ရက် သေဆုံးသူများမှာ တစ်ခါတစ်ရံ ဆယ်ယောက်တိတိပင် ရှိပါသည်။ ထို့ထက်နည်းသော ရက်များလည်း ရှိပါသည်။ သာဝတ္ထိ မြို့တော်ကြီးဝယ် လူမသေသော နေ့ရက်ဟူ၍ကား မရှိပါဘုရား"

"ကောင်းပြီ ဝိသာခါ။ သတိထား၍ ဖြေပါဘိ။ ဤသို့သာဆိုလျှင် သင့်အတွက် ဆံပင်ရေမစိုသောရက်၊ အဝတ်ရေမစိုသောရက် ဟူ၍ ရှိပါဦးမည်လော"

"မရှိနိုင်တော့ပါ ဘုရား။ ထိုမျှလောက် များလှသော သားသမီးတွေ၊ မြေးတွေကို မလိုချင်တော့ပါ ဘုရား"

"ဟုတ်ပေသည် ဝိသာခါ။ ချစ်ရ ခင်ရမည့်သူများသလောက် ဒုက္ခများစွာ ရောက်ကြရပေသည်။ ချစ်ခင်တွယ်တာမှု လုံးဝမရှိ၊ ပကတိ လွတ်လပ်သူများကား ဤမျက်မှောက်ကာလမှာပင် ဆင်းရဲဒုက္ခအပေါင်းမှ လွတ်လပ်ပြီး ဖြစ်ကြ၏။

စိုးရိမ်ပူဆွေး ငိုကြွေးရခြင်း မရှိ။ ချမ်းသာခြင်းအတိ ပြီးသူများဟူ၍ ငါဘုရား ဟောကြားတော်မူ၏"

"သဘောပေါက်ပါပြီ အရှင်ဘုရား"

ဟိုယခင်က မျက်မှောက်ပြုထားခဲ့သော လွတ်မြောက်ရာတရားကို သူ ပြန်၍ သတိရလာပေပြီ။ ကျောင်းအမကြီးဝိသာခါ သတိရ၍ ချမ်းသာသကဲ့သို့ ကျွန်ုပ်၏ ပရိသတ်များကိုလည်း ချမ်းသာကြစေချင်ပါ၏။

**(ဥဒါန်းပါဠိတော်၊ ပါဋလိဂါမိယဝဂ်၊ ဝိသာခါသုတ်)**

ပူဆွေးရသော ဘေးဒုက္ခများမှ လွတ်မြောက်ရေးအတွက် ပယ်စွန့်ရမည့် တရားကို ကျောင်းအမကြီး သဘောပေါက်သွားခဲ့၏။ ဤသို့ သဘောပေါက်သွား သဖြင့် မွေးဖွားထားသော သားသမီးများကို တော်ရာလျော်ရာ သွား၍ စွန့်ပစ်တော့ မည်ဟု မထင်မှတ်ကြစေချင်ပါ။ သားသမီးကြောင့် မြေးများကြောင့် ပူဆွေးရ သည်ဟု ပြောကြသော်လည်း သားသမီးများ၊ မြေးများက အဓိက အကြောင်းရင်း မဟုတ်ပါ။ သူတို့ချည်း သက်သက်ဆိုလျှင် ပူအောင် ဆွေးအောင် မည်သူ့မျှ မလုပ်တတ်ကြပါ။ သူတို့အပေါ်မှာ တွယ်တာ ကပ်ငြိသော တဏှာပေမကြောင့်သာ ပူဆွေးဒုက္ခ ရောက်ကြရပေသည်။

ထိုကြောင့် ကျောင်းအမကြီးသည် ပယ်သင့်ပယ်ထိုက်သော တဏှာ ပေမကို တတ်နိုင်သမျှ ပယ်စွန့်၍ မပယ်သင့်သော သားသမီး မြေးများကိုကား ရင်အုပ်မကွာ ပြုစု ကျွေးမွေးရ၏။ ဝတ်စားဆင်ယင်၍ သွန်သင် ဆုံးမရ၏။ မိဘဝတ္တရားနှင့်ညီစွာ စောင့်ရှောက်ထားသဖြင့် ပေါက်ဖွားလာသော သားသမီးများ၊ မြေးများလည်း ကိုယ်ရောစိတ်ပါ ကျန်းမာကြ၏။ အသစ်စက်စက် မွေးဖွားလာသော မြေးများလည်း ရောဂါကင်းကင်းနှင့် ကြီးပြင်းလာကြ၏။ ကျန်းမာသန့်ရှင်း ရောဂါကင်းသော သားသမီးများ မြေးများသည် သူတို့ ဘွားအေကြီး၏ ဂုဏ် ကျက်သရေကို ဆောင်ပေးကြ၏။ ကျန်းမာသန့်ရှင်း ရောဂါကင်းသော သားသမီး များ၊ မြေးများကြောင့် ကျောင်းအမကြီးကို မြင်သူတိုင်းက အားကျကြ၏။ ပွဲလမ်းသဘင်၊ မင်္ဂလာ အခမ်းအနားများ ရှိလေတိုင်း ကျောင်းအမကြီးကို ဦးဦး ဖျားဖျား ဖိတ်ကြား၍ ကျွေးမွေးကြရ၏။ မင်္ဂလာအပေါ်မှာ မင်္ဂလာဆင့်ရန်လည်း ဖြစ်၏။ သူတို့၏ သားသမီးများလည်း ကျောင်းအမကြီး၏ ကလေးများကဲ့သို့ ကျန်းမာသန့်ရှင်း ရောဂါကင်းပါစေဟု ဆုတောင်းပတ္ထနာ ပြုကြရန်လည်း ဖြစ်ပေ သည်။

သူများတွေအတွက် ကျက်သရေမင်္ဂလာဆောင်ပေးနေရသော ကျောင်းအမ ကြီးသည် မင်္ဂလာပွဲ တစ်ခုတွင်ကား စိတ်မချမ်းသာစရာနှင့် တွေ့ရ၏။ စိတ်

မချမ်းသာစရာမှာ အိမ့်ရှင်များအတွက်တော့ မဟုတ်ပါ။ သူတို့အိမ်သို့ရောက်နေသော အရှင်ဥဒါယီအတွက်သာ ဖြစ်ပါသည်။

ဥဒါယီဆိုရာတွင် ဤလိုနေရာမျိုး၌ - အရှင်လာဋုဒါယီသာ ဖြစ်ကြောင်း သဘောပေါက်ကြစေလိုပါသည်။ လျှပ်ပေါ်လော်လီသော အရှင်ဥဒါယီသည် ယခု မင်္ဂလာပြုရမည့် အမျိုးသမီးနှင့် မိဘအိမ်မှာကတည်းက ရင်းနှီးကျွမ်းဝင်ထားဟန် တူပါသည်။ မိဘအိမ်မှ လင်ယောကျ်ားအိမ်သို့ ရောက်နေရာသို့လည်း ဆိုက်ဆိုက် မြိုက်မြိုက် လိုက်လာခဲ့ပေသည်။

မိန်းကလေးမိဘများနှင့် အတူပင် ဤအိမ်ကလည်း အရှင်ဥဒါယီ၏ ဆွမ်း ဒါယကာများဖြစ်၏။ ဆွမ်းဒါယကာဖြစ်၍ ရဟန်းတစ်ပါး ဆွမ်း ခံလာသည်ကို အပြစ်ဆိုရန် မရှိပါ။ သို့သော် အရှင် ဥဒါယီကတော့ တော်တော့်ကို လွန်လွန်းလှ၏။ သူများနည်းတူအိမ်ရှေ့ဥပစာမှသာ ဆွမ်းမရပ်ဘဲ အိမ်ထဲထိ ဝင်လာခဲ့၏။ အိမ်ထဲ ရောက်ပြန်တော့လည်း အများတကာ မြင်သာ ထင်သာသော နေရာမှာ မထိုင်ပေ။ မင်္ဂလာသတို့သမီး၏ အနားကိုမှ သွား၍ ထိုင်ခဲ့၏။ နောက်ပြီး သူတို့နေရာကလည်း မျက်စိကွယ်ရာ၊ နားကွယ်ရာ ဖြစ်နေ၏။ ပြုလိုသောအမှုကို ပြု၍ရနိုင်သော နေရာမျိုး ဖြစ်၏။

မသင့်လျော်သည်ကို မြင်လျှင် ပြုပြင်ပေးနေကျ ဖြစ်၍ ကျောင်းအမကြီးက အရှင်ဥဒါယီကို လျှောက်ထားပါ၏။

"အရှင်ဘုရား၊ ဤအပြုအမူသည် မသင့်လျော်ပါ။ မလျောက်ပတ်ပါ။ အရှင်ဘုရားသည် မေထုန်အမှုကိုကား လိုလားမည် မဟုတ်ပါ။ သို့သော် မကြည်ညို သေးသူတို့ကို ယုံကြည်စေရန် ခဲယဉ်းလှပါသည် ဘုရား"

ကောင်းစေလိုသော သဘောဖြင့် လျှောက်ထားသော်လည်း အရှင် ဥဒါယီ ကတော့ လိုက်နာခြင်း မရှိပါ။ နောက်တစ်ကြိမ် သူတို့အိမ် ရောက်ရပြန်တော့လည်း ကျောင်းအမကြီးနှင့် ပက်ပင်းပါ တွေ့ရပြန်၏။ သည် တစ်ခါတော့ မတော်မလျော် ပြုနိုင်သော နေရာမျိုးကား မဟုတ်ပါ။ သို့ သော် သူတကာတွေ အထင်လွဲနိုင်သော နေရာမျိုးကား ဖြစ်နေ၏။ ကျောင်းအမကြီး လျှောက်ထားရာတွင် ယခင်နည်းအတိုင်း ပေတီပေကတ် လုပ်နေပြန်၏။ ထို့ကြောင့် ကျောင်းအမကြီးက ရဟန်းများထံ လျှောက်ရ၏။ ရဟန်းများကတစ်ဆင့် ရှေ့နားတော်ကြား လျှောက်ထားကြသဖြင့် အနိယတ သိက္ခာပုဒ်နှစ်ပါးကို ဘုရားရှင် ပညတ်တော်မူရပေသည်။

'အနိယတ သိက္ခာပုဒ်'ဟူသည်မှာ အထင်မှားလောက်သော နေရာတွင် အမျိုးသမီးတို့နှင့် အတူရှိနေသော ရဟန်းအား ကျောင်းအမကြီးကဲ့သို့ အရိယာ ပုဂ္ဂိုလ် တစ်ဦးဦးမြင်၍ ပါရာဇိက၊ သံဃာဒိသိသ်၊ ပါစိတ်၊ အာပတ်တို့တွင်

တစ်မျိုးမျိုးဖြင့် စွပ်စွဲပြောဆိုသောအခါ ပြောဆိုသည့်အတိုင်း ရဟန်းကလည်း ဝန်ခံလျှင် ဝန်ခံသော အာပတ်ဖြင့် ဆုံးဖြတ်ရသော သိက္ခာပုဒ် ဖြစ်၏။ မည်သည့် အာပတ်ဟူ၍ အတိအကျ သတ်မှတ်ထား၍ မရသဖြင့် 'အနိယတ သိက္ခာပုဒ်'ဟု ခေါ်ရပေမည်။

ဤသို့အားဖြင့် ကျောင်းအမကြီးသည် သာသနာတော်ကို ပြုစုကျွေးမွေးရုံ မဟုတ်။ ကျရောက်လာသည့် အန္တရာယ်များကိုလည်း ကျွမ်းကျင်လိမ္မာစွာ ကာကွယ် ပေးခဲ့သဖြင့် သာသနာ့မိခင်ကြီးဟု ကျွန်ုပ်တို့က ထိုက်ထိုက်တန်တန် ဂုဏ်ပြုရခြင်း ဖြစ်ပေသည်။

(ပါရာဇိကကဏ္ဍ ပါဠိတော်၊ အနိယတသိက္ခာပုဒ်များ)

❋❋

# လှူဝတ်ကြောင် ဓမ္မကထိက

ကောသလတိုင်း သာဝတ္ထိမြို့တော်တွင် သာသနာတော်ကို ပြုစုစောင့်ရှောက်လာသော ကျောင်းအမကြီး ရှိနေသကဲ့သို့ မဂဓတိုင်း မစ္ဆိကာသဏ္ဍ ရွာကြီးမှာလည်း ရှိခဲ့၏။ သူသည်လည်း ကျောင်းဒါယကာကြီး တစ်ယောက်သာ ဖြစ်၏။ သူကား စိတ္တသူကြွယ်ပါတည်း။

ကျောင်းထိုင်ပုဂ္ဂိုလ် အရှင်သုဓမ္မနှင့် ကျောင်းဒါယကာ စိတ္တသူကြွယ်တို့အကြား ဖြစ်ပွားခဲ့သော အမှုတွင် စိတ္တသူကြွယ်အကြောင်း တစ်စွန်းတစ်စ တင်ပြခဲ့ပါပြီ။ ယခု အကြောင်းဆိုက်လာသည့်အခိုက် သူ့အကြောင်းကို တော်တော်စုံအောင် တင်ပြရပါဦးမည်။

စိတ္တသူကြွယ်သည် အရှင်မဟာနာမ်၏ ကျေးဇူးဖြင့် အနာဂါမ်အဆင့် ရောက်ပြီးသူဖြစ်၏။ မိမိကိုယ်တိုင် ရဟန်းဘောင်သို့ မတက်လှမ်းနိုင်သော်လည်း သာသနာ့ဝန်ထမ်း ရဟန်းများကို ရှိသေစွာ ဆည်းကပ်၏။ ရွာနှင့် မနီးမဝေးရှိ အမ္ဗာဋက တောအုပ်တွင် ကျောင်းဆောက်၍ လှူထား၏။ ကျောင်းနေရဟန်းများအတွက် ပစ္စည်းလေးပါး ထောက်ပံ့ရုံမက သူကိုယ်တိုင်ကလည်း ဓမ္မကထိက တစ်ယောက် အဖြစ်ဖြင့် တစ်ဖက်တစ်လမ်းက သာသနာပြုနေ၏။

ဆရာကောင်းများထံ နည်းခံ မှတ်သားထားသဖြင့် ဒေသနာဗဟုသုတ ကြွယ်ဝ၏။ မိမိသိထားသမျှကိုလည်း တစ်ဖက်သား နားရှင်းသွားအောင် ပြောတတ်ဟောတတ်၏။

အဟောအပြောကောင်းသော ဓမ္မကထိကကြီးသည် သူရောက်လေရာ အရပ်များသို့ သာသနာ့မျိုးစေ့များ ချပေးခဲ့၏။ မျိုးစေ့များမှ အညွန့်အညှောက် ပေါက်လာစေရန် ဆက်ကာ ဆက်ကာ ဟောကြား၏။ ပေါက်ဖွားလာသောအပင် ကလေးများကိုလည်း ရှင်သန်ကြီးထွားလာစေရန် တရားဒေသနာ ရေစင်ကောင်းများ သွန်းလောင်း

ပေး၏။ ဤသို့သော ကျေးဇူးများကြောင့် ဘုရားရှင်က ဓမ္မကထိက အရာတွင် ဧတဒဂ်ဂုဏ်ထူးဖြင့် ချီးကျူးတော်မူရပေသည်။

ကျောင်းဒါယကာ ဓမ္မကထိကကြီးသည် ရွာထဲရပ်ထဲမှာသာ တရားဟောသည် မဟုတ်ပါ။ အကြောင်းတိုက်ဆိုင်လာလျှင် ရဟန်းများကိုလည်း တရားဟောတတ်ပါသေး၏။ တရားဟောရန် အကြောင်းဖန်လာပုံမှာ ဤသို့ ဖြစ်၏။ စိတ္တသူကြွယ်၏ လယ်မြေများသည် အမ္ဗာဋက တောအုပ်၏ ဟိုမှာဘက်တွင် တစ်မျှော်တခေါ်ကြီး ရှိနေကြ၏။ ထိုလယ်များမှ လုပ်သားများသည် အမ္ဗာဋက တောအုပ်အနီးတွင် မိဂပထကဟူသော အမည်ဖြင့် ရွာတည်နေကြ၏။ စိတ္တသူကြွယ်သည် တစ်ခုသော နေ့လယ်ခင်း၌ ထိုရွာသို့သွားရာတွင် အမ္ဗာဋကတောကျောင်းသို့ ဝင်ဖြစ်ခဲ့၏။ ထိုအချိန်တွင် ကျောင်းနေရဟန်းများ တရားဆွေးနွေးလျက် ရှိကြပေသည်။

သူတို့ ဆွေးနွေးနေကြသည်မှာ သံယောဇဉ်နှင့် သံယောဇနိယ တရားနှစ်ပါး ဖြစ်၏။ နှောင်ဖွဲ့တတ်သော တရားနှင့် နှောင်ဖွဲ့အပ်သော တရားဟု အဓိပ္ပာယ်ရ၏။ ဤတရားနှစ်ပါးကို တချို့ပုဂ္ဂိုလ်များက သဒ္ဒါလည်းကွဲပြား၍ အနက်လည်း ကွဲပြားသည်ဟု ဆိုကြ၏။ တချို့ ပုဂ္ဂိုလ်များကတော့ ဤတရားနှစ်ပါးသည် သဒ္ဒါမျှသာ ကွဲပြား၍ အနက်အဓိပ္ပာယ် မကွဲပြားဟု ဆိုကြ၏။ နှစ်ဘက်ပုဂ္ဂိုလ်များတွင် မည်သည့်ဘက်ကမျှ မလွှမ်းမိုးနိုင်ဘဲ တဝဲလည်လည်ဖြစ်နေကြ၏။ ထိုစဉ်ခိုက်မှာပင် သူတို့ ကျောင်းဒကာ ရောက်လာသည် ဟူပါ၏။

ရဟန်းများကြားမှာ လိပ်ခဲတည်းလည်း ဖြစ်နေသော ပြဿနာကို စိတ္တသူကြွယ်က ဥပမာဆောင်ကာ ရှင်းပြရပေသည်။

"အရှင်ဘုရားတို့၊ ဥပမာအားဖြင့် နွားဖြူတစ်ကောင်နှင့် နွားမည်း တစ်ကောင်ကို ကြိုးနှင့်ချည်ထားသည် ဆိုကြပါစို့။ ဤတွင် တစ်စုံတစ်ယောက်သော သူက နွားဖြူသည် နွားမည်းအတွက် အနှောင်အဖွဲ့ဖြစ်၏ ဟူ၍လည်းကောင်း၊ နွားမည်းသည် နွားဖြူအတွက် အနှောင်အဖွဲ့ဖြစ်၏ဟူ၍ လည်းကောင်း ပြောဆိုငြားအံ့။ ထိုစကားကို မှန်သည်ဟူ၍ အရှင်ဘုရားတို့ လက်ခံနိုင်ပါမည်လော"

"လက်မခံနိုင်ပါ ကျောင်းဒါယကာ၊ နွားဖြူသည် နွားမည်းအတွက် အနှောင်အဖွဲ့ မဟုတ်ပါ။ နွားမည်းသည်လည်း နွားဖြူအတွက် အနှောင်အဖွဲ့ မဟုတ်ပါ"

"အရှင်ဘုရားတို့၊ ဤဥပမာအားဖြင့် ဤသို့ သဘောပေါက်ကြရန် ဖြစ်ပါသည်။ စက္ခု၊ သောတ၊ ဃာန၊ ဇိဝှာ၊ ကာယ၊ မန ဟူသော အခံဓာတ် ခြောက်ပါးတို့ ရှိကြပါသည်။ ရူပ၊ သဒ္ဒ၊ ဂန္ဓ၊ ရသ၊ ဖောဋ္ဌဗ္ဗ၊ ဓမ္မ ဟူသောအတိုက် ဓာတ်ခြောက်ပါးတို့ ရှိကြပါသည်။ ဤဓာတ်တစ်ဆယ့်နှစ်ပါးတို့တွင် အခံဓာတ် များသည် အတိုက်ဓာတ်များအတွက် အနှောင်အဖွဲ့ မဟုတ်ပါ။ အတိုက်ဓာတ်

များသည်လည်း အခံဓာတ်များအတွက် အနှောင်အဖွဲ့ မဟုတ်ပါ။ ထို အခံဓာတ် အတိုက်ဓာတ်တို့ ဆုံဆည်းကြခြင်းကိုအကြောင်းပြု၍ ဖြစ်ပေါ်လာသော သာယာ တပ်မက်ခြင်းသည်သာ အနှောင်အဖွဲ့ဖြစ်၍ သံယောဇဉ် မည်ပါသည်။ အတိုက်ဓာတ် အခံဓာတ် တစ်ဆယ့်နှစ် ပါးတို့ကား နှောင်ဖွဲ့တတ်သော တပ်မက်မှုများ၏ ကျက်စားရာ အာရုံဖြစ်၍ သံယောဇနိယသာ မည်ပါသည်ဘုရား"

"ကျောင်းဒါယကာ၊ သင်သည် နက်နဲလှစွာသော ဘုရားတရားတော်များ၌ ဉာဏ်သက်ဝင်စွမ်းရှိပါဘိ၏။ ကျောင်းဒါယကာ၊ သင့်မှာ လူဖြစ်ကျိုးနပ်လေစွ တကား။ သာသနာတော်ကြီးနှင့် တွေ့ရကျိုး နပ်လေစွတကား"

မိမိတို့ မဖြေရှင်းနိုင်သော ပြဿနာကို ကျောင်းဒါယကာကြီးက အရိယာ ဉာဏ်ဖြင့် ဝေဖန်ရှင်းလင်းပေးသဖြင့် ရဟန်းများက သာဓု ခေါ်ကြရပါပေ၏။

**(သဠာယတနဝဂ်၊ စိတ္တသံယုတ်၊ သံယောဇနသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)**

အမ္ဗာဋကတောကျောင်းနေ ရဟန်းများမှာ သဒ္ဓါထက်သန်သော ကျောင်း ဒါယကာကြီးကြောင့် ပစ္စည်းလေးပါး ပေါများကြပါ၏။ ပညာဉာဏ် ထက်သန် သော ဓမ္မကထိကကြီးကြောင့် တရားရေးရာ အထောက်အကူ ရကြပါ၏။ ဤသို့ အဘက်ဘက်က အားကိုးရသော ကျောင်းဒါယကာကြီးကြောင့်ပင် တစ်ခါတစ်ခါ မှာတော့ ကျောင်းနေပုဂ္ဂိုလ်များ အခက်ကြုံကြရရှာ၏။

သူတစ်ပါးကို ဟောရန်၊ ပြောရန် ဝန်မလေးသော ဓမ္မကထိကကြီးသည် သူသိလိုရာ ရှိလာလျှင်လည်း အမေးအမြန်းက ထူလှ၏။ တစ်နေရာရာမှာ မရှင်း မလင်း ရှိနေလျှင် အားမနာပါးမနာ စိစစ်တတ်၏။ မေးကြ မြန်းကြစို့ ဆိုတော့ လည်း နေရာဌာန မရွေးတတ်ပေ။ အချိန် ရွေ့ဆိုင်းလေ့ မရှိပေ။ သိလိုသော အချက်အလက်တစ်ခု စိတ်ထဲမှာ ပေါ်လာလျှင် ပေါ်လာသော နေရာမှာပင် မေးလိုက်တော့၏။

ထိုနေ့က ဆွမ်းကျွေးပွဲမှာ လစဉ်လတိုင်း ကျွေးနေကျရက်တွင် အိမ်သို့ ပင့်ဖိတ်၍ ကျွေးခြင်းဖြစ်၏။ တောကျောင်းနေ ရဟန်းများမှာလည်း အခါတိုင်း လိုပင် ကြောင့်ကြမဲ့စွာ ကြွလာကြ၏။ ကျောင်းဒါယကာကြီးက တစ်ခုခုမေးလျှင် အသင့်ဖြေရအောင် ဟူ၍ တမင်တကာ လေ့လာထားခြင်း မရှိပေ။ စိတ်လွတ် ကိုယ်လွတ် ကြွလာသော ရဟန်းများကိုမှ အမေးပုစ္ဆာက စောင့်ကြို၍နေပေသည်။

ယခင်က ဤတောကျောင်းတွင် အရှင်သုဓမ္မ ကျောင်းထိုင်ခဲ့၏။ ကျောင်း ဒါယကာကြီးနှင့် အချင်းများရာတွင် ဘုရားရှင် ကိုယ်တော်တိုင်က ကျောင်း ဒါယကာကြီးဘက်က ရှိနေသဖြင့် သူ့ခမျာ အရှက်ကြီးစွာရခဲ့၏။ ရှက်ရာမှ သတိ သံဝေဂရကာ တရားကျင့်သုံးသဖြင့် ရဟန်းကိစ္စ ပြီးစီးသွားပေပြီ။ ဤကျောင်းမှာ

နေရင်းကပင် ရောဂါဒဏ်ကြောင့် စောစောစီးစီး ပရိနိဗ္ဗာန် ပြုသွားရပေသည်။ ယခု သူ့နေရာမှာ နေရသော ကျောင်းထိုင်ပုဂ္ဂိုလ်မှာ အရှင်သုမေ္မတုန်းကလို မဟုတ်ဘဲ ခပ်အေးအေး နေတတ်သူ ဖြစ်ပေသည်။

ကြွလာသောရဟန်းများကို နေရာချပေးပြီးနောက် ဓမ္မကထိက ကျောင်းဒါယကာကြီးသည် ကျောင်းထိုင် မထေရ်ကြီးထံ ရိုသေစွာ ချဉ်းကပ် ဝတ်ပြုပြီးလျှင် ဤသို့ မေးလျှောက်၏။

"အရှင်ဘုရား၊ လောကကြီးသည် မြဲသည် မမြဲသည် ဟူ၍လည်းကောင်း၊ လောကကြီးအဆုံးရှိသည်၊ မရှိသည်ဟူ၍လည်းကောင်း၊ ဇီဝနှင့် ခန္ဓာကိုယ် အတူတူ ဟုတ်၊ မဟုတ် ဟူ၍လည်းကောင်း၊ သတ္တဝါတစ်ဦးဦး သေဆုံးပြီးနောက် ဘဝ ဆက်သည် မဆက်သည် ဟူ၍လည်းကောင်း ဒိဋ္ဌိအယူအစွဲတွေ မျိုးစုံစွာ ရှိနေကြပါသည်။ ဗြဟ္မဇာလသုတ်မှာ ဘုရားရှင် ဟောကြားတော်မူခဲ့သော ခြောက်ဆယ့်နှစ်ပါးသော ဒိဋ္ဌိ အယူအစွဲတို့ ရှိကြပါသည်။ ဤသို့သော ဒိဋ္ဌိ အယူအစွဲများသည် အဘယ့်ကြောင့် ဖြစ်ပေါ်လာရသည်ကို မိန့်ကြားတော်မူပါ အရှင်ဘုရား"

ဆွမ်းစားလာခါမှ ပြဿနာနှင့် တိုးနေကြရချေပြီ။ ကျောင်းထိုင် မထေရ်ကြီးသည် ဤပုစ္ဆာများ၏ အဖြေကိုသိပါ၏။ သို့သော် သူ့ခမျာ အာစလျှာစ မရှိရှာပါ။ သူ့စိတ်ထဲမှာ သိထားသည်ကို တစ်ဖက်သားနားရှင်းအောင် မပြောတတ်ပါ။ အထူးသဖြင့် ကျောင်းဒါယကာကြီးကဲ့သို့ ကျော်ကြားသော ဓမ္မကထိကကြီး ကျေနပ်သွားအောင် သူဖြေနိုင်စွမ်း မရှိပါ။ ထို့ကြောင့် သူ့ခမျာ ပရိသတ်အလယ်မှာ နှုတ်ဆိတ်၍ နေရပေသည်။

ရဟန်းတို့၏ ဝိနည်းတော်အရ ဤလိုကိစ္စများပေါ်လာလျှင် သိက္ခာအကြီးဆုံး မထေရ်ကြီးက ဖြေဆိုရမည်ဖြစ်၏။ မထေရ်ကြီးက မဖြေသော်လည်းကောင်း၊ မဖြေလိုသော်လည်းကောင်း သီတင်းငယ်များထံ လွှဲအပ်ရ၏။ ယခု မထေရ်ကြီးမှာ ဖြေလည်း မဖြေ၊ လွှဲလည်း မလွှဲသဖြင့် လိပ်ခဲတည်းလည်း ဖြစ်နေရပေသည်။ ကျောင်းဒါယကာကြီးကလည်း အလျှော့မပေးဘဲ နှစ်ကြိမ် သုံးကြိမ်ထိ ဆင့်၍ မေးနေပေသည်။

ဤအခြေအနေကို ကျောင်းနေ ပုဂ္ဂိုလ်များက ခေါင်းငုံ့ခံနေကြ သော်လည်း အာဂန္တု ကိုယ်တော်လေးက ခေါင်းမော့လာပေသည်။ သို့သော် သူ့မှာ ဤအထဲတွင် သိက္ခာအငယ်ဆုံးဖြစ်နေ၍ ပြဿနာကိုဖြေလိုပါကြောင်း ခွင့်ပန်ရသေး၏။ မထေရ်ကြီးက ခွင့်ပြုခါမှ သူ့နေရာသို့ ပြန် ထိုင်လျက် ကျောင်းဒါယကာကြီးအား သူ့ရှေ့သို့ ခေါ်ယူကာ–

"ဒါယကာကြီး၊ ရှိရှိသမျှသော ဒိဋ္ဌိအယူအစွဲတို့သည် သက္ကာယဒိဋ္ဌိကြောင့်သာ ဖြစ်ပေါ်လာကြရ၏။ သက္ကာယဒိဋ္ဌိ မရှိသော် ထိုဒိဋ္ဌိတို့လည်း လုံးဝ မရှိနိုင်ကုန်"

အာဂန္တုကိုယ်တော်လေးကြောင့် ပထမတစ်ရစ် ပြေလည်သွားပေပြီ။ သက္ကာယဒိဋ္ဌိ ဟူသည်မှာ သက္ကာယဟူသောပုဒ်နှင့် ဒိဋ္ဌိဟူသောပုဒ်တို့ကို တွဲစပ်ထားခြင်းဖြစ်၏။ သက္ကာယဟူသည်မှာ ထင်ရှားရှိသော ခန္ဓာငါးပါး ဖြစ်၏။ ထိုခန္ဓာငါးပါးကို ငါ ဟူ၍လည်းကောင်း၊ ငါ့ဟာ ဟူ၍လည်းကောင်း ယူစွဲတတ်သော ဒိဋ္ဌိကို သက္ကာယဒိဋ္ဌိဟု ခေါ်ရပေသည်။ ရှိရှိသမျှ ဒိဋ္ဌိ အယူအစွဲများသည် ဤသက္ကာယဒိဋ္ဌိ အပေါ်မှာချည်း အခြေခံနေကြသဖြင့် ဤဖြေဆိုချက်ကို ကျောင်းဒါယကာကြီးက ကျေနပ်သွား၏။ သို့သော် သူ့ မေးခွန်းများက မကုန်သေးပါ။

"အရှင်ဘုရား၊ သက္ကာယဒိဋ္ဌိ ဖြစ်ပေါ်လာရပုံကို အမိန့်ရှိပါဦးဘုရား"

"ဒါယကာကြီး၊ ဤလောက၌ အရိယာသူတော်ကောင်းများကို မဆည်းကပ်ရ၊ အရိယာ သူတော်ကောင်းများ၏ တရားကို မနာကြားရ သူများသည် ငါ မဟုတ်သော ခန္ဓာငါးပါးကို ငါ ဟူ၍လည်းကောင်း၊ အမှန်တကယ် မရှိသော ငါကိုပင် ခန္ဓာငါးပါးဟူ၍လည်းကောင်း၊ ငါ့မှာ ခန္ဓာငါးပါး ရှိသည်ဟူ၍လည်းကောင်း၊ ခန္ဓာငါးပါးမှာ ငါရှိသည် ဟူ၍ လည်းကောင်း အမျိုးမျိုးအဖုံဖုံ တွေးတောတတ်ကြ၏။ ဤသို့တွေးတောရာမှ သက္ကာယဒိဋ္ဌိ ဖြစ်ပေါ်လာပေသည်။

"သက္ကာယဒိဋ္ဌိ ဖြစ်ပုံကို ကျေနပ်ပါပြီ ဘုရား။ သက္ကာယဒိဋ္ဌိ ကင်းလွတ်ပုံကိုလည်း ဆက်လက်၍ မိန့်ကြားပါဦး ဘုရား"

"ဒါယကာကြီး၊ ဤလောက၌ အရိယာသူတော်ကောင်းများကို ဆည်းကပ်ရ၍ အရိယာသူတော်ကောင်းများ၏ တရားကို နာခွင့်ရသောသူများသည် ငါ မဟုတ်သော ခန္ဓာငါးပါးတရားကို ငါနှင့်စပ်၍ ဟိုဟို သည်သည် မတွေးတောကြကုန်။ ဤသို့ အတွေးလွတ်လွတ် နေတတ်ကြသဖြင့် သက္ကာယဒိဋ္ဌိ လွတ်ကင်းနိုင်ပေသည်"

ပြဿနာဟူသမျှ ပြေလည်သွားပေပြီ။ ဤတွင်မှ ခေါင်းငုံ့နေကြရသော ရဟန်းများ ပြုံးနိုင်ရွှင်နိုင် ဖြစ်လာကြရတော့သည်။ သို့သော် ကျောင်းဒါယကာကြီး၏ မေးခွန်းများက မကုန်သေးပါ။ တရားရေးဘက်က ပြေလည်သွားသော်လည်း ပုဂ္ဂိုလ်ရေးက ကျန်နေပါသေးသည်။ သို့ဖြစ်၍–

"အရှင်ဘုရားကို ယခုမှ ဖူးမြင်ရပါသဖြင့် ဘွဲ့မည်ကို သိလိုပါသည် ဘုရား"

"ဣသိဒတ္တဟု ခေါ်သည် ဒါယကာကြီး"

"အရှင်ဘုရား၊ ဘယ်တိုင်းက ကြွလာပါသလဲ ဘုရား"

"အဝန္တီတိုင်းက ကြွလာသည် ဒါယကာကြီး"

"ဤသို့ဆိုလျှင် တပည့်တော် လျှောက်ထားပါရစေဦးဘုရား။ အဝန္တီတိုင်းတွင် တပည့်တော်၏ မိတ်ဆွေတစ်ဦးရှိပါသည်။ သူ့အမည်မှာလည်း ဣသိဒတ္တ ဟူ၍ပင်

ဖြစ်ပါသည်။ အချင်းချင်း စာနှင့်ဆက်သွယ်၍သာ ချစ်ခင်ရင်းနှီးခဲ့ကြရပါသည်။ လူချင်းကား မတွေ့ရဖူးပါ။ ထိုမိတ်ဆွေကို အရှင်ဘုရား တွေ့ဖူးမြင်ဖူးပါသလား ဘုရား"

"မြင်ဖူးပါသည် ဒါယကာကြီး"

"ယခု ထိုမိတ်ဆွေ အဘယ်ရပ်မှာ ရှိနေပါသလဲ ဘုရား"

မေးသမျှကို ချက်ကျလက်ကျ ဖြေကြားလာခဲ့သော အာဂန္တုရဟန်းသည် ဤမေးခွန်းကိုတော့ အဖြေမပေးဘဲ ခပ်မဆိတ် နေလိုက်ပေသည်။ ဤသို့ ခပ်မဆိတ်နေလိုက်ခြင်းသည်ပင် ကျောင်းဒါယကာကြီးအဖို့ အကောင်းဆုံး ဖြေကြားချက် ဖြစ်သွားသဖြင့်–

"သို့ဖြစ်လျှင် တပည့်တော်၏ မိတ်ဆွေရင်းချာ ပုက္ကုသာတိသည် အရှင်ဘုရား မဟုတ်ပါလား ဘုရား"

"ဟုတ်ပါသည် ဒါယကာကြီး"

"တပည့်တော် တွေ့လို မြင်လိုနေသော မိတ်ဆွေရင်းချာကို ကြည်ညိုဖွယ်ရာ ဖူးမြင်ရ၍ တပည့်တော်ဝမ်းမြောက်လှပါသည် ဘုရား။ တပည့်တော်တို့ မဇ္ဈိမသဏ္ဍာ ရွာကြီးတွင် အရှင်ဘုရား မွေ့လျော်စွာ သီတင်းသုံးတော်မူပါ။ အမွှာဋကတောကျောင်းကလည်း မွေ့လျော်ဖွယ် ကောင်းလှပါသည်။ တပည့်တော်သည် အရှင်ဘုရားအတွက် ပစ္စည်းလေးပါးဖြင့် ထောက်ပံ့မည် ဖြစ်ပါသည် ဘုရား"

"ကောင်းသောစကား ဖြစ်ပေသည် ဒါယကာကြီး"

ကျောင်းဒါယကာကြီး စိတ္တသူကြွယ်က ဝမ်းသာအားရ လျှောက်ထားသည်ကို အရှင်ပုက္ကုသာတိက ဖြည်းဖြည်းနှင့် နေးနေး တုံ့ပြန်လိုက်၏။ ဤသို့ ဖြေကြားရာတွင် စကားအသုံးအနှုန်းကို ဂရုစိုက်ထားပေသည်။

ထိုနေ့က ဆွမ်းစားအပြီးတွင် တောကျောင်းနေ ရဟန်းများက နောက်နောင် ဤသို့သော မေးခွန်းများပေါ်လာလျှင် အရှင်ပုက္ကုသာတိချည်း ဖြေကြားပေးပါရန် လွှဲအပ်ကြ၏။ အရှင်ပုက္ကုသာတိက မည်သို့မျှ အဖြေမပေးဘဲ ထိုနေ့မှာပင် ထွက်ခွာသွားသည် ဟူပါ၏။

"အရှင်ဘုရား၊ အရှင်ပုက္ကုသာတိနှင့် ဤတစ်ကြိမ်တွေ့ပြီးနောက် တစ်ခါမျှ မတွေ့ရတော့ပါ။ ဤအရပ်ဒေသမှ အပြီးတိုင် ထွက်ခွာသွားဟန် တူပါသည်။ သူနှင့်ပတ်သက်၍ တပည့်တော်မှာ အမှားအယွင်း ပြုခဲ့မိသည်လည်း မရှိပါ။ မသင့်မလျော် လျှောက်ခဲ့မိသည်လည်း မရှိပါ။ သို့ပါလျက် တစ်ခါတည်း ထွက်ခွာသွားသည်ကို တပည့်တော် အတွေးရ ခက်လှပါသည် ဘုရား"

မဇ္ဈိမသဏ္ဍာသို့ ယခုတစ်ကြိမ်အရောက်တွင်ကျောင်းဒါယကာကြီးက ဤသို့ လျှောက်ထားပါ၏။ သို့သော် ကျွန်ုပ်ကလည်း တိတိကျကျ မဖြေကြားနိုင်ပါ။

သံယောဇဉ်ကင်းကွာပြီးသော ပုဂ္ဂိုလ်များ၏ စိတ်သဘောကို ခန့်မှန်းခြေမျှသာ ဖြေကြားခဲ့ရပါသည်။ (သဠာယတနဝဂ်၊ စိတ္တသံယုတ်၊ ဒုတိယကာမဘူသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)

အသက်အရွယ် ထောက်လာချိန်တွင် မိတ်ဟောင်းဆွေဟောင်း အရှင်ကောင်းကို အားပါးတရ ဆည်းကပ်မည်ပြုခါမှ အရှင်ကောင်းက အပြတ်အသတ် ထွက်ခွာသွားခဲ့၏။ သို့သော် ဤအတွက် ကိစ္စမရှိပါ။ မိတ်ဟောင်းဆွေဟောင်းတစ်ပါး ထွက်ခွာသွား၍ မကြာမီမှာပင် အခြား မိတ်ဆွေဟောင်းတစ်ဦး ရောက်လာခဲ့ပါပြီ။

ယခု ဆိုက်ရောက်လာသူမှာလည်း ရဟန်းတစ်ပါးပင်ဖြစ်၍ သူ့ဘွဲ့မှာ အရှင်ကဿပ ဟူပါ၏။ သို့သော် ကျွန်ုပ်တို့ သာသနာတော်တွင်းက ရဟန်းကားမဟုတ်ပါ။ အဝတ်မပါ ဗလာကိုယ်ချည်း လှည့်လည်လေ့ရှိသော နိဂဏ္ဌာရဟန်းတစ်ပါးသာ ဖြစ်ပါ၏။ ယုံကြည်ချက်ခြင်း တောင်နှင့်မြောက် ကွဲပြားနေပါသော်လည်း စိတ္တသူကြွယ်သည် မိတ်ဆွေဟောင်းကို မျက်နှာမလွှဲပါ။ သူရောက်လာကြောင်း သတင်းကြားသည်နှင့် အရှင်ကဿပရှိရာသို့ သွားရောက်နှုတ်ဆက်ကာ–

“အရှင်ကဿပဘုရား၊ အရှင်ဘုရား ရဟန်းဘဝ ရောက်လာသည်မှာ မည်မျှကြာပါပြီလဲ” ဟု တရင်းတနှီး မေးလျှောက်၏။

“ဒါယကာကြီး၊ ရဟန်းဘဝမှာ ဝါပေါင်း သုံးဆယ်ရှိခဲ့ပါပြီ”

ရင်းနှီးစွာ မေးမြန်းသည်ကို ပြုံးရွှင်စွာ ဖြေကြားလိုက်၏။

“ဤသို့ဆိုလျှင် လူတို့၏ ဒါန၊ သီလ၊ ကုသိုလ်မျိုးထက် သာလွန်သော အရိယာဉာဏ် အမြင်မှန်ဖြင့် နိဗ္ဗာန်ချမ်းသာကို မျက်မှောက်ပြုခဲ့ပါပြီလော”

မိတ်ဆွေဟောင်း ကျောင်းဒါယကာထံမှ ထပ်ဆင့်မေးခွန်း ထွက်ပေါ်လာသည်တွင်ကား ပြုံးမျက်နှာကြီးမှာ အရေတွန့်လိပ်သွားတော့၏။ မေးခွန်းရှင်ကို မျက်မှောင်ကြုတ်ကာ အတန်ကြာအောင် စိုက်ကြည့်နေပြီးမှ–

“ဒါယကာကြီး၊ ကျွန်ုပ် မှန်သည်ကိုသာ ပြောပါတော့မည်။ ဝါ သုံးဆယ်တိုင်တိုင် ရဟန်းပြုလာရာမှာ ခေါင်းတုံးထားရခြင်း၊ ကိုယ်တုံးလုံးနေရခြင်း၊ မြက်တံမြက်စည်း ဆောင်ထားရခြင်းမှအပ ဘာတစ်ခုမျှ လက်ဆုပ်လက်ကိုင် မရရှိခဲ့ပါ”

မိတ်ဆွေရင်းချာပီပီ ရိုးသားစွာဖြေပါပေသည်။ မြက်တံမြက်စည်း ဆောင်ထားရခြင်းမှာ ထိုင်ရာက အထတွင် တင်ပါးမှာ ကပ်ပါလာသော ဖုန်များ အမှိုက်များကို လှည်းချထားခဲ့ရန် ဖြစ်ပေသည်။

“ဩော် အံ့ဖွယ်ရှိပေစွ တကား”

မိတ်ဆွေဟောင်း၏ အဖြစ်ကို ကျောင်းဒါယကာကြီးက သနားကရုဏာဖြင့် ရေရွတ်လိုက်၏။

ဤတွင် ကိုယ်တုံးလုံး ကိုယ်တော်ကလည်း–

"ဒါယကာကြီး၊ ဂေါတမအရှင်၏ တပည့်သာဝကအဖြစ် ခံယူနေသည်မှာ မည်မျှကြာပြီနည်း"

"အနှစ်သုံးဆယ်ရှိပါပြီ ဘုရား"

"ဤသို့ဆိုလျှင် လူတို့၏ ဒါန၊ သီလ၊ ကုသိုလ်မျိုးထက် လွန်မြတ်သော အရိယာဉာဏ် အမြင်မှန်ဖြင့် နိဗ္ဗာန်ကို မျက်မှောက်ပြုခဲ့ပါပြီလော"

မိတ်ဆွေဟောင်း၏ တုံ့ပြန်မေးခွန်းအရ ကိုယ်ပိုင်ကိုယ်တိုင် ရရှိခံစားရသော ဈာန်သမာပတ်များနှင့်တကွ လောကုတ္တရာ မဂ်ဖိုလ်များကိုပါ လျှောက်ထားရာမှ ဆက်လက်၍–

"အကယ်၍ တပည့်တော်သည် ဘုရားရှင်ထက်စော၍ ကွယ်လွန်ရပါလျှင် ဘုရားရှင်က 'စိတ္တသူကြွယ်တွင် ဤလူ့ပြည်သို့ နောက်ထပ်တစ်ဖန် ပြန်လာစေကြောင်း သံယောဇဉ် အနှောင်အဖွဲ့တို့ မရှိပြီ' ဟု မိန့်တော်မူမည်မှာ မလွဲပါ ဘုရား"

စကတည်းက စိတ္တသူကြွယ်ကို အားကိုးတစ်ခု ပြုလာခဲ့သဖြင့် ဤအဖြေကို အရှင်ကဿပ အားရသွားပေပြီ။ မိတ်ဆွေရင်းချာနှင့် အချိန်မီ တွေ့လိုက်ရသဖြင့် လမ်းမှန်ပေါ်သို့ မကြာမီ ရောက်လာပါတော့သည်။ ဟိုယခင်က အစေလကဿပဟု ခေါ်ခဲ့ရသော ဤပုဂ္ဂိုလ်သည် ယခုတော့ အမ္ဗာဋကတောကျောင်း၏ ကျက်သရေဆောင် ရဟန္တာအရှင်မြတ်ကြီး ဖြစ်နေပါပြီတည်း။

(သဠာယတနဝဂ်၊ စိတ္တသံယုတ်၊ အစေလကဿပသုတ်)

အရှင်ကဿပနှင့်တွေ့ဆုံစဉ်က စကားဦးသန်းခဲ့သည့် အတိုင်းပင် မေ္ဘကထိက အရာ တေဒဂ်ဂုဏ်ထူးရ ကျောင်းဒါယကာကြီးသည် ဘုရားရှင်ထက် စောစီးစွာ ကွယ်လွန်ခဲ့ပါ၏။ သူ ဟောကိန်းထုတ်ထားသည့် အတိုင်းပင် ဘုရားရှင်ကလည်း မိန့်ကြားတော်မူပါ၏။

သတ္တဝါမှန်သမျှ မလွန်ဆန်နိုင်သော လမ်းသို့ သွားခဲ့ရသော်လည်း ကျောင်းဒါယကာကြီးသည် နောက်ဆုံးအချိန်အထိ သာသနာပြုလုပ်ငန်းကို ဆောင်ရွက်ခဲ့သေးသည် ဟူပါ၏။

"အို အိမ်သူအိမ်သားအပေါင်းတို့၊ အို အဆွေအမျိုးတို့၊ ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးကို ယုံကြည်စွာ ဆည်းကပ်ရစ်ကြပါလော့။ မိမိအိမ်မှာရှိသော ပစ္စည်းများကို သီလရှိသော သူတော်မြတ်များကို မလှူဒါန်းဘဲ မစားကြပါနှင့်။ စားဦး စားဖျားလှူဒါန်းပြီးမှ စားသုံးကြပါလော့"

ဤကား အနာဂါမ်ဓမ္မကထိကကြီး၏ နောက်ဆုံး တရားတစ်ပုဒ် ဖြစ်ပါ၏။

(သဠာယတနဝဂ်၊ စိတ္တသံယုတ်၊ ဂိလာနဒဿနသုတ်)

❋❋

## စံပြဒါယကာ၊ ဒါယိကာမများ

"ရဟန်းတို့၊ သဒ္ဓါတရားနှင့် ပြည့်စုံသော ရဟန်းသည် ဆုတောင်း ကောင်းကောင်း တောင်းလိုပါလျှင် 'သာရိပုတ္တရာ၊ မောဂ္ဂလာန်တို့ကဲ့သို့ ဖြစ်ရပါလို၏'ဟု ဆုတောင်းရာ၏။ ငါဘုရား၏ တပည့်သား ရဟန်းတို့တွင် သာရိပုတ္တရာ၊ မောဂ္ဂလာန်တို့သည် စံပြရဟန်းများ ဖြစ်ကြကုန်၏။

"ရဟန်းတို့၊ သဒ္ဓါတရားနှင့်ပြည့်စုံသော ရဟန်းမသည် ဆုတောင်း ကောင်းကောင်း တောင်းလိုပါလျှင် 'ရဟန်းမခေမာ၊ ဥပ္ပလဝဏ်တို့ကဲ့သို့ ဖြစ်ရပါလို၏'ဟု ဆုတောင်းရာ၏။ ငါဘုရား၏ တပည့်မ ရဟန်းတို့တွင် ခေမာ၊ ဥပ္ပလဝဏ်တို့သည် စံပြရဟန်းမများ ဖြစ်ကြကုန်၏။

"ရဟန်းတို့၊ သဒ္ဓါတရားနှင့် ပြည့်စုံသော ဒါယကာသည် ဆုတောင်း ကောင်းကောင်း တောင်းလိုပါလျှင် 'စိတ္တသူကြွယ်၊ အာဠဝီတိုင်းက ဟတ္ထကမင်းသားတို့ကဲ့သို့ ဖြစ်ရပါလို၏'ဟု ဆုတောင်းရာ၏။ ငါဘုရား၏ တပည့်ဒါယကာတို့တွင် စိတ္တသူကြွယ်၊ အာဠဝီတိုင်းက ဟတ္ထကမင်းသား တို့သည် စံပြဒါယကာများ ဖြစ်ကြကုန်၏။

"ရဟန်းတို့၊ သဒ္ဓါတရားနှင့်ပြည့်စုံသော ဒါယိကာမသည် ဆုတောင်း ကောင်းကောင်း တောင်းလိုပါလျှင် 'ခုဇ္ဇုတ္တရာ၊ နန္ဒမာတာတို့ကဲ့သို့ ဖြစ်ရပါလို၏'ဟု ဆုတောင်းရာ၏။ ငါဘုရာ၏ တပည့်မ ဒါယိကာမတို့တွင် ခုဇ္ဇုတ္တရာ၊ နန္ဒမာတာတို့သည် စံပြဒါယိကာမများ ဖြစ်ကြကုန်၏"

**(အင်္ဂုတ္တရပါဠိတော်၊ စတုက္ကနိပါတ်၊ သဒ္ဓါတနိကာဂ်၊ အာယာစနသုတ်)**

ရဟန်း၊ ရဟန်းမ၊ ဒါယကာ၊ ဒါယိကာမဟူ၍ ပရိသတ်လေးပါး ရှိသည့် အနက် သက်ဆိုင်ရာ သာဝကများ နမူနာယူထိုက်သော စံပြပုဂ္ဂိုလ်များကို ဘုရားရှင် ဟောကြားထားပေသည်။ ဤတွင် အထူးသတိပြုရန် ရှိသည်မှာ စံပြပုဂ္ဂိုလ်ကဲ့သို့

ဖြစ်ရပါလိုဟု ဆုတောင်းရုံဖြင့် ဆုတောင်းပြည့်မည် မဟုတ်ကြောင်း ဖြစ်၏။ စံပြပုဂ္ဂိုလ်များကဲ့သို့ ဖြစ်ရပါလို၏ဟု ဆုတောင်းပြီးနောက် ထိုပုဂ္ဂိုလ်ကြီးတို့ ကျင့်သုံးခဲ့သော ကျင့်စဉ်များကို လိုက်နာကျင့်သုံးကြမှသာ ဆုတောင်းတိုင်း ပြည့်ကြမည် ဖြစ်ပေသည်။

စံပြပုဂ္ဂိုလ်များအနက် ရဟန်းဘက်ဆိုင်ရာ၊ ရဟန်းမဘက်ဆိုင်ရာ ပုဂ္ဂိုလ်များ အကြောင်းကို ရှေ့ပိုင်းမှာ တော်တော်စုံအောင် တင်ပြခဲ့ပါပြီ။ နောက်နောင် အကြောင်းဆိုက်လာတော့လည်း ဤပုဂ္ဂိုလ်ကြီးများ၏ ကြောင်းခြင်းရာများကို ဝေဝေဆာဆာ တင်ပြရပါဦးမည်။ ဒါယကာများ၏ စံပြဖြစ်သူ စိတ္တသူကြွယ် အကြောင်းကို တော်တော်ပြည့်စုံအောင် တင်ပြခဲ့ပါပြီ။ ယခု စကားစပ်မိလာသည့် အခိုက်တွင် ဟတ္ထကမင်းသား အကြောင်းကို ထပ်မံ ဖြည့်စွက်ရပါဦးမည်။

အာဠဝီတိုင်း အဂ္ဂါဠဝနတ်ကွန်းမှာ နေတော်မူစဉ်က ဟတ္ထကမင်းသား၏ ဂုဏ်အင်္ဂါ ခုနစ်ပါးကို ဘုရားရှင်က ဟောကြားတော်မူခဲ့၏။

"ရဟန်းတို့၊ ဟတ္ထကမင်းသားသည် သဒ္ဓါတရားရှိ၏။ ကိုယ်ကျင့် သီလရှိ၏။ မကောင်းမှုမှ ရှက်တတ်၏။ မကောင်းမှုကို ကြောက်တတ်၏။ အကြားအမြင် များ၏။ ပေးကမ်းစွန့်ကြဲသော အလေ့ရှိ၏။ လောကီ လောကုတ္တရာ ဉာဏ်ပညာ ပြည့်ဝ၏။ ဤသို့အားဖြင့် ဟတ္ထကမင်းသားသည် အံ့ဩဖွယ်ဖြစ်ကုန်သော မဖြစ်ဖူးမြဲ ထူးကဲသော ဤဂုဏ်အင်္ဂါ ခုနစ်ပါးနှင့် ပြည့်စုံသည်ဟူ၍ မှတ်ယူကြကုန်လော့"

ကျောင်းမှာ ဟောကြားတော်မူခဲ့သော ဤဒေသနာတော်ကို နာကြားရသော ရဟန်းတစ်ပါးက ဟတ္ထကမင်းသားထံ ဆွမ်းခံဝင်ရင်း တစ်ဆင့် ပြောပြ၏။ ပြောပြသော ရဟန်းက ဝမ်းပန်းတသာပြောပြသော်လည်း ဟတ္ထကမင်းသားကတော့ ခပ်အေးအေးသာ ရှိရာက–

"အရှင်ဘုရား၊ ဤဒေသနာတော်ဟောကြားစဉ်က ကျောင်းတော်မှာ ဒါယကာ ဒါယိကာမ တစ်ယောက်ယောက်များ ရှိနေပါသလား ဘုရား"

"မင်းသား၊ ဒါယကာ ဒါယိကာမ တစ်ယောက်မျှ မရှိပါ။ ရဟန်းများ ချည်း ရှိကြပါသည်"

"ဒါယကာ ဒါယိကာမ တစ်ယောက်မျှ မရှိသည်မှာ ကောင်းလေစွ ဘုရား"

ထင်ရှားကျော်ကြားလိုသော သဘောမရှိသဖြင့် ဤလို လျှောက်ထားရခြင်း ဖြစ်၏။ မိမိမှာ အမှန်တကယ်ရှိနေသော ကောင်းမှုကုသိုလ်များကိုပင် ဤသို့ လူသိရှင်ကြား မဖြစ်စေလိုသောကြောင့် ဘုရားရှင်က ရှိရင်းဂုဏ်အင်္ဂါ ခုနစ်ပါးတွင် နောက်ထပ်တစ်ပါးတိုး၍ မိန့်ကြားတော်မူရပေသည်။

**(အင်္ဂုတ္တရပါဠိတော်၊ အဋ္ဌကနိပါတ်၊ ဂဟပတိဝဂ်၊ ပဌမဟတ္ထကသုတ်)**

ဒါယကာထဲက စံပြပုဂ္ဂိုလ်များထဲတွင် တစ်ယောက်က သူဌေးဖြစ်၍ ကျန်တစ်ယောက်က မင်းသားဖြစ်ခဲ့၏။ သို့သော် ကျွန်ုပ်တို့ သာသနာတော်ကြီးတွင် သူတို့လို အထက်တန်းစား ပုဂ္ဂိုလ်များမှ စံပြဖြစ်သည် မဟုတ်ပါ။ ခုဇ္ဇုတ္တရာတို့လို ကျွန်မတစ်ယောက်လည်း စံပြဖြစ်ခွင့် ရရှိခဲ့ပါ၏။

ကောသမ္ဗီမြို့တော်သို့ ဘုရားရှင်ကို ပင့်ဆောင်ခဲ့သူများမှာ ဃောသက၊ ကုက္ကုဋ၊ ပါဝါရိကဟူသော သူဌေးကြီးသုံးဦးတို့ ဖြစ်ကြ၏။ သူဌေးကြီး သုံးဦးလုံးကပင် မိမိတို့၏ ဥယျာဉ်မှာ ကျောင်းဆောက်ကြ၏။ ဘုရားရှင်နှင့်တကွ နောက်ပါ ရဟန်းများကို လိုလေသေးမရှိ ပြုစုလုပ်ကျွေးကြ၏။ သူတို့ စိတ်တိုင်းကျ တစ်လတိုင်တိုင် ပြုစုလုပ်ကျွေးပြီးသော် မြို့သူမြို့သားအများစုလည်း ကုသိုလ်ဖြစ်ရန်ဟု လမ်းအလိုက် အုပ်စုအလိုက် အလှည့်ကျ ဆွမ်းဝတ်ပြုကြရန် ခွင့်ပြုကြရပေသည်။

သူဌေးကြီးများ ပြုစုပြီးနောက် ပထမဆုံးပြုစုခွင့်ရသည်မှာ ပန်းသည် အုပ်စု ဖြစ်၏။ လုပ်ငန်းတူ ကုသိုလ်ရှင်အပေါင်းက ပန်းသည် ခေါင်းဆောင်ကြီးအိမ်မှာ စုပေါင်း၍ ချက်ပြုတ်နေကြ၏။ တချို့က ဘုရား အမှူးရှိသော သံဃာတော်များ အတွက် နေစရာ ထိုင်စရာများ ခင်းနေကြ၏။ တချို့က ပန်းကန်ခွက်ယောက်များ ဆေးကြောနေကြ၏။ တစ်အိမ်လုံး ပျားပန်းခတ်မျှ အလုပ်ရှုပ်နေဆဲတွင် ခုဇ္ဇုတ္တရာ ရောက်ရှိသွားပေသည်။

ခုဇ္ဇုတ္တရာသည်ကား ကောသမ္ဗီနန်းတော်ထက်က မိဖုရား သာမာဝတီ၏ အစေအပါး တစ်ယောက် ဖြစ်၏။ သူ့သခင်မ သာမာဝတီအတွက် ခုဇ္ဇုတ္တရာသည် ပန်းသည်ကြီးထံမှ ပန်းဝယ်နေကျ ဖြစ်၏။ ခါတိုင်းနေ့များ၌ သူ့ကို ဂရုတစိုက် ရောင်းချခဲ့သော ပန်းသည်ကြီးသည် ထိုနေ့မှာတော့ ဂရုမစိုက်နိုင်တော့ဘဲ–

"ခုဇ္ဇုတ္တရာ၊ သည်နေ့တော့ သင့်ကို ပန်းမရောင်းအားတော့ပါ။ ငါတို့မှာ ဘုရား အမှူးရှိသော သံဃာတော်များကို ဆွမ်းလုပ်ကျွေးရန် ပြင်ဆင်နေကြရပါသည်။ သင်လည်း သူများအခိုင်းအစေဘဝက လွတ်လိုလျှင် ငါတို့နှင့်အတူ ကုသိုလ်ယူပါဘိ"

အကျွမ်းတဝင် ခင်မင်ပြီးမို့ ပန်းသည်ကြီးက ပြောပြလိုက်ရာ ခုဇ္ဇုတ္တရာက လည်း ဝမ်းပန်းတသာ ကူညီလုပ်ကိုင်၏။

အချိန်ရောက်သောအခါ ဘုရားရှင်သည် နောက်ပါ သံဃာတော် များနှင့်တကွ ကြွတော်မူလာ၏။ ကုသိုလ်ရှင်များနှင့်အတူ ခုဇ္ဇုတ္တရာကလည်း လုပ်အားအလှူဖြင့် ကုသိုလ်ယူခဲ့၏။ ဆွမ်းကိစ္စများ ပြီးစီးသောအခါ ဘုရားရှင်က သစ္စာလေးတန် တရားမှန်ကို မိမိတို့ခန္ဓာမှာ ဉာဏ်နှင့်ကပ်၍ ကြည့်တတ်အောင် ဟောကြားတော်မူ၏။ ခုဇ္ဇုတ္တရာကလည်း ဟောကြားသော တရားတော်များကို လုံးစေ့ပတ်စေ့ မှတ်သားလိုက်နိုင်၏။အကြောင်းမသင့်၍ သူများအစေအပါး ဖြစ်နေရသော်လည်း

မူလပင်ကိုဉာဏ်ထက်သန်၍ပင် ဖြစ်ပေသည်။ တရားသိမ်း၍ အနုမောဒနာပြုကြသည်တွင်ကား သူ့စိတ် သဏ္ဍာန်မှာ သစ္စာဉာဏ်လင်း၍သွားပေပြီ။ သောတာပန်အဆင့်သို့ ရောက်သွားပေပြီ။

ယခင်နေ့များတုန်းက ပန်းဝယ်ရာတွင် လေးကျပ်ဖိုးသာ ဝယ်နေကျဖြစ်၏။ ပါလာသော ငွေရှစ်ကျပ်အနက် တစ်ဝက်ကို တိတ်တဆိတ် ယူထားနေကျဖြစ်၏။ ယနေ့တော့ အသပြာလေးကျပ်ထက် သိန်း သန်း ကုဋေမက မြင့်မြတ်လှသော ရတနာထုပ်ကို ရခဲ့ပြီမို့ ခိုးလိုဝှက်လိုစိတ် မရှိတော့ပြီ။ ထို့ကြောင့် နန်းတော်က ပါလာသော ငွေရှစ်ကျပ်လုံးဖြင့် ဆွဲခြင်းနှင့်အပြည့် ပန်းများဝယ်သွားပေတော့သည်။

ခါတိုင်းထက် ပန်းတွေ များလာသဖြင့် သာမာဝတီ မိဖုရားက မေးမြန်းရာတွင် ခုဇ္ဇုတ္တရာက အဖြစ်မှန်ကို ဇာတ်ကြောင်းလှန်၍ ပြောပြလိုက်၏။ ဤတွင် သာမာဝတီမိဖုရားသည် ကျွန်မအပေါ် အပြစ်မယူဘဲဘုရားရှင်ထံမှ ကြားနာခဲ့ရသော တရားကို တစ်ဆင့်ဟောပြရန် တောင်းပန်၏။ လူတစ်ယောက်၏ စိတ်ဓာတ်ကို တစ်ထိုင်တည်းဖြင့် ဖြူစင်သွားအောင် စွမ်းဆောင်နိုင်သောတရားကို သူ စိတ်ဝင်စားသွား၍ ဖြစ်ပေသည်။

မိမိ၏ သခင်မက တရားတောင်းသော်လည်း ခုဇ္ဇုတ္တရာက မဟောသေးပါ။ မိမိ၏ ထမင်းရှင်၊ မိမိ၏ အသက်သခင်ကို လေးစားသည် မှန်သော်လည်း ထို့ထက်ပို၍ လေးစားသင့်သော ကျေးဇူးရှင်က ရှိနေပေပြီ။

ထို့ကြောင့်–

"အရှင်မတို့၊ တရားနာလိုကြပါလျှင် နိမ့်ရာကနေ၍ နာယူကြပါ။ ကျွန်မကတော့ ဘုရားတရားတော်ကို လေးစားသောအားဖြင့် မြင့်ရာကနေ၍ ဟောကြားရပါလိမ့်မည်"

သူ့အဆိုကို သဘောတူသဖြင့် မိဖုရားသည် သလွန်ထက်မှ ဆင်းပေးရ၏။ မိဖုရားစံမြန်းရာ သလွန်ထက်သို့ ကျွန်မ ခုဇ္ဇုတ္တရာ တက်လာ၏။ အသက်သခင် ထမင်းရှင်၏ နေရာတွင် ရဲဝံ့စွာ ထိုင်လိုက်ပြီးနောက် ဘုရားရှင်ထံမှ ကြားနာခဲ့ရသမျှကို ခုဇ္ဇုတ္တရာက တစ်လုံးမကျန် ပြန်လည် ဟောကြား၏။ အခြွေအရံ မြောက်မြားစွာနှင့် တကွ သာမာဝတီမိဖုရားသည် ထိုနေရာမှာပင် သောတာပတ္တိမဂ်ဉာဏ်ဖိုလ်ဉာဏ် ရသွားပေသည်။ ခုဇ္ဇုတ္တရာ သည်လည်း အခိုင်းအစေဘဝမှ လွတ်မြောက်ခွင့်ရကာ ဘုရားရှင်ထံမှ ကြားနာရသမျှ ပြန်လည်ဟောပြရန် တာဝန်ကို ယူရပေတော့သည်။

ဤဝတ္ထုမှာ ကောသမ္ဗီမြို့တော်သို့ ဘုရားရှင်နှင့် ကျွန်ုပ်တို့ ရောက်ခဲ့တုန်းက ပေါ်ပေါက်ခဲ့ပါသည်။ ယခုမှ စကား အလျဉ်းသင့်၍ တင်ပြလိုက်ရပါသည်။

**(အင်္ဂုတ္တရ အဋ္ဌကထာ၊ ဧကကနိပါတ်၊ ဧတဒဂ္ဂဝဂ်၊ ခုဇ္ဇုတ္တရာ သာမာဝတီဝတ္ထု)**

ခုဇ္ဇုတ္တရာနှင့် ပူးတွဲ၍ စံပြသတ်မှတ်ခံရသော နန္ဒမာတာသည်ကား သုတ္တနိပါတ် ပါဠိတော်လာ ပါရာယနသုတ္တန်ကြီးကို အာဂုံရသူဖြစ်၏။ ထို့ပြင် မိန်းမသား တစ်ယောက်ဖြစ်ပါလျက် စိတ်ဓာတ်ခိုင်မာလှခြင်းကြောင့်လည်း သူ့ဂုဏ်သတင်း ပို၍ ကျော်ကြားရပေသည်။

သူတို့အိမ်ထောင်တွင် ချစ်စရာဆို၍ သားလေးနန္ဒတစ်ယောက်သာ ရှိ၏။ သည်သားကလေးကို မင်းညီမင်းသားများက ရက်စက်စွာ သတ်ဖြတ်ခဲ့ကြ၏။ သားကလေးကို ဖမ်းနေဆဲမှာလည်းကောင်း၊ ဖမ်းပြီးချိန်မှာလည်းကောင်း၊ ညှဉ်းပန်းနှိပ်စက်နေဆဲမှာလည်းကောင်း၊ အသေသတ်နေဆဲမှာ လည်းကောင်း သတ်ပြီးချိန်မှာသော် လည်းကောင်း သူ့စိတ်ထဲမှာ တုန်လှုပ်ချောက်ချားခြင်း မဖြစ်ခဲ့။ ဖောက်လွဲဖောက်ပြန် မဖြစ်ခဲ့။

လင်ဖြစ်သူသေဆုံး၍ ဖုတ်ပြိတ္တာဖြစ်ကာ ကိုယ်ထင်ပြလာတော့လည်း သူ့စိတ်ထဲမှာ တုန်လှုပ်ချောက်ချားခြင်း မဖြစ်ခဲ့။ ဖောက်လွဲဖောက်ပြန် မဖြစ်ခဲ့။

လင်ဖြစ်သူနှင့် ဖူးစာဆုံပြီးကတည်းက ကာကကံမြောက် ဖောက်ပြားရန် မဆိုထားနှင့် စိတ်နှင့်ပင် မဖောက်ပြားခဲ့။

ဘုရားရှင့် တပည့်တော်မ ဖြစ်လာချိန်မှစ၍ လူတို့၏ ကျင့်ဝတ် သိက္ခာပုဒ်များကို တစ်ပါးမျှ ချိုးဖောက်ခြင်း မပြုခဲ့။

လူ့ဝတ်ကြောင် အမျိုးသမီးဖြစ်သော်လည်း ဈာန်သမာပတ် လေးဆင့်လုံးကို ဝင်စားနိုင်၏။

အောက်ပိုင်း သံယောဇဉ်ငါးပါးကို ပယ်နိုင်သော အနာဂါမ် အရိယာ သာဝကလည်း ဖြစ်၏။

ဤသို့သော ဂုဏ်ကျေးဇူးများကြောင့် သူတို့နေရာ ဒက္ခိဏာဂီရိ အရပ်မှ သာဝတ္ထိမြို့တော်တိုင်အောင် သူ့ဂုဏ်သတင်းများ ကျော်ကြားလာခြင်း ဖြစ်ပေသည်။

**(အင်္ဂုတ္တရပါဠိတော်၊ သတ္တကနိပါတ်၊သဟာယဉဝဂ်၊ နန္ဒမာတာသုတ်)**

နန္ဒမာတာကဲ့သို့ပင် စိတ်ဓာတ်ရင့်ကျက် ခိုင်မာလှသည်ဖြစ်၍ အမျိုးသမီးများ နမူနာယူထိုက်သည့်သူတို့ရှိပါသေးသည်။ သူတို့ကား ကာဏာတို့ သားအမိပါတည်း။

ကာဏာဟု အမည်မှည့်ရသည်မှာ မျက်စိကန်းသောကြောင့် မဟုတ်ပါ။ မြင်သူတွေ ငေးလောက်အောင် လှပသောကြောင့် ဖြစ်ပါသည်။ သက်တူ ရွယ်တူ ယောက်ျားများသည် သည်မိန်းကလေးကို ကြည့်ကာ ငေးကာ အကန်းပမာ ဖြစ်တတ်ကြလွန်းသဖြင့် ဤနာမည် တွင်နေခြင်းဖြစ်၏။ သမီးကို အကြောင်းပြု၍ မိခင်ကိုလည်း ကာဏာမာတာဟု ခေါ်ဝေါ်ကြပေသည်။

ကာဏာမာတာ ဒါယိကာမကြီးသည် အရိယာဉာဏ် ရပြီးသူဖြစ်၍ စေတနာ ထက်သန်လှ၏။ တစ်နေ့သ၌ သမီးဖြစ်သူ ကာဏာသည် မိခင်ရှိရာ သာဝတ္ထိ မြို့တော်သို့ အလည်လာခဲ့၏။ မိခင်ဖြစ်သူထံ အလွမ်းပြေလာနေခိုက်မှာ ခင်ပွန်း သည်၏ ရွာမှ အမှာစကား ရောက်လာ၏။ 'သာဝတ္ထိမှာ ကြာကြာမနေဘဲ အိမ်သို့ ပြန်ခဲ့ရန်' ဖြစ်၏။

လူ့သဘာဝကို နားလည်ထားသဖြင့် မိခင်ကြီးက သမက်ဖြစ်သူကို အပြစ် မဆိုပါ။ သူမှာသည့်အတိုင်း သမီးကို သူကိုယ်တိုင် ပြန်ပို့ရန် စီစဉ်၏။ သမက်ထံ ပြန်ပို့ရာတွင် လက်ချည်းသက်သက် မသွားလိုသဖြင့် လက်ဆောင်ပေးရန် မုန့်များ ကြော်ရ၏။ မုန့်ကြော်၍ အပြီးတွင် ဆွမ်းခံ ကိုယ်တော်တစ်ပါး ရောက်လာသဖြင့် လက်ဆောင်ပေးရန် ကြော်ထားသည့် အထဲမှ ခွဲ၍ လှူလိုက်ရ၏။ ထိုရဟန်း ထွက်သွား၍ မကြာမီမှာပင် နောက် တစ်ပါး ရောက်လာပြန်၏။ ထို့နောက်မှလည်း တစ်ပါးပြီး တစ်ပါး ရောက်လာကြပြန်၏။ တစ်ပါးနှင့် တစ်ပါး သတင်းပေးလိုက် ကြ၍ ဖြစ်ပေသည်။ ရဟန်းမြင်လျှင် မလှူဘဲ မနေနိုင်သဖြင့် ကြော်ထားသမျှ မုန့်များ အားလုံး ကုန်သွားတော့၏။

ထိုနေ့မှာ လက်ဆောင်မရှိတော့၍ သူတို့သားအမိ မသွားဖြစ်ပေ။ နောက် နှစ်ရက်မှာလည်း မသွားဖြစ်ပေ။ ခင်ပွန်းသည်ထံက ထပ်ကာထပ်ကာ အမှာစကား တွေ ရောက်လာသော်လည်း ကာဏာတို့မှာ မုန့်မရှိသေး၍ မသွားဖြစ်ကြ။ ကြော် လေသမျှ မုန့်များလည်း ဆွမ်းခံရဟန်းများထံ ပါသွားကြပေသည်။

ဤသို့ဖြင့် ကာဏာတစ်ယောက် ပြန်မလာနိုင်သည်တွင် ခင်ပွန်း ဖြစ်သူက စိတ်မရှည်တော့ဘဲ နောက်မယားတစ်ယောက် ကောက်ယူလိုက်ပေတော့သည်။

လင်ပစ်မကလေး ကာဏာ ငိုယိုနေဆဲတွင် ဘုရားရှင်သည် သူတို့ အိမ်သို့ ဆွမ်းခံကြွတော်မူ၏။ ခင်းထားသောနေရာမှာ ထိုင်တော်မူလျက် ကာဏာငိုရခြင်း အကြောင်းကို မေးတော်မူရာ ဒါယိကာမကြီးက အကျိုးအကြောင်း လျှောက်ထား ရ၏။ ဤတွင် ဘုရားရှင်က ကာဏာတို့နှင့်တကွ အခြားသူများ မပင်ပန်းစေရန် "မုန့်အလှူခံရာတွင် နှစ်သပိတ် သုံးသပိတ်ထက် ပို၍ အလှူခံသော ရဟန်းအား ပါစိတ်အာပတ်သင့်စေ"ဟု သိက္ခာပုဒ် ပညတ်တော်မူရပေသည်။

ကာဏာတို့အိမ်သို့ ဘုရားရှင်ကြွတော်မူလာကြောင်းကို ကြားသဖြင့် ကာဏာ ၏ ခင်ပွန်းသည်ကလည်း ကာဏာကို ပြန်၍ လက်ခံချီးမြှောက်ပါပေသည်။

(သုတ္တပါစိတ်၊ ကာဏာမာတာ သိက္ခာပုဒ် ပါဠိတော်နှင့် အဋ္ဌကထာ)

**

## ပတ္တမြားဝှကို ရှဲ့နှင့်ပွတ်သူများ

"အို အရှင်ဂေါတမ၊ ဤနိဗ္ဗာန်တရားကို အရှင်ဂေါတမ တစ်ပါးတည်းသာ သိမြင်၍ ရဟန်းများ မသိသေးလျှင် ဤသို့ မသိသူ ရှိနေသေးခြင်းကြောင့် ဤသာသနာတော်ကြီးသည် မပြည့်စုံသေးသည် ဖြစ်ရာ၏။ ယခုသော်ကား ဤနိဗ္ဗာန်တရားကို အရှင်ဂေါတမ၏ တပည့်ရဟန်းများလည်း သိကြပေပြီ။ ဤသို့ သိကြသဖြင့် ဤသာသနာတော်ကြီးသည် ပြည့်စုံ၍နေပါပေပြီ"

ကျွန်ုပ်တို့ သိတင်းသုံးဖော် အရှင်ဝစ္ဆဂေါတ္တ ပရိဗိုဇ်ဘဝတုန်းက လျှောက်ထားခဲ့သော စကားများ ဖြစ်ပါ၏။ ဤစကားများမှ ဆက်လက်၍ ရဟန်းမများ၊ ဒါယကာ၊ ဒါယိကာမများပါ တရား သိမြင်ကုန်သဖြင့် သာသနာတော်ကြီး အတိုင်းထက်အလွန် ပြည့်စုံလာပုံကို လျှောက်ထားခဲ့ပေသည်။ 'ကျွန်ုပ်၏ ဥပဇ္ဈာယ်ဆရာ' အခန်းမှာတုန်းက တင်ပြခဲ့သော ဤစကားများကို ကျွန်ုပ်၏ ပရိသတ်များ မှတ်မိကောင်း မှတ်မိကြပါလိမ့်မည်။

အရှင်ဝစ္ဆဂေါတ္တ လျှောက်ထားခဲ့သည့်အတိုင်း ကျွန်ုပ်တို့ သာသနာတော်ကြီးသည် ကြယ်စုံသော ညအခါတွင် လဝန်းကြီး ထိန်ထိန်သာနေသကဲ့သို့ တင့်တယ်လှပါ၏။ ရွှန်းရွှန်းပပ သာလွန်းလှသော ငွေလဝန်းကြီး၏ ပတ်ဝန်းကျင်ဝယ် ကြယ်တာရာများ ခြံရံလျက်ရှိကြ၏။ ကြယ်တာရာတို့ကား ဖြူ၊ နီ၊ ပြာ၊ ဝါ ရောင်စုံဖြာ၍ နေကြပေသည်။

ရဟန်း၊ ရဟန်းမ၊ ဒါယကာ၊ ဒါယိကာမဟူ၍ ပရိသတ်လေးပါး ရှိသည်တွင် အကျင့်သိက္ခာ ဉာဏ်ပညာနှင့် ပြည့်စုံသော သာဝကများ အမြောက်အမြား ရှိကြ၏။ သို့ဖြစ်၍ နောင်တော်မြတ်၏ အရောင်အဝါသည် မဇ္ဈိမဒေသတွင် ပြိုင်ဘက်ကင်းစွာ တောက်ပလျက်ရှိ၏။ ဤမြေပေါ်မှာ ဤသာသနာ ထွန်းပခြင်းသည် လူသားအားလုံး၏ အကျိုးစီးပွား အလို့ငှာသာ ဖြစ်၏။ လူသားအားလုံး

ချမ်းသာသုခ ခံစားကြရန်သာ ဖြစ်၏။ သို့ဖြစ်၍ ဤမဇ္ဈိမဒေသရှိ လူသားအားလုံးသည် ကျွန်ုပ်တို့နှင့် လက်ရည်တစ်ပြင်တည်း ဖြစ်လာလျှင် ကောင်းလေစွ။ သို့သော် ကျွန်ုပ်၏ ဆုတောင်း မပြည့်ဝပါ။ ကျွန်ုပ်တို့ သာသနာတော်ကြီးကို လိုလားသူများ ရှိသကဲ့သို့ မလိုလားသူများလည်း ရှိနေကြပေသည်။

ကျွန်ုပ်တို့ သာသနာတော်သည် ဤမြေပေါ်မှာ ဖြန့်ကျက်နေ၏။ ထို့အတူပင် အခြားအခြားသော ဆရာကြီးများ၏ အယူဝါဒများသည်လည်း ဤမြေနှင့်အနှံ့ ပြန့်ကြဲနေကြ၏။ ဤတွင် မတူသော အယူအဆများသည် မကြာခဏ ထိပ်တိုက်ရင်ဆိုင်တွေ့ကြရ၏။ တစ်ခါတစ်ရံ ပြေပြေလည်လည် ဆွေးနွေးဖြစ်ခဲ့ကြ၏။ တစ်ခါတစ်ရံမှာကား အကြိတ်အနယ် ယှဉ်ပြိုင်ခဲ့ကြ၏။ ဤအကြောင်းများကို စောစောတုန်းက တော်တော်စုံအောင် တင်ပြခဲ့ပါပြီ။

ထိုစဉ်က ယှဉ်ပြိုင်ခဲ့ကြရသည်မှာ တရားသဘောနှင့် ပတ်သက်ခဲ့၏။ တစ်ဖက်က လက်ခံထားသော တရားသဘောကို အခြားတစ်ဖက်က ချေဖျက်နိုင်ရန် ကြိုးစားကြခြင်း ဖြစ်၏။ အားနှင့်အင်နှင့်စိုင်းဝန်း၍ ကြိုးစားကြသော်လည်း ကျွန်ုပ်တို့ သာသနာတော်သည် ကျောက်စာတိုင်ပမာ ခိုင်မြဲစွာ ရပ်တည်လျက်သာ ရှိခဲ့၏။ ဤတွင်ဆန့်ကျင်ဘက် အင်အားစုများ သည် တရားသဘောငြင်းခုံမှုသာ မကတော့ဘဲ ပုဂ္ဂိုလ်ရေးရာ ထိပါး ပုတ်ခတ်မှုများ ပြုလာကြပါတော့သည်။

"အရှင်ဘုရား၊ တပည့်တော် ဤသို့ တစ်ဆင့်စကား ကြားခဲ့ရဖူးပါသည်။ 'ရဟန်းဂေါတမသည် လှည့်ပတ်တတ်သော အတတ်ရှိ၏။ ထိုအတတ်ဖြင့် အခြားသော ဆရာများ၏ တပည့်များကို လှည့်ပတ်၍ခွဲဆောင်၏' ဤသို့ ဆိုကြသော စကားသည် ကြားရသည့်အတိုင်း ဟုတ်မှန်ပါသလော။ တပည့်တော်တို့ကား အရှင်ဘုရားကို မစွပ်စွဲလိုကြပါဘုရား"

ဘဒ္ဒိယမည်သော လိစ္ဆဝီအမျိုးသားက လျှောက်ထားလာခြင်းဖြစ်၏။ အယူတစ်ပါး ခြားနားနေသော ဆရာကြီးများ၏ စွပ်စွဲချက်များကို တစ်ဆင့် သယ်ဆောင်လာခြင်း ဖြစ်၏။ ထိုဆရာကြီးတို့သည် မိမိ၏ တပည့် ဒါယကာများ လျော့သွားရာတွင် မိမိ၏ ချို့တဲ့ချက်များကို ပြုပြင်မည့်အစား ဘုရားရှင်ကိုသာ လှမ်း၍ စွပ်စွဲကြပေသည်။ သူတို့ စကားထဲမှာပင် ဘုရားရှင်အပေါ် မနာလိုမှုများ ထင်ရှား၍ နေပေသည်။

ထိုစဉ်က ဘဒ္ဒိယသည် ဘုရားတပည့်သား မဖြစ်သေးချေ။ ဟိုဆရာ ကောင်းနိုးနိုး၊ သည်ဆရာဟုတ်နိုးနိုး စူးစမ်းနေဆဲဖြစ်၏။ ဘဒ္ဒိယ စူးစမ်းနေဆဲမှာပင် သူ့ပတ်ဝန်းကျင်လူများက သည်သာသနာတော်၏အရိပ်အောက်သို့ တစ်သုတ်ပြီး တစ်သုတ် ဝင်သွားကြ၏။ ဤတွင် အခြားဆရာကြီးများ၏ စွပ်စွဲချက်များ

ဟုတ်များဟုတ်နေမည်လားဟု သံသယဝင်ခဲ့မိ၏။ သို့သော် ဘဒ္ဒိယက ထိုသံသယကို စိတ်ထဲမှာ မြဲမထားခဲ့ပါ။ ရိုးသားပွင့်လင်းသူပီပီ ရှေ့တော်မှောက် ဝင်ရောက်၍ ဖွင့်ဟ လျှောက်ထားလိုက်ပေသည်။

ဘဒ္ဒိယ၏ သံသယကို ဘုရားရှင်က လက်တွေ့ပြ၍ ဖြေရှင်းတော်မူရပေသည်။

"အို ဘဒ္ဒိယ၊ သင်တို့ လာကြကုန်လော့။ နာကြကုန်လော့။ တစ်ဆင့်စကားကြားကာမျှဖြင့်၊ မိရိုးဖလာ ပြောဆိုလာကာမျှဖြင့်၊ ဤသို့ ဖြစ်သတဲ့ဟု ဆိုကာမျှဖြင့်၊ ကျမ်းဂန်နှင့် ကိုက်ညီကာမျှဖြင့်၊ အကြံအစည် တည့်ကာမျှဖြင့်၊ နည်းယူ၍ ရကာမျှဖြင့်၊ ကြောင်းခြင်းရာကို ကြံစည်ကာမျှဖြင့် မိမိအကြိုက်နှင့် ကိုက်ညီကာမျှဖြင့်၊ ယုံကြည်ထိုက်သူ၏ စကားဖြစ်ကာမျှဖြင့်၊ လေးစားအပ်သော ဆရာသမားများ၏ စကားဖြစ်ကာမျှဖြင့် တစ်ထစ်ချ စွဲမှတ်မထားကြကုန်လင့်။ ဤတရားတို့သည် အပြစ်ရှိသော အကုသိုလ်တို့ ဟူ၍ သင်တို့ကိုယ်တိုင် လက်တွေ့သိလာကြသောအခါ ဤအကုသိုလ်တရားကို ပယ်စွန့်ကြကုန်လော့။

"ဘဒ္ဒိယ၊ ငါ ဘုရား၏ မေးခွန်းကို သင် သဘောပေါက်သလို ဖြေကြားပါ။ လူတစ်ယောက်ယောက်၏ စိတ်သန္တာန်မှာ လောဘ ကပ်ငြိလာသောအခါ အကျိုးစီးပွား များမည်လား၊ မများမည်လား"

"မများနိုင်ပါ အရှင်ဘုရား"

"ဘဒ္ဒိယ၊ မှန်ပါ၏။ လောဘဖောတိုက်နေသောသူသည် သူ့အသက်ကိုလည်း သတ်ရာ၏။ သူ့ဥစ္စာကိုလည်း ခိုးရာ၏။ သူ့မယားကိုလည်း ပြစ်မှားရာ၏။ မမှန်သောစကားကိုလည်း ပြောကြားရာ၏။ သူတစ်ပါး ကိုလည်း သူ့နည်းတူ ကျူးလွန်အောင် ဆွဲဆောင်ရာ၏။ ဤသို့ပြုခြင်းဖြင့် ထိုသူအား ကာလရှည်စွာ အကျိုးယုတ်ကြောင်း၊ ဆင်းရဲကြောင်း မဖြစ်ပါလော"

"ဖြစ်ပါသည် အရှင်ဘုရား"

ဒေါသ၊ မောဟစသော ကိလေသာတို့ကိုလည်း ဤနည်းအတိုင်း အမေးအဖြေ ပြုကြပြီးနောက် ဆက်လက်၍–

"ဘဒ္ဒိယ၊ ငါဘုရား၏ မေးခွန်းကို သင်သဘောပေါက်သလို ဖြေကြားပါ။ ဤလောဘ၊ ဒေါသ၊ မောဟစသော တရားတို့သည် ကုသိုလ်လော၊ အကုသိုလ်လော"

"အကုသိုလ်ပါ အရှင်ဘုရား"

"အပြစ်ရှိသလော၊ အပြစ်ကင်းသလော"

"အပြစ်ရှိပါသည် ဘုရား"

"ပညာရှိတို့ ကဲ့ရဲ့အပ်သလော၊ ချီးမွမ်းအပ်သလော"

"ပညာရှိတို့ ကဲ့ရဲ့အပ်ပါသည် ဘုရား"

"ဤတရားတို့ကို ပွားများသော် အကျိုးမဲ့ခြင်းငှာ ဆင်းရဲခြင်းငှာ ဖြစ်သလော၊ မဖြစ်သလော"

"အကျိုးမဲ့ခြင်းငှာ ဆင်းရဲခြင်းငှာ ဖြစ်ပါသည် အရှင်ဘုရား"

"ဘဒ္ဒိယ၊ ထို့ကြောင့် သင့်ကို ငါဘုရား မိန့်မှာခဲ့၏။ 'ကိုယ်တိုင် လက်တွေ့ မလေ့လာရသေးဘဲ တစ်ထစ်ချ မှတ်မထားနှင့်။ ဤတရားတို့သည် အပြစ်ရှိသော အကုသိုလ်တရားတို့ဟူ၍ သင်ကိုယ်တိုင် လက်တွေ့ သိလာရသောအခါတွင် ဤအကုသိုလ် တရားများကို ပယ်စွန့်ကြကုန်လော့' ဤသို့ မိန့်မှာခဲ့ခြင်းမှာ ဤ အကြောင်းကြောင့် ဖြစ်ပေသည်"

ထို့နောက် အလောဘ၊ အဒေါသ၊ အမောဟ စသော ကုသိုလ်တရား တို့ကိုလည်း ဆက်လက် မေးခွန်းထုတ်တော်မူ၏။ မေးသမျှကို ဘဒ္ဒိယကလည်း ဖြောင့်ဖြောင့်တန်းတန်း ဖြေဆိုပြီးနောက် ဘုရားရှင်ထံ တပည့်ခံလေရာ–

'ဘဒ္ဒိယ၊ 'ငါ့ဆီလာ၍ တပည့်ခံလှည့်လော့။ ငါသည် သင့်ဆရာ လုပ်အံ့' ဟု ငါဘုရား ပြောကြားခဲ့ဖူးပါသလော"

"မပြောကြားခဲ့ဖူးပါ ဘုရား"

"ဤသို့ မပြောကြားခဲ့ဖူးပါဘဲလျက် အချို့သော ရဟန်း ပုဏ္ဏားတို့က ငါဘုရားကို မဟုတ်မမှန်သော အကြောင်းဖြင့် လုပ်ကြံစွပ်စွဲကြ၏။ ရဟန်းဂေါတမ သည် လှည့်ပတ်တတ်သော အတတ်ရှိ၏။ ထိုအတတ်ဖြင့် အခြားဆရာများ၏ တပည့်များကို လှည့်ပတ်၍ ဆွဲဆောင်၏ဟု ဆိုခဲ့ကြဘိ၏"

"အရှင်ဘုရား၊ အရှင်ဘုရား၏ လှည့်ပတ်တတ်သော အတတ်သည် ကောင်းလေစွဘုရား။ မွန်မြတ်ပေစွ ဘုရား။ တပည့်တော် ချစ်မြတ်နိုးသော သားချင်း မိတ်ဆွေများကို ဤအတတ်ဖြင့် လှည့်ပတ်ရပါလျှင် ကာလရှည်ကြာ ချမ်းသာစီးပွား များကြပါလိမ့်မည် ဘုရား"

(အင်္ဂုတ္တရပါဠိတော်၊ စတုက္ကနိပါတ်၊ မဟာဝဂ်၊ ဘဒ္ဒိယသုတ်)

အခြားဆရာတို့၏ တပည့်ဒါယကာများ တဖွဲဖွဲ ဝင်လာကြသည့်အတွက် ပြဿနာတက်ရသကဲ့သို့ပင် ဤသာသနာတော်မှာ လှူဒါန်းသူတွေ ပေါများခြင်း ကြောင့်လည်း မဟုတ်မဟတ် ပြောလာကြပေသည်။

"အို အရှင်ဂေါတမ၊ အရှင်ဂေါတမသည် ဤသို့ ဆိုခဲ့သည်ဟု တစ်ဆင့်စကား ကြားခဲ့ရဖူးပါသည်။ ငါနှင့် ငါ့တပည့်များကိုသာ လှူရမည်။ အခြားသူများကို မလှူရ။ ငါနှင့်ငါ့တပည့်များကို လှူဒါန်းခြင်းသာ အကျိုးကြီးမားသည်။ အခြား

သူများကို လှူဒါန်းခြင်းသည် အကျိုးမရှိ။ ဤသို့ ပြောကြားခဲ့သည်ဆိုသော စကားသည် ကြားရသည့်အတိုင်း ဟုတ်မှန်ပါသလော။ တပည့်တော်တို့ကား အရှင်ဂေါတမကို မစွပ်စွဲလိုပါ"

အရှင်ဝစ္ဆဂေါတ္တ ရဟန်းမပြုခင်က လျှောက်ထားခဲ့သော စကားစု ဖြစ်၏။ မလိုလားသူတို့ စွပ်စွဲချက်ကို တစ်ဆင့်လျှောက်ထားခြင်း ဖြစ်၏။ တရားရေးမဟုတ်၊ ပုဂ္ဂိုလ်ရေး စွပ်စွဲချက်ဖြစ်ကြောင်း သိသာလှပါသည်။ အဘယ့်ကြောင့် ဤသို့ စွပ်စွဲလာရသည်ကိုလည်း တွေးကြည့်လျှင် သိနိုင်ပါသည်။

သို့ရာတွင် ဘုရားရှင်ကတော့ စွပ်စွဲသူနောက်သို့ လိုက်ပါမနေတော့ပါ။ စွပ်စွဲလာသော စကားများကိုသာ သံသယကင်းအောင် ဖြေရှင်းတော်မူလိုက်ပါသည်။

"ဝစ္ဆ၊ သူတို့ပြောကြားသောစကားသည် မဟုတ်မမှန်ပေ။ ငါဘုရားကို မဟုတ်မမှန်သော အကြောင်းများဖြင့် လုပ်ကြံ စွပ်စွဲကြခြင်းသာ ဖြစ်၏။ အလှူပေးနေသူကို ဝင်၍ တားမြစ်သောသူသည် ကောင်းမှုကုသိုလ်ကို အန္တရာယ် ပြုတတ်၏။ အလှူခံပုဂ္ဂိုလ်တို့အား လာဘ်မရအောင် အနှောင့်အယှက် ပြုတတ်၏။ သူတစ်ပါးထက် မိမိအကျိုးစီးပွားကို ဦးစွာပထမ တူးဖြိုပြီး ဖြစ်နေ၏။ ဤသို့အားဖြင့် သုံးမျိုးသုံးလီ အန္တရာယ် ပြုသည်မည်၏။ အနှောင့်အယှက် ပြုသည်မည်၏၊

"ဝစ္ဆ၊ ငါဘုရား ဟောကြားသည်မှာ ဤသို့ဖြစ်၏။ ရေပုပ်ရေဆွေးထဲမှာ ကျက်စားနေကြသော ပိုးလောက်လန်းများရှိကြ၏။ တစ်စုံတစ်ယောက်သည် ထိုပိုးလောက်လန်းများရှိရာသို့ ဆေးရေ ကြောရေများကို သွန်လိုက်ငြားအံ့။ ဤရေဖြင့် ဤသတ္တဝါလေးများ ချမ်းသာကြပါစေဟု စေတနာထားတတ်လျှင် အလှူဒါန မြောက်သည်သာ ဖြစ်၏။ လူသားများအား လှူဒါန်းရာတွင်မူ အဘယ်ဆိုဖွယ်ရာ ရှိမည်နည်း။ ဤသို့ မည်သူ့ကိုလှူလှူ ဒါနကုသိုလ် မြောက်သော်လည်း လှူခြင်း လှူလျှင်ကား သီလရှိသူအား လှူဒါန်းခြင်းကိုသာ အကျိုးများသည်ဟု ဟောကြား၏။ သီလမရှိသူအား လှူဒါန်းခြင်းကိုကား အကျိုးများသည်ဟု ငါဘုရား မဟောကြားပေ"

**(အင်္ဂုတ္တရပါဠိတော်၊ တိကနိပါတ်၊ ဗြာဟ္မဏဝဂ်၊ ဝစ္ဆဂေါတ္တသုတ်)**

ဤသို့ အကြောင်း ယုတ္တိခိုင်လုံစွာ ဖြေရှင်းတော်မူလိုက်သဖြင့် ဘဒ္ဒိယနှင့် ဝစ္ဆဂေါတ္တတို့မှာ သံသယရှင်းသွားကြ၏။ သူတို့က တစ်ဆင့် ရှင်းပြကြသဖြင့် ကြားကြားသမျှ ပုဂ္ဂိုလ်များလည်း ဓာတ်ရည်လည်၍ သွားကြပါ၏။ သို့ရာတွင် အခြားဆရာကြီးများကား ဤမျှဖြင့် လက်မလျှော့ ကြသေးပါ။ အလှူဒါနနှင့်ပတ်သက်၍ တပည့်သာဝကပေါ်များခြင်းနှင့် ပတ်သက်၍ စွပ်စွဲချက် မအောင်မြင်မှန်း သိကြသောအခါ နောက်တစ်မျိုး ကြံကြပြန်ပေသည်။

သူတို့အကြံကို ဘုရားရှင်ကတော့ စကတည်းက သိနေပါလိမ့်မည်။ သို့သော် ဤလိုကိစ္စများကို ဘုရားရှင်သည် စကားဦးသန်းလေ့ မရှိခဲ့ပါ။ ကျွန်ုပ်တို့တစ်တွေကလည်း အမှတ်မဲ့သာ နေခဲ့မိကြ၏။ ကျွန်ုပ်၏ စိတ်သန္တာန်မှာလည်း သူတစ်ပါးအပေါ် မယုံသင်္ကာစိတ် မွေးမြူမထားတတ်ကြောင်း ကျွန်ုပ်၏ ပရိသတ်များ သိကြပြီး ဖြစ်ပါသည်။

ထို့ကြောင့် ကျွန်ုပ်တို့ ဇေတဝန်ကျောင်းတော်သို့ သုန္ဒရီဟူသော ပရိဗိုဇ်မကလေး ရောက်လာသည့် ကိစ္စကို ကျွန်ုပ်တို့ အထူးအထွေ မတွေးမိကြပါ။ သံသယစိတ်ဓာတ် မကိန်းလာကြပါ။ သာဝတ္ထိမြို့တော်က ဒါယကာ ဒါယိကာမအများစုနည်းတူ ကျောင်းတော်လာ၍ တရားနာရှာသည် ဟူ၍သာ သဘောပိုက်မိကြပါသည်။ သာသနာ့ပြင်ပက ပရိဗိုဇ်မလေးဖြစ်ပါလျက် သာသနာတွင်းတရားကို နာရှာဖော်ရပေသည်ဟုသာ မုဒိတာ ပွားမိကြပါသည်။

ညနေပိုင်းမှာ ပရိသတ်များနှင့်အတူ လိုက်ပါလာသော သုန္ဒရီသည် ညနေမိုးချုပ်၍ တရားပွဲသိမ်းတော့လည်း ပရိသတ်နှင့်အတူ ပြန်သွားခဲ့ပါသည်။ ရောက်ခါစတုန်းကသာ အတန်ငယ် ထူးခြားသလိုလို ရှိနေ၍ သူ့ကို သတိပြုမိကြပါ၏။ ခေါက်ရေ တော်တော်များလာသည်တွင်ကား အများနည်းတူ သဘောထားလိုက်ကြပါတော့သည်။

သို့နှင့် တစ်ခုသော နံနက်ခင်းတွင် အုတ်အုတ်ကျက်ကျက် အသံများ ကြားလိုက်ရ၏။ အသံများ ထွက်ပေါ်လာရာမှာ ဇေတဝန်ကျောင်းတော် တံတိုင်းပြင်ဘက်က ဖြစ်၏။ ဘုရားရှင်မေးတော်မူလျှင် အသင့်ဖြေနိုင်အောင် အုတ်အုတ်ကျက်ကျက် ဖြစ်နေရာသို့ ကျွန်ုပ်သွား၍ ကြည့်ခဲ့ရ၏။

ဇေတဝန်ကျောင်းတော် တံတိုင်းပြင်ဘက်၌ ပန်းမှိုက်များ စွန့်ပစ်ရာဌာန ရှိ၏။ ကျုံးသဖွယ်ဖြစ်နေသော ရေမြောင်းထဲသို့ အမှိုက်များ စွန့်ပစ်ဖန်များ၍ မြောင်းပျောက်နေတော့၏။ လူသူအရောက်အပေါက်နည်းလှသော ထိုနေရာတွင် ယခု လူစုလူဝေးကြီး ဖြစ်နေ၏။ သာဝတ္ထိမြို့တော်တွင်းမှ ကျွန်ုပ်တို့ကို ဆွမ်းမလောင်းသော သူများနှင့် သူတို့ဆရာ ပရိဗိုဇ်များ ဖြစ်ကြ၏။ တက်ကြွစွာလှုပ်ရှား၍ ဆူညံစွာ ပြောကြားနေကြသည့် ပရိဗိုဇ်များပင် ဖြစ်ကြ၏။ သူတို့၏ ညစ်ထေးထေး သင်္ကန်းကြီးများတွင် အမှိုက်သရိုက်များ ကပ်ငြိနေကြပေပြီ။

ကျွန်ုပ်ရောက်လာသော အချိန်၌ အမှိုက်ပုံကြီးများကိုမွှေနှောက်၍ ပြီးနေကြပါပြီ။ အသင့်ဆောင်လာသော ခုတင်ဟောင်းထက်မှာလည်း လူသေအလောင်းတစ်ခု တင်ပြီးနေပါပြီ။ အနားထိအောင် သွားကြည့်ရန် မလျော်သဖြင့် ကျွန်ုပ်ပြန်လှည့်ခဲ့ပါ၏။ သို့သော် သူတို့ပြောသံဆိုသံထောက်၍ သုန္ဒရီပရိဗိုဇ်မကလေး၏

အလောင်းဖြစ်ကြောင်း ကျွန်ုပ် သိရပါသည်။ ရုပ်ရည်လှပသော ပရိဗိုဇ်မကလေးသည် ဘာကြောင့်များ အမှိုက်ပုံထဲ လာသေရရှာပါလိမ့်။

ကံဆိုးရှာသူကလေးအတွက် ကရုဏာသက်ခဲ့ရသော ကျွန်ုပ်တို့သည် နောက်တစ်နေ့ နံနက်ကျခါမှ သူတို့၏ လုပ်ဇာတ်ကြီးကို သိကြရပါတော့သည်။

သာဝတ္ထိမြို့တော်ကြီးဝယ် ကျွန်ုပ်တို့ သာသနာတော်ကြီးကို မကြည်ညိုသူများလည်း ရှိနေကြ၏။ ကျွန်ုပ်တို့မှာ ဘုရားတပည့်သားပီပီ အိမ်စဉ်အတိုင်း မခြွင်းမချန် ဆွမ်းခံရမည့် ဝတ္တရားရှိသည့်အတိုင်း သူတို့အိမ်များသို့လည်း ရောက်ကြရ၏။ သို့သော် ကျွန်ုပ်တို့၏ အညီအမျှ သဘောထားမှုကို သူတို့က လေးစားရကောင်းမှန်း မသိပါ။ နေ့စဉ် ဆွမ်းရပ်နေပါလျက် တစ်ဇွန်းမျှ မလောင်းကြပါ။ တချို့မှာ ကန်တော့ဆွမ်းပါဟူ၍ မပြောဘဲ မျက်နှာလွှဲ၍နေကြ၏။ ဤတွင် ကျွန်ုပ်တို့သည် သည်အိမ်များကို ဇရပ်ဟု အသိအမှတ်ပြုကာ ကျော်၍ ထားခဲ့ရပေတော့သည်။

ကျွန်ုပ်တို့ ကျော်၍ ထားခဲ့သော အိမ်များသည် ယခင့် ယခင်တုန်းကတော့ အကြိုက်တွေ့နေကြ၍လော မသိပါ။ ကျွန်ုပ်တို့ကို ကြည့်ကာ ခပ်မဆိတ်နေခဲ့ကြ၏။ ထိုနေ့မှာတော့ ထိုအိမ်များမှ လူရှိသမျှ အိမ်ပေါက်ဝသို့ စုပြုံ၍ ထွက်နေကြ၏။ ခါတိုင်း ကျွန်ုပ်တို့ကို မျက်နှာလွှဲ၍ နေကြရာမှ ထိုနေ့မှာတော့ ကျွန်ုပ်တို့ကို စူးစူးစိုက်စိုက် ကြည့်နေကြ၏။ ထူးခြားလှသော အခြေအနေကို အကဲခတ်နေဆဲမှာပင် သူတို့အားလုံး သံကုန်ဟစ်ကြပါတော့သည်။

"သကျနွယ်ဖွား ဤရဟန်းများသည် အရှက်မရှိကုန်။ သီလ မရှိကြကုန်။ ယုတ်မာညစ်ညမ်းကြကုန်၏။ မမှန်စကား ပြောကြားကြကုန်၏။ မမြတ်သော အကျင့်ကို ကျင့်ကြကုန်၏။ ဤလို ပုဂ္ဂိုလ်မျိုးကပင် တရားကျင့်သူ၊ ငြိမ်းချမ်းစွာကျင့်သူ၊ မြတ်သောအကျင့်ကိုကျင့်သူ၊ အမှန်စကား ဆိုတတ်သူ၊ သီလရှိသူ၊ စိတ်ထားကောင်းသူဟု ဝန်ခံကြကုန်သေး၏။ ဤသူတို့အား ရဟန်း၏ ဂုဏ်သိက္ခာ မရှိတော့ပြီ။ မြင့်မြတ်သော ဂုဏ် သိက္ခာ မရှိတော့ပြီ။ ဤသူတို့အား ရဟန်း၏ ဂုဏ်သိက္ခာ ပျက်စီးခဲ့ပြီ။ မြင့်မြတ်သောဂုဏ်သိက္ခာ ပျက်စီးခဲ့ပြီ။ ယောကျ်ားရင့်မာကြီးဖြစ်ပါလျက် မိန်းမသားတစ်ယောက်ကို စိတ်ရှိတိုင်း ပြုကျင့်ပြီးခါမှ ရက်ရက်စက်စက် သတ်ဖြတ်ကြပေသည်တကား"

မနေ့က ပြဿနာသည် ယနေ့မှ အဖြေပေါ်လာပေတော့သည်။ ဆဲဆိုဟစ်ကြွေးလေသမျှကို ကျွန်ုပ်တို့သည် မည်သို့မျှမတုံ့ပြန်ဘဲ ကျွန်ုပ်တို့ ဆွမ်းခံအိမ်များရှိရာသို့ ဆက်လက်ထွက်ခွာလာခဲ့ကြ၏။ မြို့တော်ထဲမှာ ကြုံခဲ့ရသမျှကို ဘုရားရှင်ထံ လျှောက်ထားရာ ဘုရားရှင်က–

"ရဟန်းတို့၊ ဤအသံသည် ကာလရှည်ကြာမည် မဟုတ်။ ခုနစ်ရက်မျှသာ ကြာလိမ့်မည်။ ခုနစ်ရက်ကျော်လွန်လျှင် ကွယ်ပျောက်သွားလိမ့်မည်" ဟု မိန့်ကြားတော်မူပေသည်။

တကယ်တော့ အမိုက်မလေး သုန္ဒရီသည် ကျွန်ုပ်တို့ကို သိက္ခာချ အရှက်ခွဲနိုင်ရေးအတွက် ခားစာခံသွားရခြင်း ဖြစ်၏။ ကျွန်ုပ်တို့ ကျောင်းတော်သို့ သူရောက်လာခြင်းမှာ တရားနာရန် မဟုတ်။ သူ့ဆရာသမားများ ညွှန်ကြားချက်အတိုင်း လိုက်နာခြင်းသာ ဖြစ်၏။ တရားပွဲသိမ်း၍ ကျောင်းတော်မှ ပြန်သွားသော်လည်း မြို့ထဲထိအောင် မပြန်ပေ။ မလှမ်းမကမ်းရှိ ပရိဗိုဇ် ရဟန်းကျောင်းတစ်ကျောင်းမှာ သွားအိပ်နေ၏။ နံနက်လင်း၍ ကျောင်းသို့ အလှူအတန်းလာသူများနှင့် ရင်ဆိုင်တွေ့အောင် တမင် အကွက်ဆင်ခဲ့၏။ ဇေတဝန်ကျောင်း တော်မှာ ညအိပ်၍ ပြန်လာလေဟန်ပြု၏။ ဤသို့ ဆရာသမားများအလိုကျ ဆောင်ရွက်ပေးသဖြင့် ရရှိသော ဆုလာဘ်ကား အသေဆိုးဖြင့် သေရခြင်းပါတည်း။

အမိုက်မလေး သုန္ဒရီ၏ အလောင်းကို ခုတင်မှာတင်ကာ ထမ်းလျက် ပရိဗိုဇ်များသည် သာဝတ္ထိမြို့တော်မှာ လမ်းတကာစုံအောင် လှည့်လည် ကြွေးကြော်ခဲ့သည် ဖြစ်ပါ၏။ ယနေ့နံနက် သံပြိုင်ဟစ်ခဲ့ကြသော စကားလုံးများသည် သူတို့ ဆရာသမားများ၏ စကားလုံးများပင် ဖြစ်ပေသည်။ စနစ်တကျ စီစဉ်ထားသော လုပ်ကြံမှုကြီးပါပေတည်း။

ကျွန်ုပ်တို့ ကျောင်းနားမှာ သူတို့လာ၍ ရှာရာတွင် ကောသလ မင်းကြီးထံ ခွင့်တောင်းခဲ့ကြသေးသည်ဟု ဆိုပါ၏။ မင်းပြစ်မင်းဒဏ် ရှောင်ကွင်းနိုင်ရန်ဖြစ်၏။ အကျင့်တန်၍ အကြံကောင်းကြသော်လည်း သူတို့အမှုကို ဖုံးလွှမ်း၍ မရပါ။ ကြေးစားလူသတ်သမားများ အရက်မူးရာမှ အမှုမှန်ကြီး ပေါ်လာပေသည်။

(ဥဒါန်း၊ သုန္ဒရီသုတ်ပါဠိတော်နှင့် အဋ္ဌကထာ)

သူတော်ကောင်းစိတ်ရှိသူတိုင်း စုတ်တသပ်သပ် ဖြစ်ခဲ့ရသော ဤအမှုကြီးသည် ဟိုးလေးတကျော် ဖြစ်ခဲ့၏။ သာဝတ္ထိမြို့တော်တွင်းမှစ၍ အတိုင်းတိုင်း အပြည်ပြည်သို့ ပျံ့နှံ့သွား၏။ ကျွန်ုပ်တို့မှတစ်ဆင့် ဘုရားရှင်၏ အရှိန်အဝါကို ညှိုးမှိန်သွားရန် သူတို့ကြံစည်ခဲ့သော အမှုကြီးကြောင့်ပင် ဘုရားရှင်၏ ဂုဏ်ကျက်သရေသည် ဆတက်ထမ်းပိုး တိုးတက်လာရပေသည်။

ဤအဖြစ်အပျက်ကို ပြန်လည်တွေးမိတိုင်း ပတ္တမြားဂူနှင့် ဝက်များ၏ ဝတ္ထုကြောင်းကို သွား၍ သတိရမိ၏။ တောပျော်ရသေ့တစ်ပါး၏ ကျောင်းသင်္ခမ်း အနီးရှိ ပတ္တမြားဂူတွင် ဝက်ကောင်ရေ သုံးဆယ်ခန့်နေကြ၏။ ရက်စက်ကြမ်းကြုတ်သော ခြင်္သေ့ကြီးတစ်ကောင်သည် ထိုဂူနားမှ နေ့စဉ် ဖြတ်၍သွားရာ ခြင်္သေ့၏

အရိပ်သည် ချောမွေ့ကြည်လင်သော ဂူနံရံမှာ ထင်ဟပ်လာ၏။ ကြောက်စရာကောင်းသော ခြသေ့်ကြီး၏ အရိပ်ကို မြင်နေရသဖြင့် ဝက်တို့သည် အစားပျက်အသောက်ပျက် ဖြစ်လာကြရ၏။ အသွေးအသား ခန်းခြောက်လာရ၏။

ဤတွင် ဝက်များသည် ဤအဖြစ်ဆိုးမှ လွတ်မြောက်ကြစေရန် ကြံစည်ကြ၏။ အနီးအနားမှာရှိသော ရေကန်သို့ဆင်းကာ သူတို့ကိုယ်ကို ရွှံ့များလူးလျက် ဂူနံရံကို ပွတ်ကြ၏။ ပါလာသော ရွှံ့များသည် ချောမွတ် ကြည်လင်သော ဂူနံရံမှာ မကပ်နိုင်ပါ။ သူတို့၏ အမွေးများနှင့် ပွတ်တိုက်သဖြင့် ဂူနံရံသာ ပိုမို၍ ကြည်လင်လာရပေတော့သည်။

ဤအကြောင်းကို ဝက်များက ရသေ့ကြီးထံ သွား၍ လျှောက်ထားရာ ရသေ့ကြီးက ပတ္တမြားဂူဟူသည် ရွှံ့နှင့်လူး၍ပွတ်သော်လည်း အရောင်မမှိန်နိုင်ကြောင်း ပြောပြ၍ သူတို့ကို နှင်ထုတ်လိုက်ပေတော့သည်။

ဤအမှုကြီး ပေါ်ပေါက်ခဲ့သည်မှာ ကြာလှပါပြီ။ ဟိုတုန်းက ကျွန်ုပ်တို့ကို ဆဲခဲ့ ဆိုခဲ့ကြသူများလည်း သတိသံဝေဂ ရကုန်ကြပါပြီ။ ကျွတ်တမ်းဝင်ကုန်ကြပါပြီ။

သည်တုန်းက ပတ္တမြားဂူကို ရွှံ့နှင့် ပွတ်သူများမှာ သာသနာ့ပြင်ပက ပုဂ္ဂိုလ်များ ဖြစ်၏။ ယခု နောက်ပိုင်းမှာကား သူတို့ထက် အဆတစ်ရာမက သာအောင် ဆိုးရွားသူပေါ်လာပါပြီ။ ပတ္တမြားဂူကို ရွှံ့နှင့် ပွတ်ရုံမက ပုဆိန်နှင့် ထုခွဲသူပင် ပေါ်ပေါက်လာပါပြီ။

ထိုမျှလောက်ဆိုးရွားသူကား သာသနာ့ပြင်ဘက်က မဟုတ်ပါ။ သာသနာတော်၏ အတွင်းထဲက ဖြစ်ပါ၏။ ထို့ပြင် ကျွန်ုပ်တို့ အသွေးအသားထဲကလည်း ဖြစ်နေပါ၏။

**(တိကနိပါတ်ဓာတ် အဋ္ဌကထာ၊ မဏိဃံသဇာတ်)**

❋❋

# ပကာသနီယကံ

ကျွန်ုပ်၏ စိတ်နှလုံးကို ရွှင်ပြုံးစေတတ်သော အို သူတော်သူမြတ် အပေါင်းတို့၊ လာခြင်းကောင်းသော ဘုရားရှင်ကိုယ်တော်မြတ်ကြီးနှင့်တကွ တပည့်သာဝက အပေါင်း၏ ကောင်းသောလာခြင်း၊ ကောင်းသတင်းအဖုံဖုံကို ဇာတ်စုံခင်း၍ လာခဲ့ရာ ခရီးတော်တော်ပေါက်လာခဲ့ပါပြီ။ အလယ်ပိုင်းကို ကျော်၍ အဆုံးပိုင်းသို့ ချဉ်းကပ်လာခဲ့ပါပြီ။

သူတော်သူမြတ်အပေါင်း၏ နှလုံးအင်အား တိုးပွားစေရန် ကောင်းသတင်း မျိုးစုံကို ရွေးချယ်တင်ပြရန် ရှိပါသော်လည်း အကောင်းထဲမှာ အဆိုးများလည်း ကြားညှပ်၍ ပါလာခဲ့ပါပြီ။ ကျွန်ုပ်၏ ပရိသတ်များသည် ဤသတင်းများနှင့် ပတ်သက်၍ မည်သူမျှ နှစ်လိုအားရ ဖြစ်ကြမည် မဟုတ်ပါ။ မလွှဲသာ မရှောင် သာ၍ ကြားနာနေကြရသည်ဟု ကျွန်ုပ် သဘောပေါက်ပါသည်။

သာသနာတော်တွင်းက သတင်းဆိုးများကြောင့် စိတ်မချမ်းမသာ ဖြစ်နေကြ ရသော ပရိသတ်များကို ယခု ကျွန်ုပ်က ထပ်မံ၍ နှိပ်စက်ရပါဦးမည်။ ကျွန်ုပ် ကိုယ်တိုင်က နှိပ်စက်ရန် မရည်ရွယ်သော်လည်း ကြားသူ နာသူအပေါင်းတို့ စိတ်မကောင်းစရာချည့်ဖြစ်၍ နှိပ်စက်သကဲ့သို့ပင် ဖြစ်နေပါသည်။ သို့ရာတွင် ဤအကြောင်းအရာများကို ကျွန်ုပ် ထိမ်ချန်ထားခဲ့၍ မဖြစ်နိုင်ပါ။ ခန်ကျော် ဖုံးဖိ ထားခဲ့၍ မဖြစ်နိုင်ပါ။ ကျွန်ုပ်၏ တစ်သက်တာမှတ်တမ်းဟု ခေါင်းစဉ် တပ်ထား ခဲ့သည့်အတိုင်း ဇာတ်ရည် လည်လောက်အောင်တော့ တင်ပြရပါဦးမည်။ ကျွန်ုပ်၏ ပရိသတ်များ စိတ်ခိုင်ခိုင်ထား၍ ကြားနာကြရန် ပန်ကြားလိုပါသည်။

သာသနာ့ဝန်ထမ်းဖြစ်သည့်အလျောက် ကျွန်ုပ်တစ်သက်တာတွင် သံဃာ့ကံ မျိုးစုံကို ဆောင်ရွက်ခဲ့ဖူးပါသည်။ ယခုတင်ပြမည့် ပကာသနီယကံမှာလည်း သံဃာ့ ကံများထဲတွင် ပါဝင်ပါသည်။ ဤကံကို သံဃာ့ပရိသတ်အလယ်တွင် ကျွန်ုပ်ကိုယ်တိုင်

ဥတ်ကမ္ဗဝါ ရွှတ်ဖတ်၍ အထမြောက်အောင် ဆောင်ရွက်ခဲ့ရ၏။ အမိန့်တော်မြတ်ကို ဦးထိပ်ပန်ဆင်၍သာ ဆောင်ရွက်ခဲ့ရ၏။ အခြား ကံများမှာတုန်းကကဲ့သို့ အားတက် ရွှင်လန်းမှုကား လုံးဝ မရှိခဲ့ပါ။

ဥတ်ကမ္ဗဝါစာတို့ဖြင့် အတည်ပြုပြီးနောက် ကမ္ဗဝါစာထဲမှာ ပါခဲ့သည့် အတိုင်း ရာဇဂြိုဟ်မြို့တော်တွင်းသို့ လှည့်လည်၍ ကြေညာရန်တာဝန်ကို အရှင် မဟာသာရိပုတ္တရာအား ဘုရားရှင်က ပေးအပ်တော်မူ၏။ ဤတွင် အရှင်မဟာ သာရိပုတ္တရာက–

"အရှင်ဘုရား၊ တပည့်တော်သည် ဟိုယခင်က ရာဇဂြိုဟ်မြို့တော်တွင်းမှာ ဒေဝဒတ်၏ ဂုဏ်ကျေးဇူးကို ချီးကျူးခဲ့ဖူးပါသည်။ 'ကာဓိ၏ သားသည် တန်ခိုး ကြီးပေစွ၊ အရှိန်အဝါကြီးပေစွ'ဟု လူသိရှင်ကြား မြွက်ဆိုခဲ့ဖူးပါသည်။ဤသို့ မြွက်ဆိုထားခဲ့သည့်အတွက် ယခု ရာဇဂြိုဟ်မြို့တော်တွင်းမှာ ဒေဝဒတ်ကို မည်သို့ ကြေညာရပါမည်နည်း"

တွေ့နေရသော အခက်အခဲတစ်ခုကို တင်လျှောက်လိုက်ရ၏။ 'စောစောက တစ်မျိုး၊ ယခု တစ်မျိုး ပြောလာသည်ဟု' ဟု အများပရိသတ် ထင်ယောင်ထင်မှား ဖြစ်မည့်အရေးကို ပြေးမြင်လိုက်မိဟန် တူပါသည်။ သို့သော် ဘုရားရှင်ကတော့ သူ့ညာလက်ရုံးကြီးကို အငြိမ်းစားမထားနိုင်သေးသဖြင့်–

"သာရိပုတ္တရာ၊ ယခင်က ချီးကျူးခဲ့သည်မှာ ဟုတ်သည့်အတိုင်း ချီးကျူးခြင်း မဟုတ်ပါလော။ ယခုလည်း ဟုတ်သည့်အတိုင်းသာ ကြေညာပေလော့"

စကားနှစ်မျိုး ကွဲပြားနေသော်လည်း အချိန်အခါလိုက်၍ ဟုတ်မှန်သည် ချည်း ဖြစ်နေကြ၏။ ဟုတ်မှန်သောအကြောင်းကို ဟုတ်မှန်သည့် အတိုင်း ပြော ကြားခြင်းဖြင့် အရှင်မြတ်ကြီး၏ ဂုဏ်သိက္ခာ မထိခိုက်နိုင်ပါ။ ထို့ကြောင့် သံဃာ့ ကိုယ်စား ကြေညာသူအဖြစ် သံဃာက ဥတ်ကမ္ဗဝါစာဖြင့် တရားဝင်ခန့်အပ်ရန် ဘုရားရှင် မိန့်ကြားတော်မူပေသည်။ သည်ဥတ်ကမ္ဗဝါစာကိုလည်း ကျွန်ုပ်ပင် ရွှတ်ဖတ် ပေးခဲ့ရပေသည်။

ဥတ်ကမ္ဗဝါစာဖြင့် သံဃာက တရားဝင်ခန့်အပ်ပြီးနောက် အရှင်မဟာ သာရိပုတ္တရာသည် ရာဇဂြိုဟ်မြို့တော်သို့ ကြွလာခဲ့၏။ ကျွန်ုပ် အပါအဝင် ရဟန်း တော်တော်များများ လိုက်ပါလာကြ၏။ ရာဇဂြိုဟ်မြို့တော်၏ လမ်းမ လမ်းသွယ်များ စုံစေအောင်လျှောက်လျက် အရှင်မြတ်ကြီးသည် ဘုရားရှင့် အမိန့်တော်ကို ကျေပွန်စွာ ထမ်းဆောင်ပါပေသည်။

"အို မြို့သူမြို့သားအပေါင်းတို့၊ ဒေဝဒတ်၏ ယခင်က စိတ်သဘောသည် တစ်မျိုး ဖြစ်၏။ ယခု စိတ်သဘောသည် တစ်မျိုးဖြစ်၏။ သို့ဖြစ်၍ ဒေဝဒတ်သည်

တစ်စုံတစ်ခုသောအမှုကို ကိုယ်ဖြင့် ပြုကြအံ့။ နှုတ်ဖြင့် ဆိုကြအံ့။ ထိုအမှုဖြင့် ဘုရားကိုလည်းကောင်း၊ တရားကိုလည်းကောင်း၊ သံဃာကို လည်းကောင်း မရှုမြင်ကြကုန်လင့်။ ထိုအမှုဖြင့် ဒေဝဒတ်ကိုသာ ရှုမြင်ကြကုန်လော့"

ဤသို့ ရာဇဂြိုဟ်မြို့တော်သူမြို့တော်သားအားလုံး ကြားသိစေရန် ကြေညာရသဖြင့် ဤကံကို ပကာသနီယကံဟု ဆိုရပေမည်။

**(စူဠဝဂ်ပါဠိတော်၊ သံဃာဘေဒကက္ခန္ဓက၊ ပကာသနီယကမ္မာဒိကထာ)**

ပကာသနီယကံ ပြုရာတွင် ပါဝင်ခဲ့သော စကားများအတိုင်း ဒေဝဒတ်၏ ယခင်က စိတ်သဘောနှင့် ယခု စိတ်သဘောမတူတော့ပါ။ မတူသည်မှာ သာမန်ကွဲပြားရုံမျှ မဟုတ်တော့။ ရှေ့နှင့်အနောက်၊ တောင်နှင့်မြောက်ပမာ ဖြောင့်ဖြောင့်ကြီးပင် ဆန့်ကျင်လာခဲ့ပါပြီ။ —

ကျွန်ုပ်တို့နှင့်အတူ သာသနာ့ဘောင်ဝင်ရောက်စဉ်က ဒေဝဒတ်သည် လည်း သံသရာဝဋ်မှ ကျွတ်ရေး လွတ်ရေးကိုသာ ဦးတည်ခဲ့၏။ ကျွတ်ရေး လွတ်ရေးကိစ္စတွင် အထောက်အကူဖြစ်စေရန် လောကီစျာန်များရရှိအောင် ကြိုးစားခဲ့၏။ အခြေခံပညာကောင်းသူဖြစ်သဖြင့် သူကြိုးစားသလောက်လည်း အောင်မြင်ခဲ့၏။ လောကီစျာန်အဘိညာဉ်ဖြင့် တန်ခိုးအမျိုးမျိုး ပြနိုင်သည့် အဆင့်ထိ ရောက်ခဲ့၏။ ဤစျာန်အဘိညာဉ်ကို အခြေပြုကာ အခြားသီတင်းသုံးဖော်များနည်းတူ လောကုတ္တရာစခန်းသို့ အရောက်လှမ်းခဲ့ပါလျှင် ကောင်းလေစွ။ ဤသို့ဆိုလျှင် သာသနာတော်ကြီးအတွက် အမည်းကွက်ကြီး ထင်ခဲ့မည်မဟုတ်ပါ။ စိတ်မချမ်းမြေ့ဖွယ်ရာ ကိစ္စများကိုလည်း ကျွန်ုပ် တင်ပြနေရမည် မဟုတ်ပါ။ သို့ရာတွင် ကျွန်ုပ်ဆုတောင်း မပြည့်ခဲ့သဖြင့် ပြောသူရော နာသူပါ စိတ် မချမ်းမြေ့ရသော သတင်းဆိုးများကို တင်ပြရပါတော့မည်။

ဤသာသနာတော်သည် လောကုတ္တရာအရေးအတွက် ဦးတည်ထားသော်လည်း လောကီစျာန် အဘိညာဉ်များကို ပစ်ပယ်မထားပါ။ သူ့နေရာနှင့် သူ ထိုက်ထိုက်တန်တန် နေရာပေးထားပါ၏။ ဤသို့ နေရာပေးထားသည်မှာ မြေလျှိုးမိုးပျံ စျာန်တန်ခိုးတွေ ပြနေရန်မဟုတ်ပါ။ စျာန်တန်ခိုးကို ဗန်းပြ၍ ဒါယိကာဒါယိကာမများ၏ ပစ္စည်းလေးပါးကို မြှူဆွယ်စားသောက်ရန် မဟုတ်ပါ။ သံသရာဝဋ်မှ ကျွတ်လွတ်ရာစခန်းသို့ တက်လှမ်းရာတွင် အထောက်အကူ ပြုရုံမျှသာဖြစ်ပေသည်။

ကျွန်ုပ်တို့ ညီတော် ဒေဝဒတ်ကား အထောက်အကူကို အထွတ်အထိပ်တင်ခဲ့၏။ အခြေခံမှုဖြင့် အားရကျေနပ်ကာ လမ်းခုလတ်မှာပင် လမ်းဆုံးသွားခဲ့၏။ ပင်ကိုစိတ်ဓာတ်အတိုင်း ရိုးသားစွာတည်ရှိ၍ ဖြောင့်ဖြောင့်မှန်မှန် လျှောက်ခဲ့

ပါလျှင် သူသည်လည်း အရိယာစာရင်းဝင်မည်သာ ဖြစ်၏။ သို့ပါလျက် သူသည် လမ်းဆုံးထိအောင် လျှောက်မလာခဲ့။ ချာန်တန်ခိုးပြ၍ ရရှိလာသော လာဘ်သပ္ပကာ များဖြင့်သာ အားရကျေနပ်ကာ ယခုအခါတွင်ဂယာသီသမြို့ သူ့တပည့်၊ သူ့ဒါယကာ အဇာတသတ်မင်းသား ဆောက်လုပ် တင်လှူထားသော ကျောင်းတိုက်ကြီးတွင် တခမ်းတနား စိုးစံလျက်ရှိပေသည်။

**(ကေနိပါတ်၊ ခာတ်အဋ္ဌကထာ၊ သင်္ဃဝတ်၏ ပဥ္စုပ္ပန်ဝတ္ထု)**

အိမ်ရှေ့မင်းသား ဆောက်လုပ်ထားသော ကျောင်းတိုက်ကြီးတွင် ဒေဝဒတ်၏ တပည့်အရင်းများကလည်း ငါးရာအထိရှိနေကြ၏။ ကျောင်းဒါယကာ အဇာတသတ် မင်းသားသည် ရာဇဂြိုဟ်မြို့မှာတုန်းကကဲ့သို့ တစ်နေ့နှစ်ခေါက် မလာနိုင်တော့ သော်လည်း အချိန်ရလျှင်ရသလို ရောက်တတ်ပါ၏။ တစ်နေ့အတွက် ဆွမ်းအုပ် ငါးရာကိုလည်း မပျက်မကွက်ပို့စေပါ၏။ ဂယာသီသမြို့မှ ဒါယကာ ဒါယိကာမ များမှာလည်း ကျောင်းဒါယကာ မင်းသား၏အရှိန်အဝါဖြင့် သည်ကျောင်းတိုက်၏ ပစ္စည်းလေးပါး ဒါယကာ၊ ဒါယိကာမများ ဖြစ်လာကြရပေသည်။

ထို့ကြောင့် ဒေဝဒတ်သည် မိမိဘုန်းကံကို အားကိုးကာ သာသနာတော် ကြီး တစ်ခုလုံးကို ဘုရားရှင်ထံမှ လွှဲပြောင်းယူတော့မည်ဟု စိတ်ဖြင့် ပြစ်မှားမိ၏။ ဤသို့ ပြစ်မှားမိသည်နှင့်တစ်ပြိုင်နက် ရရှိထားသော ချာန် အဘိညာဉ်တန်ခိုးများ ကွယ်ပျောက်သွားကြပေတော့သည်။

ပကာသနိယကံမှာ ပါရှိသည့်အတိုင်း ဒေဝဒတ်၏ စိတ်သဘောများ ပြောင်း လဲသွားခြင်းမှာ ထိုစဉ်ကပင် စတင်ခဲ့၏။ ထိုစဉ်က အရှင်မဟာမောဂ္ဂလာန် သည် ဤအကြောင်းကို ဘုရားရှင်ထံ လျှောက်ထားခဲ့၏။ သို့သော် ဘုရားရှင်က အရှင် မဟာမောဂ္ဂလာန်ကို ဤစကားများ မပေါက်ကြားရန် တားမြစ်တော်မူခဲ့၏။ "တစ်နေ့ကျမှ သူ့အမူနှင့်သူ ထင်ပေါ်လာမည်" ဟု မိန့်ကြားတော်မူခဲ့၏။

မိန့်ကြားတော်မူသည့်အတိုင်း ယခုတော့ သူ့အလိုဆိုးကြီးများဘွားဘွား ပေါ်၍ လာပါပြီ။

"အရှင်ဘုရား၊ ယခုအခါ ဘုရားရှင်သည် အိုမင်းပါပြီ။ အသက် အရွယ် ကြီးရင့်ပါပြီ။ ပစ္ဆိမအရွယ်သို့ ရောက်ပါပြီ။ သို့ဖြစ်ပါ၍ ဘုရားရှင်သည် မျက်မှောက် ဖြစ်သော ဖိုလ်ချမ်းသာကို ခံစား၍ ကြောင့်ကြမဲ့စွာ နေတော်မူပါလော့။ ရဟန်း ပရိသတ်ကို တပည့်တော် ဦးဆောင်ဦးရွက်ပြုပါမည် ဘုရား"

သာသနာတော် ပေါ်ထွန်းလာသည်မှစ၍ ဘယ်တုန်းကမျှ မကြားခဲ့ဖူးသော စကားများပါတည်း၊ ရဟန်းရှင်လူ၊ မည်သူ တစ်ဦးတစ်ယောက်မျှ မလျှောက်ရဲခဲ့သော စကားများ ပါတည်း။ လက်တွေ့ လျှောက်ထားရန် မဆိုထားနှင့်။ စိတ်ကူးရုံနှင့်ပင်

ကြက်သီးမွေးညင်း ထလောက်ပါဘိ၏။ လျှောက်ထားသူကိုယ်စား ကြားရသူများပင် ရှက်မိကြပါ၏။

သို့သော် ဒေဝဒတ်၏ မျက်နှာတွင်ကား ရှက်သောအမူအရာ၊ ကြောက်သော အမူအရာဟူ၍ စိုးစဉ်းမျှမရှိပါ။ လပေါင်းများစွာ မျှော်လင့်လာခဲ့သော ဆုလာဘ်ကြီးကို ခံယူရအံ့သော သူရဲကောင်းကြီးကဲ့သို့ အားပါးတရ ရှိလှပါပေသည်။

သူ့ဘက်က ကြည့်မည် ဆိုတော့လည်း အားရချင်စရာ ဖြစ်ပါ၏။ ဘုရားရှင့် ရှေ့တော်မှောက် ရောက်နေကြသော ပရိသတ်များမှာ ခါတိုင်းလို ရဟန်းများချည့် မဟုတ်ပါ။ သူ့ဆွမ်းဒါယကာ အဇာတသတ် အမှူးရှိသော မင်းညီမင်းသားများလည်း ပါ၏။ အဇာတသတ်မျက်နှာဖြင့် ရာထူးတက်ခါစ မှူးကြီးမတ်ကြီးများလည်း ပါ၏။ ဒေဝဒတ်ထံမှာ ဆည်းကပ်နေကြသော အရပ်သူ အရပ်သားများလည်း ပါ၏။ ရဟန်းပရိသတ်များတွင် သူ့ဆွမ်းကို စားနေကြသော ပရိသတ်က အများစု ဖြစ်နေပေသည်။ သည်တစ်ပွဲတွင် ပရိသတ် အင်အားပြ၍ အကျပ်ကိုင် အနိုင်ယူရန် စီမံထားခြင်းပါတကား။

သူ့အစီအမံများသည် စနစ်တကျ ရှိလှပါဘိ၏။ အကွက်များလည်း စေ့လှပါ၏။ ဤလို အခွင့်ထူးကို ရရှိနိုင်ရေးအတွက် လပေါင်းများစွာ ကြံစည်ခဲ့ရပါလိမ့်မည်။ နှစ်ပေါင်းများစွာ စီမံခဲ့ရပါလိမ့်မည်။ ကိုယ်ရောစိတ်ပါ လုံ့လကြီးစွာ စိုက်ခဲ့ရပါလိမ့်မည်။ ယခုတော့ သူ့ကြိုးစားမှုများ အကောင်အထည် ပေါ်လာပါပြီ။ သူ့လိုအင်ဆန္ဒများအတွက် အခါအခွင့် သင့်လာပါပြီ။ ဤသို့သော အခါအခွင့်မျိုး ဘယ်တုန်းကမျှ မသင့်ခဲ့ဖူးချေ။ နောက်နောင်လည်း ဤမျှလောက် အခွင့်သင့်ဖို့ မလွယ်တော့ချေ။ မိမိဘုန်းကံအလျောက် ပေါ်ပေါက်လာသောအခါအခွင့်ကို ကောင်းကောင်းကြီးအသုံးချလိုက်ပါချေပြီ။

ပရိသတ်အားလုံး၏ မျက်လုံးများသည် ဒေဝဒတ်၏ လက်အုပ်မှ တစ်ဆင့် ဘုရားရှင် မျက်နှာတော်သို့ စူးစိုက်နေကြ၏။ နားရှိသမျှသည် ရွှေနှုတ်တော်မှ ထွက်ကျလာမည့် အသံကို ငံ့လင့်နေကြ၏။ ကျွန်ုပ်သည် ဘုရားရှင်၏ လက်ယာနံပါးမှ ပရိသတ်များဆီ မျက်နှာမူကာ ထိုင်နေသဖြင့် ပရိသတ်အားလုံး၏ မျက်နှာရိပ် မျက်နှာကဲကို မျက်မြင်သုံးသပ်ခွင့် ရနေပေသည်။ ထိုအခိုက်အတန့်ကလေးမှာပင် ကျွန်ုပ်စိတ်သည် အတွေးအာရုံများစွာဖြင့် ရှုပ်ထွေးနေခဲ့၏။ တစ်မုဟုတ်မျှသော ကာလကလေးကိုပင် ကမ္ဘာချီ၍ ကြာသည်ထင်ခဲ့၏။

"ဒေဝဒတ်၊ သာရိပုတ္တရာနှင့် မောဂ္ဂလာန်တို့ကိုပင် ရဟန်းပရိသတ်ကို ငါဘုရား မလွှဲအပ်ခဲ့။ သင်ကဲ့သို့ ယုတ်မာသောသူ၊ သူများတံတွေးပေါက် ကောက်၍ မျိုသောသူအား အဘယ်မှာ လွှဲအပ်ပါမည်နည်း"

မိန့်ကြားသံအဆုံးဝယ် "ဟယ်"ခနဲအသံကြီး တစ်ခဲနက် ထွက်ပေါ်လာ၏။ ဒေဝဒတ်ကို လိုလားသော ပရိသတ်အများစုထံမှ ဖြစ်၏။ ထိုအသံကြီးနှင့်အတူ ဒေဝဒတ်၏လက်အုပ်သည် အရင်းမှ လှီးဖြတ်လိုက်သော ကြာဖူးကဲ့သို့ ငိုက်ကျသွား၏။ မျှော်လင့်ခြင်းဖြင့် ဝင်းပြောင်နေသော မျက်နှာသည် တစ်မုဟုတ်ချင်းဖြင့် ညိုမည်းသွား၏။ သူ့မျက်လုံးများသည် ဘုရားရှင်ထံမှ ကြမ်းပြင်ဆီ စိုက်ကျသွား၏။ မျက်ရည်ပေါက်ကြီး လေးငါးပေါက်ပင် ကြမ်းပြင်ပေါ် ကျလာကြ၏။

ရှက်ရှာပေလိမ့်မည်။ ဝမ်းနည်းရှာပေလိမ့်မည်။ သူ့ကို ကြည်ညို လေးစားသောပရိသတ်ရှေ့မှာမှ "ယုတ်မာသူ၊ သူများတံတွေးပေါက်ကောက်၍ မျိုသူ" ဟု အပြောအဆို ခံလိုက်ရ၏။ မျှော်လင့်ထားသော ဆုလာဘ်ကြီးအစား သူ့အတွက် နစ်နာလွန်းလှသော စကားလုံးများကိုသာ ခံယူလိုက်ရ၏။

"ယုတ်မာသူ" ဟူသော စကားလုံးမှာ တိုက်ရိုက်မြွက်ဆိုထားခြင်း ဖြစ်၏။ "သူများ တံတွေးပေါက် ကောက်၍ မျိုချသူ" ဟူသည်ကား တင်စားချက် ဖြစ်၏။ အံ့ဖွယ်သူရဲ ထူးကဲသော တန်ခိုးများပြ၍ ရရှိလာသော ပစ္စည်းများသည် အရိယာပုဂ္ဂိုလ်များအဖို့ ထွေးထုတ်လိုက်သော တံတွေးပေါက်များနှင့် တူ၏။ အရိယာပုဂ္ဂိုလ်များ စက်ဆုပ်ရွံရှာသောကြောင့် ဖြစ်၏။ ဤပစ္စည်းများကိုပင် ဒေဝဒတ်က မက်မက်မောမော လက်ခံသုံးစားနေသဖြင့် ဤနာမည် တပ်ပေးတော်မူရခြင်း ဖြစ်ပေသည်။

ပရိသတ်လေးပါး အလယ်၌ အရှက်တကွဲ အကျိုးနည်းခဲ့ရသော ဒေဝဒတ်သည် ထိုစဉ်ကပင် ဘုရားရှင်ကို ရန်ငြိုးထားခဲ့ပါလိမ့်မည်။ သို့သော် ရှေ့တော်မှောက်တွင်ကား ဘုရားရှင်ကို သူမလေးမစား မလုပ်ရဲပါ။ ထို့ကြောင့်ပင် လက်အုပ်ချီကာ လက်ယာရစ်လှည့်၍ ရှိခိုးဦးခိုက်ကာ ထွက်ခွာသွားခဲ့ပါပေသည်။

**(စူဠဝဂ် သံဃဘေဒကက္ခန္ဓက၊ ပကာသနီယကမ္မာဒိကထာ ပါဠိတော်နှင့် အဋ္ဌကထာ)**

ဒေဝဒတ်၏ နေရာက ကြည့်မည်ဆိုလျှင် ဤစကားများသည် ရန်ငြိုးထားလောက်အောင် ပြင်းထန်နေပါလိမ့်မည်။ ရက်စက်လွန်းရာ ကျနေပါလိမ့်မည်။ သို့သော် ဤသို့သော စကားများကို ဘုရားရှင် ဤတစ်ကြိမ်သာ မိန့်တော်မူခဲ့သည် မဟုတ်ပါ။ ကလန္ဒကသူဌေးသား အရှင်သုဒိန်တုန်းကလည်း "မင်္ဂဖိုလ်မရ အသုံးမကျသော ယောကျ်ား" ဟု မောင်းမဲတော် မူခဲ့ဖူးပါသည်။ မိဘများ တိုက်တွန်းချက်အရသိက္ခာပုဒ် မပညတ်ရသေးခင် ကျူးလွန်ခဲ့သည်ဖြစ်၍ ထိုပြစ်မှုဖြင့် ပထမ ပါရာဇိကအာပတ်ကား မသင့်ပါ။ သို့သော် ပရိသတ်ဗိုလ်ပုံအလယ် အမောင်းအမဲ ခံရပြီးနောက် စိတ်နှလုံး မချမ်းမြေ့နိုင်တော့သဖြင့် မင်္ဂဖိုလ်မရ အသုံးမကျသော ယောကျ်ားဘဝဖြင့် ဓာတ်သိမ်းသွားရရှာပေသည်။ **(ပထမပါရာဇိက ပါဠိတော်၊ သုဒိန္နဘာဏဝါရ)**

ကောသလတိုင်းအတွင်း ဒေသစာရီ လှည့်လည်ရာတွင် ပါဝင်ခဲ့သော ရဟန်းများကား သူ့ထက်ပင် အဖြစ်ဆိုးကြပါသေးသည်။ တောလမ်း တစ်နေရာ၌ အရှိန်ပြင်းစွာ တောက်လောင်နေသောတောမီးကြီးကိုတွေ့လေရာ ဘုရားရှင်က

"ရဟန်းတို့၊ ရဟန်းဟု ဝန်ခံထားပါလျက် ရဟန်းတို့ အကျင့်သိက္ခာ မရှိ။ အပြစ်အနာအဆာ များသော ပြည့်နေသော ရဟန်းအဖို့ နူးညံ့သော လက်ခြေရှိသော မိန်းမပျိုကို ပွေ့ဖက်နေခြင်းထက် အလျှံပြောင်ပြောင် တောက်လောင်နေသော မီးပုံကြီးကို ပွေ့ဖက်နေခြင်းက မြတ်သေး၏" ဟု မိန့်တော်မူခဲ့၏။

ထိုမှ ဆက်လက်၍ သီလမရှိဘဲ ဒါယကာ၊ ဒါယိကာမတို့၏ ဒူးတုပ် အရိုအသေပေးမှုကို ခံရခြင်းထက် ခြေသလုံးနှစ်ဖက်ကို သားရေလွန်ကြိုးဖြင့် ရစ်ပတ်၍ အရေ၊ အသား၊ အကြောတို့ ပြတ်ကာ ရိုးတွင်းခြင်ဆီထိအောင် လျှော်တိုက်ခံရခြင်းက မြတ်ပုံ။

သီလမရှိဘဲ၊ ဒါယကာ၊ ဒါယိကာမတို့၏ လက်အုပ်အချီခံရခြင်းထက် ထက်စွာသော ဓားဖြင့် ရင်ဝကို အထိုးခံရခြင်းကမြတ်ပုံ။

သီလမရှိဘဲ ဒါယိကာ ဒါယိကာမတို့ လှူသော သင်္ကန်းကို ဝတ်ရုံရခြင်းထက် အလျှံပြောင်ပြောင် တောက်လောင်နေသော သံပြားဖြင့် အပတ် ခံရခြင်းက မြတ်ပုံကို တသီတတန်းကြီး မိန့်ကြားတော်မူခဲ့၏။

ကြောက်ခမန်းလိလိ ဒေသနာတော်ကြီးကို ကြားနာရသူများတွင် ရဟန်း ခြောက်ဆယ် သွေးအန်ကြ၏။ အခြား ရဟန်း ခြောက်ဆယ် လူထွက်သွားကြ၏။ ကျန်သော ရဟန်း ခြောက်ဆယ်ကား သတိသံဝေဂရပြီး တရား ကျင့်သုံးကြသဖြင့် ရဟန္တာ အရှင်မြတ်ကြီးများ ဖြစ်သွားကြပေသည်။

**(အဝှတ္ထုရပါဠိတော်၊ သတ္တကနိပါတ် အဂ္ဂိခန္ဓောပမသုတ်)**

ဤဝတ္ထုကြောင်းများကို ပြန်လည်သုံးသပ်ကြည့်ပါလျှင် အရှင်သုဒိန် စိတ်မချမ်းမြေ့နိုင်တော့ခြင်း၊ ရဟန်းခြောက်ဆယ် သွေးအန်ကြရခြင်းတို့သည် ဘုရားရှင်၏ မိန့်ကြားချက်များနှင့် ဆက်နွယ်လျက် ရှိနေကြ၏။ သို့သော် ဘုရားရှင်၏ မိန့်ကြားချက်ကြောင့် ဖြစ်ရသည်ဟူ၍ကား မဆိုနိုင်ပါ။ ကြောက်ခမန်းလိလိ ဒေသနာတော်ကြီးကို ကြားနာရပြီးနောက် တိုးပွားလာသော ရဟန္တာ ခြောက်ဆယ်က ဤအချက်ကို သက်သေခံလျက် ရှိပေသည်။

တကယ်တော့ ဘုရားရှင်ကိုယ်တော်မြတ် သာသနာပြုရခြင်းမှာသစ်ရွေ့ သကဲ့သို့သာ ဖြစ်၏။ လက်သမားများ သစ်ရွေ့သောအခါ ချောမွတ်ဖြောင့်တန်းသော တိုင်များ ရရှိရေးကိုသာ ဦးတည်ထားရ၏။ အကိုင်းအခက်များ၊ အဖုအထစ်များကို ငဲ့ညှာနေ၍ မရပေ။ ထို့အတူပင် ကျွန်ုပ်တို့ သာသနာတော်ကြီး အရှည်သဖြင့်

တည်တံ့ရေးအတွက်လည်း ကလေကဝ ရဟန်းများကို ငဲ့ညှာနေ၍ မရနိုင်ပါ။ သူတို့ကို ပြုပြင်၍ ရနိုင်လျှင် ပြုပြင်ပေးပေမည်။ ပြုပြင်၍ မရတော့လျှင် အပြီး အပြတ် သုတ်သင်ပစ်ရပေမည်။ သို့မှသာ အကျင့်သိက္ခာ ဉာဏ်ပညာရှိသော သာသနာ တော်ကြီး အဓွန့်ရှည်အောင် စွမ်းဆောင်နိုင်ကြမည် ဖြစ်ပေသည်။

ဘုရားရှင်သည် အကျိုးမရှိ မဟုတ်မမှန်သော စကားကို ပြောဆိုရိုး မရှိပေ။ ဟုတ်မှန်၍ အကျိုးရှိသော စကားကိုပင် သူတစ်ပါး နာခံသာအောင် သာယာညင်း ပြောင်း ပြောဆိုတော်မူခဲ့၏။ သို့သော် ခြွင်းချက်ကား ရှိ၏။ အကယ်၍ ပြင်းပြင်း ထန်ထန် ပြောဆိုရန် အကြောင်း ဆိုက်လာလျှင်ကား မည်သူ့မျက်နှာမျှ မထောက်ဘဲ မောင်းမဲတော် မူခဲ့ရပေသည်။

ပြစ်မှုကျူးလွန်ထားသူများအဖို့ ဤစကားများကို နာခံနိုင်ဖွယ် မရှိပါ။ သို့သော် လောလောပူသော ရေသည်ပင် ရွံ့ညွန်များကို ပျော့ပျောင်းအောင် စွမ်းဆောင်နိုင်သေး၏။ နွားကျင်ငယ်ရေသည် အနံ့မကောင်းသော်လည်း သောက်သုံး လျှင် ရောဂါပျောက်စေနိုင်သေး၏။ ထို့အတူပင် ပြင်းထန်လှသော ဤစကားမှာ လည်း မာန်မာနခက်ထန်သူများကို ပျော့ပျောင်းစေရန် ဖြစ်ပေသည်။ မာန်မာန ရောဂါတက်နေသူများကို ရောဂါပျောက်၍ ချမ်းသာကြစေရန် ဖြစ်ပေသည်။

ယခု ဒေဝဒတ်ကို မိန့်ကြားတော်မူလိုက်သော စကားများမှာလည်း ဤသို့ သော ရည်ရွယ်ချက်များ ပါရှိနေပါလိမ့်မည်။ တစ်နည်းအားဖြင့် ဒေဝဒတ်လို ပုဂ္ဂိုလ်မျိုးကို ဤကဲ့သို့မပြောလျှင် မဖြစ်သဖြင့် ပြတ်ပြတ်သားသား မိန့်ကြားတော် မူရခြင်း ဖြစ်ပါလိမ့်မည်။

**(မိလိန္ဒပဉှာ၊ ပဏ္ဏာမိတဝဂ်၊ ဘုရားရှင်အား သတ္တဝါတို့၏ အကျိုးစီးပွား လိုလားမှုရှိမရှိ ပြဿနာ၊ ဘုရားရှင်အား ကြမ်းတမ်းသော စကားရှိမရှိ ပြဿနာ)**

ပကာသနီယကံနှင့် ပတ်သက်၍ ရာဇဂြိုဟ်မြို့တော်တွင်းမှ ပဲ့တင်သံနှစ်မျိုး ပေါ်ထွက်လာခဲ့၏။ တစ်သံမှာ "သကျမျိုးနွယ်ဖွား ရဟန်းများသည် ဒေဝဒတ်၏ လာဘ်လာဘကို မနာလိုလေစွ တကား" ဟူ၍ ဖြစ်၏။ အခြား တစ်သံမှာကား "ဘုရားရှင်ကိုယ်တော်တိုင်က ညွှန်ကြားသောကံဖြစ်၍ ယုတ်ညံ့သော အမှုတစ်ခု မဖြစ်နိုင်ပါ" ဟူ၍ ဖြစ်၏။ မည်သို့သောပရိသတ်က မည်သို့ အသံထွက်မည်ကို ကျွန်ုပ်၏ ပရိသတ်များ အလွယ်တကူ ခွဲခြားနိုင်ကြမည် ထင်ပါသည်။

မည်သို့ပင် ဖြစ်စေ၊ ဒေဝဒတ်အဖို့ ဤလို စကားမျိုးကို နောက်ထပ် ပြောဝံ့ မည် မဟုတ်တော့ပါ။ သို့ဖြစ်လျှင် ယခုပြုသော ပကာသနီယကံသည် အလုပ်ပို ဖြစ်မနေပါလော။ အရှုံးပေးကာ ထွက်ခွာသွားလေသူတစ်ယောက်အား ထပ်မံ၍ ဒဏ်ခတ်ရာ ကျမနေပါလော။

ဒေဝဒတ်အား ထပ်မံ၍ ဒဏ်ခတ်ခြင်းကား ဟုတ်ပါ၏။ သို့သော် အလုပ်ပိုကား မဟုတ်ပါ။ မလုပ်လျှင် မဖြစ်၍ လုပ်ရသောကံသာ ဖြစ်ပေသည်။ ရဟန်းပရိသတ်အပေါ် ကျရောက်လာမည့်အန္တရာယ်ကြီးကို ကြိုတင် ကာကွယ်ထားရခြင်းသာ ဖြစ်ပေသည်။

ဤသို့ သဘောပေါက်လာခြင်းမှာ ပကာသနီယကံ ပြုပြီးနောက် မကြာမီမှာပင် ပေါ်ပေါက်လာသော နန်းတွင်းလုပ်ကြံမှုကြီးကြောင့် ဖြစ်၏။ ဤအမှုကြီး၏ တရားခံနှစ်ယောက်ကား ဒေဝဒတ်နှင့် အဇာတသတ်တို့ပါတည်း။

ပြင်းပြင်းထန်ထန် အမောင်းအမဲခံလိုက်ရသဖြင့် ဒေဝဒတ်သည် ပရိသတ်အလယ်မှခေါင်းငုံ့ထွက်သွားခဲ့သည်မှန်ပါ၏။ သို့သော် သူ၏ခေါင်းသည် အမြဲတမ်းငုံ့နေမည်မဟုတ်ပါ။ ရှေ့တော်မှောက်မှာ မလှန်သာ၍ ငုံ့ခဲ့ရသော်လည်း သူ့ကျောင်းသူ့ကန်ရောက်လျှင်ကား မော့လာဦးမည် ဖြစ်ပါသည်။ အိမ်ရှေ့စံ အဇာတသတ်သည်သူ့ကျောင်းသို့ ရောက်မြဲတိုင်း ရောက်ပါလိမ့် ဦးမည်။ သူ့ကို အထင်ကြီးမြဲကြီး၍ သူ့သြဇာကို နာခံမြဲနာခံပါလိမ့်မည်။

ဤမျှလောက် အားကိုးအားထားရှိနေသော ဒေဝဒတ်သည် အရှုံး သက်သက်ဖြင့် ပွဲသိမ်းခံနိုင်မည် မဟုတ်ပါ။ ဒေဝဒတ်သည်လည်း ကျွန်ုပ်တို့ သကျမျိုးနွယ်ပင်ဖြစ်၏။ သကျမျိုးနွယ်တို့၏ မာနကို ကျွန်ုပ်၏ ပရိသတ်များ ကြားဖူးကြပါလိမ့်မည်။ အကြောင်းသင့်သော တစ်နေ့မှာလည်း ထပ်၍ ကြားကြရပါဦးမည်။ မျိုးရိုးစဉ်ဆက်အမွေရလာခဲ့သော ဤမာနကို တရားအသိ ရှိသူများသာ ချိုးနှိမ်နိုင်ကြ၏။ ဒေဝဒတ်လိုပုဂ္ဂိုလ်မျိုးကား ထိုမာနကို လက်သပ်မွေးထားသူ ဖြစ်၏။ ရလိုသောဆုလာဘ်ကို အသာတကြည် တောင်းယူ၍ မရနိုင်သော် တိုက်၍ ယူမည့်သူပါတည်း။

တောင်း၍ မရနိုင်သော ဆုလာဘ်ကို သူမည်သို့ တိုက်ယူမည်နည်း။ တိုက်ယူရန် နည်းလမ်းကား တစ်နည်းသာရှိ၏။ ရဟန်း ပရိသတ်အားလုံးကို လွှဲအပ်ရန်ငြင်းဆန်သူမှာ ဘုရားရှင်ဖြစ်၍ ဘုရားရှင်ကို သူ လုပ်ကြံသတ်ဖြတ်ရပါတော့မည်။

ကောင်းပါပြီ။ မဆိုကောင်းဆိုကောင်း၊ ဘုရားရှင်ကို လုပ်ကြံသတ်ဖြတ်၍ပြီးပြီဆိုပါစို့။ ဤမျှဖြင့် သူ့လိုအင်ဆန္ဒ ပြည့်ဝမည်လော။ မပြည့်ဝသေးပါ။ ရဟန်းပရိသတ် အားလုံးသည် ဘုရားရှင် မရှိတော့သော်လည်း သူ့ဘုန်းရိပ်အောက်ရောက်လာကြဦးမည် မဟုတ်ပါ။ သူတို့ဘာသာ လွတ်လပ်စွာ နေကြမည် ဖြစ်၏။ ထိုရဟန်းတို့ကို မိမိခြေရင်းသို့ အရောက်ခေါ်ယူနိုင်ရန်ကား ပြည့်ရှင်မင်းတို့၏အာဏာနှင့်သာ ရနိုင်ပေလိမ့်မည်။

ဤလိုကိစ္စမျိုးအတွက် အားကိုးနိုင်မည့်သူမှာ အဇာတသတ် တစ်ဦးတည်းသာ ရှိနေ၏။ သို့သော် အဇာတသတ်မှာလည်း အချုပ်အခြာ အာဏာပိုင် မဟုတ်

သေး။ မင်းကေရာဇ်နေရာ မရသေး။ မင်းကေရာဇ် နတ်ရွာစံလျှင် ထီးနန်းဆက်ခံရန် လျာထားခံရသူမျှသာ ရှိသေးသည်။ သူ့ဖခင် ဘုရင်ကြီးမှာလည်း ကျန်းမာရေး ကောင်းသူဖြစ်၍ တော်တော်နှင့် နတ်ရွာစံမည် မဟုတ်သေးချေ။ သူနတ်ရွာမစံသေး သမျှ သူ့ဆန္ဒ ပြည့်ဝနိုင်ဦးမည် မဟုတ်ပေ။

သို့ဖြစ်၍ ဒေဝဒတ်၏ အနာဂတ် လမ်းကြောင်းရှေ့မှာ ကန့်လန့်ဆီးနေ သည်ကား ကျောင်းဒါယကာ ဘုရင်ကြီး ဗိမ္ဗိသာရ ဖြစ်နေ၏။ ထိုအကာအဆီးကို ပယ်ရှားရန် မည်သို့ ကြံစည်လိမ့်မည်နည်း။

နန်းတော်စောင့် အမတ်များ၏ လက်တွင်း၌ ဒေဝဒတ်၏ အကြံအစည်သည် ဘွားခနဲ ပေါ်လာခဲ့ပါ၏။ ကြောက်ခမန်းလိလိ ဖြစ်ပါ၏။ ကြက်သီးမွေးညင်း ထလောက်ပါဘိ၏။

ခမည်းတော်ဘုရား ခန်းမဆောင်တွင်းသို့ နေ့ကြောင်တောင် ချွတ်နင်း၍ ဝင်လာသော အဇာတသတ်မင်းသားကို နန်းတော်စောင့်အမတ်များက လက်ရ ဖမ်းဆီးမိကြ၏။ ပေါင်ခြံမှာ ဝှက်ထားသော ဓားမြှောင်ကိုပါ ရှာဖွေတွေ့ရှိကြ၏။ အမတ်များက မေးစစ်ရာတွင် မင်းသားကလည်း ရာဇသွေးပီပီ ဟုတ်တိုင်းမှန်ရာ ထွက်ဆိုခဲ့၏။ ထိုမှတစ်ဆင့် တိုက်တွန်းနှိုးဆော်သူကို မေးစစ်ရာတွင် သူ့ဆရာ ဒေဝဒတ်ဖြစ်ကြောင်း ဖြောင့်ချက်ပေးခဲ့ပေသည်။

နန်းတော်စောင့်များမှ တစ်ဆင့် မှူးကြီးမတ်ကြီးအားလုံး ရောက်လာကြ သောအခါ ဤအမှုနှင့် ပတ်သက်၍ သဘောသုံးမျိုး ကွဲပြားနေကြ၏။

တချို့အမတ်များက "ဒေဝဒတ် အဇာတသတ်တို့နှင့်တကွ ရဟန်းအားလုံးပါ သတ်သင့်သည်"ဟု ဆိုကြ၏။ ဒေဝဒတ်သည် ရဟန်းတစ်ပါးဖြစ်၍ အခြားရဟန်း များကလည်း အလိုတူအလိုပါ ဖြစ်နိုင်သည်ဟု ယူဆဟန် တူပါသည်။ အကယ်၍သာ ထိုမှူးမတ်များ၏အဆို အောင်မြင်ပါက ကျွန်ုပ်တို့ ကံကြမ္မာသည် အလွန်ဆိုးရွားသွား ပါလိမ့်မည်။ တိုင်းပြည့်ဦးသျှောင်ဘုရင်ကြီးကို လုပ်ကြံမှုသည် အကြီးလေးဆုံး ပြစ်မှု ကြီး ဖြစ်၍ ထိုအမှုနှင့်စပ်သမျှ အပြင်းထန်ဆုံး အပြစ်ဒဏ်များ ပေးကြပါလိမ့်မည်။

တချို့ကတော့ "ဒေဝဒတ်နှင့် အဇာတသတ်တို့ကိုသာ သတ်သင့်သည်။ ရဟန်းများကို မသတ်သင့်"ဟု ဆိုကြ၏။ အပြစ်ရှိသူနှင့် အပြစ်ကင်းသူကို ခွဲခြားတတ် သဖြင့် တော်သေးသည်ဟု ဆိုရပါမည်။

တချို့မှာမူ "မည်သူ့ကိုမျှ မသတ်သင့်။ ဘုရင်ကြီးထံသို့သာ တင်ပြသင့် သည်။ ဘုရင်ကြီး အမိန့်တော်အတိုင်းသာ ဆောင်ရွက်သင့်သည်"ဟု ဆိုကြ၏။

နောက်ဆုံးအုပ်စု၏ အဆိုကို အားလုံးက လက်ခံကြသဖြင့် တရားခံမင်းသား ကို ခမည်းတော် ရှေ့မှောက်သို့ ပို့ဆောင်၍ ဖြစ်ကြောင်းကုန်စင် တင်လျှောက်ကြ၏။

အမတ်တို့၏ တင်လျှောက်ချက်ကို ငြိမ်သက်စွာ နားထောင်ပြီးလျှင် ကျောင်းဒါယကာ ဘုရင်ကြီးက

"အချင်းတို့၊ ဘုရား တရား သံဃာ ရတနာသုံးပါးတို့က ဤအမှုမျိုးကို ဘယ်မှာ ပြုလိမ့်မည်နည်း။ စောစောကပင် ဘုရားရှင်က ဒေဝဒတ်ကို ပကာသနိယ ကံဖြင့် ကြေညာထားခဲ့သည် မဟုတ်ပါလော"

ဤမိန့်ကြားချက်ကို တစ်ဆင့်ကြားနာရခါမှ ကျွန်ုပ်သည် ပကာသနိယကံ ပြုခဲ့ရခြင်း အကြောင်းရင်းကို ပြက်ပြက်ထင်ထင် မြင်လာရ၏။ ရှေ့ တစ်ခေါ်ကျော်၍ မြင်နိုင်စွမ်းသော ဉာဏ်တော်ကိုလည်း မြတ်နိုးကော်ရော် ပူဇော်လိုက်ရပါ၏။

ပကာသနိယကံကို အချိန်မီ ပြုမိခဲ့၍သာ နန်းတွင်းလုပ်ကြံမှုကြီး၏ ဓားစာခံ အဖြစ်မှ ကျွန်ုပ်တို့တစ်တွေ လွတ်မြောက်ခွင့် ရခဲ့ကြ၏။ သို့သော် ဤကံကြီးမျိုးကို နောက်ထပ်ပြုရမည့် အဖြစ်မျိုးကိုကား မကြုံလိုတော့ပါ။ ကျွန်ုပ်တို့ တစ်သက်တာတွင် မက သာသနာတော် တည်ရှိနေလေသမျှ ဤ ကံပြုရမည့် အဖြစ်မျိုး နောက်တစ်ကြိမ် မပေါ်ပေါက်စေချင်တော့ပါ။

**(စူဠဝဂ်ပါဠိတော်၊ သံဃဘေဒကက္ခန္ဓက၊ ပကာသနိယကမ္မကထာ)**

**

# ဝေဒေဟီ ဖြေမဆည်နိုင်ပြီ

နန်းတွင်းရေး ရှုပ်ထွေးလာသည်နှင့်အမျှ စကား အရှုပ်အထွေးများသည် ကျောင်းတော်ထိအောင် ဂယက်ရိုက်လာကြ၏။ သို့ဖြစ်၍ ကျွန်ုပ်တို့သည် ဤမြို့တော်မှ တော်ရာလျော်ရာ ထွက်ခွာသွားလိုကြပါ၏။ သို့ရာတွင် ဘုရားရှင် ကိုယ်တော်တိုင်က ဒေသစာရီ လှည့်လည်လိုသော အမူအရာ မပြလာသေးသဖြင့် ကျွန်ုပ်တို့မှာ အခြေမပျက် ဆက်၍နေခဲ့ကြရ၏။

ရာဇဂြိုဟ်မြို့တော်ကြီးမှ ဘုရားရှင် မခွဲခွာခြင်းမှာ ဒါယကာ ဒါယိကာမများကို ငဲ့ညှာ၍လည်း ဖြစ်ပါလိမ့်မည်။ နန်းတွင်းရေး ရှုပ်ထွေးဆဲဖြစ်၍ မြို့သူမြို့သားများ စိတ်ချောက်ချားနေကြရာ သူတို့အဖို့ ဘုရားရှင်ကို ဖူးတွေ့ နေရ၍ စိတ်သက်သာရာ ရကြပါလိမ့်မည်။ ထောက်ရာတည်ရာ ရကြပါလိမ့် မည်။ သို့ရာတွင် သူတို့ရှေ့မှာ ဣန္ဒြေရရ ရပ်တည်နေရသော ကျွန်ုပ်တို့ကား မသက်သာလှပါ။ ရာဇဂြိုဟ်နန်းတော်ကြီးမှ သတင်းမျိုးစုံ ဆက်ကာဆက်ကာ ကြားနေရ၍ ဖြစ်ပါသည်။

မအောင်မြင်သော လုပ်ကြံမှုကြီးနှင့် ပတ်သက်၍ သဘောထားသုံးမျိုး ရှိကြရာတွင် ပထမအုပ်စုဝင်များမှာကံဆိုးရှာကြ၏။ လစာရိက္ခာ ရုပ်သိမ်းခံကြရ၏။ ဒုတိယအုပ်စုဝင်များမှာ ရာထူးလျှော့ရုံမျှ ခံကြရ၏။ တတိယအုပ်စုဝင်များကား ရာထူးတိုးသွားကြသည်ဟု ဆိုပေသည်။

ဤဆုံးဖြတ်ချက်များသည် မင်းကေရာဇ်တို့၏ ကျင့်ထုံးနှင့် မညီပါ။ မင်းကေရာဇ်တို့မည်သည် ဤသို့သော အမှုမျိုး ပေါ်ပေါက်လာလျှင် မည်သူ့ကိုမျှ သက်ညှာရိုး မရှိပါ။ အပြင်းထန်ဆုံးသော ပြစ်ဒဏ်ကို ပေးခဲ့သည်ချည်း ဖြစ်၏။ သို့ပါလျက် ကျောင်းဒါယကာဘုရင်ကြီးကား တရားခံကို အပြစ်ပေးဖို့ နေနေသာသာ အပြစ်ပေးလိုသော မှူးမတ်များကိုပင် ရာထူး လျှော့လိုက်ပါသေး၏။

ဤတွင် တစ်ခုတော့ တွေးစရာရှိပါ၏။ ဘုရင်ကြီး ဗိမ္ဗိသာရသည် အခြား ကေရာဇ်များနှင့်မတူ။ အရိယာစာရင်းဝင် ဘုရင်သူတော်ကောင်းကြီး ဖြစ်နေ၍ သားဖြစ်သူကို သက်ညှာလေသလား။ ဤသို့ စိတ်တွက်တွက်ကြည့် လျှင်လည်း ရနိုင်သည်သာ။ သို့သော် တစ်ဖက်ကလည်း ပြန်တွက်ရန်ရှိပါသေးသည်။ အရိယာ ဘုရင်ကြီးဖြစ်၍ ပြစ်မှုထင်ရှားသော သားအဇာတသတ် ကို မသတ်ဘဲထားလိုလျှင် ထားနိုင်၏။ အဆောင်အယောင်များ မရုပ်သိမ်းဘဲ ထားလိုလျှင် ထားနိုင်ပါ၏။ သို့သော် အပြစ်ပေးရန် ကြံရွယ်သူများကို လစာ ရိက္ခာရုပ်သိမ်းခြင်း၊ ရာထူးလျှော့ပစ် ခြင်းတို့ကား အရိယာတရားနှင့် မဆိုင်တော့ပါ။ သားအပေါ် ချစ်လွန်း၍သာ ဖြစ်ပါ သည်။ ချစ်လှစွာသော သားသည်းချာအပေါ် မူးမတ်တွေ အပြစ်မရှာရဲအောင် နှိမ်ပြ လိုက်ခြင်းသာ ဖြစ်ပါသည်။ မကြာမီ သူတို့ကို နေမြဲရာထူးများသို့ ပြန်ပို့မည်ဟု မျှော်လင့်ရပါသည်။

ကေရာဇ်တစ်ဆူ ဖြစ်ပါလျက် မိမိအသက်ဘေးထက် သားဖြစ်သူ မျက်နှာ မညှိုးရေးကို အလေးထားခဲ့သည့်အတွက် ကျွန်ုပ်တို့ကား ထူး၍အံ့သြရန် မရှိတော့ပါ။ သည်သားနှင့် ပတ်သက်လာလျှင် သူ့မှာ နစ်နာခံဘက်ကချည်း ဖြစ်၏။

သည်သား ပဋိသန္ဓေနေစဉ်ကပင် ဝေဒေဟီမိဖုရားကြီးသည် ဘုရင်ကြီး၏ လက်ယာလက်မောင်းသွေးကို သောက်လိုသော ချင်ခြင်းဖြစ်ပေါ်ခဲ့၏။ အလွန်တရာ အန္တရာယ်ကြီးလှသော အရာဌာနဖြစ်၍ မိဖုရားကြီးသည် မည်သူ့ကိုမျှ မပြောရဲဘဲ အောင့်အည်း၍နေခဲ့ရ၏။ သို့သော် ရင်တွင်းက ချင်ခြင်းကား လျော့သွားသည်မရှိပါ။ ရက်ကြာလေလေ ပြင်းထန်လေဖြစ်ခဲ့၏။ ပြင်းထန်လှသော ချင်ခြင်းတပ်မှုကိုအတင်း အကျပ် အောင့်အည်းနေခဲ့ရသဖြင့် မိဖုရားကြီးမှာ အသွေးအသား ခန်းခြောက်လာ ရ၏။ အလှကျက်သရေ ယိုယွင်းလာရ၏။ ဤသည်ကို အကဲခတ်မိသော ဘုရင် ကြီးက အကျိုးအကြောင်းမေးရာတွင်လည်း "မသိချင်ပါနှင့်" ဟူ၍သာ တွင်တွင် ကြီး ငြင်းနေခဲ့၏။ ဤတွင် ဘုရင်ကြီးက မရရအောင် စစ်မေးခါမှ အဖြစ်မှန်ကို ဖွင့်ဟလေရာ

"အိုအမိုက်မ၊ ဤမျှလောက် ကိစ္စကလေးကိုပင် ဝန်လေးနေရပါသလော"

ပြောပြောဆိုဆို သမားတော်များ ခေါ်ယူကာ ရွှေဓားဖြင့် လက်မောင်းကို အဖောက်ခိုင်းကာ ကျလာသော သွေးများကို ရွှေခွက်ဖြင့် ခံယူစေ၏။ ထိုသွေးကို ရေနှင့်ဖျော်ကာ တိုက်ပါမှ မိဖုရားကြီး၏ ချင်ချင်း ပြေပျောက်သွားတော့၏။

ထိုအချက်ကို ထောက်ရှုကာ နိမိတ်ဖတ် ပညာရှင်များက "ဤသန္ဓေသည် ဘုရင်ကြီး၏ ရန်သူဖြစ်လတ္တံ့" ဟု ဟောကိန်းထုတ်ခဲ့ကြ၏။ ဤဟောကိန်းကို မိဖုရားကြီး ကြားသိလေရာ အဖေသတ်မည့် သားသန္ဓေကို လွယ်မထားလိုသဖြင့်

ဥယျာဉ်ထဲတွင် ကိုယ်ဝန်ကို နှိပ်နယ်စေ၏။ ကိုယ်ဝန်မှာ ပျက်ကျ မသွားပေ။ မပျက်လျှင် နေရမည်လားဟု မိဖုရားကြီးက ထပ်ကာထပ်ကာ သွား၍ နှိပ်နယ်စေ၏။ သို့သော် အသက်ပြင်းလှသော ကိုယ်ဝန်ကား မပျက်စီးဘဲ ကြီးထွားမြဲ ကြီးထွားလာ၏။ ကြာတော့ ဘုရင်ကြီး သိသွားကာ မဖျက်ဆီးနိုင်ရန် အစောင့်များ ချထားလေတော့သည်။

ကိုယ်ဝန်တုန်းက ဖျက်ဆီးမရတော့လည်း ဖွားလျှင်ဖွားချင်း သုတ်သင်ပစ်မည်ဟု မိဖုရားကြီးက ဆုံးဖြတ်ထားပါသေး၏။ သို့သော် သူ့အကြံကို ရိပ်မိထားကြသည်မို့ ဝမ်းက ကျွတ်လျှင်ကျွတ်ချင်း လွတ်ရာကျွတ်ရာသို့ ပို့ထားကြ၏။ နို့ထိန်းများနှင့် မွေးမြူကာ လူရုပ်လူကောင် တော်တော် ပီလာခါမှ မိခင်ထံ ပို့ကြ၏။ သည်တော့လည်း သားမျက်နှာ ဖိုးရွှေလကို ကြည့်ကာ မိခင်စိတ်များ ပွားစီးလာရပေတော့သည်။

မသေကောင်း မပျောက်ကောင်း မွေးဖွားလာသော သားကလေးကို အဇာတသတ် ဟု နာမည်ပေးလိုက်ကြ၏။ "သူကလေး မမွေးဖွားမီကပင် ဘုရင်ကြီး၏ ရန်သူဖြစ်လတ္တံ့"ဟု နိမိတ်ဖတ်ပညာရှင်များက ဟောကိန်းထုတ်ခဲ့ကြ၍ ဖြစ်ပေသည်။

ဤသည်ကို ထောက်ကာ နိမိတ်ဖတ်ပညာရှင်များ၏ ဟောကိန်းကို ဘုရင်ကြီးက အလေးမထားကြောင်း ထင်ရှားလှ၏။ ထို့ကြောင့်ပင် သားကလေး အဇာတသတ်သည် မိခင်ရင်ခွင်မှာ ပျော်ရွှင်ရင်း ကြီးပြင်းလာရ၏။ အရွယ်ကောင်းကောင်း ရောက်လာပြန်တော့လည်း ဘုရင်ကြီးသည် သည်သည်းချာအပေါ် မယုံသင်္ကာစိတ် လုံးဝ မပေါ်လာသဖြင့် အိမ်ရှေ့စံနေရာကို စိတ်ချလက်ချ ပေးအပ်ခဲ့ပေသည်။

ထိုမျှလောက် ယုံကြည်စိတ်ချထားခဲ့သော သားအဇာတသတ်သည် ယခုတော့ ဖခင်ကြီးကို သတ်ဖြတ်ရန် ကြံစည်ခဲ့ပေပြီ။ ဘာမဆို သားဘက်က ရပ်တည်လာခဲ့သော ဘုရင်ကြီးက သည်အမှုကြီးကိုလည်း ခွင့်လွှတ်ထားရုံမက သားဖြစ်သူ၏ ဆန္ဒအတိုင်း ထီးနန်းကိုပါ လွှဲအပ်ပေးလိုက်ပါသေး၏။

အဇာတသတ်အနေနှင့်ဆိုလျှင် ဤမျှဖြင့် ကျေနပ်ပြီဖြစ်၏။ သူလိုချင်သော ထီးနန်းစည်းစိမ်အတွက် ခမည်းတော်ဘုရင်ကြီးကို မသတ်ဖြတ်ဘဲရသဖြင့်ဝမ်းမြောက်ဝမ်းသာ ဖြစ်နေ၏။ သို့သော် သူ့လို ဝမ်းမသာနိုင်သူက ရှိနေပေသေးသည်။

"မင်းသား၊ သင်သည် မြွေခွံကို အတွင်းမှာထားကာ စည်ကြက်သူကဲ့သို့ ဖြစ်နေချေပြီ။ ကိုယ့်အလုပ်ကို ဟုတ်လှပြီ ထင်နေသော်လည်း တစ်နေ့နေ့မှာ ဒုက္ခရောက်မည် ဖြစ်၏။ စည်အတွင်းက မြွေခွံသည် မကြာမီ သားရေကို ကိုက်ဖောက်ကာ ထွက်လာနိုင်သကဲ့သို့ သင့်ခမည်းတော်သည်လည်း သင့်ကို မကြာမီ

အနှောင့်အယှက် ပေးနိုင်သေး၏။ သင်လုပ်ပုံ ကိုင်ပုံ ဆက်ဆံပုံများကို စိတ်တိုင်းမကျလျှင် သင့်လက်မှ ထီးနန်းစည်းစိမ်ကို ပြန်မယူဟု သင် ဆိုနိုင်မည်လော"

"သို့ဖြစ်လျှင် တပည့်တော် မည်သို့ ပြုရပါမည်နည်း"

အဇာတသတ်က သူ့ဆရာကို အားကိုးတကြီးနှင့် မေးလိုက်၏။ ရာဇပလ္လင်ပေါ်၌မင်းဧကရာဇ်ကြီးဖြစ်ခဲ့သော အဇာတသတ်သည်ဆရာဒေဝဒတ်၏ ရှေ့မှာကား တပည့်ငယ်ကလေးသာ ဖြစ်နေပါသေးသည်။

"မင်းသား၊ သို့လော သို့လော တွေးတော မနေနှင့်။ လက်စတုံးသတ်လိုက်ဖို့သာ ရှိတော့သည်"

"ဘုရား"

ဆရာဒေဝဒတ်၏ ညွှန်ကြားချက်ကိုကြားရသည်နှင့် အဇာတသတ်မင်းမှာ ထိတ်လန့်တကြား ဖြစ်သွားရသည်ဟု အတွင်းသိများက ဆိုကြပါ၏။ ဟုတ်ရှာပါလိမ့်မည်။ ယခင်ကသာ ထီးနန်းစည်းစိမ်ရရှိရေးအတွက် မရလျှင် ရသည့်နည်းဖြင့်ယူရန် ကြိုးစားခဲ့၏။ ယခုတော့ ခမည်းတော်ကြီးအား လုပ်ကြံသတ်ဖြတ်နေရန်မလို။ သားတည်းဟူသော ချစ်ခြင်းဖြင့် သဒ္ဓါ ကြည်ဖြူ လွှဲအပ်လိုက်သဖြင့် ငယ်ငယ်ရွယ်ရွယ်နှင့် ဧကရာဇ်ဘုရင်တစ်ပါး ဖြစ်နေပေပြီ။ ကျယ်ဝန်းလှစွာသော မဂဓတိုင်းကြီးကို အစိုးရနေချေပြီ။ သို့ဖြစ်၍ မိမိအပေါ် စေတနာ၊ မေတ္တာ ကြီးမားလှသော ခမည်းတော်ကြီးကို နန်းတော်ဦးမှာ အဆောင်သီးခြားထား၍ ရာသက်ပန် ပြုစုသွားမည်ဟု စိတ်ကူးခဲ့၏။ သို့သော် သူ့စိတ်ကူးကို သူ့ဆရာက ချေဖျက်ပစ်လိုက်ပါချေပြီ။

"တပည့်တော်၏ ဖခင်သည် ဓား လက်နက်ဖြင့် သတ်ထိုက်သူ မဟုတ်ပါဘုရား"

ဆရာ့စကားကို တိုက်ရိုက်ကြီးမငြင်းရဲသဖြင့် ဤသို့အကြောင်းပြလိုက်သော်လည်း အချည်းနှီးသာ ဖြစ်ရပေသည်။

"မင်းသား၊ သင့်ခမည်းတော်ကို ဓားဖြင့်သတ်ရန် မဟုတ်၊ အစာဖြတ်၍သတ်ရန်သာ ဖြစ်ပေသည်"

ဆရာဒေဝဒတ်၏ စကားက မိုးကြိုးသွားတမျှ ထက်မြက်ပြင်းထန်လှသဖြင့် ဧကရာဇ် အဇာတသတ်သည် ခမည်းတော်ကြီးကို ဖမ်းဆီးချုပ်နှောင်ကာ အခိုးတိုက်ထဲတွင် သွတ်သွင်းရပေတော့သည်။

အခိုးတိုက်ဆိုသည်မှာ သေဒဏ်ကျပြီးသော ရာဇဝတ်သားများကို မီးတိုက်၍ သတ်ဖြတ်ရာ တိုက်ခန်းဖြစ်၏။ လုံခြုံလှသော တိုက်ခန်းထဲ သွတ်သွင်းပြီးနောက် အစောင့်အရှောက် ထူထပ်စွာ ချထား၏။ တိုက်ခန်းသို့ မယ်တော်ကြီး ဝေဒေဟီမှအပ မည်သူမျှ မလာရန် ကြပ်တည်းစွာ ဆင့်ဆိုထား၏။

ယခုတော့ သေကွဲ မကွဲခင်က ရှင်ကွဲ ကွဲကြရချေပြီ။ နန်းမြင့်ထက်မှ အိမ်နိမ့်သို့ ကျောင်းဒါယကာကြီးဆင်းလာရာတွင် ကျောင်းအစ်မကြီးဝေဒေဟီလည်း ထက်ကြပ်မကွာ လိုက်ပါလာခဲ့၏။ စည်းစိမ်ဥစ္စာမရှိ၊ တန်ခိုးအာဏာ ဟူသမျှ မရှိတော့သော်လည်း ဘဝသခင် ကျေးဇူးရှင်ကြီးကို ယခင်အတိုင်း ပြုစုလုပ်ကျွေး သွားမည်ဟု အားခဲခဲ့ပါ၏။ သည်ဘဝတစ်သက်တာတွင် သေခါမှ ခွဲရတော့မည်ဟု အောက်မေ့မိခဲ့၏။ သို့သော် သူထင်တိုင်း ဖြစ်မလာခဲ့ပါ။ သူ့ရှေ့မှောက်မှာပင် ဘဝသခင် ကျေးဇူးရှင်ကြီးကို မင်းချင်းများက အတင်းတရကြမ်း ဝင်ဖမ်းကြ၏။ ခိုးသားဓားပြသဖွယ် လက်ရောခြေပါ ကြိုးတုပ်လျက် တရွတ်တိုက် ခေါ်ဆောင်သွားကြ၏။ ဤမြင်ကွင်းမျိုးကို မြင်လိုက်ရသော ဖနီးသည်တစ်ယောက်အဖို့ မည်သို့ ခံစားရမည်ကို ကျွန်ုပ် ကိုယ်ချင်းစာလိုက်မိပါသည်။

ယခုတော့ ကျေးဇူးရှင်ကြီးထံ တစ်နေ့ တစ်ခေါက်သာ သွားခွင့်ရှိတော့သည်။ သည်အခွင့်အရေးကလေးကိုပင် ကျောင်းဒါယကာကြီးအတွက် အတတ်နိုင်ဆုံး အသုံးချရပေသည်။ ကျေးဇူးရှင်ကြီး စားသောက်ရန် စားမြိန်စာကို ရွှေခွက်မှာ ထည့်လျက် ရင်ခွင်မှာဝှက်၍ ယူကာ ကျွေးမွေးရပေသည်။ သို့သော် ဤအခွင့်အရေး သည် သိပ်မကြာလိုက်ပါ။ အစောင့်များမှတစ်ဆင့် သားဖြစ်သူ သိသွားပြီမို့ "ရင်ခွင်မှာ တစ်ခုခုပိုက်၍ မဝင်ရ"ဟု အမိန့်ထုတ်ပြန်လာတော့သည်။

ရင်ခွင်မှာဝှက်၍ ယူမသွားရတော့လည်း ကျောင်းအစ်မကြီး အားမလျှော့ သေးပါ။ ကျောင်းဒါယကာကြီးကို မျှတရုံလောက် အစားအစာကို ဆံထိုးထဲမှာ ထည့်၍ ယူသွားပြန်၏။ သည်အခွင့်အရေးကို ပိတ်လိုက်ပြန်သောအခါ ဖိနပ်ထဲမှာ ထည့်ယူသွားရ၏။ မရှိသေရာကျသော်လည်း အစာငတ်မည့်ဘေးကြောင့် ဖြစ်သည့် နည်းနှင့် ယူသွားရပေတော့သည်။ သည့်နောက်တွင်ကား ဖိနပ်စီးခွင့်ပင် မရ တော့သဖြင့် မယ်တော်ကြီးမှာ တစ်မျိုးကြံရှာ၏။ မိမိကိုယ်ကို ရေမိုးစင်စင်ချိုးကာ စတုမဓုရများ လိမ်းကျံလိုက်၏။ ထိုအပေါ်မှာမှ ဟန်မပျက် အဝတ်အစား ဝတ်ကာ ကျေးဇူးရှင်ကြီးထံဝင်ရပေသည်။ နန်းကျဘုရင်ကြီးခမျာ အသက်မီးလေး တောက်နေရေးအတွက် မိဖုရားကြီးကိုယ်ပေါ်မှ စတုမဓုရများကို လျှာဖြင့် လျက်ရ သည်ဟု ဆိုပါသည်။ မေတ္တာရှေးရှု ပြုစုသည့်ဘက်က ကြည့်လျှင် ကြည်နူးဖွယ်၊ အဖြစ်ဆိုး သူများအဖြစ် ကြည့်လျှင်ကား ရင်နင့်ဖွယ် ဇာတ်ကွက်များပင် ဖြစ်ပါ တော့သည်။

အဖြစ်ဆိုးရှာသူများ၏ ကံကြမ္မာသည် ထိုမျှဖြင့် မကျေနပ်သေးပါ။ ဤသို့ ပြုစု၍ ရက်အတန်ကြာလျှင်ပင် "သည်ကရှေ့ မယ်တော်ကြီး လုံးဝ မဝင်ရ"ဟူသော တစ်ချက်လွှတ် အမိန့်တော်ကြီး ထွက်ပေါ်လာပါတော့သည်။

"အို ဘဝသခင်ကြီး၊ အို ကျေးဇူးရှင်ကြီး၊ ယခု ဘုရားကျွန်မ မည်သို့မျှ မတတ်နိုင်တော့ပြီ၊ အဖသတ် သားကို ဘုရားကျွန်မ နန့က ဖျက်ဆီးလိုပါလျက် ကရုဏာရှင် မေတ္တာရှင်ကြီးက တားမြစ်ခဲ့၏။ ယခု သည်ကရုဏာ၊ သည်မေတ္တာ များ၏ ကျေးဇူးကို ခံစားနေရပြီ မဟုတ်ပါလား။ သည်ကရှေ့ ကျေးဇူးရှင်ကြီးထံ ဘုရားကျွန်မ လာတွေ့ခွင့် မရှိတော့ပြီ။ ယခုအကြိမ်သည် ကျေးဇူးရှင်ကြီးကို နောက်ဆုံး ဖူးမြင်ရခြင်း ဖြစ်ပါသည်။ ဘဝသခင် ကျေးဇူးရှင်အပေါ် တစ်စုံတစ်ခု ပြစ်မှားသည်ရှိခဲ့ပါလျှင် အနူးအညွတ် ခွင့်လွှတ်ကျေနပ်တော်မူပါ ဘုရား"

ဝေဒေဟီ မိဖုရားကိုယ်တိုင်ကို မဆိုထားနှင့်။ ကျွန်ုပ်တို့ထံ တစ်ဆင့် တင်ပြသူမှာပင် ဤစကားလုံးများကို ဆို့နစ်ကြေကွဲစွာ အားယူ၍ ပြောပြရရှာပေသည်။

**(သီလက္ခန္ဓဝဂ်၊ သာမညဖလသုတ် အဋ္ဌကထာ)**

⁂

## သီတာရေစင်ပမာ

သားတော်လေး အဇာတသတ်အား ဝါးဖတ်တော်ကစီနှစ်ဖြင့် လူဖြစ်အောင် မွေးမြူခဲ့သော ခမည်းတော်ကြီးမှာ ယခုတော့ ထမင်းတစ်လုပ်မျှ မစားရရှာတော့ပါ။ ရေကလေးတစ်ပေါက်မျှ မသောက်ရရှာတော့ပါ။

ဤအဖြစ်မျိုး ရောက်သည့်တိုင်အောင်ပင် မေတ္တာရှင် ဘုရင်ကြီးသည် သူ့သားတော်အပေါ် အပြစ်တင်လိမ့်မည် မထင်ပါ။ တရားတော်နှင့် သေသေချာချာ ပြန်စစ်ကြည့်လျှင် တကယ်တော့ဖြင့် အဇာတသတ်မှာ အပြစ်တင်စရာ မရှိပါ။ သူ့ဆရာ ဒေဝဒတ်ကိုလည်း အပြစ်တင်ရန် မဟုတ်ပါ။ သို့ဆိုလျှင် ဘုရင်ကြီး ဗိမ္ဗိသာရကိုပင် အပြစ်တင်ရတော့မည်လော။ ဤသို့လည်း မဖြစ်နိုင်သေးပါ။ ဤဖြစ်ရပ်အတွက် အရင်းခံအကျဆုံး အကြောင်းတရားမှာ ဤပုဂ္ဂိုလ် သုံးဦးစလုံး မဟုတ်ကြပါ။ သူတို့ရှိခံစားခဲ့ရသော စည်းစိမ်ဥစ္စာနှင့် အာဏာများပင် ဖြစ်ပါသည်။

ဤသဘောကို စောစောကပင် ရည်ညွှန်း၍ ဟောကြားခဲ့သော ဒေသနာတော်တစ်ပုဒ် ရှိပါသည်။ ထိုဒေသနာတော်တွင် ကာမဂုဏ်စည်းစိမ်များကို သားတစ်နှင့် ဥပမာပေးထား၏။ စွန်တစ်ကောင်သည် စားချင့်စဖွယ် ကောင်းလှသော သားတစ်တစ်ခုကို ရ၍ ဝမ်းသာအားရ သုတ်ချီခဲ့၏။ ဤသားတစ်ကို မိမိပိုင်ပြီ ဖြစ်၍ အားပါးတရ စားရတော့မည်ဟု ထင်စားခဲ့၏။ သို့သော် သူ့ထင်စားချက် အကောင်အထည် မပေါ်လာနိုင်တော့ပါ။ သားတစ်ကို စားရန် စိတ်ကူးနေဆဲမှာပင် အခြားစွန်များ ရောက်လာကြပါပြီ။ ပထမစွန်၏ ခြေသည်းကြားမှ သားတစ်ကို သူ့ထက်ငါ ဝိုင်း၍ လုကြပါတော့သည်။ ပထမစွန်ကလည်း သားတစ်ကို မစွန့်လွှတ်ပါ။ ဝိုင်းလာသမျှ စွန်များကို စွမ်းနိုင်သမျှ ခုခံတိုက်ခိုက်၏။ သားတစ်ကို သည်အတိုင်း လု၍မရသောအခါ အခြားစွန်များသည် သားတစ်ပိုင်ရှင်ကို ဝိုင်း၍ ထိုးဆိတ်ကြတော့၏။ သားတစ်ပိုင်ရှင်သည် မတတ်သာတော့သဖြင့် ခြေသည်း

ကြားက သားတစ်ကို စွန့်လွှတ်လိုက်ရ၏။ ဤတွင်မှ သားတစ်ပိုင်ရှင်သစ်နောက်သို့ အခြားစွန်များ လိုက်သွားကြသဖြင့် ပိုင်ရှင်ဟောင်း စွန်မှာ သက်သာရာ ရပေတော့သည်။

ဤဒေသနာတော်ကို ကျွန်ုပ်တို့ ကျောင်းဒါယကာ ဘုရင်ကြီးလည်း ကြားနာခဲ့ဖူးပါလိမ့်မည်။ ယခုလို ဒုက္ခကြီးစွာ ခံစားရသည်မှာ သားတစ်ကို ပိုင်ဆိုင်ခဲ့၍ဟု တရားနှင့် ဖြေနိုင်ပါလိမ့်မည်။ သူပိုင်ခဲ့သော သားတစ်သည် သာမန်သားတစ် မဟုတ်ပေ။ ကျယ်ဝန်းလှစွာသော မာဂဓတိုင်းကြီးတစ်ခုလုံးကို လွှမ်းခြုံနိုင်သော အာဏာဖြစ်၏။ လူ့စည်းစိမ်တို့၏ အထွတ်အထိပ် မင်းစေရာဇ်တို့၏ စည်းစိမ်ဖြစ်၏။ ထိုအာဏာ ထိုစည်းစိမ်ကို အကြောင်းပြု၍ပင် ဤအဖြစ်ဆိုးသို့ ဆိုက်ရောက်ခဲ့ရပေသည်။

ကျောင်းဒါယကာကြီးသည် သားတော်အား ထီးနန်းစည်းစိမ်လွှဲအပ်စဉ်ကပင် ဤတရားသဘောကို သတိရခဲ့ပါလိမ့်မည်။ သားတစ်ပိုင်ရှင်ကို ထိုးလာဆိတ်လာကြပြီမို့ အချိန်မီ လွှတ်ချလိုက်ဟန် တူပါသည်။ သို့သော် သူ့ကံကြမ္မာ ဖန်လာချင်တော့ အပြီးအပြတ် စွန့်လွှတ်ထားပြီးသည်ကိုပင် စိတ်ချလက်ချ မရှိနိုင်ကြခြင်းဖြစ်၏။ နောက်နောင်အခါ ပြန်လုနိုင်သေးသည်ဟု ထင်နေကြခြင်းဖြစ်၏။ သည်အထင်များ၏ ဒဏ်ကို ယခုတော့ မရှုမလှ ခံစားနေရရှာပေပြီ။

မိမိတို့ ကျောင်းဒါယကာကြီး အစာငတ် ရေငတ် ဖြစ်နေစဉ်တွင် ကျွန်ုပ်တို့အားလုံး ရေငုံနှုတ်ပိတ် နေခဲ့ကြ၏။ နေရာတကာ စွက်ကာစွက်ကာ ပါတတ်လှသော အရှင်ဥပနန္ဒသည်ပင် နှုတ်စောင့်စည်း၍နေရ၏။ မစောင့်စည်းလည်း မဖြစ်ပါ။ ဟိုတစ်နေ့ကပင် တိုင်းရေးပြည်ရာမှာ ဝင်စွက်ခဲ့သော ဒေဝဒတ်တစ်ပါးအတွက် ရဟန်းအားလုံး ရာဇဝတ်သင့်မတတ် ကြုံခဲ့ကြရပြီ။ ပကာသနီယကံ ပြုထားနှင့်၍သာ တော်တော့သည်။ ဘုရားရှင်၏ ကြိုတင်ကာကွယ်မှုကို ဘုရားတပည့်သား ဧကရာဇ်က သဘောပေါက်သောကြောင့်လည်း ဖြစ်ပါသည်။

သည်လိုသဘောပေါက်နိုင်သော သည်လိုခွင့်လွှတ်နိုင်သော ဧကရာဇ်ကြီး၏ နေရာတွင် ယခု အခြားဧကရာဇ်တစ်ပါး ရောက်နေချေပြီ။ သူ့အပေါ် ဒေဝဒတ်၏ ဩဇာက ရာနှုန်းပြည့် သက်ရောက်နေ၏။ ဘုရား တပည့်သား ရဟန်းတစ်ပါးပါးကသာ တစ်စုံတစ်ရာ ပါဝင်စွက်ဖက်မိလျှင် ရာဇဝတ်ဘေးက အချိန်ဆိုင်းမည် မဟုတ်ပါ။ ရဟန်းသံဃာဟူ၍လည်း သက်ညှာနေမည် မဟုတ်ပါ။ ဘုရားရှင့်အပေါ် ထားရှိခဲ့သော ရန်ငြိုးဖြင့် ဘုရားတပည့်သား ရဟန်းများကို နှစ်ဆတိုး၍ နှိပ်ကွပ်တော့မည်ဖြစ်၏။ ထို့ပြင် မင်းဆရာဒေဝဒတ်၏ အချီးအမြှောက်ကို ခံယူလိုသူတို့ကလည်း ကျွန်ုပ်တို့၏ အရိပ်အခြည်ကို အကဲခတ်နေမည်သာ ဖြစ်၏။ ကျွန်ုပ်တို့

ဘက်က တစ်ကွက်မှားလိုက်သည်နှင့် တစ်ပြိုင်နက် မင်းဆရာ ဒေဝဒတ်ထံသို့ ထိုအချက်ဖြင့် လက်ဆောင်ထိုးမည် မလွဲပါ။ ဤလို မင်းပြောင်းမင်းလွဲ ကာလကြီးတွင် ကိုယ်က ကျူးလျှင် ကိုယ့်ဒူးမှ မယုံရပါချေတကား။

သည်လို ကာလဆိုးကြီးထဲမှာပင် ဘုရားရှင်ကလည်း ရာဇဂြိုဟ်မှာ စွဲမြဲတော်မူလှ၏။ ဝေဠုဝန် ကျောင်းတော်မှာ အမြဲနေရာမှ တစ်ခါတစ်ရံ ဂိဇ္ဈကုဋ်တောင်သို့လည်း ကြွတော်မူတတ်၏။ ဤသို့ ရာဇဂြိုဟ်မှ မခွဲမခွာ နေတော်မူခြင်းမှာ ဒါယကာ ဒါယိကာမများကို သက်ညှာ၍ ဖြစ်သည်ဟု သည်တုန်းက ထင်ခဲ့မိ၏။ ကျွန်ုပ်၏ အထင်သည် ဟုတ်သင့်သလောက်တော့ ဟုတ်ပါ၏။ သို့သော် အပြည့်အစုံကား မဟုတ်သေးပါ။ ဘုရားရှင်၏ ရှေ့ဉာဏ်တော်ကို ကျွန်ုပ်၏ သာဝက ဉာဏ်ဖြင့် မခြိမ်းနိုင်ခဲ့ပါ။ နောက်ပိုင်းကျခါမှသာ "သြော် ဤသို့ပါတကား" သဘောပေါက်လာရပါတော့သည်။

ကျောင်းဒါယကာကြီး၏ ကံကြမ္မာကို နားစွင့်ရင်း ကျွန်ုပ်တို့သည် သာသနာတော်ကြီးအတွက် ကျောင်းဒါယကာကြီး ဆောင်ရွက်ခဲ့ပုံများကို ပြန်လည် ဆွေးနွေးမိကြ၏။ ရဟန်းသံဃာများအပေါ် သဘောထားကြီးစွာ ခွင့်လွှတ်ခဲ့ပုံများကို ပြန်လည် သတိရမိကြ၏။

ကျွန်ုပ်တို့တစ်တွေ လပြည့်လကွယ်နေ့များ၌ ဥပုသ်ပြုရခြင်းသည် ကျောင်းဒါယကာကြီး လျှောက်ထားခဲ့၍ ဖြစ်၏။ သာသနာ့ပြင်ဘက်က ပရိဗိုဇ်ရဟန်းများသည် လပြည့်လကွယ် ရှစ်ရက် သီတင်းနေ့များတွင် စုဝေးကြလျက် သူတို့ခံယူထားသော တရားများကို ဆွေးနွေးကြ၏။ ပြုသင့်သော ကိစ္စများ၊ မပြုသင့်သော ကိစ္စများကို ဝေဖန်ကြ၏။ စိစစ်ကြ၏။ သူတို့စုဝေးရာသို့ ဒါယကာ၊ ဒါယိကာမများလည်း လာ၍ နားထောင်ကြရာ နောက်နေ့များတွင် သာ၍ ပရိသတ်များလာ၏။ ပရိဗိုဇ်ရဟန်းများ ဆွေးနွေး ဝေဖန်သော တရားစကားကို အားရကျေနပ်ကြသော ကြောင့် ဖြစ်ပေသည်။

သာသနာပြင်ဘက်က အလေ့အလာတစ်ခုကို သာသနာတွင်းသို့ သွတ်သွင်းလာရန်မှာ တော်ရုံတန်ရုံ ပုဂ္ဂိုလ်မျိုးနှင့် မဖြစ်နိုင်ပေ။ ဘုရားရှင်ကို ကြည်ညိုရုံမက ရင်းနှီးကျွမ်းဝင်သော ပုဂ္ဂိုလ်မျိုးများသာ စွမ်းနိုင်၏။ ကျောင်းဒါယကာ ဘုရင်ကြီးက အလောင်းတော်ဘဝကပင် နောင်တော်မြတ်နှင့် ရင်းနှီးခဲ့သူဖြစ်၏။ ထို့ကြောင့် သာသနာတော်သို့ ဒါယကာ၊ ဒါယိကာမများလည်း သက်ဝင်ကြည်ညိုလာနိုင်စေရန် လျှောက်ထားခဲ့၏။ ဘုရားရှင်ကလည်း သာသနာ့ပြင်ဘက်က အလေ့အလာများဟူ၍ ပစ်ပယ်တော်မမူပေ။ မည်သူကပင် စတင်၍ အသုံးပြုထားသည်ဖြစ်စေ၊ သာသနာတော်အတွက် အကျိုးရှိမည်ဆိုလျှင် လက်ခံတော်မူခဲ့သည်သာ ဖြစ်ပေသည်။

လပြည့်နှင့် လကွယ်နေ့တိုင်း ဥပုသ်ပြုရန် ခွင့်ပြုတော်မူပြီးလျှင် ဥပုသ်ပြုရန် သိမ်အမျိုးမျိုးကိုလည်း မိန့်ကြားတော်မူခဲ့၏။ ဥပုသ်ပြုခြင်းနှင့် ပတ်သက်၍ ဆောင်ရွက်ဖွယ် အဝဝကိုလည်း အကွက်စေ့အောင် ညွှန်ကြားတော်မူခဲ့၏။ ကျောင်းတိုက်တာကြီးများ၏ ခေါင်းရင်းပိုင်းမှာ ထည်ထည်ဝါဝါရှိနေကြသော သိမ်အဆောက်အအုံများ၊ ထိုသိမ်ထဲမှာ ဥပုသ်ပြုနေကြသော သံဃာတော်များကို မြင်ရလေတိုင်း ကျောင်းဒါယကာဘုရင်ကြီးကို ကျွန်ုပ်တို့ သတိရနေကြရပါဦးမည်။

**(ဝိနည်းမဟာဝဂ် ပါဠိတော်၊ ဥပေါသထက္ခန္ဓက)**

တစ်လနှစ်ကြိမ် ဥပုသ်ပြုခြင်းဖြင့် သာသနာတော်ကြီး အဓွန့်ရှည်ရှည် တည်နေအောင် အကျိုးဆောင်ခဲ့သော ကျောင်းဒါယကာ ဘုရင်ကြီးသည် ရဟန်းများအပေါ် သက်ညှာသည့် နေရာမှာလည်း စံပြုလောက်ပါပေ၏။

တစ်နေ့သောအခါ ဗိမ္ဗိသာရမင်းကြီးသည် ခေါင်းလျှော်ရင်း ရေချိုးမည်ဟူ၍ တပေါဒါမြစ်သို့ လာခဲ့၏။ ရေချိုးဆိပ်သို့ မရောက်မီကပင် ရဟန်းများ ရေချိုးနေသည်ကို လှမ်းမြင်ရ၏။ မိမိရောက်သွားလျှင် ရဟန်းများ ရေမဝဘဲ တက်လာကြရမည်စိုး၍ မင်းကြီးသည် တစ်နေရာမှ စောင့်နေရ၏။ သို့သော် ရဟန်းများက တော်တော်နှင့် မတက်လာကြပေ။ ကူးရင်းခတ်ရင်း ကျီစယ်ရင်း စိတ်တိုင်းကျ ရေချိုးနေကြ၏။ သို့ဖြစ်၍ မှောင်ရီသန်းလာမှပင် မင်းကြီး ရေချိုးရပေတော့သည်။

ရေချိုးပြီး၍ နန်းတော် ပြန်လာတော့လည်း သူ့မှာ နန်းတွင်းသို့ မဝင်နိုင်ပေ။ တင်းတင်းကျပ်ကျပ် ပညတ်ထားသော အမိန့်အရ နေဝင်ပြီဖြစ်၍ မြို့တံခါးကြီး ပိတ်ထားနှင့်ပေပြီ။ မင်းကြီးကိုယ်တိုင် ရှိနေပါသော်လည်း မြို့တံခါးကို အဖွင့်ခိုင်း၍ မဖြစ်နိုင်ပါ။ မိမိပေးထားသောအမိန့်ကို မိမိက ရိုသေရပါလိမ့်မည်။ ထို့ကြောင့် မြို့ပြင်မှာပင် အစောင့်အရှောက်များဖြင့် ညအိပ်ကာ နံနက်လင်းလျှင် လင်းချင်း ကျောင်းတော်သို့လာခဲ့၏။ နန်းတော်သို့ မဝင်ခဲ့ရသေးသဖြင့် ညတုန်းက လိမ်းကျံထားသော နံ့သာများ မဖျက်ရသေးဘဲ သည်အတိုင်း ပါလာကြ၏။ ကျောင်းဒါယကာ ဘုရင်ကြီးထံမှ အကြောင်းမှန်ကို သိရချိန်တွင် ဘုရားရှင်က နှာန သိက္ခာပုဒ်ကို ပညတ်တော်မူရ၏။ နှာနသိက္ခာပုဒ်မှာ ရဟန်းများ ရေချိုးခြင်းနှင့် ပတ်သက်၍ ပညတ်ထားခြင်း ဖြစ်ပေသည်။ **(ပါစိတ်ပါဠိတော်၊ သုရာပါနဝဂ်၊ နှာနသိက္ခာပုဒ်)**

ကျွန်ုပ်တို့ ကျောင်းဒါယကာ ဘုရင်ကြီးမှာ ရေချိုးရာတွင် သက်ညှာခဲ့ရသကဲ့သို့ အစားအသောက်နှင့် ပတ်သက်၍လည်း သဘောထားကြီးစွာ ခွင့်လွှတ်ခဲ့ပါသေး၏။

မင်းကြီး၏ ဥယျာဉ်ထဲတွင် သရက်ပင်များရှိရာ သရက်သီးများကို အရှင်ကောင်းများ အလိုရှိသမျှ စားသုံးနိုင်ကြောင်း မင်းကြီးက လျှောက်ထား၏။

တစ်နေ့တွင် မင်းကြီးသည် သရက်သီး စားလိုစိတ်ပေါ်လာသဖြင့် မင်းချင်းများကို ဥယျာဉ်သို့ လွှတ်လိုက်၏။ မင်းချင်းများပြန်အလာတွင် သရက်သီးကား ပါမလာ။ ဥယျာဉ်စောင့်၏ အကြောင်းကြားလွှာသာ ပါလာ၏။ "ရဟန်းများက အသီးကင်းကလေးများကို အားလုံး အဆွတ်ခိုင်း၍ စားပစ်လိုက်ကြပါပြီ" ဟူ၍ ဖြစ်၏။

သရက်သီး အစားသရမ်းသူတို့ကား ပွဲတိုင်းကျော် ဆဗ္ဗဂ္ဂီ အုပ်စုဝင်များပါတည်း။ သူတို့ကတော့ ဘယ်နေရာမဆို၊ ဘယ်ကိစ္စမှာမဆို ငါ့ဖို့သမားများသာ ဖြစ်ကြ၏။ စေတနာကောင်းဖြင့် ခွင့်ပြုထားသည်ကို အလွဲသုံးစား လုပ်ကြခြင်း ဖြစ်သော်လည်း မင်းကြီးက အပြစ်မတင်ပါ။

"အချင်းတို့၊ အရှင်ကောင်းများ စားသောက်ကြခြင်းမှာ အပြစ်မရှိပါ။ သို့သော် ဘုရားရှင်ကတော့ အတိုင်းအရှည် သိတတ်သည်ကို ချီးမွမ်းတော်မူပေသည်"

ဤမျှသာ မယုတ်မလွန် မိန့်ကြားခဲ့၏။ ရဟန်းများ အစားသရမ်းကြခြင်းမှာ သူတို့ ဆရာသမားက မဆုံးမ၍ မဟုတ်ပါ။ ဆုံးမသည့်အတိုင်း မလိုက်နာ၍သာ ဖြစ်ကြောင်း ခွဲခြား၍ ပြခဲ့၏။ ဘုရားတပည့်သား မဟုတ်သော မှူးမတ်များ အမှုထမ်းများက သာသနာတော်ကို ပြစ်တင် ရှုတ်ချ၍ မပြုနိုင်ကြရန် ပညာသားပါပါနှင့် ကာကွယ်ပေးလိုက်ခြင်းလည်း ဖြစ်ပေသည်။

**(စူဠဝဂ်ပါဠိတော်၊ ခုဒ္ဒကဝတ္ထုခန္ဓက)**

ဆဗ္ဗဂ္ဂီအုပ်စုဝင်များ နည်းတူ ဗိမ္ဗိသာရမင်းကြီး၏ စေတနာကို အလွဲသုံးစား ပြုမိသူကား အိုးထိန်းသည်၏သား အရှင်ဓနိယ ဖြစ်ပါ၏။ သို့သော် သူ့ခများ ဆဗ္ဗဂ္ဂီတို့လို လျှပ်ပေါ်လော်လီ၍တော့ မဟုတ်ပါ။ ကျောင်းနှင့် ပတ်သက်၍ ကံဆိုးရှာသောကြောင့်သာ ဖြစ်ပါသည်။

ဣသိဂိလိတောင်နံရံရှိ သူ့မြက်မိုးကျောင်းကလေးကို သုံးကြိမ်တိုင်တိုင် အဖျက်ခံရ၏။ နောက် အိုးထိန်းအတတ်ဖြင့် မီးဖုတ်ထားသော ဂူကျောင်းကလေးကိုလည်း ဘုရားရှင်အမိန့်ဖြင့် အခွဲခံရပြန်၏။ နောင်လာနောက်သားများ အတုယူမည် စိုးသောကြောင့် ဖြစ်၏။ ဤကျောင်းများ ဟန်မရ၍ ဘုရင့်သစ်တော်များဖြင့် ကျောင်းဆောက်သည်တွင်ကား နန်းတော်သို့ ရောက်ရတော့၏။ သို့သော် တရားခံအနေနှင့်ကား မဟုတ်ပါ။ သူ့အတွက် တရားခံဖြစ်ရရှာသော သစ်ထိန်း အရာရှိ အသတ်မခံရအောင် လိုက်ပြောရခြင်းသာ ဖြစ်ပါသည်။

မြို့ပြပြုပြင်ရန်နှင့် မီးဘေးကြုံလျှင် သုံးနိုင်ရန် အသင့်ထားသော မင်းဘဏ္ဍာ သစ်တော်များကို အရှင်ဓနိယက "မင်းကြီးက ပေးလှူပြီးပြီ" ဆို၍ အလှူခံသဖြင့် သစ်ထိန်း အရာရှိက လှူလိုက်ရ၏။ ဝဿကာရအမတ်ကြီး လာစစ်သောအခါ ဤကိစ္စပေါ်သွား၍ သစ်ထိန်းအရာရှိမှာ တရားခံ ဖြစ်ရရှာတော့သည်။

သစ်ထိန်းအရာရှိကို စစ်မေးပြီးသောအခါ ဗိမ္ဗိသာရမင်းကြီးက အရှင်ဓနိယထံ ရှိသေစွာ ချဉ်းကပ်၍

"အရှင်ဘုရား၊ တပည့်တော်၏ သစ်များကို အရှင်ဘုရားအား လှူထားပြီဟု ဆိုခြင်းမှာ မှန်ပါ၏လော"

သာသနာတော်ကို ကြည်ညိုသော မင်းကြီးဖြစ်၍ အမှုရှိနေသော ရဟန်းကိုပင် ရိုခိုး၍ မေးလျှောက်ရာ

"မှန်ပါသည် မင်းကြီး"

"အရှင်ဘုရား၊ တပည့်တော်တို့မှာ အလုပ်တာဝန် များပြားလှပါသည်။ လှူပြီးဖြစ်သော်လည်း အမှတ်မရတတ်ကြပါ။ တပည့်တော် အမှတ်ရလာအောင် မိန့်တော်မူရန် တောင်းပန်ပါသည်ဘုရား"

"မင်းကြီး၊ ပထမဦးစွာ အဘိသိက်ခံယူစဉ်က 'မြက်၊ ထင်း၊ ရေများကို သုံးဆောင်တော်မူကြကုန်ဟု ရဟန်း ပုဏ္ဏားတို့အား ပေးလှူထားပြီး ဖြစ်သည်' ဟု ဆိုခဲ့ဖူးပါ၏။ ထိုစကားကို အမှတ်ရပါလော့"

အဘိသိက် အခမ်းအနားတုန်းက ပြောခဲ့သော စကားတစ်စကို လိုရာဆွဲ၍ အလွဲသုံးစား လုပ်လိုက်ကြောင်း ထင်ရှားနေပေပြီ။

ဤနေရာမှာ လူတစ်ယောက်သာဆိုလျှင် အကြီးလေးဆုံးသော အပြစ်ဒဏ်ကြီးကို ခံရပေတော့မည်။ သို့သော် ယခုပုဂ္ဂိုလ်ကား ရဟန်းဖြစ်နေသဖြင့် မင်းကြီးမှာ အပြစ်မပေးသာတော့ဘဲ

"အရှင်ဘုရား၊ အမှတ်ရပါပြီ။ ရဟန်း၊ ပုဏ္ဏားများ သံသယကင်းစွာ သုံးစွဲ နိုင်ရေးအတွက် တပည့်တော် ပြောဆိုခဲ့ခြင်း ဖြစ်ပါသည်။ ထိုစကားမှာလည်း တောထဲမှ မခုတ်မလှဲရသေးသော သစ်များသာ ဖြစ်ပါသည်။ အရှင်ဘုရားသည် ဤစကားတစ်စဖြင့် သစ်တော်တို့ကို မပေးမလှူဘဲလျက် ယူနိုင်သည်ဟု ထင်မှတ်ခဲ့၏။ ဤသည်မှာ အရှင်ဘုရား၏ အပြစ်သာဖြစ်၏။ တပည့်တော်ကဲ့သို့သော မင်းသည် မိမိနိုင်ငံမှာရှိနေကြသော ရဟန်း ပုဏ္ဏားတို့ကို အပြစ်ပေးမည် မဟုတ်ပါ။ နှင်ထုတ်မည်လည်း မဟုတ်ပါ။ အရှင်ဘုရားသည် သင်္ကန်းအရေ ခြုံထားသဖြင့် ရာဇဝတ်ဘေးမှ လွတ်ငြိမ်းခွင့် ရပါ၏။ နောက်နောင်မှာကား ဤလို အမှုမျိုး မကျူးလွန်ပါနှင့်လော့"

ဤသို့ ဗိမ္ဗိသာရမင်းကြီးက သဘောထားကြီးစွာ အဆုံးသတ်လိုက်သော်လည်း မြို့သူမြို့သားများကတော့ အဆုံးမသတ်နိုင်သေးပါ။ ကျော်မကောင်း ကြားမကောင်း ပေါ်ပေါက်ခဲ့သော ဤအမှုကြီးကို တစ်ယောက်တစ်ပေါက် ပြောဆိုဝေဖန်နေကြ၏။ အမှုသည် အရှင်ဓနိယကို ကဲ့ရဲ့ရှုတ်ချနေကြ၏။ ဤတွင်

ဘုရားရှင်က အရှင်ဓနိယကို ခေါ်ယူ၍ ပြစ်တင်ကြိမ်းမောင်းတော်မူကာ သူတစ်ပါး ပစ္စည်း ခိုးယူခြင်းကို တားမြစ်သောအားဖြင့် ဒုတိယပါရာဇိက သိက္ခာပုဒ်ကို ပညတ်တော်မူလိုက်ရပေသည်။

**(ပါရာဇိကကဏ္ဍပါဠိတော်၊ ဒုတိယပါရာဇိက သိက္ခာပုဒ်)**

ဤသို့အားဖြင့် သေဒဏ်ထိုက်လောက်သော အမှုကြီးကိုပင် သဘောထား ကြီးစွာ သက်ညှာခဲ့သော ဘုရင်ကြီးအား သူ့ကံကြမ္မာကတော့ မသက်ညှာပါချေ။ ကမ္ဘာမြေပြင်ပေါ်မှာ အသက်ရှင်နေပါသေးလျက် ကမ္ဘာမြေပြင် တစ်ခုလုံးနှင့် အဆက် အသွယ် ပြတ်နေရရှာပေပြီ။ အထီးကျန် ဒုက္ခိတများပင် ထမင်းတစ်လုတ်၊ ရေ တစ်မှုတ်ကို တောင်းနိုင်လျှင် စားရ သောက်ရပါသေး၏။ မာဂဓတိုင်းကြီး တစ်ခုလုံး တွင် အမြင့်ဆုံးနေရာ ရရှိခဲ့သော ကေရာဇ်ကြီးသည် ယခုတော့ အောက်တန်းအကျဆုံး လူများ၏ အခွင့်အရေးကိုမျှ မရတော့ပါ။

သူ၏ ဝိပါကဝဋ်ဒုက္ခကို ဘုရားရှင်ကလည်း တိုက်ရိုက်အားဖြင့် မကယ်တင် နိုင်ပါ။ ရဟန်းသံဃာများလည်း မည်သို့မျှ မတတ်နိုင်ပါ။ သူ၏ ဝဋ်ဒုက္ခကို ကယ်တင်နိုင်စွမ်း ရှိသည်မှာကား တရားတစ်ခုတည်းသာ ရှိပါတော့သည်။ ဘုရားရှင်ထံမှ ကြားနာခဲ့ရသော ဒေသနာများသည်သာ သူ့အတွက် ကိုးကွယ်ရာ ဖြစ်ပါတော့သည်။ အစာရေစာ လုံးဝ မရှိတော့သော်လည်း ဖလသမာပတ် ဝင်စား၍ နေနိုင်ပါလျှင် သူ၏ အသက် ဓာတ်အားကို ဆက်လက်၍ ထိန်းထားနိုင် ပါလိမ့်မည်။ ဤသို့ ထိန်းထားနေဆဲမှာပင် သူ့သားတော် အဇာတသတ်၏ စိတ်နှလုံးများ ပျော့ပျောင်းလာလျှင် ချမ်းသာခွင့် ရနိုင်ပါသေးသည်။

အစာရေစာ လုံးဝ ဖြတ်တောက်ထားပြီးနောက် ဆယ်ရက် ကျော်လာသည့် တိုင်အောင် ကျောင်းဒါယကာကြီး၏ သတင်းဆိုးကို မကြားရသေးပါ။ ထိုအချက်က ကျွန်ုပ်တို့ မျှော်လင့်ချက်ကို အားတက်စေခဲ့၏။ ထို့ထက်ပို၍ အားတက်စရာ ကောင်းသည်မှာ အဇာတသတ်မင်းကြီး၏ မိဖုရားသည် မကြာမီ မီးဖွားတော့မည် ဟူသော သတင်းဖြစ်ပါ၏။

ကျွန်ုပ်တို့ နားစွင့်နေကြသော သတင်းကို မကြာမီ ကြားကြရပါ၏။ သားကလေးတစ်ယောက် ဖွားမြောက်လာပြီ ဟူသော သတင်းစကား ကြားရရုံနှင့်ပင် အဇာတသတ်မင်း၏ ရင်ထဲမှာ ဖခင်စိတ်များ ကွန့်မြူးလာခဲ့၏။ မွေးဖွားပြီးခါစ ချီ၍ ပိုး၍ မရသေး၍သာ သူ့ခမျာ အောင့်အည်း၍ နေရ၏။ မွေးဖွားကြောင်း သံတော်ဦး တင်လာကြသော အမတ်များရှေ့မှာပင် ရာဇဣန္ဒြေ မဆည်နိုင်အောင် ဖြစ်နေရ၏။ သားကို ချစ်သော ဖခင်စိတ်များက တစ်ကိုယ်လုံး ပျံ့နှံ့ကာ ရိုးတွင်း ခြင်ဆီထိအောင် ဆိုက်ရောက်သွားဟန် တူပါသည်။

ထီးနန်းစည်းစိမ်အတွက် ခမည်းတော်ကို အသေသတ်ရန် ကြံစည်ခဲ့သော သား၊ ထီးနန်းစည်းစိမ်အတွက် ခမည်းတော်ကို အစာမကျွေး၊ ရေမပေးဘဲ သေသောဆိုက်အောင် ပြုခဲ့သော သားလူရိုင်းကြီး အဇာတသတ်သည် ယခုတော့ ကိုယ်ရော စိတ်ပါ နူးညံ့ပျော့ပျောင်း၍လာပေပြီ။ မယုံသင်္ကာစိတ်ဖြင့် သုန်မှုန်နေခဲ့သော သူ့မျက်နှာသည် တိမ်စင်လသို့ ထွန်းပ၍နေပေပြီ။ ထိုစဉ်အခိုက်မှာပင်ကျွန်ုပ်တို့ မျှော်လင့်ထားသော အမိန့်သံ ထွက်ပေါ်လာပေသည်။

"အချင်းတို့၊ ခမည်းတော်ကြီးထံသွား၍ လွှတ်လိုက်ကြစေ"

မမြင်ရသေးသော သားအတွက် ကြည်နူး ဝမ်းသာ ဖြစ်နေရာမှ ခမည်းတော်ကြီး၏ ဂုဏ်ကျေးဇူးကို သတိရလာ၍ပင် ဖြစ်ပါလိမ့်မည်။ မိမိက မိမိသားကို ချစ်သကဲ့သို့ ခမည်းတော်ကြီးကလည်း မိမိအပေါ် ချစ်ရှာပေလိမ့်မည်ဟု အမြင်မှန်ရလာသောကြောင့် ဖြစ်ပါလိမ့်မည်။

သို့သော် သူ့အမြင်မှန်က နောက်ကျသွားပါပြီ။

"အရှင်မင်းကြီး၊ ခမည်းတော်ကြီး နတ်ရွာစံ ကံတော်ကုန်ကြောင်းပါဘုရား"

'လွှတ်စေ' အမိန့် ထုတ်ပြန်အပြီးမှာပင် အခိုးတိုက် အမှုထမ်းများထံမှ လျှောက်တင်လွှာကို အမတ်များက ဆက်သကြ၏။ သည်တော့မှ မိမိကိုယ်တိုင် ပေးထားခဲ့မိသော တစ်ချက်လွှတ် အမိန့်ကြီးကို ပြေး၍ သတိရလာပေတော့သည်။

ခမည်းတော်ကြီး ကွယ်လွန်ရခြင်းမှာ အစာပြတ် ရေငတ်၍ မဟုတ်ပါချေ။ အဆိုးတကာ့ အဆိုးဆုံးသောနည်းဖြင့် သေရရှာခြင်းသာ ဖြစ်၏။ ခမည်းတော်ကြီးသည် အစာမကျွေး၊ ရေမပေးသော်လည်း တော်တော်နှင့်မသေခဲ့ပါ။ တရားကို နှလုံးသွင်းကာ အခိုးတိုက်ထဲမှာပင် စင်္ကြံလျှောက်နေ၏။ ဤသို့ စင်္ကြံလျှောက်နေခြင်းဖြင့်ပင် အသွေးအသား မျှတကာ ကျန်းမာပကတိ ချမ်းသာစွာ ရှိနေ၏။ ဤအကြောင်းများကို အမှုထမ်းများက လျှောက်ထားကြရာ လမ်းစ ရှည်မနေစေရန် အရက်စက်ဆုံးသော အမိန့်ကြီးကို ပေးလိုက်လေတော့သည်။ ထိုအမိန့်တော်ကြီးအရ စင်္ကြံသွား၍ အသက်ဆက်နေသော ကျောင်းဒါယကာကြီးအား ဆက်လက်၍ စင်္ကြံ မသွားနိုင်အောင် ဆတ္တာသည်များက ခြေဖဝါးကို ဓားထက်ထက်ဖြင့် မွှမ်းခဲ့ကြ၏။ သွေးသံရဲရဲဖြင့် မြင်မကောင်း ရှုမကောင်းသော ဒဏ်ရာကြီးများကိုမှ ဆားငန်ရည်များနှင့် ပက်ခဲ့ကြ၏။ ဝေဒနာဒဏ်ကြောင့် တဆတ်ဆတ် တုန်နေသော ထိုခြေထောက်များကို ဆွဲယူကာ ရဲရဲညီးနေသော ရှားမီးကျီးမှာ ကင်ခဲ့ကြ၏။ သားအပေါ်မှာ အသည်းနှင့်အောင် ချစ်ခဲ့ရှာသော ကျောင်း ဒါယကာကြီးသည် သည်သားအမိန့်ဖြင့်ပင် အသည်းခိုက်အောင် ခံစားခဲ့ရရှာပေလိမ့်မည်။ သူ့သားကြီး အမြင်မှန် ရလာသည်ကိုမှ သိမသွားရှာတော့ပြီ။

ခမည်းတော်ကြီး မရှိတော့ပြီမို့ သား အဇာတသတ်၏ အားကိုးရာမှာ မယ်တော်ကြီး ဝေဒေဟီသာ ရှိပါတော့သည်။ မဂဓတိုင်း အားလုံးကို သိမ်းကျုံး အုပ်စိုးရသော မင်းရောဇ်ပင် ဖြစ်စေကာမူ တကယ့်အရေးကျတော့ မိခင်ထံ ပြေးလာခဲ့ရပေတော့သည်။ ကလေးအရွယ် ငယ်စဉ်တုန်းက ဝမ်းနည်းစရာ ကြုံလာလျှင် သည်မိခင်ကြီးထံ ပြေးလာခဲ့ရ၏။ မိခင်ကြီး၏ ရင်ခွင်ထက်တွင် မျက်ရည်ဖြိုင်ဖြိုင် သွန်းလိုက်ခြင်းဖြင့် ရင်တွင်းမှာ ပေါ့ပါးသွားရ၏။ ယခုလည်း အမှုလွန်မှ ရလာသော နောင်တဖြင့် ဆောက်တည်ရာမရ ဖြစ်နေချေပြီ။ ဝေဒနာ တို့ကို သက်သာအောင် ကုစားပေးနိုင်မည့်သူဟူ၍ မိခင်ကြီးသာ ရှိပါတော့သည်။

"မယ်တော်ဘုရား၊ သားကို မွေးခါစတုန်းက ခမည်းတော်သည် သားအပေါ်မှာ ချစ်ခြင်းမေတ္တာ ထားခဲ့ပါ၏လော"

စိတ်သက်သာရာ သက်သာကြောင်း မေးမြန်းလိုက်ခြင်း ဖြစ်ပေသည်။ သြဇာ အာဏာတွေ ဒေါသ မောဟတွေကြောင့် ကွေကွင်းနေခဲ့ရသော သားအမိနှစ်ယောက် ယနေ့တော့ မျက်နှာချင်းဆိုင် ဆုံမိကြချေပြီ။ ဤမေးခွန်းမျိုး စောစောက မေးခဲ့ လျှင် မည်မျှကောင်းချိမ့်မည်နည်း။ သို့သော် ပြီးပြီးသားကိစ္စကို မည်သူမျှ ပြုပြင် နိုင်စွမ်း မရှိတော့ပါ။ ထို့ကြောင့် ခမည်းတော်ကြီး၏ မေတ္တာ ကြီးမားခဲ့ပုံကိုသာ မယ်တော်ကြီးက ဇာတ်ကြောင်း လှန်ရပေတော့သည်။

"ဩော် မိုက်ပါဘိ မေ့သားငယ်၊ သားတော်အပေါ်မှာ မောင့်ခမည်းတော် လောက် ချစ်တတ်သူ ဟူ၍ ဘယ်မှာ ရှိပါချိမ့်မည်နည်း၊ ယခု သားမောင့် လက်ညှိုးကို ပြန်ကြည့်စမ်းပါ၊ အနာရွတ်လေးတစ်ခု ရှိမနေပါလော"

"ရှိနေပါသည် မယ်တော်၊ သည်အနာရွတ်ကို သား ဘယ်တုန်းကများ ရခဲ့ ပါလိမ့်"

"လသားအရွယ် ငယ်စဉ်တုန်းက ရခဲ့သည် သားတော်၊ သည်တုန်းက သား၏လက်ညှိုးတွင် ခူနာကြီး ပေါက်ခဲ့ပါသည်။ အနာက ပြည်ကိုက်လာသဖြင့် သားတော်လေးမှာ တက်မတတ် ချက်မတတ် ငိုကြွေးခဲ့ပါသည်။ ကလေး အငို တိတ်အောင် မည်သူမျှ မချော့နိုင်ခဲ့ပါ။ သည်တော့မှ သားကလေးကို မောင့် ခမည်းတော်ဆီ ယူသွားရပါသည်။ သည်တုန်းက မောင့် ခမည်းတော်ကလည်း အရေးကြီးသော အမှုများကို ကြားနာနေပါသည်။ သို့သော်လည်း သူချစ်လှသော သားတော်ကလေးကြောင့် မယ်မယ်မှာ တရားခွင်ထဲ ဝင်သွားရပါသည်။ ငိုသံမစဲသော သားကလေးကို ခမည်းတော်လက်ထဲ ထည့်လိုက်ရပါသည်။ မည်သူမျှ ချော့မရခဲ့သော သားမောင်သည် ခမည်းတော်လက်ထဲ ရောက်ခါမှ အငိုတိတ်၍ သွားပါသည်။ ပြည်ကိုက် နေသော လက်ညှိုးကို သူ့ပါးစပ်နှင့် ငုံထားလိုက်သောကြောင့်ဖြစ်ပါသည်။

"အို ချစ်သား အဇာတသတ်၊ ခမည်းတော် ရင်ခွင်မှာ အငိုတိတ်ခဲ့ရသော ချစ်သားသည် နောက်နောင်မှာလည်း သည်အနာအတွက် မငိုရတော့ပါ။ မောင့်ခမည်းတော် ငုံထားစဉ်မှာပင် မောင့်အနာက ပြည်ပေါက်ခဲ့ပါသည်။ သို့သော် မောင့်ခမည်းတော်က ထွေးထုတ်မပစ်ရက်ပါ။ သား အနာကို လေစိမ်းတိုက်လျှင် နာမည်စိုး၍ သွေးရောပြည်ပါ မျိုချခဲ့ရှာပါသည်"

"သားတော် မှားပါပြီ မယ်တော်၊ သားတော် အမှားကြီး မှားခဲ့ပါပြီ"

ငယ်စဉ်တုန်းက အငိုတိတ်အောင် စွမ်းဆောင်ခဲ့သော ဤဇာတ်လမ်းသည် ယခုတော့ မှားလေသူ အဇာတသတ်အတွက် နေ့စဉ်ရက်ဆက် ငိုနေဖို့သာ ဖြစ်ပါတော့သည်။

(သီလက္ခန္ဓဝဂ်၊ သာမညဖလသုတ် အဋ္ဌကထာ)

**

## မအောင်မြင်သော လုပ်ကြံမှုများ

အကြံကြီးကြံခဲ့သူ နှစ်ဦးသားတို့အနက် အဇာတသတ်ဘက်ကတော့ သူ့အမှားကို ဝန်ခံခဲ့ပေပြီ။ သွားလေသူ ခမည်းတော်ကြီးကိုယ်စား မယ်တော်ကြီးထံတွင် မျက်ရည်လည်ရွဲဖြင့် ဝန်ချကန်တော့လိုက်ပေပြီ။

သို့ရာတွင် သူ့ဆရာ ဒေဝဒတ်ကား ယခုမှ ပို၍ အာဃာတပြင်းလာပါတော့သည်။ သူ့တပည့် သူ့ဒါယကာ ကေရာဇ်တစ်ဆူ ဖြစ်လာချိန်တွင် သူကလည်း သရဖူမဆောင်းသော ကေရာဇ်တစ်ပါး ဖြစ်လာပေတော့သည်။ နန်းတော်တွင်းရှိ မှူးမတ်များမှာ ရာဇပလ္လင်ပေါ်မှ အမိန့်အာဏာထက် ကျောင်းကြီးပေါ်မှ အမိန့်အာဏာကို ပို၍ အလေးထားနေကြရပေသည်။

ဒေဝဒတ်သည် ဤသို့သော အခွင့်အာဏာကို သူ့လိုဘ ပြည့်ဝရေးအတွက် မသုံးဘဲနေမည် မဟုတ်ပါ။ မည်သို့မည်ပုံ သုံးမည်ဟု တပ်အပ်သေချာ မပြောနိုင်သော်လည်း တစ်နည်းနည်းဖြင့်ကား သုံးမည်သာဖြစ်၏။

အဇာတသတ်အတွက် သူ့ခမည်းတော်ကြီးက ထီးနန်းစည်းစိမ်ကို အလွယ်တကူ လွှဲအပ်ပေးခဲ့၏။ သူ့မှာတော့ သူ့တပည့်ကဲ့သို့ ကံမကောင်းခဲ့ပါ။ တောင်းဆိုသော ဆုကို မရခဲ့ရုံမက "သူများတံတွေးပေါက် ကောက်၍မျိုသူ" ဟူ၍ပင် အဆိုခံခဲ့ရပေသေးသည်။ ဒေဝဒတ်သည် အလွယ်တကူ ထီးနန်းလွှဲအပ်ခဲ့သော ခမည်းတော်ကြီးကို အပြီးအပြတ် သတ်ဖြတ်ရန် စေခိုင်းသေးရာ သူ့ကို နစ်နစ်နာနာ ပြောလွှတ်လိုက်သော ဘုရားရှင်ကိုလည်း လက်စားချေမည် မလွဲပါ။

မကျေနပ်၍ လက်စားချေရာတွင် လူသိရှင်ကြား လုပ်ကြံမှုကို သူ ကြံစည်ဦးမည် မဟုတ်ပါ။ ကြံလျှင်လည်း ပြည်သူပြည်သား အများစုကြီးက သည်းခံမည် မဟုတ်ပါ။ သူ့ကို ပုဂ္ဂိုလ်စွဲဖြင့် ကြည်ညိုလေးစားနေသူများပင် လျော့ပါးသွားနိုင်ပါသေးသည်။ ထို့ကြောင့် လျှို့ဝှက်သော နည်းလမ်းဖြင့် သူ ကြံစည်ပါလိမ့်မည်။

ထို့ကြောင့် ကျွန်ုပ်သည် ဘုရားရှင်ကို ဝေဠုဝန် ကျောင်းတော်မှာချည့် နေစေချင်ပါ၏။ သံဃာ့ပရိသတ် အလယ်မှာသာ ရှိစေချင်ပါ၏။ သို့သော် ကျွန်ုပ်၏ အလိုကို ဘုရားရှင်က လိုက်နာခြင်းမပြုပါ။ နေ့စဉ်လိုလို ဝေဠုဝန်ကျောင်းတော်မှ ထွက်ခွာကာ တောအုပ်ရှိရာ ကြွတော်မူတတ်၏။ အရိပ်ကောင်းသော သစ်ပင်ရိပ်တွင် တစ်နေ့လုံး နေတော်မူတတ်၏။

လာစဉ်ကပင် တိတ်ဆိတ်စွာ နေထိုင်ရန်ဖြစ်၍ သံဃာ့ပရိသတ်များ လိုက်ပါခွင့် မရကြပါ။ ကျွန်ုပ်သာလျှင် အမြဲတမ်း အလုပ်အကျွေးမို့ ဖဝါးခြေထပ် လိုက်ပါခွင့် ရနေပေသည်။

သစ်ပင်ရိပ်၌ ကျွန်ုပ်တို့ နှစ်ပါးတည်း အေးချမ်းစွာနေကြရာမှ သောက်တော်ရေ လိုလာသဖြင့် ရေကန်ရှိရာသို့ ကျွန်ုပ် ထွက်လာခဲ့ရ၏။ စင်ကြယ်စွာ ဆေးထားသော သပိတ်ဖြင့် သောက်တော်ရေ ခပ်လာချိန်မှာကား ထူးဆန်းလှသော မြင်ကွင်းနှင့် တိုးနေပါတော့သည်။ သောက်တော်ရေ သပိတ်ကို လက်ထဲက လွတ်ကျမသွားအောင် အနိုင်နိုင် ထိန်းထားရပါတော့သည်။

တောမုဆိုးတစ်ယောက်သည် ဘုရားရှင်ကို လေးနှင့် ချိန်လျက်ရှိ၏။ အဆိပ်လူးထားသော မြားကို တင်ကာ လေးညှို့ကို အဆုံးထိအောင်တင်ထား၏။ သည်မြားဖြင့် ပစ်လိုက်လျှင် လူသုံးယောက်တော့ ထုတ်ချင်းခတ် သွားလောက်ပေသည်။ သို့သော် အဆိပ်လူးမြားသည် လေးထဲမှ ထွက်မလာပေ။ လေးနှင့် မြားသာမက တောမုဆိုးတစ်ကိုယ်လုံးပါ မလှုပ်နိုင်မရှားနိုင် ဖြစ်နေ၏။ လေးတင်နေဟန် ထုလုပ်ထားသော ကျောက်ရုပ်သဖွယ် ဖြစ်နေ၏။ သို့သော် ကျောက်ရုပ်နှင့် ထူးခြားနေသည်မှာ ထိတ်လန့်တကြား ဖြစ်နေသော သူ့မျက်နှာဖြစ်၏။ တစ်ကိုယ်လုံးမှ ထွက်လာကြသော ချွေးသီး ချွေးပေါက်ကြီးများ ဖြစ်၏။

"ဒါယကာ လာပါလော့၊ ငါဘုရားကို မကြောက်လင့်"

ဘုရားရှင်က ဤသို့ မိန့်တော်မူလိုက်မှ သူ့လက် သူ့ခြေများ လှုပ်ရှားနိုင်တော့၏။ ဤတွင် ဘုရားရှင်ကို သတ်ဖြတ်ရန်လာခဲ့သော တောမုဆိုးသည် လေးနှင့် မြားကို တော်ရာချကာ ခြေတော်ရင်းသို့ ဝပ်စင်းလာ၏။ မိုက်မှားမိသော ပြစ်မှုကြီးကို ဝန်ချ တောင်းပန်၏။

မင်းဆရာ ဒေဝဒတ်က မင်းအာဏာကို သုံးကာ ခိုင်းလိုက်၍ လာရကြောင်းကို လျှောက်ထား၏။ ကျွန်ုပ် ကြိုတင် တွက်ဆခဲ့သော ကိစ္စကြီး ပေါ်ပေါက်လာချေပြီ။

မည်သို့ပင်ဖြစ်စေ၊ ဘုရားရှင်က အမှားကို အမှားမှန်းသိ၍ ဝန်ချလာသူကို ခွင့်လွှတ်တော်မူမြဲ ဖြစ်ပါသည်။ မလိမ္မာ၍ တစ်ခါမိုက်မိသော တောမုဆိုးအား

လွတ်ရာကျွတ်ရာ တရားကို တစ်ထိုင်တည်းနှင့် သိမြင်အောင် ဟောကြားတော်မူပါသည်။ ထိုမှ ဆက်လက်၍

"ဒါယကာ၊ သင်ပြန်သောအခါ လာသောလမ်းမှ မပြန်လေနှင့်၊ အခြားလမ်းမှ ပြန်ပါ"

သိရေးမြင်ရေး ကျင့်သုံးရေးကိုသာမက အပြန်လမ်းအတွက်ပါ မှာကြားနေသဖြင့် ကျွန်ုပ် စိတ်ထဲမှာ ထူးခြားသလိုလို ဖြစ်မိပါ၏။ ဤသို့ ထူးခြားလာလျှင် အကြောင်းတစ်ခုခု ရှိတတ်သည်မို့ ကျွန်ုပ်သည် ဘုရားရှင်ထံ လျှောက်ထားမနေတော့ဘဲ ပါလာသော သောက်တော်ရေကိုသာ ဆက်ကပ်လိုက်၏။

ရေကပ်ပြီး အတန်ကြာလျှင် တောမုဆိုးနှစ်ယောက် ပေါ်လာကြ၏။ လေးရော မြားပါ လက်နက်အပြည့်အစုံ ပါလာကြ၏။ သို့သော် သူတို့ကား ဘုရားရှင်ကို ရန်မမူကြပါ။ အနားသို့ ရောက်လာကြသည်နှင့် ရိုသေစွာ ရှိခိုးကြ၏။ သူတို့ကိုလည်း ယခင်ကလူကဲ့သို့ပင် ဘုရားရှင်က တရားပြတော်မူ၏။ တရားသဘောကို သိမြင်သွားကြသော တောမုဆိုးတို့ကလည်း

"တပည့်တော်တို့သည် ဤနေရာမှ ပြန်လာမည့် လူတစ်ယောက်ကို လမ်းမှ ဆီး၍ သတ်ဖြတ်ရန် စောင့်နေကြပါသည်၊ ယခု သူပြန်မလာတည့်၍ တပည့်တော်တို့ လိုက်လာရခြင်း ဖြစ်ပါသည်၊ မင်းဆရာ ဒေဝဒတ်၏ အမိန့်အရ ပြုလုပ်ရခြင်း ဖြစ်ပါသည် ဘုရား"

ဟုတ်တိုင်းမှန်စွာ လျှောက်ထား၍ ဝန်ချတောင်းပန်ကြ၏။ သူတို့ကိုလည်း လာလမ်းက မပြန်ဘဲ တခြားလမ်းက ပြန်သွားကြရန် ညွှန်ကြားတော်မူရပေသည်။

ဒေဝဒတ်၏ အစီအမံများက ပိရိပါဘိ၏။ လေးသမားတစ်ယောက်ကို ဘုရားရှင်အား သတ်ဖြတ်ရန် စေခိုင်းခဲ့၏။ ဘုရားရှင်ကို သတ်ဖြတ်၍ ပြန်လာသူကို အခြားလေးသမားနှစ်ယောက်က လမ်းမှ ဆီး၍ သတ်ဖြတ်ရန် အကွက်ဆင်ထား၏။ တရားခံ မပေါ်နိုင်အောင် စနစ်တကျ စီမံထားခြင်းဖြစ်၏။ ယခု လေးသမားနှစ်ယောက်ကိုလည်း ဘုရားရှင်က လမ်းလွှဲ၍ပြန်ကြရန် ညွှန်ကြားတော်မူပြန်ပေသည်။ ဤဇာတ်လမ်းမှာ ဤမျှနှင့် ဆုံးသေးဟန် မတူပေ။

မကြာပါချေ။ ကျွန်ုပ် မျှော်လင့်ထားသည့်အတိုင်း လေးသမား လေးယောက် ရောက်လာကြပြန်ပါ၏။ ထို့နောက် မကြာမီ လေးသမား ရှစ်ယောက် ရောက်လာကြ၏။ နောက်ဆုံးအသုတ်ကား တစ်ဆယ့်ခြောက်ယောက်တိတိ ရှိ၏။ ဘုရားရှင်ကို လုပ်ကြံရေးအတွက် ရှေ့လူများ အားလုံးကို စတေးထားခဲ့ပေသည်။ နောက်ဆုံးအသုတ်ကိုလည်း စိတ်မချရလျှင် တစ်နည်းနည်းနှင့် သုတ်သင်လိမ့်မည် မလွဲပါ။

ဘုရားတန်ခိုးတော်ကြောင့်သာ လေးသမားအားလုံး အသက်ချမ်းသာရာ ရကြပေသည်။ အကျွတ်တရားကို ရကြပေသည်။

တောထဲမှာဖြစ်၍ တောထဲမှာ ပြီးဆုံးသွားသော ဤဇာတ်လမ်းကို ကျွန်ုပ်သည် ဝေဠုဝန်ကျောင်းတော်မှ သီတင်းသုံးဖော်များအား အသိပေးခဲ့၏။ သို့သော် ဒါယကာ၊ ဒါယိကာမ အများစုထံ ရုတ်တရက် သတင်းမပြန့်မိရန် သတိပေးထားရ၏။ ပကာသနီယကံပြုစဉ်တုန်းက တချို့ဒါယကာ ဒါယိကာမများသည် ဒေဝဒတ်၏ လာဘ်လာဘကို မနာလို၍ လုပ်သည်ဟု ဆိုခဲ့ကြသေးသည် မဟုတ်ပါလော။ ကျွန်ုပ်မှ လွဲ၍ မျက်မြင်သက်သေမရှိသော အမှုတစ်ခုကို ယုံချင်မှ ယုံကြပေလိမ့်မည်။ မယုံလျှင် အကုသိုလ်ပွားကြရုံသာ ရှိပေလိမ့်မည်။

ဤသတင်းဆိုးကြီးကို ကျွန်ုပ်တို့ ထိန်းချုပ်ထားဆဲမှာပင် နောက် တစ်မျိုး ပေါ်လာပြန်ပါ၏။ သည်တစ်ခါတော့ တောအုပ်ထဲမှာ မဟုတ်ပါ။ ဂိဇ္ဈကုဋ် တောင်ခြေမှာ တွေ့ကြုံခဲ့ရပေသည်။

ဂိဇ္ဈကုဋ်တောင်သည် တောင်ကတုံးဖြစ်၏။ သစ်ပင်ပန်းမန်ဟူ၍ ကြည့်လောက် ရှုလောက်အောင် မရှိပေ။ ဇရပ်တန်ဆောင်း၊ ကျောင်းကန်များလည်း မရှိပေ။ သို့ရာတွင် လူသူအရောက်အပေါက်နည်းကာ တိတ်ဆိတ်သော အရပ်ဖြစ်၍ ဘုရားရှင် မကြာခဏ ကြွနေကျဖြစ်၏။ သစ်ပင်ရိပ်၊ ကျောင်းရိပ် မရှိသော်လည်း ကျောက်ဆောင်၊ ကျောက်ကမ်းပါးရိပ်များသည် ကျွန်ုပ်တို့အတွက် သဘာဝ ကျောင်းတိုက်တာများ ဖြစ်နေကြပေသည်။

ထိုနေ့ညနေက ဘုရားရှင်သည် ဂိဇ္ဈကုဋ်တောင်၏ အနောက်ဘက် တောင်ခြေရှိ ညီညာသော မြေပြင်တွင် စင်္ကြံကြွနေတော်မူ၏။ ကျွန်ုပ်သည် မလှမ်းမကမ်းမှ သောက်တော်ရေ သပိတ်ဖြင့် အရန်သင့် စောင့်နေ၏။ အလျင်တစ်ခါတုန်းက သောက်တော်ရေခပ် သွားနေခိုက် လေးသမားများ ရောက်လာခဲ့ဖူးသည် မဟုတ်ပါလော။ ထို့ကြောင့် တောင်ခြေကို လာကတည်းက သောက်တော်ရေကို တစ်ပါတည်း ခပ်လာခဲ့ရပေသည်။

ခါတိုင်းနေ့များ၌ အေးချမ်းတိတ်ဆိတ်စွာ နေခဲ့ရသော ထိုနေရာများတွင် ယနေ့ညနေတွင်မူ အန္တရာယ်ဆိုးကြီးတစ်ခု ရုတ်တရက် ပေါ်ပေါက်လာပါ၏။ မြေငလျင် တုန်လှုပ်ခြင်းမရှိ၊ မိုးကြိုးလေကြီးများ မလာပါဘဲလျက် တောင်ကြီး တစ်ခုလုံး သိမ့်သိမ့်တုန်သွား၏။ အသံလာရာ တောင်ထိပ်ဆီသို့ လှမ်းမျှော်ကြည့်လိုက်ရာတွင်ကား ကြီးစွာသော ကျောက်တုံးကြီး တစ်တုံးက အရှိန်ပြင်းစွာ လိမ့်ကျလာပေသည်။ လမ်းတစ်လျှောက်မှ ကျောက်စိုင် ကျောက်ခဲများလည်း ကျောက်တုံးကြီးနှင့် ရိုက်ခတ်မိ၍ လွင့်စဉ် လိမ့်ကျလာကြ၏။

"တစ်ခါတော့ လွတ်လမ်းမရှိပြီ"

ကျွန်ုပ်က ထိတ်လန့်တကြား ရေရွတ်လိုက်ပြီး ဘုရားရှင်ဆီ ပြန်ကြည့်လိုက်၏။ ကျောက်တုံးကြီးကျလာမည့် လမ်းတည့်တည့်တွင်မှ ဘုရားရှင် ရောက်နေပေသည်။ စပါးတင်းတစ်ရာဝင် ပုတ်လောက်မက ကြီးမားလှသော ကျောက်တုံးကြီးသည် ဘုရားရှင်ကို စိစိညက်ညက် ကြိတ်ချေတော့မည်ပါတကား။

မမျှော်လင့်သော အန္တရာယ်ဆိုးကြီးနှင့် ရုတ်တရက် တွေ့လိုက်ရ၍ တအံ့တဩ ဖြစ်နေဆဲမှာပင် ထို့ထက်ပို၍ အံ့ဩစရာ ဖြစ်ရပ်ကို တစ်ဆက်တည်း တွေ့ရပြန်ပါသည်။ ဘုရားရှင်အပေါ်သို့ အရှိန်ပြင်းစွာဖြင့် ကျလာသော ကျောက်တုံးကြီးသည် ဝါးနှစ်ရိုက်လောက် အလိုမှာ တုံ့ခနဲ ရပ်သွား၏။ လမ်းခုလတ်မှ ကျောက်ဆောင်နှစ်ခုက ဆီး၍ ခံထားလိုက်သောကြောင့် ဖြစ်၏။ အတိုက်နှင့်အခံတို့ ဆုံမိရာတွင် ကြောက်စဖွယ် အသံကြီး မြည်ဟိန်းလိုက်၏။ ကျောက်တုံးနှင့် ကျောက်ဆောင်တို့ ရိုက်ခတ်ရာမှ ကျောက်ချပ် ကျောက်လွှာများ ထက်အောက်ဝန်းကျင် လွင့်စဉ်လာကြ၏။

သည်နေရာတွင် သည်ကျောက်ဆောင်များ ရှိနေသည်ဟု ကျွန်ုပ် သတိမထားမိခဲ့ပါ။ ယခု ကျောက်တုံးကြီးကို ဆီး၍ ခုခံထားလိုက်ခါမှ သူတို့ကို ကျေးဇူးတင်လိုက်မိ၏။ သည်ကျောက်ဆောင် နှစ်ခုကြောင့်ပင် ဘုရားရှင် ဘေးမသီရန်မခ ဖြစ်ခဲ့ရ၏။ ထိုစဉ်ခိုက်မှာပင် ဘုရားရှင်၏ မိန့်ကြားသံကို ကြားလိုက်ရ၏။

"အို မဂ်ဖိုလ်မရ အသုံးမကျသော ယောကျ်ား၊ သင်သည် သတ်လိုသော စိတ်ဖြင့် ငါဘုရားအား သွေးထွက်အောင် ပြုဘိ၏၊ သင်သည် ကြီးလေးလှသော မကောင်းမှုကို ဆည်းပူးဘိ၏"

ဂိဇ္ဈကုဋ်တောင်ထိပ်ဆီသို့ လှမ်း၍ မိန့်ကြားတော်မူသဖြင့် ကျွန်ုပ်လည်း လိုက်၍ကြည့်ရာ တောင်ထိပ်က ကျောက်ဆောင်ထိပ်တွင် ဒေဝဒတ်ကို မြင်လိုက်ရပါ၏။ သူများကို ခိုင်း၍ ဟန်မရတော့သဖြင့် သူကိုယ်တိုင် လုပ်ကြံလိုက်ခြင်းပါတည်း။ ဘုရားရှင် မရှုမလှ ပျက်စီးခြင်းကို ဝမ်းသာအားရ လှမ်းမျှော်၍ ကြည့်နေခြင်းပါတည်း။

ဘုရားရှင့် အမိန့်ကြောင့် ဒေဝဒတ် မည်သို့ ဖြစ်သွားသည်ကို ကျွန်ုပ် ဂရုမစိုက်နိုင်တော့ပါ။ ဘုရားရှင်ထံသို့သာ ပြေးသွားရပါတော့သည်။ ခြေမတော်တွင် ကျောက်လွှာခတ်မိ၍ သွေးစိမ်းရှင်ရှင် ထွက်နေသည်ကို သင်္ကန်းတစ်စကို ဆုတ်၍ ပတ်တီးစည်းရပါတော့သည်။ (စူဠဝဂ်ပါဠိတော်၊ သံဃဘေဒကက္ခန္ဓက)

ကျောက်တုံးကြီး လိမ့်ကျသံကြောင့် အနီးအပါးရှိ ရဟန်းများ ရောက်လာကြ၏။ ဘုရားရှင်ကို ညောင်စောင်းပေါ်မှာတင်၍ ပထမဦးစွာ မဒ္ဒကုစ္ဆိတောင်သို့

သွားကြ၏။ ထိုမှတစ်ဆင့် ဘုရားရှင်၏ အမိန့်အရ ဇီဝက၏ သရက်ဥယျာဉ်သို့ ပို့ဆောင်ရ၏။ မကြာမီ ဆရာဇီဝကလည်း သတင်းကြားသဖြင့် ဆေးဝါးပစ္စည်း အစုံဖြင့် ရောက်လာခဲ့ပေသည်။

ဆရာဇီဝကသည် ကျွန်ုပ် စည်းပေးခဲ့သော ပတ်တီးကို ရေနွေးဖြင့်ဆွတ်၍ အသာအယာ ခွာယူကာ ဆေးကြောပေး၏။ ဆေးများထည့်ကာ ပတ်တီးအသစ် ထပ်၍ စည်းပေး၏။ ထို့နောက်

"အရှင်ဘုရား၊ တပည့်တော်သည် မြို့တွင်းမှာ ကုလက်စ လူနာတစ်ယောက် ထံ ပြန်သွားရန် ရှိနေပါသည်၊ သူ့ကို ကုပြီးလျှင် တပည့်တော် ပြန်လာခဲ့ပါမည်၊ တပည့်တော် မပြန်မချင်း သည်ပတ်တီးကို သည်အတိုင်း ထားစေချင်ပါသည် ဘုရား"

ဤသို့ လျှောက်ထားကာ မြို့တွင်းသို့ ပြန်သွား၏။ သမားတော်တို့၏ ဝတ္တရား မချို့တဲ့စေရန် ဖြစ်ပေသည်။

နောက်တစ်ခေါက် ပြန်လာခဲ့ပါမည်ဆိုသော ဆရာဇီဝကသည် ညနေစောင်း သော်လည်း ပြန်မလာခဲ့ပေ။ နေဝင်မိုးချုပ်ထိအောင် ရောက်မလာသေးပေ။ သူ မလာမချင်း သည်ပတ်တီးကို သည်အတိုင်း ထားပါဟုလည်း ဆိုခဲ့၏။ ယခု သူကလည်း ပြန်မလာ။ ကျွန်ုပ် ဝေဖန်ရခက်နေဆဲမှာပင် ဘုရားရှင်က

"အာနန္ဒာ၊ ပတ်တီးကို ဖြေလော့"

သည်အတိုင်း ထားပါဦးဟု သေသေချာချာ မှာထားခဲ့သည်ကို ယခုချက်ချင်း ဖြေပေးရန် ခိုင်းတော်မူချေပြီ။ ကျွန်ုပ်သည် ဆရာဇီဝကအား သမားတော်တစ်ယောက် အဖြစ်ဖြင့် လေးစားပါ၏။ သို့သော် ဘုရားရှင့် စကားကိုမူ ထိုထက် အဆများစွာ လေးစားရပါသည်။ ထို့ကြောင့်ပင် ခိုင်းသည့်အတိုင်း ဖြေပေးလိုက်ရာ ဒဏ်ရာသည် ကောင်းကောင်းကြီး ကျက်သွားပါချေပြီ။

နောက်နေ့ကျခါမှ ဆရာဇီဝကသည် အစောကြီး ရောက်လာကာ

"အရှင်ဘုရား၊ ယမန်နေ့က လူနာကို ဆေးကုရင်း အချိန်ကြာသွားခဲ့ပါ သည်၊ ဆေးကုပြီးပြီးချင်း အရောက်လာမည် လုပ်ပြန်တော့လည်း မိုးချုပ်ပြီမို့ တံခါးကြီး ပိတ်သွားပြီးပါပြီ၊ သည်တော့မှ ဘုရားရှင်အတွက် တပည့်တော် လှမ်း၍ ပူနေရပါသည်။ တပည့်တော် ပြန်မလာမီ သည်ပတ်တီးကို မဖြေရန် မှာကြားခဲ့မိ၏၊ ထည့်ပေးသော ဆေးများကလည်း ထက်ပေ့ဆိုသော ဆေးများဖြစ်၏၊ ဒဏ်ရာကို အမြန်ဆုံးပျောက်စေနိုင်သော ဤဆေးများသည် ဖြေသင့်သည့်အချိန်မှာ မဖြေရသော် ဆေးဒဏ် ခံရမည် ဖြစ်ပါသည်၊ တစ်ညလုံးလုံး ပူစပ်ပူလောင် ခံရ ပါတော့မည်၊ ဤသို့ တွေး၍ ပူမိခဲ့ပါသည် ဘုရား"

ကောင်းကောင်းကျက်နေပြီဖြစ်သော ဒဏ်ရာကို ကြည့်ရှုလျက် ဤသို့ ဝမ်းမြောက်စွာ လျှောက်ထားလိုက်၏။ အံ့သြဖွယ်ရာ ဖြစ်ပါ၏။ "သည်အချိန် ပတ်တီး ဖြေသင့်သောအချိန်"ဟု သူတွေးတော ပူပန်မိသော အချိန်နှင့် ဘုရားရှင်က ပတ်တီးဖြေပေးရန် မိန့်ကြားတော်မူသော အချိန်တို့သည် ထပ်တူထပ်မျှ ဖြစ်နေကြပါချေသည်။

ထိုမှ ဆက်လက်၍ ဆရာဇီဝကက "အရှင်ဘုရား၊ မည်သို့ ဖြစ်ပါသေးသနည်း၊ ဤဒဏ်ရာကြောင့် အရှင်ဘုရားမှာ ပူလောင် ပြင်းပြသော ဝေဒနာ ခံစားရပါသေးသလော"ဟု လျှောက်ထား၏။ ဤတွင် ဘုရားရှင်က

"ဇီဝက၊ ငါဘုရားသည် ဘဝသံသရာ ခရီး၏ အဆုံးသို့ ရောက်ခဲ့ပြီ၊ ပူဆွေးမှု ဟူသမျှ ငြိမ်းခဲ့ပြီ၊ ရုပ်နာမ်ခန္ဓာ ရှိရှိသမျှ အပေါ်၌ လွတ်လွတ်ကြီး နေခဲ့၏၊ အနှောင်အဖွဲ့ ဟူသမျှမှ လွတ်မြောက်ခဲ့ပြီ၊ ထို့ကြောင့်ပင် ငါ ဘုရား၏ ရုပ်ခန္ဓာနှင့် ပတ်သက်၍သာလျှင် နာကျင်ခြင်း ဝေဒနာခံစားရ၏၊ နာမ်ခန္ဓာမှာမူကား ပူလောင်မှု ဟူသမျှ ကင်းငြိမ်းခဲ့ပြီတည်း"

မိမိမှာ ဒဏ်ရာပြင်းစွာရခဲ့သည့် ကိစ္စမှာပင် ဝေနေယျသတ္တဝါများအတွက် တရားတစ်ပုဒ် ဟောထုတ်တော်မူလိုက်ပါသေးသည်။

**(ဓမ္မပဒ၊ အရဟန္တဝဂ်၊ ဇီဝက ဝတ္ထုပါဠိတော်နှင့် အဋ္ဌကထာ)**

ဇီဝက၏ သရက်ဥယျာဉ်မှာပင် အနာရှင်းရှင်းပျောက်ပြီးဖြစ်၍ ဘုရားရှင် ဝေဠုဝန်ကျောင်းတော်သို့ ပြန်ကြွလာ၏။ သည်တော့မှ ဒေဝဒတ်၏ လုပ်ကြံမှုကြီးကို ရဟန်းအားလုံး သိသွားကြ၏။ မမျှော်လင့်သော ကိစ္စကြီးကို ကြားလိုက်ရသဖြင့် တချို့မှာ ထိတ်လန့် တုန်လှုပ်သွားကြ၏။ တချို့ကတော့ ကြိတ်မနိုင် ခဲမရ ဖြစ်ကြ၏။ တချို့ ရဟန်းများကား တရားသဘောဖြင့် ဆင်ခြင်သုံးသပ်ကာ သံဝေဂ ပွားကြ၏။ သို့သော် ရဟန်းအားလုံးအတွက် တူညီသော အချက်တစ်ခုကား ရှိပါ၏။ ဘုရားရှင်ထံ နောက်ထပ်တစ်ဖန် အန္တရာယ် မကျရောက်ရေးပင် ဖြစ်ပါ၏။

တူညီသော ရည်ရွယ်ချက်ဖြင့် ရှိရှိသမျှ ရဟန်းများသည် ဘုရားရှင့် ကျောင်းတော်ကို ပတ်ပတ်လည်မှ ဝန်းရံထားကြ၏။ တစ်ပါးနှင့်တစ်ပါး ပခုံးချင်း ထိမတတ် နီးကပ်စွာ ရပ်နေကြ၏။ တစ်ပါးနှင့်တစ်ပါး စကားပြောသူက ပြောကြ၏။ လေ့လာထားသော သုတ္တန်များကို အာဂုံပြန်သူက ပြန်နေကြ၏။ သူတို့ အသံသည် ကျောင်းတော်အတွင်းသို့ ရိုက်ခတ်လာကြသဖြင့် ဘုရားရှင်က မေးတော်မူ၏။ ကျွန်ုပ်က အကြောင်းမှန်ကို လျှောက်ထားလိုက်ရ၏။ ဤတွင် ဘုရားရှင်က ရဟန်းအားလုံးကို ခေါ်တော်မူကာ

"ရဟန်းတို့၊ ဘုရားရှင်တို့အား သူတစ်ပါး လက်ချက်ဖြင့် အသက် ဆုံးရှုံးရန် အကြောင်းမရှိပေ။ အရေးအခွင့် မရှိပေ။ ဘုရားရှင်တို့သည် သူတစ်ပါး လက်ချက်မပါ၊ မိမိသဘောအတိုင်းသာ ပရိနိဗ္ဗာန် ပြုကြကုန်၏"

မိမိအတွက် ကြောင့်ကြဗျာပါရ ပွားမနေကြရန် မိန့်တော်မူလိုက်ပေသည်။

(စူဠဝဂ်ပါဠိတော်၊ သံဃဘေဒကက္ခန္ဓက)

※※

# မေတ္တာနှင့် သူရာ

မိမိ၏ဘုန်းကံကို သိတော်မူပြီးသော ဘုရားရှင်က ဘုရားရှင်တို့မည်သည့် သူတစ်ပါး လက်ချက်ဖြင့် အသက်ဆုံးရှုံးရန် အကြောင်းမရှိပုံကို အတည့်အလင်း မိန့်ကြား တော်မူ၏။ ဘုရားရှင်တို့စကားသည် ကျောက်စာတိုင်တမျှ ခိုင်မြဲလှ၏။ အနာဂတ် အရေး မျှော်တွေး၍ ဟောကြားချက် မှန်သမျှသည် ဟောကြားထားသည့်အတိုင်း တိကျမှန်ကန်ခဲ့သည်ချည်း ဖြစ်ပါ၏။ သို့ပါလျက် ဤစကားများကို နားနှင့် ဆတ်ဆတ် ကြားနာခဲ့ရသော ကျွန်ုပ်မှာကား တည်တည်ငြိမ်ငြိမ် ရပ်တည်နိုင်စွမ်း မရှိသေးပါ။ ရှင်တော်မြတ်၏ နောက်တော်ပါးမှ ဖဝါးခြေထပ် လိုက်ပါလာပါလျက် ကျွန်ုပ်မှာ သည်းတုန်အူတုန် ဖြစ်ခဲ့ပါသည်။

ဤသို့ ဖြစ်ရသည်မှာ ဘုရားရှင်၏ မိန့်ခွန်းတော်ကို မယုံကြည်၍ မဟုတ်ပါ။ နောင်တော်မြတ်အပေါ်မှာ ကျွန်ုပ်၏ ချစ်ခြင်းမေတ္တာ ကြီးမားမှုကြောင့်သာ ဖြစ်ပါ သည်။ လောကထွတ်ထား ဘုရားရှင်ကို ချစ်သော အချစ်မျိုးသည်ပင် စိတ်ပင်ပန်း မှုနှင့် မကင်းနိုင်ပါချေတကား။

ထိုနေ့နံနက်က ရာဇဂြိုဟ်မြို့တော်ထဲသို့ ဘုရားရှင် ကြွတော်မူလာရာတွင် ကျွန်ုပ်တို့လည်း နောက်တော်ပါးမှ ပါလာကြ၏။ ကျွန်ုပ်တို့ ဆိုရာတွင် ရာဇဂြိုဟ် ပတ်ဝန်းကျင်ရှိ ကျောင်းပေါင်း တစ်ဆယ့်ရှစ်ကျောင်းမှ ရဟန်းရှိရှိသမျှ ဖြစ်၏။ ဘုရားရှင့်အမိန့်တော်ဖြင့် အားလုံးအပါ ခေါ်ခဲ့ရခြင်း ဖြစ်၏။ ထို့ကြောင့် ယခင် နေ့ကထက် ယနေ့ နောက်ပါသံဃာ ပို၍များပေသည်။

ရာဇဂြိုဟ်မြို့တော်ရှိ ဒါယကာ ဒါယိကာမများသည် ယမန်နေ့ညနေက ကျောင်းသို့လာကာ နက်ဖြန်ခါ ရာဇဂြိုဟ်မြို့တွင်းသို့ ဆွမ်းခံမကြွရန် လျှောက်ထား ကြ၏။ ဘုရားရှင်ကို စိစိညက်ညက် ကျေအောင် တိုက်ခိုက်လာမည့် အန္တရာယ် ဆိုးကြီးရှိနေကြောင်း လျှောက်ထားကြ၏။ သို့သော် မိမိဘုန်းကံကို ယုံကြည်တော်

မူပြီးသော ဘုရားရှင်က သူတို့ လျှောက်ထားချက်ကို လက်မခံပါ။ ပယ်လည်း ပယ်တော်မမူပါ။ "ရာဇဂြိုဟ်မြို့တော်အတွင်းကိုတော့ ကြွဖြစ်အောင် ကြွမည်၊ သို့သော် ဆွမ်းတော့ မခံပါ၊ ဆွမ်းလှူလိုသော ဒါယကာ ဒါယိကာမများ ဝေဠုဝန်ကျောင်း တော်သို့ လာနိုင်သည်။ ဝေဠုဝန် ကျောင်းတော်ပြန်ရောက်မှ ဆွမ်းဘုဉ်းပေးတော် မူမည်" ဟု မိန့်ကြားတော်မူခဲ့၏။

ထို့ကြောင့် ယနေ့နံနက် ရာဇဂြိုဟ်မြို့တော်အတွင်းသို့ သပိတ်ကိုယ်စီနှင့် ဝင်လာခဲ့ခြင်းမှာ ဆွမ်းခံရန် မဟုတ်ပါ။ အကယ်၍ ဆွမ်းခံစေဦးတော့၊ ဆွမ်းရ မည်လည်း မဟုတ်ပါ။ မြို့တော်ကြီးတစ်ခုလုံး ကျီးလန့်စာစား ဖြစ်နေ၏။ အိမ်တံခါးတိုင်းကို အခိုင်အလုံ ပိတ်ထားကြ၏။ လမ်းမကြီးဆီသို့ မျက်နှာမူနေသော ပြတင်းပေါက်များတွင် အိမ်ရှိလူကုန် စုပြုံကာ ကျွန်ုပ်တို့ဆီ လှမ်းကြည့်နေကြ၏။ တချို့ကတော့ အိမ်ခေါင်မိုး၊ တိုက်ခေါင်မိုးများ အပေါ်တက်ကာ နေရာယူထား ကြပေသည်။ ယနေ့ သူတို့အတွက် တကယ့် ပွဲကြီးပွဲကောင်း ရှိနေသည် မဟုတ် ပါလော။

ကုန်းသတ္တဝါအပေါင်းတွင် ဆင်သည် အကြီးဆုံးဖြစ်၏။ လူ့ဘောင်လောက မှာလည်း ဘုရားရှင်သည် သစ္စာလေးပါး တရားတော်ကို ပထမဦးစွာ သိသဖြင့် အကြီးဆုံးဖြစ်၏။ ကြီးမားသော ဂုဏ်ကို တင်စားသောအားဖြင့် ကျွန်ုပ်တို့သည် ဘုရားရှင်ကို ဆင်ပြောင်ကြီးဟု တစ်ခါတစ်ခါ ခေါ်ခဲ့ကြ၏။ ယနေ့တော့ ဘုရား တည်းဟူသော ဆင်ပြောင်ကြီးသည် နာဠာဂိရိဆင်ကြီးနှင့် အပြိုင်အဆိုင် အနိုင်ကြိုးရ ပေတော့မည်။ ဤအကြောင်းများကို ယမန်နေ့ညကပင် တစ်မြို့တော်လုံး စည်လည်၍ ကြေညာထားသည်ဟု ဆိုကြပေသည်။

နာဠာဂိရိ ဟူသည်ကား အဇာတသတ်မင်း၏ တိုက်ဆင်ကြီး ဖြစ်၏။ တောင်ကြီးတမျှ ထင်မှတ်ရအောင် ကိုယ်ခန္ဓာ ကြီးမားလှ၏။ ခွန်အားဗလ ကြီးမား သန်စွမ်းလှ၏။ ဆိုးသွမ်းသည့်နေရာမှာလည်း တိုင်းကျော်ပြည်ကျော် ဖြစ်ပါ၏။ လူတွေသတ်ခဲ့ပေါင်း များပေပြီ။ သူ စိတ်မထင်လျှင် မထင်သလို နင်းတတ် သတ်တတ်၏။ ပါလိလေယျက ဆင်ကြီးကဲ့သို့ လိမ္မာယဉ်ပါးဖို့ကား ဝေးလေစွ။

ပင်ကိုယ်စိတ်ကပင် ကြမ်းတမ်းနေသော ဆင်ကြီးကို နေ့စဉ်နေ့တိုင်း အရက်ရှစ်အိုး တိုက်ကြရ၏။ တိုက်ချင်ခိုက်ချင်စိတ်များ အစဉ်နိုးကြား နေစေရန် ဖြစ်ပါ၏။ ယနေ့လို တိုက်ပွဲမျိုးတွင်ကား မင်းဆရာ ဒေဝဒတ်သည် နှစ်ဆတိုး၍ တိုက်ဖို့ စေခိုင်းမည်မှာ မလွဲပါ။ ရာထူးနိမ့်သူကို ရာထူးတက်လာအောင် ရာထူး မြင့်နေသူကို နိမ့်ကျသွားအောင် စွမ်းဆောင်နိုင်သော မင်းဆရာ ဒေဝဒတ်၏ စကားကို မည်သည့်အမှုထမ်း၊ အရာထမ်းမျှ ငြင်းပယ်ဝံ့မည် မဟုတ်ပါ။

ဗိမ္ဗိသာရမင်းကြီး လက်ထက်က မိမိကိုယ်တိုင်က ဘုရားကျောင်း ဒါယကာကြီး ဖြစ်ပါသော်လည်း မူးမတ်များကို မိမိလိုဖြစ်လာအောင် အာဏာဖြင့် မသိမ်းသွင်းခဲ့ပါ။ တိုင်းသူပြည်သားများကိုလည်း အတင်းအကျပ် မစည်းရုံးခဲ့ပါ။ မိမိနှစ်သက်ရာ တရားကို လိုက်စား၍ မိမိကြည်ညိုရာ ပုဂ္ဂိုလ်များကို လွတ်လပ်စွာ ကိုးကွယ်ခွင့် ပေးထားခဲ့၏။ ထို့ကြောင့်ပင် ရာဇဂြိုဟ်မြို့တော်ထဲတွင် ကျွန်ုပ်တို့ သာသနာတော်ကို ကြည်ညိုသူရော၊ မကြည်ညိုသူပါ ရှိနေကြပေသည်။

မကြည်ညိုသူများတွင်လည်း သာသနာတော်နှင့် မဆက်စပ်မိသေးသဖြင့် သာမန်မျှသာ မကြည်ညိုသူနှင့် သူတို့ဆရာများ၏ စကားကြောင့် ငြိုးသူရန်ဘက်ဖြစ်နေသူများ ရှိကြ၏။ ထိုဒုတိယ အုပ်စုဝင်များ၏ မျက်နှာများသည် ယနေ့နံနက်တွင် ထူးထူးခြားခြား ပြုံးပန်းပွင့်နေကြ၏။ သို့သော် ပြုံးပန်းတို့မှာ အဆိပ်ရည်လွှမ်းလျက် ရှိပေသည်။ ကိုယ်တော်မြတ် ကြီးအား နာဠာဂီရိ ဆင်ဆိုးကြီးက စိစိညက်ညက် ကျေအောင် နင်းချေခန်းကို ကြည့်လိုမြင်လိုသော အဆိပ်များပါတည်း။

ကြည်ညိုသော ဒါယကာ ဒါယိကာမများတွင်လည်း နှစ်မျိုးနှစ်စား ရှိကြပါ၏။ တချို့က ဘုရားရှင်၏ စွမ်းအားသတ္တိကို ယုံကြည်ထားကြသဖြင့် ဆင်ဆိုးကြီးအား ပိုင်ပိုင်နိုင်နိုင် ချွန်းအုပ်လိုက်မည့် ရုပ်သွင်တော်ကို မျှော် မှန်းနေကြ၏။ တချို့ကတော့ ဘုရားရှင်ကို ကြည်ညိုပါ၏။ ဘုရားရှင်၏ စွမ်းအားသတ္တိကိုလည်း ယုံကြည်ကြပါ၏။ သို့သော် တစ်ဖက်ကလည်း ဖြစ်မှ ဖြစ်ပါမည်လောဟု တွေးတော ပူပန်နေကြ၏။ သည်တုန်းကတော့ ဒါယကာ ဒါယိကာမများ၏ သဘောထားမျိုးစုံကို ကျွန်ုပ် အကဲခတ်နိုင်သည် မဟုတ်ပါ။ သည်တိုက်ပွဲကြီး ပြီးခါမှ ကျွန်ုပ်တို့ ဒါယကာ ဒါယိကာမများက ခရေစေ့တွင်းကျ လျှောက်ထားကြသဖြင့် ယခုလို တင်ပြနိုင်ခြင်း ဖြစ်ပါသည်။

သဘောထားမျိုးစုံဖြင့် စုပြုံနေကြသော ပရိသတ်များရှေ့မှ ကျွန်ုပ်တို့သည် ဣန္ဒြေရရ လှမ်းလာခဲ့ကြ၏။ ကျွန်ုပ်၏ ရှေ့တွင် စိတ်ဓာတ်ရေးရာ ခိုင်မာတော်မူပြီးသော ဘုရားရှင် ရှိနေ၏။ ကျွန်ုပ်၏ နောက်မှာလည်း စိတ်ဓာတ်ခိုင်မာသော သံဃာတော်များ တစ်သီတစ်တန်းကြီး လိုက်ပါလာကြ၏။ ထိုပုဂ္ဂိုလ်များကြားမှ လိုက်ပါလာခဲ့သော ကျွန်ုပ်၏ စိတ်နှလုံးမှာတော့ တုန်လှုပ်လျက်ရှိနေပါ၏။ ဖြစ်မှ ဖြစ်ပါမည်လောဟု တွေးတောပူပန် နေမိ၏။ ထိုစဉ်အခိုက်မှာပင် နန်းတော်ကြီးဆီမှ တစ်ခဲနက် အော်ဟစ်သံကြီး မြည်ဟည်းလာ၏။ မသွားလျှင် မဖြစ်၍ လမ်းပေါ် ရောက်နေသူများသည် ကျွန်ုပ်တို့ရှိရာသို့ ဒရောသောပါး ပြေးလာကြ၏။ နာဠာဂီရိ ဆင်ကြီး လွတ်လာ၍ပင် ဖြစ်ပါလိမ့်မည်။ ဆင်တင်းကုပ်ကို ချိုးဖဲ့ဖျက်ဆီး၍ ထွက်လာအောင် တမင်တကာ ထိုးဆွ ရိုက်ပုတ်၍ လွှတ်လိုက်ကြပါလိမ့်မည်။

တစ်ခဲနက် အော်သံကြီးနောက်ဝယ် ထိတ်လန့်တကြား အော်ဟစ်သံများ ကြားရ၏။ တမ်းတ ငိုယိုသံများလည်း ကြားရ၏။ တဖြုန်းဖြုန်း တဂျုန်းဂျုန်း အသံများလည်း ကြားရ၏။ ဆင်ဆိုးကြီးက မြင်မြင်ကရာ ပစ္စည်းများ၊ အဆောက် အအုံများကို နင်းချေ တွန်းဖြိုလာ၍ဖြစ်ပါလိမ့်မည်။ ကောသလတိုင်းမှာ ဒေသစာရီ လှည့်လည်လာစဉ်က တွေ့ခဲ့ရသော တောမိးကြီးကဲ့သို့ ဖြစ်ပါ၏။

အသံဗလံများက ဤမှာဘက်သို့ ဦးတည်လာကြ၏။ ဘုရားရှင်ကလည်း အသံဗလံများ ရှိရာသို့သာ တန်းတန်းမတ်မတ် ကြွတော်မူလျက် ရှိ၏။ လှမ်းကြွ နေသော ခြေလှမ်းများသည် နှေးလည်း မနှေး၊ မြန်လည်း မမြန်။ ပုံမှန် လှမ်းမြဲ အတိုင်းသာ လှမ်းတော်မူလျက် ရှိ၏။

အသံဗလံများ နီးကပ်လာသည်နှင့်အမျှ အိမ်ပေါ်တိုက်ပေါ်မှ ပရိသတ်များ လည်း ရိုးတိုးရွတဖြစ်လာကြ၏။ ကျွန်ုပ်မှာလည်း ဣန္ဒြေဆည်၍ မရနိုင်တော့ပါ။ စိတ်နှလုံး တည်ငြိမ်အောင် ဆောက်တည်ထား၍ မရနိုင်တော့ပါ။ နောင်တော်မြတ်၏ နောက်တော်ပါးမှ ဖြောင့်ဖြောင့်တန်းတန်းမလိုက်နိုင် တော့ပါ။ သံဃာတန်းကြီးမှ ဘေးသို့ တက်ကာ လှမ်းမျှော်မိပါတော့သည်။

ပရိသတ်များ ထိတ်လန့်တကြား အော်ဟစ်သံနှင့်အတူ အရှေ့တူရူမှာ ဆင်ဆိုးကြီး ပေါ်လာပါပြီ။ လူပေါင်းများစွာကို ထိုးသတ်လာခဲ့သော အစွယ်ကြီးများ ကလည်း ကားကားစွင့်စွင့် ရှိပါဘိ၏။ သည်အစွယ်ကြီးများနှင့် ထိုးမိလျှင် ထုကောင်းလှသော မြို့ရိုးကြီးများပင် ခံနိုင်မည်မထင်ပါ။ စိတ်မထင်လျှင် မထင်သလို ဖေ့ယမ်း ရိုက်ပုတ်ခဲ့သော နှာမောင်းကြီးကို ချိမြှောက်ထား၏။ အကြားအာရုံ သန်စွမ်းလှသော နားရွက်ကြီးများကလည်း ရန်သူကို ထောက်လှမ်းသော သဘော ဖြင့် ရှေ့သို့စွင့်၍ ထားကြ၏။ ကြောက်စရာ အာရုံစုပြုံနေသော သတ္တဝါဆိုးကြီး သည် အသံဆိုးကြီး ဟစ်အော်လျက် ကျွန်ုပ်တို့ဆီသို့ တစ်ဟုန်ထိုး ပြေးလာခဲ့ပါ ချေပြီ။

ကျွန်ုပ်၏ ထိန်းချုပ်နိုင်သော စွမ်းအားများ ကုန်ဆုံးသွားကြပါပြီ။ တုန်လှုပ် သော စိတ်ကို မတားနိုင်သကဲ့သို့ လှုပ်ရှားလာသော ခန္ဓာကိုယ်ကိုလည်း ကျွန်ုပ် သတိမထားမိတော့ပါ။

ထိုအချိန်ပိုင်းကလေး အတွင်း၌ ကျွန်ုပ်၏ စိတ်ကို ကြီးစိုးနေသည်မှာ နောင်တော်မြတ်အား ချစ်ခင် မြတ်နိုးခြင်းသာ ဖြစ်၏။ နောင်တော်မြတ်၏ အသက် ခန္ဓာ မပျက်သုဉ်းရေးသာ ဖြစ်၏။ ချစ်မြတ်နိုးသော နောင်တော်မြတ်အတွက် ကျွန်ုပ်၏ အသက်ခန္ဓာကို စွန့်လွှတ်ရေးသာ ဖြစ်ပေသည်။

"အာနန္ဒာ၊ ဖယ်ရှားလော့၊ ငါဘုရား ရှေ့တော်မှာ မရပ်လာပါနှင့်"

နောင်တော်မြတ်၏ အမိန့်သံကြားခါမှ ကျွန်ုပ်သည် မိမိကိုယ်ကို သတိထားမိ၏။ တစ်သက်နှင့်တစ်ကိုယ် စိတ်ကူးရုံမျှ မကူးဝံ့ခဲ့သော အမှုကြီးကို ရှုပ်ရှုပ်ချွံချွံ ပြုမိခဲ့ပါပြီ။ နောင်တော်မြတ်အတွက် နှမြောတသခြင်းများက တွန်းပို့လိုက်သဖြင့် ကျွန်ုပ်သည် ဘုရားရှင့် ရှေ့တော်မှာ ရပ်လျက်သား ရှိနေပေပြီ။ ဤသာသနာတော်ဝယ် မည်သူ တစ်ဦးတစ်ယောက်မျှ ရပ်ခွင့်မရှိသော နေရာမှာ ကျွန်ုပ် ရပ်မိလျက် ရှိနေချေပြီ။

ခါတိုင်း အချိန်များ၌ ကျွန်ုပ်သည် နောင်တော်မြတ်၏ အမိန့်ကို ဦးလည်မသုန် လိုက်နာခဲ့ပါ၏။ တစ်ခွန်းတည်း မိန့်မြွက်ရုံဖြင့်ပင် လိုအပ်သမျှ ပြီးစီးအောင် ဆောင်ရွက်ပေးခဲ့၏။ ယနေ့ ကိစ္စမှာတော့ နောင်တော်မြတ်၏ အမိန့်ကို ကျွန်ုပ် မလိုက်နာနိုင်ပါ။ အမိန့်ကို လိုက်နာရေးထက် နောင်တော်မြတ် ချမ်းသာရေးကိုသာ ဦးစားပေး၍ ထားလိုက်ပါသည်။

"အာနန္ဒာ၊ ဖယ်ရှားလော့၊ ငါဘုရား ရှေ့တော်မှာ မရပ်လာပါနှင့်"

ဆင်ပြောင်ကြီး၏ အမိန့်သံက နောက်တစ်ကြိမ် ထွက်လာပြန်ပါပြီ။ နာဠာဂီရိ ဆင်ဆိုးကြီးကလည်း နီးသထက် နီးလာပါပြီ။ ဤအမိန့်တော်ကိုလည်း ကျွန်ုပ် မလိုက်နာနိုင်သေးပါ။ နောင်တော်မြတ်ထံ တိုက်ရိုက်ဝင်၍ သတ်မည့်အစား ကျွန်ုပ်ကို ဦးစွာပထမ သတ်ပါစေ။ အကယ်၍ နောင်တော်မြတ်ကို မကာကွယ်နိုင်သည် ဖြစ်စေဦးတော့ ကျွန်ုပ်ကို သတ်နေစဉ် တစ်ခဏမှာတော့ အသက်နှင့်ခန္ဓာ မြဲရစ်ပါစေ။

"အာနန္ဒာ၊ ဖယ်ရှားလော့၊ ငါဘုရား ရှေ့တော်မှာ မရပ်လာပါနှင့်"

တတိယအကြိမ် မိန့်ကြား၍ အပြီးမှာတော့ ကျွန်ုပ်နေရာသို့ ကျွန်ုပ် ရောက်သွား၏။ ကျွန်ုပ်စိတ်က တွယ်ကပ်နေရန် ဆုံးဖြတ်ထားဆဲမှာပင် ကျွန်ုပ်ကိုယ်က နေရာရွှေ့လာခဲ့၏။ တစ်စုံတစ်ခုသော စွမ်းအားတစ်ခုက တွန်းပို့လိုက်သကဲ့သို့ ခံစားလိုက်ရပေသည်။

ထိုစဉ်ခိုက်မှာပင် ကံဆိုးမ သားအမိသည် လမ်းချိုးတစ်ခုထဲမှ ဘွားခနဲ ပေါ်လာ၏။ သူ့ခမျာ တစ်ရပ်တစ်ကျေးက အရေးတစ်ခုနှင့် ပြေးလာရှာဟန်တူပါသည်။ ကိုယ့်အရေးနှင့် ကိုယ်မို့ မြို့တော်ကြီး၏ အခြေအနေကို အကဲခတ်မိဟန် မတူပါ။ ယခု ဆင်ဆိုးကြီးနှင့် ရင်ဆိုင်တွေ့ခါမှ ထိတ်လန့်တကြား ဖြစ်သွားရှာပါသည်။ တွေ့ကရာကို နင်းချေ ဖျက်ဆီးလာခဲ့သော ဆင်ဆိုးကြီးကလည်း သူ့ကို မြင်သွားပါပြီ။

ဆင်တင်းကုပ်က ထွက်လာကတည်းက ဆင်ဆိုးကြီး ဖျက်ဆီးခဲ့သော အရာဝတ္ထုတွေ များလှပါရော့မည်။ တွန်းဖြိုခဲ့သော အဆောက်အအုံတွေ များလှ

ပါရော့မည်။ သို့သော် လူတွေက လွတ်ရာ ကျွတ်ရာ ခိုနေကြသဖြင့် လူတစ်ယောက်မျှ သတ်ရသေးဟန် မတူပါ။ လူမသတ်ရလျှင် မကျေနပ်သော ဆင်ဆိုးကြီးအဖို့ ယခု သတ်စရာ လူတစ်ယောက်ကို တွေ့သွားချေပြီ။

ဆင်ဆိုးကြီးက သူ့ဆီ တာစူလိုက်သည်နှင့် တစ်ပြိုင်နက် ကလေးအမေသည် ရင်ခွင်မှာ ပိုက်ထားသော ကလေးကို မြေပေါ်သို့ချကာ ဒရောသောပါး ပြေးသွားရှာ၏။ ဆင်ဆိုးကြီးကလည်း သူ့ဆီ ပြေးလိုက်၏။ ပြေးရင်းလိုက်ရင်းက ချထားခဲ့သော ကလေး၏ ငိုသံကြားသဖြင့် ကလေးဆီသို့ ပြန်လှည့်လာခဲ့၏။ လူကြီးကို လိုက်မနင်းသေးမိ မပြေးနိုင်သော ကလေးကို ပထမဦးစွာ သတ်ထားမည့်သဘော ဖြစ်ပါသည်။

"အို နာဠာဂိရိ၊ ကလေးထံ မသွားနှင့်၊ ငါဘုရားထံသို့ လာလှည့်လော့၊ ငါဘုရားထံသို့ လာလှည့်လော့"

ဆင်ဆိုးကြီး၏ အမူအရာ ကြမ်းတမ်းသည်နှင့်အမျှ ဘုရားရှင်၏ အသံတော်က နူးညံ့လှပါပေသည်။ မှန်ိုင်းယှဉ်အပ်သောမေတ္တာ၊ ကရုဏာတို့၏ ပဲ့တင်သံ ဖြစ်ပေသည်။

ကလေးကို နင်းသတ်တော့မည့်ဆဲဆဲ ဆင်ဆိုးကြီးသည် နောက်ပါးမှ ကြားရသော အသံကို နားရွက်ကြီးများပေ၍ နားထောင်၏။ ထိုမှတစ်ဆင့် အသံလာရာဆီသို့ လှမ်းကြည့်လိုက်၏။ လှစ်ခနဲ တစ်ကြိမ် လှမ်းကြည့်ပြီးနောက် သည်နေရာက မျက်နှာမလွှဲဘဲ ဆက်လက်၍ ကြည့်နေ၏။ မကြားစဖူး ထူးကဲလှသော အသံတော်ကို ကြားနာရပြီးနောက် မမြင်စဖူး ထူးကဲသော အဆင်းအာရုံကို သူ မြင်လိုက်ချေပြီ။ အသံတော်သည် နားဝင်ချိုသကဲ့သို့ မင်္ဂလာ ကျက်သရေရှိသော အဆင်းတော်ကလည်း သူ့မျက်စိ များကို လွှဲမသွားနိုင်အောင် ဆွဲဆောင်ထားလိုက်ပါချေပြီ။

'အို နာဠာဂိရိ၊ သတိထားလော့၊ ကြမ်းတမ်းမှုတွေ မပြုနှင့်၊ ခက်ထန်မှုတွေ မပြုနှင့်၊ လူတွေကို မသတ်ပါနှင့်၊ သတ္တဝါအားလုံးကို မေတ္တာတရား ပွားများပါလော့'

မိန့်ကြားတော်မူသော စကားလုံးများ၏ အနက်အဓိပ္ပာယ်ကို နာဠာဂိရိ ဆင်ကြီး နားလည်မည် မထင်ပါ။ သို့သော် မေတ္တာ၊ ကရုဏာတို့ လွှမ်းခြုံထားသော အသံဓာတ်ကို နားထောင်ရင်း မြှောက်ထားသော နှာမောင်းကြီးကို ပြန်ချလိုက်ပါသည်။ စွင့်ထားသော နားရွက်ကြီးများ တွဲလွဲကျသွားပါသည်။ ထောင်ထားသော အမြီး ပြန်ကျသွားပါသည်။ အတုမရှိသော မေတ္တာ၊ ကရုဏာဓာတ်များနှင့် ရိုက်ခတ်မိသဖြင့် သောက်ထားသမျှ အရက်ခိုးများ ပျက်ပြယ်သွားဟန်တူပါသည်။ အစွယ် အားကိုးနှင့် ဆိုးချင်တိုင်း ဆိုးခဲ့သော ဆင်ကြီးသည် ယခုတော့ အစွယ်ကြီးများကို

မြေသို့ ဦးစိုက်ကာ တစ်လှမ်းချင်း တစ်လှမ်းချင်း လှမ်းလာခဲ့ပါပြီ။ ရက်ပေါင်းများစွာ ပြုစုလုပ်ကျွေးလာခဲ့သော ပါလိလေယျက ဆင်ကြီးကဲ့သို့ပင် ကိုယ်တော်မြတ်၏ ခြေတော်ရင်းသို့ ဝပ်စင်းလိုက်ပါတော့သည်။

ဤတွင် ပွဲကြည့်ပရိသတ်ကြီးထံမှ နှစ်ထောင်းအားရ ကြွေးကြော်သံကြီးထွက်ပေါ်လာ၏။ အိမ်များ တိုက်များပေါ်မှ အလျှင်အမြန် ဆင်းကာ ဆင်ပြောင်ကြီးနှစ်စီးထံသို့ စုဝေးလာကြ၏။

ဆင်ဆိုးကြီးများကို ဆုံးမရာတွင် ခိုင်မာလှသော ကြိုးကြီးများနှင့် တုပ်နှောင်ကြရ၏။ လှံများ၊ ချွန်းများနှင့် မလုပ်ရဲအောင် အုပ်ထားကြရ၏။ ယခု နာဠာဂိရိဆင်ကြီးမှာကား ကြိုးမတုပ်ရ၊ ချွန်းမအုပ်ရဘဲ ယဉ်ကျေးလာပေပြီ။ ယဉ်ကျေးလာသော ဆင်ကြီးကိုယ်ပေါ်မှာ ဦးရစ် ခေါင်းပေါင်းများ တဖွဲဖွဲ ကျလာကြပေပြီ။ လက်ဝတ်တန်ဆာ ရတနာမိုးကြီး ရွာချလာပေပြီ။ ယဉ်ကျေးအောင် ဆုံးမတော်မူသော ဘုရားရှင်၏ 'အနုတ္တရော ပုရိသ ဒမ္မသာရထိ' ဂုဏ်တော်နှင့်တကွ ယဉ်ကျေးလာသော ဆင်ကြီးကို ဂုဏ်ပြုကြခြင်းပါတည်း။ ဤသို့ မြောက်မြားစွာသော ဥစ္စာရတနာတို့ဖြင့် ဂုဏ်ပြုခံရသဖြင့် နာဠာဂိရိ ဆင်ကြီးအတွက် ဓနပါလ ဟူသော အမည်သစ်တစ်ခု တိုးပွားလာပေသည်။

ဤဇာတ်လမ်းကို ပြန်တွေးမိတိုင်း ပက်ပက်စက်စက် ကြံနိုင်လွန်းသော ဒေဝဒတ်အတွက် သံဝေဂကြီးစွာ ဖြစ်ရပါ၏။ ထို့အတူပင် နောင်တော်မြတ်အတွက် ကိုယ့်အသက်ကို စွန့်လွှတ်နိုင်ခဲ့သဖြင့် ဝမ်းသာပီတိ ဖြစ်ခဲ့ရပါ၏။ ကျွန်ုပ်၏ ဘဝတစ်သက်တာဝယ် ဝမ်းသာခြင်း၊ ဝမ်းနည်းခြင်း ဝေဒနာ နှစ်ခုလုံးကို အရှိန်ပြင်းစွာ ခံစားခဲ့ရသော ဖြစ်ရပ်တစ်ခုပါပေတည်း။

**(အသီတိနိပါတ် ဇာတ်အဋ္ဌကထာ၊ စူဠဟံသဇာတ်၏ ပစ္စုပ္ပန်ဝတ္ထု)**

**

# စင်ပြိုင် ဘုရားတစ်ဆူ

နာဋ္ဌာဂီရိဆင်နှင့် တိုက်ခြင်းသည် ဒေဝဒတ်၏ မီးကုန်ယမ်းကုန် တိုက်ပွဲ ဖြစ်၏။ အကြမ်းဆုံး အရမ်းဆုံးလည်း ဖြစ်၏။ ထိုတိုက်ပွဲကြောင့်ပင် သူ့ဘဝ အခြေအနေသည် စောက်ထိုးမိုးမျှော် ဖြစ်သွားရ၏။ တန်ခိုးအာဏာ ထက်မြက်သော မင်းဆရာအဖြစ်မှ အရပ်ထဲမှာ အိမ်တကာလည်၍ တောင်းစားရသူ ဖြစ်လာရ၏။ ခမည်းတော် ဗိမ္ဗိသာရမင်းကြီးကို သတ်ရန် တိုက်တွန်းတုန်းကလည်း အတွင်းလူအချို့သာ သိခဲ့ကြ၏။ လေးသမားများ စေလွှတ်တုန်းကလည်း ကျွန်ုပ်နှင့် စပ်မိစပ်ရာ ရဟန်းအနည်းငယ်သာ သိခဲ့ကြ၏။ ဂိဇ္ဈကုဋ်တောင်ပေါ်မှ ကျောက်မောင်းဆင်ချတုန်းကလည်း ရဟန်းများနှင့် ဆရာဇီဝက စသူတို့လောက်သာ သိကြ၏။ ဤကြောင်းများ ရပ်ထဲ မြို့ထဲသို့ တစ်စတစ်စ ပျံ့နှံ့သွားသော်လည်း ဒါယကာ ဒါယိကာမများက ထိန်းထားကြ၏။ ဒါယကာ၊ ဒါယိကာမ မျက်မြင်သက်သေလည်း မရှိ၊ နောက်ပြီး ဒေဝဒတ်၏ ဘုန်းရှိန်ကံရှိန်ကလည်း တက်နေတုန်းမို့ သည်တုန်းက ဤစကားများ ပြောကြားသော်လည်း မြို့သူမြို့သား အများစုက ယုံကြမည်မဟုတ်ပါ။ မယုံကြည်မှုကို အကြောင်းပြု၍ နောက်ဆက်တွဲ ဆိုးကျိုးများလည်း ဖြစ်လာနိုင်ပေသည်။

ယခုတော့ ကျွန်ုပ်တို့ ပြောနေစရာ မလိုတော့ပါ။ ဒါယကာ၊ ဒါယိကာမများလည်း မြို့လည်၍ မောင်းကြေးနင်းခတ်စရာ မလိုတော့ပါ။ သူလုပ်သောအမှု ဖြင့်ပင် ပေါ်လွင်သွားပါချေပြီ။ ဤတိုက်ပွဲကြီးက လမ်းစ ဖော်ပေးလိုက်သဖြင့် ယခင်က ပြစ်မှုများလည်း တသီကြီး ပေါ်လွင်လာကြပေတော့သည်။

မြို့တော်သူ မြို့တော်သားအပေါင်းတို့သည် အစကတော့ ထီးရေး၊ နန်းရေး သက်သက် မှတ်၍ အသာတကြည် နေခဲ့ကြ၏။ အရိပ်အခြည်ကို အကဲခတ်နေခဲ့ကြ၏။ ယခု သည်အရေးကို အဓိက ကြိုးကိုင် ချယ်လှယ်သူမှာ ဒေဝဒတ်ဖြစ်ကြောင်း သိသွားကြပေပြီ။ ပြည့်ရှင်မင်း၏ အာဏာကို အသုံးပြုကာ ဘုရားရှင်အား သတ်

ဖြတ်ရန် ကြိုးစားခဲ့ပုံများကို ထင်ထင်ရှားရှား သိလာကြပေပြီ။ ယခင်က ကြည်ညိုပြီးသူများရော၊ ယခုမှ ကြည်ညိုလာကြသူများမှာ တစ်သဘောတည်း ဖြစ်လာကြ၏။

"ဤမျှလောက် ဆိုးသွမ်းသော သာသနာ့ ဆူးငြောင့်ကို မင်းကြီးက ဘာကြောင့် ချီးမြှောက်နေပါသနည်း"

တစ်သဘောတည်း ဖြစ်ရာက တစ်သံတည်း ဟစ်လာကြ၏။ မြို့သူမြို့သားတို့က မခံမရပ်နိုင်၍ အုံကြွလာကြသောအခါတွင်ကား အဇာတသတ်မင်းဘက်မှ အလျှော့ပေးလာ၏။ ဟိုးလေးတကျော် ဖြစ်ပေါ်လာခဲ့သော အကြောင်းများသည် သူ့နားသို့ ရောက်လာပြီဖြစ်၍ သူ့အမှားကို သူမြင်သောကြောင့်လည်း ဖြစ်နိုင်ပေသည်။

ယခင်က သူ့ကို အထင်ကြီးခဲ့သော်လည်း ယခု သူ့အကြောင်းကို ကောင်းကောင်း သိရပေပြီ။ မိမိ၏ ထီးနန်းရရေးက အဓိကမဟုတ်ဘဲ သူစင်ပြိုင်ဘုရားလုပ်ရေးက အဓိက ဖြစ်နေပုံကို သဘောပေါက်သွားပေပြီ။ သူ့လိုဘ ပြည့်ဝရေးအတွက် မိမိခမည်းတော်ကြီးအား စတေးကာ မိမိအား ခုတုံးလုပ်ပုံများကိုလည်း ရိပ်မိလာပေပြီ။

ထို့ကြောင့် နန်းတော်ထဲမှာ ဩဇာအာဏာ ပြမြဲပြနေသော သူ့ဆရာကို နန်းတော်မှ နှင်ထုတ်လိုက်၏။ မင်းအာဏာကို မှီ၍ အရှိန်အဝါ တောက်နေသူသည် ယခု သူ့အားကိုးရာ မင်းကိုယ်တိုင်က နှင်ထုတ်လိုက်တော့ မည်သို့မျှ မတတ်နိုင်ပြီ။ မျောက်သစ်ကိုင်းလွတ်ဘဝဖြင့် အသာ ဆင်းလာ ခဲ့ရပေတော့သည်။

ဤတွင် သူ့အတွက် အခက်ကြုံပေပြီ။ သူများတွေမှာဆိုလျှင် တစ်ဝမ်းတစ်ခါးမို့ ကိစ္စမရှိ။ ဖြစ်သလိုနေ၊ ဖြစ်သလိုစား၍ ရနိုင်သေး၏။ ယခု သူ့မှာတော့ နောက်လိုက်နောက်ပါတွေကတသီကြီးရှိနေဆဲ။ စားမည့် ပါးစပ်တွေက အစီအရီ ရှိနေသော်လည်း နန်းတော်ကြီးမှ ဆွမ်းအိုးများ မပေါ်လာတော့။ ဟိုးလေးတကျော် ဖြစ်ခဲ့ရသော အမှုကြီးကြောင့် အများနည်းတူ ဆွမ်းခံဝင်ဖို့ပင် မဝံ့ကြပေ။ သူတို့ကို လှူချင်သူ၊ ကျွေးချင်သူများကလည်း ကျန်ကောင်းကျန်ရာမျှသာ ရှိတော့၏။

နောက်ဆုံးတော့ ကျန်ကောင်းကျန်ရာ ဒါယကာ ဒါယိကာမများကိုသာ သူအားကိုးရတော့၏။ သူ့ပရိသတ် သူ့ဆိမြဲနေရေးအတွက် သည်အိမ်က တစ်ပါးကို တာဝန်ယူပါ၊ သည်အိမ်က နှစ်ပါးကို ကျွေးမွေးပါ စသည်ဖြင့် စာရေးတံချသလို လိုက်အပ်ရတော့၏။ ဒါယကာ ဒါယိကာမ များက အားနာပါးနာ ကျွေးကြသဖြင့် သူတို့ ဝမ်းရေးကား ပြည့်စုံသွားပါ၏။ သို့သော် ဤအပြုအမူမှာ သာသနာတော်ကြီး ဆုတ်ယုတ်ရေးသာဖြစ်သဖြင့် ဘုရားရှင်က

"ဂဏဘောဇဉ်ကို စားသော ရဟန်းအား ပါစိတ် အာပတ်သင့်စေ" ဟု သိက္ခာပုဒ် ပညတ်တော် မူရပေသည်။

ဂဏဘောဇဉ် ဟူသည်မှာ လေးပါး၊ လေးပါးထက်လွန်သော ရဟန်းတို့အား ဘောဇဉ်ငါးမျိုးတွင် တစ်မျိုးမျိုးသော အမည်ဖြင့် ပင့်ဖိတ်ကျွေးမွေးသော ဘောဇဉ် ဖြစ်၏။ မူလ ပညတ်ခဲ့သော ဤသိက္ခာပုဒ် နောက်တွင် အခက်အခဲတွေ့ရသော ရဟန်းများကို သက်ညှာသောအားဖြင့် စားခွင့်ရှိသော ခြွင်းချက်များဖြင့် နောက်ထပ် ဖြည့်စွက်တော်မူရပေသည်။ **(ပါစိတ်၊ ဂဏဘောဇနသိက္ခာပုဒ် ပါဠိတော်နှင့် အဋ္ဌကထာ)**

ရှုံးနိမ့်ပြီးသူ ဒေဝဒတ်အဖို့ ရှုံးပြီးရင်း ရှုံး၍ချည့် နေပေသည်။ အခက်အခဲ များကလည်း တစ်မျိုးထက်တစ်မျိုး ပို၍ တိုးလာပေပြီ။ တိုင်းကျော် ပြည်ကျော် အမှုကြီးကြောင့် လာဘ်လာဘနှင့် သြဇာအာဏာဟူသမျှ လက်လွတ် ဆုံးရှုံးခဲ့ရ၏။ ဤအခြေအနေတွင် ရှိရင်းစွဲ ပရိသတ်ကို ဆက်လက်ထိန်းထား နိုင်ရေးအတွက် ဖြစ်သလို ဖန်တီးပြန်တော့လည်း ဂဏဘောဇန သိက္ခာပုဒ်ဖြင့် အပိတ်ပင်ခံလိုက် ရပြန်ချေပြီ။

ဤသိက္ခာပုဒ်ကို နာခံမှတ်သားရသော သံဃာ့ပရိသတ်ထဲတွင် ဒေဝဒတ် လည်း အပါအဝင် ဖြစ်၏။ သည်မျှလောက် ယုတ်မာသော၊ သည်မျှလောက် ရက်စက်သော အမှုကြီးများကို ကျူးလွန်ခဲ့သည် ဖြစ်စေ၊ သူကတော့ ယခုထိ ရဟန်းဟု ဝန်ခံတုန်း ရှိသေး၏။ ဖြစ်ပွားခဲ့သောအမှုများနှင့် ပတ်သက်၍ လိမ္မာ ပါးနပ်စွာ ရှောင်လွှဲ ထွက်ဆိုထားသဖြင့် သိတင်းသုံးဖော်များက သူ့ကို အရေးယူရန် ခက်နေကြ၏။ ဗိမ္ဗိသာရမင်းကြီး အသတ်ခံရသော ကိစ္စကို သူ့လက်ချက်မှန်း ကောန် သိပါလျက်နှင့် တတိယ ပါရာဇိကအာဝတ်ဖြင့် အတပ်မစွဲသာအောင် ဖြစ်နေကြရ၏။ ထို့ကြောင့် သူ့ကို ကျွန်ုပ်တို့က သံဃာ့ပရိသတ်ထဲ လက်ခံနေရခြင်း ဖြစ်ပါသည်။

တကယ်တော့ဖြင့် ဒေဝဒတ်ကိုယ်တိုင်လည်း ဤပရိသတ်ထဲတွင် နေချင်လှ မည် မဟုတ်ပါ။ အခြေအနေမပေး၍သာ ချုပ်ချယ်လေသမျှ၊ ရှုတ်ချလေသမျှကို ခေါင်းငုံ့၍ ခံနေရ၏။ တစ်စင် မထောင်နိုင်သေး၍သာ ဂေါတမဘုရား၏ တပည့် ဟူ၍ အမည်ခံနေခဲ့၏။ တစ်နေ့နေ့ တစ်ချိန်ချိန်တွင်ကား သည်အချုပ်အနှောင်များမှ အင်နှင့်အားနှင့် ရုန်းထွက်မည် ဖြစ်၏။ အခြေအနေပေးလာသည်နှင့် တစ်ပြိုင်နက် လွတ်ရာကျွတ်ရာ သွား၍ တစ်စင်ထောင်မည် ဖြစ်၏။

ကိုယ့်ပရိသတ်နှင့်ကိုယ် တစ်စင်ထောင်သည်ကား ဟုတ်ပါ၏။ သို့သော် သည်အာဏာစက်ကို မခွဲမဖျက်ဘဲနှင့်ကား တစ်စင်ထောင်၍ မရနိုင်ပါ။ သံဃာ သင်းခွဲမှုကြီးကိုမပြုဘဲ သူ့အတွက် နောက်ပါပရိသတ် မရနိုင်ပါ။ ပရိသတ် မရှိဘဲ နှင့်လည်း သစ်ငုတ်တိုကဲ့သို့ အထီးတည်း မနေနိုင်ပါ။ ဒါယကာ ဒါယိကာမ

မရှိဘဲ မရပ်တည်နိုင်ပါ။ ထို့ကြောင့် တစ်ချက်ခုတ်ရုံနှင့် သုံးချက် ပြတ်နိုင်သော နည်းကို သူ နေ့စဉ်ရက်ဆက် ကြံစည်နေခဲ့၏။

သူ့လိုဘ ပြည့်ဝရေးအတွက် သည်တစ်ခါတော့ အကြမ်းဖက်သောနည်းများကို သူ မသုံးရဲတော့ပေ။ အကြမ်းဖက်လေသမျှ အရှုံးနှင့် နိဂုံးချုပ်ခဲ့ရ၏။ ဘုရားရှင်အပေါ် မည်မျှပင် ရန်ငြိုးထားခဲ့သော်လည်း ဘုန်းချင်း ကံချင်း မယှဉ်နိုင်သည်ကို သူ သဘောပေါက်ထား၏။ ဤသို့ဆိုလျှင် ဤအရိပ်အောက်မှာပင် အေးအေးဆေးဆေး နေပါတော့လား။ ဒေဝဒတ်လို ပုဂ္ဂိုလ်မျိုးက ဤလို နေထိုင်၍ မဖြစ်ပါ။ သူ့စိတ်နှင့် သူ့ကိုယ် ထင်သလိုနေရမှ နေနိုင်မည့်သူ ဖြစ်၏။ ကျွန်ုပ်တို့ သာသနာတော် အတွင်းမှာလည်း ဤအခွင့်အရေးမျိုးက လုံးဝမရှိပါ။ ထို့ကြောင့် သံဃာ သင်းခွဲနိုင်ရေးကို သူ မရ ရအောင် ကြံစည်ပါလိမ့်မည်။

အကြံအောင်လာသော တစ်နေ့တွင်ကား ဒေဝဒတ်သည် ကြော့ကြော့မော့မော့နှင့် ရှေ့တော်မှောက် ဝင်ရောက်လာခဲ့၏။ သံဃာ့ပရိသတ် လွှဲအပ်ရန် တောင်းဆိုစဉ်တုန်းကကဲ့သို့ တက်တက်ကြွကြွကြီး မဟုတ်သော်လည်း သူ့မျက်နှာသွင်ပြင် ကြည်လင်လှ၏။ မိမိကိုယ်ကို စိတ်ချယုံကြည်ထားသော လက္ခဏာရှိ၏။ သူနှင့်အတူ လာသူတို့ကား ကောကာလိက၊ ကဋ္ဌမောဒကတိဿ၊ သမုဒ္ဒဒတ္တ ဟူသော ခေါင်းဆောင် ပုဂ္ဂိုလ်များနှင့်တကွ သူ့ဩဇာရိပ် မကင်းသော ရဟန်းငယ်ငါးရာတို့ ဖြစ်ပေသည်။

ဒေဝဒတ်၏ လက်နှစ်ဘက်သည် ဘုရားရှင်ထံသို့ လက်အုပ်ချီလျက် ရှိကြ၏။ ဂိဇ္ဈကုဋ်တောင်စောင်းက ကျောက်မောင်း ဆင်ချတုန်းကလည်း ဤလက်နှစ်ဘက် ဖြစ်၏။ ကျောက်မောင်းဆင်ချခဲ့တုန်းက အကြီးလေးဆုံးသော ပြစ်မှုကြီးကို ဤလက်နှစ်ဘက်ဖြင့် ကာယကံမြောက် ကျူးလွန်ခဲ့၏။ ယခုလည်း ဤလက်နှစ်ဘက်ဖြင့်ပင် အကြီးလေးဆုံးသော ပြစ်မှုကြီးကို ဖော်ထုတ်လိုက်ပါပြီ။

'အရှင်ဘုရား၊ မြတ်စွာဘုရားသည် များစွာသော အကြောင်းတို့ဖြင့် အလိုနည်းခြင်း၊ ရောင့်ရဲလွယ်ခြင်း စသည်တို့၏ ဂုဏ်ကျေးဇူးကို ဟောကြားလေ့ရှိပါသည်။ ဤဝတ္ထု ငါးမျိုးတို့မှာလည်း များစွာသော အကြောင်းတို့ဖြင့် အလိုနည်းခြင်း၊ ရောင့်ရဲလွယ်ခြင်း စသည်တို့ အလို့ငှာသာ ဖြစ်ကြပါကုန်၏။

'အရှင်ဘုရား၊ တောင်းပန်ပါ၏၊ ရဟန်းတို့သည် အသက်ထက်ဆုံး တောကျောင်းမှာ နေကြပါစေ၊ ရွာနားကျောင်းသို့ ကပ်လာသော ရဟန်းအား အာပတ်သင့်ပါစေ။

'ရဟန်းတို့သည် အသက်ထက်ဆုံး ဆွမ်းခံ၍စားကြပါစေ၊ ဒါယကာဒါယိကာမများ ပင့်ဖိတ်၍ ကပ်လှူသောဆွမ်းကို စားသော ရဟန်းအား အာပတ်သင့်ပါစေ။

'ရဟန်းတို့သည် အသက်ထက်ဆုံး ပံ့သကူ သင်္ကန်းကို ဝတ်ရုံကြပါစေ၊ ဒါယကာ၊ ဒါယိကာမများ လှူဒါန်းသော သင်္ကန်းကို ဝတ်ရုံသော ရဟန်းအား အာပတ်သင့်ပါစေ။

'ရဟန်းတို့သည် အသက်ထက်ဆုံး သစ်ပင်ရင်းမှာ နေကြပါစေ၊ အမိုး မိုးသော ကျောင်းမှာနေသော ရဟန်းအား အာပတ်သင့်ပါစေ။

'ရဟန်းတို့သည် အသက်ထက်ဆုံး အသား၊ ငါးကို မစားပါစေနှင့်၊ အသားငါးကို စားသော ရဟန်းအား အာပတ်သင့်ပါစေ၊ ဤဝတ္ထု ငါးမျိုးကို ခွင့်ပြုတော်မူပါဘုရား"

"ဒေဝဒတ်၊ မသင့်လျော်ပေ၊ တောကျောင်းမှာ နေလိုသောရဟန်းသည် တောကျောင်းမှာ နေပါစေ၊ ရွာကျောင်းမှာ နေလိုသော ရဟန်းသည် ရွာကျောင်းမှာ နေပါစေ၊ ဆွမ်းခံ၍ စားလိုသော ရဟန်းသည် ဆွမ်းခံ၍ စားပါစေ၊ ဒါယကာ ဒါယိကာမတို့ လှူဒါန်းသော ဆွမ်းကို စားလိုသော ရဟန်းသည် စားပါစေ၊ ပံ့သကူသင်္ကန်းကို ဆောင်လိုသော ရဟန်းသည် ဆောင်ပါစေ၊ ဒါယကာ ဒါယိကာမ တို့ လှူဒါန်းသော သင်္ကန်းကို ဝတ်ရုံလိုသော ရဟန်းသည် ဝတ်ရုံပါစေ၊ ငါဘုရား သည် မိုးရာသီ မဟုတ်သော ရှစ်လတို့ ပတ်လုံး သစ်ပင်ရင်းမှာ နေထိုင်ခြင်းကို ခွင့်ပြု၏၊ မိမိအတွက် ရည်စူး၍ သတ်နေသည်ကို မြင်ခြင်း၊ ကြားခြင်း၊ ယုံမှား သင်္ကာရှိခြင်းဟူသော အစွန်းသုံးပါးမှလွတ်သော သားငါးကို စားသုံးရန် ငါဘုရား ခွင့်ပြု၏"

လျှောက်ထားခဲ့သော ဝတ္ထု ငါးပါးလုံး အပယ်ခံလိုက်ရပေပြီ။ ဤ ဝတ္ထု ငါးမျိုးမှာ ပါရှိသော တောကျောင်းနေခြင်း၊ အမြဲ ဆွမ်းခံစားခြင်း စသော ကျင့်ဝတ် များကို 'ဓုတင်' ဟု အမည်တပ်ကာ ဘုရားရှင်ကိုယ်တော်တိုင်က ချီးမွမ်းတော်မူ ခဲ့၏။ 'ဓုတင်'ဟူသည်မှာ ကိလေသာကို ခါတွက်စေကြောင်း အကျင့်ကောင်းဟု အဓိပ္ပာယ်ရ၏။ ဓုတင်အကျင့်များကို ရာသက်ပန် ကျင့်သုံးနေကြသော အရှင်မဟာ ကဿပ စသော မထေရ်ကြီးများလည်း အထင်အရှား ရှိနေကြ၏။ သို့ပါလျက် ဒေဝဒတ် လျှောက်ထားချက်ကို အဘယ့်ကြောင့် ပယ်ချရပါသနည်း။

ဒေဝဒတ် လျှောက်ထားခဲ့သည့်အတိုင်း ဤကျင့်ဝတ်များကို အဟုတ် တကယ် ကျင့်နိုင်ပါလျှင် အလိုနည်းခြင်း ရောင့်ရဲလွယ်ခြင်း စသော အကျိုးတရား များကို ရနိုင်ပါသည်။ ဤအချက်ထိအောင် ဒေဝဒတ်၏ လျှောက်ထားချက် မှန်ကန် ပါ၏။ သို့သော် ထိုအမှန်သည် အဆိပ်ပေါ် ဖုံးအုပ်ထားသော သကာ ဖြစ်၏။ အဆိပ်ကို မမြင်၊ သကာကို အဟုတ်ထင်၍ စားမျိုမိလျှင် ဒုက္ခ ရောက်ကြမည်သာ ဖြစ်၏။

စုတင် အကျင့်များကို ဘုရားရှင် ခွင့်ပြုတော်မူသည်မှာ စွမ်းနိုင်သည်များ အတွက်သာ ဖြစ်၏။ ကိုယ်ရောစိတ်ပါ ကျန်းမာသန်စွမ်းသူများ အတွက်သာ ဖြစ်၏။ သာသနာ့ဘောင် ရောက်လာသူမှန်သမျှ စုတင်အကျင့်ကို ကျင့်ရမည်ဟု မဆိုလိုပါ။ ဤသို့ ဆိုပါလျှင် အမျိုးကောင်းသားများ အဖို့ သာသနာတော်ကြီးနှင့် တွေ့ရကျိုးနပ်မည် မဟုတ်ပါ။ အချို့ပုဂ္ဂိုလ်များမှာ သာသနာတော်ကို ကြည်ညို သော်လည်း စုတင် အကျင့်များကို ကျင့်နိုင်လောက်အောင် စိတ်အား ကိုယ်အား မထက်သန်ကြပါ။ ထိုပုဂ္ဂိုလ်များအတွက် စုတင်အကျင့်များကို မကျင့်မနေရဟု ပညတ်ပါလျှင် သာသနာတော်ကြီး အတွင်းမှာ နေနိုင်ကြတော့မည် မဟုတ်ပါ။ ထို့ကြောင့် ထိုတောင်းဆိုချက် အားလုံးကို ဘုရားရှင်က ပယ်တော်မူရခြင်း ဖြစ်ပေသည်။

တကယ်တော့ဖြင့် အလိုနည်းခြင်း၊ ရောင့်ရဲလွယ်ခြင်း စသော စကားလုံး များသည် မသိ နားမလည်သော ရဟန်းငယ်များကို ဆွဲဆောင်ရန်သာ ဖြစ်၏။ အလွန်အကျွံ ကျင့်ခြင်းကိုမှ အထင်ကြီးတတ်သော ဒါယကာ ဒါယိကာမ အချို့ကို စည်းရုံးရန်သာ ဖြစ်၏။ ဤသို့ တစ်ဖက်မှာ စည်းရုံးရင်း ဘုရားရှင်၏ အာဏာ စက်ကို ထိုးနှက် ဖျက်ဆီးရန်လည်း ဖြစ်၏။ သံဃာချင်း သင်းခွဲနိုင်ရန် သပ်လျှို လိုက်သော စကားလုံးများလည်း ဖြစ်ကြပါ၏။

ဒေဝဒတ်အဖို့ ဤသို့ တောင်းဆိုလျှင် ဤသို့ ပယ်ချခံရမည်ကို စကတည်းက သိထားပြီး ဖြစ်ပါလိမ့်မည်။ ယခင် တောင်းဆိုချက်ကို ပယ်ချခံရစဉ်တုန်းက သူ့မျက်နှာ သိသိသာသာ ပျက်ခဲ့၏။ ယခုတစ်ခါ အပယ်ခံရသည့်တွင်ကား သူ့ မျက်နှာ လုံးဝ မပျက်သည့်ပြင် ပြုံးပန်းများပင် ပွင့်နေလိုက်ပါသေး၏။ ဤလို ပယ်ချလိုက်ခြင်းသည်ပင် သူလိုလားသော ဆုလာဘ်များ မဟုတ်ပါလော။

မရစဖူး အရထူးသော ဆုလာဘ်များကို ဒေဝဒတ်သည် ကောင်းကောင်းကြီး အသုံးချလိုက်၏။ အများအကျိုးငှာ အသုံးချခြင်း မဟုတ်။ သူ့လိုဘ ပြည့်ဝရေး အတွက် အသုံးချခြင်းသာ ဖြစ်၏။

"အို ဒါယကာ ဒါယိကာမအပေါင်းတို့၊ ငါတို့သည် အလိုနည်းခြင်း၊ ရောင့်ရဲလွယ်ခြင်း စသည်တို့ အကျိုးငှာ အရှင်ဂေါတမထံတွင် ငါးမျိုးသော ဝတ္ထုများကို တောင်းဆိုခဲ့၏။ ငါးမျိုးလုံးကိုပင် အရှင်ဂေါတမက ပယ်ချခဲ့၏။ ငါတို့ကား ငါတို့ တောင်းဆိုထားသည့်အတိုင်း ကျင့်သုံးကြမည်သာတည်း"

သံဃာချင်း သင်းခွဲရန်ကိစ္စကို လူသိရှင်ကြား ကြိုးစားလိုက်ခြင်းပါပေတည်း။

ဤသို့သော ရည်ရွယ်ချက်များကို စတင် တောင်းဆိုစဉ်ကတည်းက ဘုရားရှင် သိမြင်ပြီး ဖြစ်ပါလိမ့်မည်။ သို့သော် သိက္ခာပုဒ် ပညတ်ရအောင် အကြောင်း

နိဒါန်းက မပေါ်ပေါက်သေးသဖြင့် အသာ စောင့်ကြည့်တော်မူခဲ့၏။ ယခု ဒေဝဒတ်၏ ကြေညာချက်သည် လုံလောက်သော အကြောင်းနိဒါန်း ဖြစ်နေပြီမို့ သံဃာဘေဒက သိက္ခာပုဒ်ကို ပညတ်တော်မူရပေသည်။

ဤသိက္ခာပုဒ်အရ သံဃာချင်း သင်းခွဲအောင် ပြုမူသော ရဟန်းအား အခြား ရဟန်းတို့က ဖျောင်းဖျ ပြောဆိုကြရ၏။ ဤသို့ သုံးကြိမ်တိုင်တိုင် ပြောဆိုပါလျက် ဆက်လက်၍ ကြိုးစားလျှင်ကား ထိုရဟန်းအား သံဃာ့ ဒိသိသ်အာပတ် သင့်တော့၏။

ဤသိက္ခာပုဒ်နှင့် တစ်ဆက်တည်းပင် ခုခံကာကွယ်၍ပြောဆိုကြသော ကဋ မောဒကတိဿနှင့် သမုဒ္ဒဒတ္တတို့ကြောင့် ဘေဒါနုဝတ္တက သိက္ခာပုဒ်ကို ပညတ်တော် မူရပြန်၏။ သံဃာချင်း သင်းခွဲရန် ကြံစည်သော ရဟန်းအား ခုခံကာကွယ်၍ မပြောနိုင်ကြရန် တားမြစ်တော်မူသော သိက္ခာပုဒ် ဖြစ်ပေသည်။

**(ပါရာဇိကကဏ္ဍ၊ သံဃာဒိသိသ်၊ သံဃဘေဒက၊ ဘေဒါနုဝတ္တက သိက္ခာပုဒ် ပါဠိတော်နှင့် အဋ္ဌကထာ)**

ဒေဝဒတ်နှင့် အပေါင်းပါများကို အကြောင်းပြု၍ ပညတ်တော်မူခဲ့သော ဤသိက္ခာပုဒ်များသည် ထိုပုဂ္ဂိုလ်တို့ကို တားမြစ်နိုင်စွမ်း မရှိတော့ပါ။ 'အာပတ်ဆို ချိုနှင့်လား' ဟူသော အဆင့်သို့ ရောက်နေကြပြီမို့ ဘာအာပတ်နှင့်တားတား ရကြ တော့မည် မဟုတ်ပါ။ ဘုရားရှင်က ရှေ့တော်သို့ ခေါ်၍ တားမြစ်သော်လည်း သူ မလိုက်နာတော့ပါ။ ထို့ကြောင့်ပင် ဒေဝဒတ်က

'အာနန္ဒာ၊ သည်နေ့မှစ၍ ငါတို့သည် ဘုရားရှင်ကို ဖယ်ထား၍ ရဟန်း သံဃာကို ဖယ်ထား၍ ငါတို့ချည်း ဥပုသ်ပြုကြကုန်တော့အံ့' ဟု အတည့်အလင်း ပြောကြားပါတော့သည်။ ရာဇဂြိုဟ် မြို့တော်တွင်းမှာ ဆွမ်းခံဝင်စဉ်က ကျွန်ုပ်ထံ တမင်တကာ လာ၍ ပြောကြားခြင်း ဖြစ်ပါသည်။ ဘုရားကိုယ်တော်တိုင် တား၍ မရနိုင်သော ပုဂ္ဂိုလ်ကို ကျွန်ုပ်က မည်သို့ ပြောရပါမည်နည်း။ ကျွန်ုပ် ဆောင်ရွက်ရမည့် ကိစ္စကား ဤစကားကို ရှေ့နားတော်ကြား လျှောက်ထားရန်သာ ဖြစ်ပါသည်။

ထိုနေ့ ဆွမ်းစားပြီးချိန်တွင် သံဃာတော်ရှိသမျှ စုဝေးနေကြ၏။ ဥပုသ်နေ့ ဖြစ်၍ ဥပုသ်ပြုရန်ဖြစ်၏။ လာနေဆဲ သံဃာများကို စောင့်နေဆဲမှာပင် ဒေဝဒတ်သည် သူ့စီမံကိန်းကို အကောင်အထည် ဖော်ပါတော့သည်။

"ငါ့ရှင်တို့၊ ငါတို့သည် အလိုနည်းခြင်း၊ ရောင့်ရဲလွယ်ခြင်း စသည်တို့ အကျိုးငှာ အရှင်ဂေါတမထံတွင် ငါးမျိုးသော ဝတ္ထုများကို တောင်းဆိုခဲ့ကြ၏။ ငါးမျိုးလုံးကိုပင် အရှင်ဂေါတမက ပယ်ချခဲ့၏။ ငါတို့ကား ငါတို့ တောင်းဆိုသည့် အတိုင်း ကျင့်သုံးကြကုန်အံ့။ ဤသံဃာ့ပရိသတ်ထဲမှ ဤဝတ္ထု ငါးမျိုးကို နှစ်သက် သူများသည် စာရေးတံမဲ ယူကြပါကုန်လော့"

ဒေဝဒတ်၏ စကားအဆုံးဝယ် စာရေးတံမဲယူမည့် ရဟန်းငါးရာ ထလာကြ၏။ ဝဇ္ဇီအမျိုးသား ရဟန်းငယ်များ ဖြစ်ကြ၏။ ရဟန်းသက် ငယ်လှသေး၏။ သူတို့သည် စကတည်းက ဒေဝဒတ်၏ နောက်လိုက် နောက်ပါ ဖြစ်ကြ၏။ ဒေဝဒတ်၏ ကျေးဇူးခံ ကျေးဇူးစားများဖြစ်ကြ၏။ ဒေဝဒတ် အရိပ်ခို၍ ဒေဝဒတ် ကျွေးသမျှ စားခဲ့ကြသော်လည်း သူတို့သည် ဘုရားရှင်ကိုကား မပစ်ပယ်ခဲ့ကြပေ။ ဘုရားရှင်၏ အမိန့်အာဏာကို မဖီဆန်ခဲ့ကြပေ။ ဤသို့ ရှိနေရာမှ ယခု သူတို့ဆရာက ဘုရားရှင်နှင့် လုံးလုံးကြီး အဆက်ဖြတ်ကာ တစ်စင်ထောင်တော့မည် ဆိုလာသဖြင့် သူတို့ ထိတ်လန့်တကြား ဖြစ်သွားကြရ၏။ ယခုတော့ သူတို့ ဘဝင်ကျ သွားကြပါပြီ။ သူတို့ ဆရာသမား ကမ်းလင့်သော စာရေးတံများကို လိုလိုချင်ချင် ယူလိုက်ကြပါပြီ။ သူတို့ဆရာသမား တင်ပြခဲ့သော ရဲရဲတောက် ကျင့်စဉ်များကို ခြွင်းချက်မရှိ လက်ခံလိုက်ကြပါပြီ။ ဤကမ္ဘာမြေဝယ် ဤကျင့်ဝတ်များထက် မြင့်မြတ်သောတရားဟူ၍ မရှိနိုင်တော့ပြီ။ ဤသို့ ကောက်ချက်ချကာ ဒေဝဒတ်၏ ဘက်တော်သားအဖြစ်ကို ဝမ်းမြောက်ဝမ်းသာ ခံယူလိုက်ကြခြင်း ဖြစ်ပေသည်။

ဤယုန်မြင်၍ ဤချုံထွင်ခဲ့သော ဒေဝဒတ်သည် မိမိဘက်သား ရဟန်းငါးရာကိုစုစည်းကာ အများသံဃာတို့ စည်းဝေးရာ ထိုသိမ်ထက်မှာပင် အများသံဃာနှင့်ခွဲ၍ သီးသန့် ဥပုသ်ကံ ပြုခဲ့၏။ ဤသို့ သံဃာဘေဒက ကံကြီးကို အထမြောက်အောင် ပြုပြီးခါမှ သူ့ပရိသတ်ကိုခေါ်၍ သူစိုးစံရာ ဂယာသီသ ကျောင်းတိုက်သို့ ထွက်သွားပေသည်။

ဒေဝဒတ် အတွက်တော့ဖြင့် ဘုရားရှင် ကိုယ်တော်တိုင်က လျစ်လျူရှုထားရပြီ ဖြစ်၏။ သို့သော် မသိနားမလည်၍ ပါသွားရှာသော ရဟန်း ငယ်များကိုကား သနားဖို့ ကောင်းလှ၏။ ထို့ကြောင့် ဘုရားရှင်က–

"သာရိပုတ္တရာ၊ ထိုရဟန်းငယ်များအပေါ်မှာ သင်တို့ ကရုဏာ မပွားကြလေသလော၊ ယခု သင်တို့ သွားကြချေ၊ ရဟန်းငယ်များ အကျိုးမဲ့ မပျက်စီးသေးမီ ကယ်တင်ခဲ့ကြကုန်လော့"

"ကောင်းပါပြီ အရှင်ဘုရား"

ချမှတ်လိုက်သော အမိန့်တော်ကို အရှင်မြတ်ကြီး နှစ်ပါးလုံးက ဦးခေါင်းညွတ်၍ ခံယူကြ၏။ အရှင်မဟာသာရိပုတ္တရာနှင့် အတူ အရှင်မဟာမောဂ္ဂလာန်လည်း ရှိနေ၍ ဘုရားရှင်က သင်တို့ဟု မိန့်တော်မူလိုက်ခြင်း ဖြစ်ပေသည်။

ငိုအားထက် ရယ်အားသန် ဆိုရမည်လား မသိပါ။ အရှင်မြတ်ကြီး နှစ်ပါးထွက်ခွာသွားပြီးနောက် အနားမှာ ကျန်ရစ်သော ရဟန်းတစ်ပါးသည် ကျူကျူပါ

အောင် ငိုပါတော့၏။ ဘုရားရှင်က သူ့ကို အကျိုးအကြောင်း မေးတော်မူသော အခါ–

"အရှင်ဘုရား၊ အရှင်မဟာသာရိပုတ္တရာနှင့် အရှင်မဟာမောဂ္ဂလာန်တို့သည် အဂ္ဂသာဝကကြီးများ ဖြစ်ကြပါသည်။ ဤအဂ္ဂသာဝကကြီးများသည်ပင် ဒေဝဒတ်၏ တရားကို နှစ်သက်၍ ဒေဝဒတ်နောက်သို့ လိုက်ပါသွားကြပါပြီ ဘုရား"

ရဟန်းက ငိုရခြင်းအကြောင်းကို လျှောက်ထား၏။ ဘုရားရှင်က ဤသို့ ဘယ်နည်းနှင့်မျှ မဖြစ်နိုင်ကြောင်း မိန့်တော်မူရ၏။

ဒေဝဒတ်၏ အပြုအမူများကား ထိုရဟန်းထက်ပင် ရယ်စရာကောင်းနေပါသေးသည်။ ရယ်စရာ ကောင်းသည်နှင့်အမျှ စက်ဆုပ်ဖွယ်လည်း ကောင်းပါဘိ၏။

အရှင်မဟာသာရိပုတ္တရာနှင့် အရှင်မဟာ မောဂ္ဂလာန်တို့ ရောက်သွားကြသောအခါ ဒေဝဒတ်က

"ကြည့်လိုက်ကြ တပည့်တို့၊ ငါ ဟောကြားသောတရားသည် ကောင်းမွန်လှ၏။ ငါ့တရားကို ကြိုက်နှစ်သက်၍ အရှင်ဂေါတမ၏ အဂ္ဂသာဝက နှစ်ပါးဖြစ်သော သာရိပုတ္တရာနှင့် မောဂ္ဂလာန်တို့ပင် ငါ့ထံသို့ ဝင်လာကြပေပြီ"

သူ့ပရိသတ်များကို ဤသို့ အားပါးတရ ပြောပြသည် ဆိုပါ၏။ သူ့စကားကို ကောကာလိကက လက်မခံပါ။ အရှင်မဟာသာရိပုတ္တရာနှင့် အရှင်မဟာမောဂ္ဂလာန်တို့သည် အလိုဆိုးရှိသူများဖြစ်၍ အရောမဝင်ရန် ကန့်ကွက်၏။ သို့သော် မိုးမမြင် လေမမြင် ဘဝင်မြင့်နေသော ဒေဝဒတ်ကတော့ သူ့ညာလက်ရုံးကြီး၏ စကားကို မနာယူတော့ပါ။

"ငါ့ရှင်၊ သင့်စကား ရပ်ပါလော့၊ ငါ့တရားကို ကြိုက်၍ လိုက်လာသူများကို ငါက ကြိုဆိုရပေမည်"

ဤသို့ ကောကာလိကကို တားမြစ်ရင်း အရှင်မဟာသာရိပုတ္တရာအတွက် နေရာတစ်ဝက်ကို ဖယ်ပေးလိုက်၏။ ဆရာ့ကိုယ်စား အားထား လောက်သော တပည့်ကြီးအဖြစ် အသိအမှတ် ပြုလိုက်ခြင်းပါတည်း။

ဆရာကြီး ဒေဝဒတ်က ယုံကြည်ကိုးစား၍ ပေးလာသော အခွင့်ထူးကို အရှင်မဟာသာရိပုတ္တရာက မယူပါ။ အရှင်မဟာမောဂ္ဂလာန်ကလည်း မယူပါ။ သင့်လျော်သော နေရာမှာ အသီးသီး ထိုင်ကြပါသည်။

သို့နှင့် ညချမ်းချိန်ခါသို့ ရောက်လာ၏။ ပါလာသော ရဟန်းငါးရာကို ဆရာကြီး ဒေဝဒတ်က ရောက်တတ်ရာရာ တရားများ ဟောကြား၏။ ဟောရင်း ဟောရင်းနှင့် တရားလက်စ မသတ်နိုင်သဖြင့် ညဦးယံမှ သန်းခေါင်နား ချဉ်းကပ်

လာ၏။ ဤတွင် ဒေဝဒတ်သည် ဟောလက်စတရားကို သူ၏ လက်ထောက် တပည့်ကြီးထံ လွှဲအပ်ပါတော့သည်။

"သာရိပုတ္တရာ၊ ရဟန်းသံဃာသည် သမ်းဝေခြင်း ငိုက်မျဉ်းခြင်း ကင်း၏၊ ဤရဟန်းများအား တရားဟောပါလော့၊ တရားဟောချိန် ကြာသွား၍ ငါ၏ ကျောအောင့်လာပြီ၊ ငါ လဲလျောင်း၍ အပန်းဖြေလိုက်ဦးမည်"

ဘုရားရှင် မိန့်တော်မူနေကျ စကားလုံးများ အသုံးပြုလိုက်ခြင်း ဖြစ်ပေသည်။ သူ့ကိုယ်သူ စင်ပြိုင် ဘုရားတစ်ဆူအဖြစ် သတ်မှတ်ထားလိုက်ချေပြီကော။

"ကောင်းပါပြီ ငါ့ရှင်"

အထက်စီးနှင့် ပြောလာသော စကားကို အရှင်မဟာသာရိပုတ္တရာကတော့ ခါတိုင်းလိုပင် တန်ပြန်လိုက်၏။ အရှင်မဟာသာရိပုတ္တရာ၏ တရားပွဲ စသည်နှင့် တစ်ပြိုင်နက် စင်ပြိုင် ဒေဝဒတ်ဘုရားကြီးသည် သလွန်တော်ပေါ်မှာ နှစ်ထပ်သင်္ကန်းကြီးကို လေးခေါက် ခေါက်လိုက်၏။ လေးခေါက် ခေါက်ထားသော သင်္ကန်းကြီးပေါ်ဝယ် လက်ယာနံတောင်းဖြင့် လဲလျောင်း ကျိန်းစက်တော်မူ၏။

အရှင်မဟာသာရိပုတ္တရာ စသော သာဝကကြီးများ တရားဟောနေစဉ်တွင် ကျွန်ုပ်တို့ ဘုရားရှင်လည်း ကျိန်းစက်လေ့ ရှိပါ၏။ သို့သော် တကယ်တမ်းပျော်အောင် ကျိန်းစက်တော်မူခြင်း မဟုတ်ပေ။ ခါးညောင်းပြေရုံမျှ လဲလျောင်းခြင်းသာ ဖြစ်၏။ သက်သောင့်သက်သာ လဲလျောင်းတော် မူရင်းက သာဝကများ ဟောကြားသော တရားကို နှစ်နှစ်ခြိုက်ခြိုက် နာတော်မူနေသည်သာ ဖြစ်၏။

စင်ပြိုင် ဘုရားကြီး ဒေဝဒတ်ကလည်း ဤအပြုအမူကို အတုယူပါ၏။ သို့သော် အဆင်ယူလျှင် ချည်တူမှ ဖြစ်ကြောင်းကို သတိမထားမိရှာ။ ချည်မတူဘဲ အဆင်ယူမိသဖြင့် ယူချင်သော အဆင်ကား မပေါ်လာ။ ပါလာသော ရဟန်းငယ် ငါးရာလုံးကိုသာ လက်လွှတ်ဆုံးရှုံးရပေတော့သည်။

အယောင်ဆောင် ဘုရားကြီးဒေဝဒတ်သည် ခေတ္တခဏသာ တရားကို အာရုံပြုနိုင်ပြီး အနုသန္ဓေတစ်ခု မဆုံးမီမှာပင် တခေါခေါနှင့် ဟောက်သံထွက်လာ၏။ ဤတွင် အရှင်မြတ်ကြီးနှစ်ပါးသည် နှောင့်ယှက် ဟန့်တား မည့်သူ မရှိတော့သဖြင့် လမ်းမှားရောက်နေသော ရဟန်းငါးရာလုံး အမှန်မြင်လာရန် ဟောကြားကြ၏။ ရဟန်းငယ်များမှာ အချိန်မီကယ်တင်ရှင်များနှင့် တွေ့ရသဖြင့် သစ္စာဉာဏ် ပွင့်လင်းသွားကြပေသည်။ ထိုညတွင်းချင်းမှာပင် ဂယာသီသမှ ဝေဠုဝန်ကျောင်းတော်သို့ ပြန်ရောက်လာကြပေသည်။

**(စူဠဝဂ်၊ သံဃဘေဒကက္ခန္ဓက၊ သံဃဘေဒက ကထာ ပါဠိတော်နှင့် အဋ္ဌကထာ)**

✻✻

# နောင်တ၏ နိဂုံး

နာဠာဂိရိဆင်နှင့် တိုက်ခြင်းသည် အကြမ်းဖက်မှုများ၏ နိဂုံးချုပ် ဖြစ်၏။ ယခု ဂယာသီသတိုက်ပွဲကား အနုနည်းဖျက်ဆီးမှု၏ အဆုံးသတ် ဖြစ်ပေသည်။

ဂယာသီသမှ ညတွင်းချင်း ပြန်လာကြသော အရှင်မြတ်ကြီးများသည် နံနက်လင်းချိန်တွင် ဝေဠုဝန် ကျောင်းတော်သို့ ရောက်လာကြ၏။ သွားစဉ်တုန်းကတော့ အရှင်မြတ်ကြီး နှစ်ပါးတည်းဖြစ်ခဲ့၏။ အရှင်မြတ်ကြီးတို့ အစွမ်းသတ္တိကို ဘုရားရှင်ကိုယ်တော်တိုင်က စိတ်ချထား၍ ဖြစ်၏။ ယခု အပြန်တွင်ကား နောက်ပါရဟန်းငါးရာတို့ဖြင့် သိုက်သိုက်ဝန်းဝန်း ရှိပါဘိ၏။ တင့်တောင့်တင့်တယ် ရှိပါဘိ၏။

ကျွန်ုပ်၏ တစ်သက်တာတွင် အရှင်မြတ်ကြီး နှစ်ပါး၏ စွမ်းဆောင်မှုများနှင့် ပတ်သက်၍ ဝမ်းမြောက်ဝမ်းသာ ဖြစ်ခဲ့ရပေါင်း များလှပါပြီ။ နှစ်သိမ့်ကြည်နူးခဲ့ရပေါင်း များလှပါပြီ။ ထိုကိစ္စ ထိုကိစ္စများထက် ယခုကိစ္စတွင် ကျွန်ုပ်၏ ခံစားချက်များ အရှိန်အမြင့်ဆုံး ဖြစ်ကြပါသည်။ ဝမ်းနည်းဖွယ်၊ ရှက်ဖွယ်၊ စက်ဆုပ်ဖွယ်ကောင်းလှသော ဖြစ်ရပ်အပေါင်းမှ လွတ်မြောက်ခါစ ဖြစ်၍ ဤမျှ ခံစားရခြင်းလည်း ဖြစ်နိုင်ပါသည်။

ပြန်ပါလာကြသော ရဟန်းများတွင် ကောကာလိက စသော ခေါင်းဆောင်ပုဂ္ဂိုလ်များကို မတွေ့ရပါ။ သူတို့ကတော့ သူတို့ဆရာကြီးနှင့်အတူ ဆက်လက်၍ နေရစ်ကြပါလိမ့်မည်။ သူတို့၏ အရှိန်အဝါ လုံးဝမရှိတော့ပြီမို့ သူတို့ထံမှာ နောက်တစ်ဖန် ရောက်လာမည့် ပရိသတ်များလည်း မရှိနိုင်တော့ပါ။

နောက်ပါ ရဟန်းများနှင့်တကွ တင့်တောင့်တင့်တယ် ပြန်ကြွလာသော အရှင်မဟာသာရိပုတ္တရာသည် ဘုရားရှင်ထံတော်သို့ တန်းတန်းမတ်မတ် ဝင်ရောက်လာခဲ့၏။ ထိုအချိန်တွင် ကျွန်ုပ်သည် ဘုရားရှင်ထံတော်ပါးဝယ် ယာဂုကပ်ရင်းရှိနေ၏။ အရှင်မဟာသာရိပုတ္တရာသည် ဘုရားရှင်ကို ရိုသေစွာ ရှိခိုးပြီးလျှင်–

"အရှင်ဘုရား၊ တောင်းပန်ပါ၏၊ သံဃာ သင်းခွဲသူ၏ နောက်လိုက်ဖြစ်သော ရဟန်းများကို နောက်တစ်ကြိမ် ရဟန်းပြု၍ ပေးတော်မူပါဦးဘုရား"ဟု လျှောက်၏။

မလိမ္မာ၍ တစ်ခါမိုက်မိသူများအား အများက သံသယကင်းစေရန် လျှောက်ထားဟန် တူပါသည်။ သို့သော် ဘုရားရှင်က လက်ခံတော်မမူပါ။

"သာရိပုတ္တရာ၊ သံဃာသင်းခွဲသူ၏ နောက်လိုက်ဖြစ်သော ရဟန်းများကို နောက်တစ်ဖန် ရဟန်းပြုပေးရန် မလိုလားပါနှင့်၊ ထုလ္လစ္စယအာပတ် ကိုသာ ဒေသနာ အကြားခိုင်းလိုက်ပါလော့"

သူတို့ ကျူးလွန်ခဲ့သော ပြစ်မှုများနှင့် လျော်ညီစွာ ကုစားရန် မိန့်တော်မူလိုက်ပေသည်။

ထုလ္လစ္စယအာပတ် ဟူသည်မှာ ပါရာဇိက၊ သံဃာဒိသိသ် အာပတ်များ အပြီးတွင် အပြစ်အကြီးဆုံးသော အာပတ်ဖြစ်၏။ ဝဇ္ဇီအမျိုးသား ရဟန်း ငါးရာတို့သည် သံဃာသင်းခွဲသော ဒေဝဒတ်၏ နောက်သို့ မသိနားမလည်၍ လိုက်ပါမိကြ၏။ အကယ်၍ သူတို့ကို အခြားရဟန်းများက သုံးကြိမ်တိုင်တိုင် ဆုံးမ၍ မလိုက်နာကြလျှင် သံဃာဒိသိသ်အာပတ် သင့်ကြမည် ဖြစ်၏။ ယခုတော့ ထိုအဆင့်ထိ မရောက်ကြသဖြင့် ဒေသနာကြားရုံနှင့် ပြေပျောက်နိုင်သော ထုလ္လစ္စယ အာပတ်ဖြင့်သာ ဆုံးမတော်မူပေသည်။

သာသနာ့သက်တမ်း တစ်လျှောက်လုံးတွင် တစ်ကြိမ်တစ်ခါမျှ မကြုံရသေးသော အမှုကြီးဖြစ်ခဲ့ပြီးနောက် ဝိနည်းဆောင် တောဒဂ်ဂုဏ်ထူးရ အရှင်ဥပါလိသည် ဘုရားရှင့်ထံတော်သို့ ချဉ်းကပ်လျက်

"အရှင်ဘုရား၊ မည်မျှ အတိုင်းအတာဖြင့် သံဃာ၏အက်ကြောင်း ထင်ရုံသာ ဖြစ်၍ သံဃာ၏ ကွဲပြားခြင်း မဖြစ်ပါသနည်း။ မည်မျှသော အတိုင်းအတာဖြင့် သံဃာ၏ အက်ကြောင်းထင်ခြင်းလည်းဖြစ်၍ သံဃာ၏ ကွဲပြားခြင်းလည်း ဖြစ်ပါသနည်း" ဟု လျှောက်၏။

ဝိနည်းတော်အရာဝယ် တာဝန်အရှိဆုံး သာဝကကြီးဖြစ်၍ ဤသို့ မေးလျှောက်ရခြင်း ဖြစ်၏။ မိမိက တစ်ဆင့် တပည့်သံဃာအပေါင်းကို ပိုင်းပိုင်းခြားခြား နားလည်အောင် ပို့ချနိုင်ရန် ဖြစ်၏။ ဝိနည်းအကြောင်းဆိုင်ရာ ဆုံးဖြတ်စရာ ရှိလာသောအခါ ဘုရားရှင့်ကိုယ်စား တိကျခိုင်လုံစွာ ဆုံးဖြတ်ပေးနိုင်ရန်လည်း ဖြစ်ပေသည်။

ဝိနည်းဆောင် သာဝကကြီးအား ပြည့်ပြည့်စုံစုံ ခွဲခြမ်းစိတ်ဖြာ၍ ဟောကြားသော ဝိနည်းတော်များထဲမှ လိုရင်းကို အကျဉ်းချုပ်၍ တင်ပြရသော်–

သံဃာနှစ်ဘက် ကွဲနေကြရာတွင် တစ်ဖက်နှင့် တစ်ဖက်မှာ တစ်ပါးမှ သုံးပါးအထိ ရှိနေလျှင် သံဃာ၏ အက်ကြောင်း ထင်ရုံမျှ ရှိသေး၏။ သံဃာကွဲပြားမှု မဖြစ်သေးပေ။ တစ်ဖက် တစ်ဖက်မှာ သံဃာ လေးပါးစီ ရှိနေရာတွင် ကိုးပါးမြောက် ရဟန်းက စာရေးတံ ကောက်ယူ၏။ "ဤကား တရားတည်း။ ဤကား ဝိနည်းတည်း။ ဤကား ဘုရား အဆုံးမတည်း၊ ဤစကားကို နာယူကြလော့၊ နှစ်သက်ကြလော့" ဟု ပြောဆို စည်းရုံး၏။ ဤသို့ စည်းရုံးသဖြင့် စာရေးတံမဲ ကောက်ယူကြကာ တစ်သိမ်တည်းတွင် သံဃာ နှစ်သင်းခွဲ၍ ကံဆောင်ကြလျှင် သံဃာ၏ အက်ကြောင်းလည်းထင်၍ သံဃာ၏ ကွဲပြားခြင်းလည်း ဖြစ်လာပေသည်။

ရဟန်းမများ၊ သိက္ခမာန်များ၊ သာမဏေမများ၊ ဒါယကာ၊ ဒါယကာမများ သည် သံဃာသင်းခွဲမှုကို မပြုနိုင်။ သံဃာသင်းကွဲအောင် လှုံ့ဆော်ရုံမျှသာ စွမ်းနိုင်ကြ၏။

ပကတတ် ရဟန်းသည် သံဃာ အလုံအလောက်ရှိသော သိမ်ထက်၌ သံဃာချင်း သင်းခွဲကာ သီးခြားကံ ပြုပါမှ သံဃာသင်းကွဲမှုကြီး အထမြောက်၏။ ပကတတ် ရဟန်းဟူသည်မှာ ပါရာဇိကအာပတ်ကြီးအထိ မကျူးလွန်ဘဲ သာသနာတော်တွင် အများနည်းတူ ရပ်တည်နေသော ရဟန်း ဖြစ်ပေသည်။

ထိုမှ ဆက်လက်၍ အရှင်ဥပါလိက မေးလျှောက်သဖြင့် သံဃာသင်းကွဲစေကြောင်း အမှု တစ်ဆယ့်ရှစ်မျိုးကို ဘုရားရှင် ဟောကြားတော်မူခဲ့၏။

ထိုအထဲမှ လိုရင်းကား ဓမ္မနှင့် အဓမ္မ၊ ဝိနယနှင့် အဝိနယတို့ ဖြစ်ကြ၏။

တရားမဟုတ်သည်ကို တရားဟုတ်သည်ဟု ငြင်းခုံခြင်း၊ တရားဟုတ်သည်ကို တရားမဟုတ်ဟု ငြင်းခုံခြင်း။

ဝိနည်းမဟုတ်သည်ကို ဝိနည်းဟုတ်သည်ဟု ငြင်းခုံခြင်း၊ ဝိနည်းဟုတ်သည်ကို ဝိနည်းမဟုတ်ဟု ငြင်းခုံခြင်း။

ဤအခြေခံများကမှတစ်ဆင့် အသေးစိတ်ကာ ငြင်းခုံမှုများဖြင့် သံဃာသင်းကွဲစေကြောင်း အမှုတစ်ဆယ့်ရှစ်မျိုးထိ ရှိလာပေသည်။

**(စူဠဝဂ် ပါဠိတော်၊ သံဃာဘေဒကက္ခန္ဓက၊ ဥပါလိပဉ္စကထာ)**

ဤသို့အားဖြင့် ရာဇဂြိုဟ်မှာ ပေါ်ပေါက်လာခဲ့သော အမှုကြီးသည် ရာဇဂြိုဟ်မှာပင် လက်စသတ် ချုပ်ငြိမ်းသွားခဲ့၏။ ထိုအမှုကြီးနှင့်ပတ်သက်၍ သိသင့်သိထိုက်သော အချက်များကိုလည်း ဝိနည်းဆောင် သာဝကကြီးမှတစ်ဆင့် ပြည့်ပြည့်စုံစုံ ဟောပြတော်မူခဲ့၏။ ဤသို့ ကိစ္စအဝဝ ပြီးပြည့်စုံခါမှ ရာဇဂြိုဟ်မှသည် သာဝတ္ထိမြို့တော်သို့ ဘုရားရှင် ကြွချီတော်မူပေသည်။ သည်တော့မှ ဘုရားရှင်၏ ရည်ရွယ်ချက်ကို ကျွန်ုပ် တအံ့တသြနှင့် သဘောပေါက်လာပါတော့သည်။

ဒေဝဒတ် လက်ချက်ဖြင့် ပြဿနာရှုပ်လာသော ရာဇဂြိုဟ်မြို့တော်မှ ထွက်ခွာသွားရန် စိတ်စောမိခဲ့ကြောင်း စောစောက ကျွန်ုပ် တင်ပြခဲ့ပြီးပါပြီ။ ဘုရားရှင်၏ စိတ်သဘောကလည်း အရှုပ်အထွေးနှင့် ကင်းဝေးရာမှာ မွေ့လျော် တတ်ပေသည်။ သို့သော် ဤအရှုပ်အထွေးမှာ ရှောင်ခွာသွားရုံနှင့် ရှင်းလင်းသွားမည် မဟုတ်ပါ။ ရာဇဂြိုဟ်မှာ မရှုပ်ခဲ့လျှင် သာဝတ္ထိသို့ လိုက်၍ ရှုပ်ဦးမည်သာ ဖြစ်၏။ ဒေဝဒတ် သိမ်းသွင်းထားပြီးသော ဒါယကာ၊ ဒါယိကာမများသည် အမြို့မြို့ အနယ်နယ်မှာ ရှိနေကြ၏။ ကျွန်ုပ်တို့ သကျမျိုးနွယ်ထဲမှာပင် သူ့ဘက်သားများ ရှိခဲ့ကြောင်း ကျွန်ုပ် တင်ပြခဲ့ပါပြီ။

ထို့ကြောင့် ရာဇဂြိုဟ်မှာ ပေါ်ပေါက်လာသော ပြဿနာကို ရာဇဂြိုဟ်မှာပင် ဖြေရှင်းတော်မူခဲ့၏။ မင်းကေရာဇ်၏ အာဏာစက်အားကိုးဖြင့် တစ်မျိုးပြီးတစ်မျိုး တိုး၍ ကြံစည်လေသမျှကို ကြံ့ကြံ့ခံတော်မူခဲ့၏။ အကြမ်းဖက်လာသော ရန်အပေါင်းကို အကြမ်းမဖက်သော သီလဂုဏ်၊ သမာဓိဂုဏ်၊ ပညာဂုဏ်တို့ဖြင့်အောင်မြင်တော်မူခဲ့၏။ ဤပြဿနာများ ရှင်းလင်းပြီးချိန်တွင် နောက်နောင် ဤသို့သော ပြဿနာမျိုး ပေါ်ပေါက်လာပါက မိမိကိုယ်စား ကိုင်တွယ် ဖြေရှင်းနိုင်ရန် ဝိနည်းပညတ်တော်များကို ဝိနည်းဆောင် မဟာသာဝကကြီးအား ပြည့်ပြည့်စုံစုံ ဟောပြတော်မူခဲ့၏။ ဤသို့ အပြည့်အစုံဆောင်ရွက်ပြီးခါမှ ရာဇဂြိုဟ်မှသည် သာဝတ္ထိမြို့တော်သို့ ကြွချီတော်မူပါတော့သည်။

ဇေတဝန် ကျောင်းတော်သို့ ပြန်ရောက်လာ၍ မကြာမီပင် ဂယာသီသမှ သတင်းတစ်ခု ရောက်လာခဲ့၏။ အရှင်မဟာသာရိပုတ္တရာတို့ ပြန်ကြွလာသည့် နံနက်ခင်းမှာပင် ဒေဝဒတ်သည် သွေးပွက်ပွက်အန်သော ဝေဒနာကို ခံစားရသည် ဟူပါ၏။

တစ်ဆင့်စကား ကြားရသည်ပင် ဖြစ်သော်လည်း ဤသတင်းကို ကျွန်ုပ် ယုံကြည်နိုင်ပါသည်။ ယမန်နေ့က သည်ကျောင်းတိုက်တာကြီးမှာ တပည့် ပရိသတ်ကြီးဖြင့် သိုက်သိုက်ဝန်းဝန်းနှင့် နေခဲ့ရသေး၏။ ယနေ့နံနက်မှာတော့ အရင်းအချာသုံးပါးကလွဲ၍ အားလုံးကုန် ပြန်ပါသွားကြပေပြီ။ ကျယ်ဝန်းလှသော ခမ်းနားလှသော ကျောင်းတိုက်တာကြီးမှာ ဟာလာဟင်းလင်း ဖြစ်နေရစ်သော မြင်ကွင်းက သူ့ရင်ဝသို့ အရှိန်နှင့် ဝင်ဆောင့်ပါလိမ့်မည်။ တားမနိုင် ဆီးမရ စိတ်သောကဒဏ်ကြောင့် နှလုံးသွေး ပွက်ပွက်ဆူကာ အန်ကျလာခြင်း ဖြစ်ပါလိမ့်မည်။

ထိုသတင်း ထွက်ပေါ်လာပြီးနောက် မကြာမီ အခြားသတင်းတစ်ခု ရောက်လာပြန်ပါ၏။ မာနကို တံခွန်ထူ၍ ငါကြံလျှင် ခံနိုင်မည်လောဟု ကြုံးဝါးခဲ့သော ဒေဝဒတ်သည် ယခု ပုစွန်ခြေကျိုးဘဝ ရောက်ခါမှ နောင်တကြီးစွာ

ရနေသည် ဟူပါ၏။ မိုက်မှားမိခဲ့လေသမျှ အမှုများအတွက် ခြေတော်ရင်းသို့ ဝပ်စင်း၍ တောင်းပန်လိုနေသည်ဟုလည်း ဆိုပါသည်။

မိမိအပြစ်ကို အပြစ်မှန်းသိ၍ ဝန်ခံတောင်းပန်ပါလျှင် သာသနာတော်ကြီး၏ အစဉ်အလာအရ လက်ခံခွင့်ပြုမည်သာ ဖြစ်ပါ၏။ သို့သော် ဒေဝဒတ်လိုပုဂ္ဂိုလ်မျိုးကိုကား ဘုရားရှေ့တော်မှောက်သို့ မရောက်စေလိုတော့ပါ။ သူ့အပေါ် အမျက်အာဃာတ မထားသော်လည်း သူနှင့်တော့ မျက်နှာချင်း မဆိုင်လိုတော့ပါ။ သူ့မျက်နှာကို မြင်ရပြန်လျှင် ယခင်က ဝေဒနာဟောင်းများ ပြန်၍ ခံစားနေရမည်စိုးသောကြောင့် ဖြစ်ပါသည်။

သို့သော် ဒေဝဒတ်ကား ကျွန်ုပ်၏ စိတ်ဆန္ဒကို မလိုက်လျောပါချေ။ ယခင်တုန်းကလည်း ကျွန်ုပ် မပြုစေချင်သောအမှုများကို ပြုမိအောင်ပြုခဲ့၏။ ယခုလည်း ကျွန်ုပ် မလာစေချင်သည့်ကြားက လာဖြစ်အောင် လာခဲ့ပြန်ပါပြီ။ ဂယာသီသမှ ဤကျောင်းတော်သို့ ခရီးရှည်ထွက်လာရာတွင် သူ ခြေလျင် မလာနိုင်တော့ပါ။ ရဟန်းလေးပါးက ညောင်စောင်းငယ်ဖြင့် ထမ်းလာကြရသည် ဆိုပါ၏။ ဝန်လေးကြီးကို ထမ်းလာကြရသဖြင့် သူတို့သည် နားနားနေနေ လာခဲ့ကြ၏။ သို့သော် သူတို့ မရောက်လာခင်ကပင် သူတို့သတင်းက ကျောင်းတော်သို့ ရောက်နှင့်နေပါပြီ။ ရောက်လာသော သတင်းကို ကျွန်ုပ်က ရွှေနားတော်ကြား လျှောက်ထားရပြန်ပါသည်။ ဤတွင် ဘုရားရှင်က

"အာနန္ဒာ၊ ဒေဝဒတ်သည် ငါဘုရားကို ဖူးရမည် မဟုတ်တော့ပေ" ဟု မိန့်တော်မူပါ၏။

ဘုရားရှင်ကတော့ ရှေ့အလားအလာကို ကြိုတင် မြင်ပြီးဖြစ်၍ မိန့်ကြားခြင်း ဖြစ်ပါလိမ့်မည်။ သို့သော် တစ်စထက် တစ်စ နီးကပ်လာသော ဒေဝဒတ်၏ သတင်းများကြောင့် ရဟန်းငယ်များ လှုပ်လှုပ်ရှားရှား ဖြစ်နေကြရ၏။ တချို့က ဇေတဝန် ကျောင်းတော်ဝမှ လှမ်းမျှော်၍ ကြည့်နေကြ၏။ ကြည့်ရာမှ ရရှိသော သတင်းကို ကျွန်ုပ်ထံ ပို့လာကြပြန်၏။

ကျွန်ုပ် မလာစေချင်သော ဒေဝဒတ်သည် ယခုတော့ ဇေတဝန်ကျောင်းတော်ဝသို့ ရောက်လာချေပြီကော။ ခရီးရှည်ကြီး တစ်လျှောက်လုံး ထမ်းလာကြရသူများသည် ကျောင်းတော်ဝက ရေကန်နားတွင် ညောင်စောင်းကို ချထားကြသည်ဟု ဆိုပါ၏။ ထိုသတင်း ရောက်လာပြီးသည်နှင့်တစ်ပြိုင်နက် ကျောင်းတော်ဝရှိ ရဟန်းများထံမှ 'ဟယ်' ခနဲ အသံကြီးကို ကြားလိုက်ရပါတော့သည်။ အမှုလွန်ပြီးခါမှ ရလာသော နောင်တသည် ထိုနေရာမှာပင် နိဂုံးချုပ်၍ သွားပါတော့သည်။

မဟာပထဝီမြေကြီးက ဝါးမျိုလိုက်သဖြင့် ဒေဝဒတ်၏ ကိုယ်ခန္ဓာသည် ပျောက်ကွယ်သွားပါ၏။ သို့သော် သူ၏ ပြစ်မှုများကိုကား မဟာပထဝီ မြေကြီးက ဝါးမျိုနိုင်စွမ်း မရှိပါချေ။ ဒေဝဒတ်၏ ကိုယ်ခန္ဓာ ပျောက်ကွယ်သွားပြီးသည့် နောက်မှာပင် သူ့အပုပ်နံ့များကတော့ တထောင်းထောင်း ထွက်နေကြဆဲသာ ဖြစ်ပေသည်။

ဤကမ္ဘာမြေဝယ် ဗုဒ္ဓမြတ်စွာ၏ ဂုဏ်သတင်းများ မွှေးပျံ့နေသည်နှင့်အမျှ တစ်ဖက်ကလည်း သူ၏အပုပ်နံ့များက ဆက်လက်၍ နံစော်နေဦးမည် ဖြစ်ပေသည်။

**(ဒွါဒသနိပါတ်ဇာတ် အဋ္ဌကထာ၊ သမုဒ္ဒဝါဏိဇဇာတ်၏ ပစ္စုပ္ပန်ဝတ္ထု)**

ကျွန်ုပ်၏ ပရိသတ်များ အောင့်အည်း သည်းခံ၍ ကြားနာလာခဲ့ရသော ဇာတ်ကြမ်းကြီးသည် ဤတွင် ပြီးဆုံးသွားပါပြီ။ ဤဇာတ်ကြမ်းကြီးမှာ ပါဝင်ခဲ့ရစဉ်က ကျွန်ုပ် စိတ်နှလုံး တုန်လှုပ်ခဲ့ရသည် မှန်ပါ၏။ သို့သော် ယခုအခါ၌ကား ဒေဝဒတ် အပေါ်မှာ မုန်းစိတ်လည်း မရှိတော့ပါ။ ချစ်စိတ်လည်း မရှိတော့ပါ။ မုန်းစိတ် မရှိတော့သဖြင့် ဒေဝဒတ်၏ ပြစ်မှုများကို ပုံကြီးချဲ့ရန် မလိုပါ။ ချစ်စိတ် မရှိတော့သဖြင့် သူ့ပြစ်မှုများကို ဖုံးဖိကာကွယ် ပေးနေရန် မလိုပါ။ အမှန်ကိုဆိုရလျှင် ယခု တင်ပြနေသည့် အကြောင်းခြင်းရာများမှာ သွားလေသူ ဒေဝဒတ်နှင့် ဘာမျှ မဆိုင်တော့ပါ။ ကြားနာကြသော ပရိသတ်များ သတိသံဝေဂပွားကြရန်နှင့် နောင်လာ နောက်သားတို့ သင်ခန်းစာယူကြရန် တင်ပြခြင်းသာ ဖြစ်ပါသည်။

ဒေဝဒတ်၏ အတ္တုပ္ပတ္တိကို ပြန်လည် သုံးသပ်ကြည့်လျှင် သူသည် အစ ကောင်းခဲ့သူ ဖြစ်၏။ ကျွန်ုပ်တို့နှင့် အတူ သာသနာ့ဘောင် ဝင်ရောက်စဉ်က စေတနာ သဒ္ဓါသန့်သန့်နှင့်သာ ဖြစ်၏။ ရဟန်းပြု၍ မကြာမီမှာပင် သူတကာတွေ ရနိုင်ခဲသော ဈာန်အဘိညာဉ်တန်ခိုးများ ရရှိခဲ့၏။ ဤမျှ လောက် အစကောင်းခဲ့သည့် ဒေဝဒတ်ခမျာ အနှောင်းကား မသေချာခဲ့ပေ။

ဤသို့ မရှုမလှ ဖြစ်ရခြင်းများ၏ အကြောင်းများကို စိစစ်ကြည့်လိုက် သောအခါ အကြောင်းသုံးမျိုးကို တွေ့ရပေသည်။

၁။ လာဘ်လာဘနှင့် တန်ခိုးအာဏာကို မက်မောခြင်း၊

၂။ သူတော်မဟုတ် သူယုတ်မာများနှင့် ပေါင်းသင်းမိခြင်း၊

၃။ အနည်းငယ်မျှသော လောကီဈာန် အဘိညာဉ် တရားထူးကို ရကာမျှ နှင့် အားရကျေနပ်ကာ လမ်းခုလတ်မှာ လမ်းဆုံးနေခြင်းတို့ဖြစ်ကြ၏။

လောကုတ္တရာဉာဏ် အမြင်မှန်ရရေးအတွက် အခြေခံထားရမည့် ဈာန် အဘိညာဉ်ကို သူကတော့ လာဘ်လာဘ ပေါများရေး၊ တန်ခိုးအာဏာ ရရှိရေး အတွက်သာ အသုံးချခဲ့သဖြင့် ဤဈာန်တရား ကွယ်ပျောက်ခဲ့၏။

ကောကာလိက၊ ကဋမောဒကတိဿ စသော ရဟန်းဆိုးများနှင့် ပေါင်းသင်းမိခြင်းကလည်း သူ့ဘဝခရီးကို တစ်ဆစ်ချိုးပြောင်းသွားစေ၏။ ဤတွင် ဒေဝဒတ်နှင့် ပေါင်းမိသဖြင့် ကိုယ်ကျိုးနည်းရသော အဇာတသတ်ကိုလည်း သတိပြုကြရမည် ဖြစ်၏။

နောက်ဆုံး အချက်ကား အရေးကြီးဆုံး ဖြစ်ပါ၏။ ဈာန်သမာပတ် ဖြစ်စေ၊ ဝိပဿနာဉာဏ် ဖြစ်စေ လောကုတ္တရာစခန်း၏ ပန်းတိုင်ထိ ဆိုက်ရောက်ပါမှ စိတ်ချရ၏။ စခန်းဆုံးအထိ မရောက်ခဲ့ပါက ဒေဝဒတ်ကဲ့သို့ ကိုယ်ကျိုးကြီးမနည်းစေကာမူ သာသနာတော်ကြီးနှင့် ကြုံလာသည့်အခိုက် ရသင့်ရထိုက်သော အခွင့်အရေးကြီးကို လက်လွှတ် ဆုံးရှုံးသွားကြမည် ဖြစ်ပေသည်။

ဤကား ဒေဝဒတ်က ပေးအပ်ခဲ့သော သင်ခန်းစာကြီး ဖြစ်ပါ၏။

**(ဣတိဝုတ်ပါဠိတော် တိကနိပါတ်၊ စတုတ္ထဝဂ်၊ ဒေဝဒတ္တသုတ်)**

❋❋

# သာသနာ့ ဒါယကာ

ကြီးလေးလှသော ကံကြီးများကို လက်တွဲ၍ ကျူးလွန်ခဲ့ကြသော ဆရာတပည့် နှစ်ဦးသားတို့အနက် ဆရာဖြစ်သူမှာ သူ့အပြစ်နှင့်သူ ထိုက်တန်သောဒဏ်ကို ခံသွားရပြီ ဖြစ်၏။ အသက်ရှင်၍ ကျန်ရစ်ခဲ့သော တပည့်ဖြစ်သူမှာလည်း မသက်သာပါ။ ရွှေဘုံရွှေနန်းမှာ စံစားနေရပါလျက် နေ့စဉ်ရက်ဆက် စိတ်မချမ်းမသာ ဖြစ်နေရသည်ဟု ဆရာဇီဝက က လျှောက်ထားပါ၏။

နန်းတွင်းလုပ်ကြံမှုကြီး ပေါ်လာစဉ်က ရာထူးတက်သူများထဲတွင် ဆရာဇီဝကလည်း ပါဝင်ခဲ့ပါ၏။ ဆေးကုသပေးသော သမားတော်ကြီး တာဝန်အပြင် တိုင်းပြည်ရေးရာ စီမံခန့်ခွဲနိုင်သော အမတ်ကြီးအဆင့်သို့ ရောက်ခဲ့၏။ သို့သော် အမတ်ကြီးဇီဝကသည် နန်းတွင်းရေး ရှုပ်ထွေးနေစဉ်တုန်းက ခပ်လှိုလှို နေခဲ့ရ၏။ ပြည့်ရှင်မင်းကိုယ်တိုင်က သူ့ဆရာ၏ ဩဇာရိပ်အောက်ရောက်နေသဖြင့် ဘုရားရှင်၏ အရိယာသာဝက ဆရာဇီဝကမှာ ဘေးမသီ ရန်မခအောင် တော်တော်ကြီး သတိထားနေခဲ့ရ၏။ ဘုရားရှင်အား မကောင်းကြံခဲ့သောအမှုများကို ရိပ်မိသော်လည်း မည်သို့မျှ မတတ်နိုင်သဖြင့် အသာ နှုတ်ပိတ်နေခဲ့ရ၏။ ဒီရေကို တွန်းလှန်၍ မရနိုင်သည့် အခြေအနေတွင် ဒီရေနှင့် လွတ်ရာမှာ နေခဲ့ရ၏။ သူ အားကိုးထားသည်မှာကား "ဘုရားရှင်အား သူတစ်ပါး လုပ်ကြံသတ်ဖြတ်၍ မရနိုင်" ဟူသော မိန့်ကြားချက် ဖြစ်၏။

ဆရာဇီဝက၏ စိတ်သဘောကို ရိပ်မိသဖြင့် အဇာတသတ်မင်းကလည်း လုပ်ကြံမှုများတွင် ပါဝင်လာရအောင် ဖိအားမပေးခဲ့ပါ။ အခြားအခြားသော တိုင်းရေးပြည်ရာ ကိစ္စမှာသာ တာဝန်ပေးထား၏။ ပေးထားသောတာဝန်များကို ဆရာဇီဝကက ကျေပွန်အောင် ဆောင်ရွက်ခဲ့၏။ ဤသို့ဆောင်ရွက်ခဲ့သဖြင့် ယခုတော့ အဇာတသတ်မင်း၏ ယုံမှတ် ကိုးစားခြင်းခံရသော အမတ်ကြီးတစ်ဦး ဖြစ်နေပါပြီ။

မဂဓတိုင်းမှာ ထီးနန်းစိုက်ထားသဖြင့် အဇာတသတ် မင်းကို "မဂဓ၏ အရှင်" ဟု ကျွန်ုပ်တို့ အထူးပြု သုံးနှုန်းကြရ၏။ သို့သော် သူ၏ပိုင်နက်မှာ မဂဓတိုင်းသာ မဟုတ်သေးပါ။ အင်္ဂတိုင်းလည်း ပါဝင်ပေသည်။ မာဂဓတိုင်းသည် အနောက်မြောက် ပိုင်းမှာ ရှိ၍၊ အင်္ဂတိုင်းမှာ အရှေ့တောင်ဘက်မှာ ရှိ၏။ တစ်ဆက်တည်း ရှိနေသော ဤတိုင်းကြီး နှစ်တိုင်းသည် နယ်မြေကျယ်ဝန်းသည်နှင့်အမျှ စီးပွားရေး လည်း ဖြစ်ထွန်း၏။ ထို့ကြောင့် ရာဇဂြိုဟ်နန်းတော်ကြီးအတွက် အခွန် ဘဏ္ဍာတော် အလျှံပယ် ရရှိလာခဲ့၏။ ဂဏအုပ်ချုပ်ရေး နိုင်ငံများကဲ့သို့ အလှည့်ကျ အုပ်ချုပ်ရသည် မဟုတ်ဘဲ ရာသက်ပန် ဧကရာဇ်အဖြစ် အုပ်စိုးရ၏။ ဤသို့ လူ့ဘောင်လောကတွင် အထွတ်အထိပ်ဆုံး နေရာသို့ ရောက်ရှိစံမြန်းနေရပါသော်လည်း အဇာတသတ်မင်းမှာ စိတ်နှလုံး ချမ်းမြေ့ခြင်း မရှိပါ။ ကျူးလွန်ထားမိသောအမှုကြီးက သူ့ကို အမြဲတစေ ခြောက်လှန့်၍ နေပေသည်။

နေ့ခင်းဘက်တွင် တိုင်းရေး၊ ပြည်ရေး၊ နန်းတွင်းရေးရာကိစ္စများ စီမံခန့်ခွဲ နေရသဖြင့် တော်ပါသေး၏။ ညအိပ်ရာ ဝင်လျှင်ကား သူ့အတွက် ငရဲခန်းဖြစ်လာ တော့၏။ သွေးနှင့် သားနှင့် တည်ဆောက်ထားသဖြင့် သူ့ ကိုယ်ခန္ဓာသည် အချိန်တန်လျှင် အိပ်ချင်လာ၏။ အိပ်ချင်လာ၍ အိပ်လိုက်ရလျှင် အခြားသူများမှာ ကိုယ်ရောစိတ်ပါ ပေါ့ပါးလာ၏။ အားခွန်ဗလ ပြည့်ဝလာ၏။ သို့သော် သူ့ အတွက်ကား ဤသို့ မဟုတ်ပါ။ အိပ်ချင်စိတ်ကို မထိန်းနိုင်၍ မှေးလိုက်မိသည်နှင့် တစ်ပြိုင်နက် သူ့ကိုယ်ပေါ်သို့ လှံအစင်းပေါင်းတစ်ရာ အထိုးခံလိုက်ရသကဲ့သို့ ခံစားလိုက်ရ၏။ တစ်ခဏ မှေးလိုက်ရသည်နှင့် မကာမိအောင် ခံစားချက်က ပြင်းထန်လှ၏။ ထိတ်လန့်တကြား အော်ဟစ်သံကြား၍ မိဖုရားက မေးသောအခါ သူ့မှာ အဖြေရခက်နေ၏။ မကောင်းမှု၏ အကျိုးတရားများကို မသေခင် အရှင်လတ်လတ် ခံစားနေရသည်ကို မိမိမှတစ်ပါး တခြားသူ မသိစေချင်။ မိမိ ဂုဏ်သိက္ခာ ထိခိုက်မည့်ကိစ္စကို မည်သူနှင့်မျှ စကားစပ်၍ မပြောချင်။ သို့သော် ခံစားရဖန် များလာတော့လည်း သူ မမျိုသိပ်နိုင်တော့ပါ။ လက်ရင်း လှူယုံတော် ဇီဝကကို ပြောပြရပေတော့သည်။

သည်ဝေဒနာကို ကုသနိုင်သည်မှာ ဗုဒ္ဓမြတ်စွာ တစ်ပါးတည်းသာ ရှိ၏။ သို့သော် သည်အချိန်တုန်းက အဇာတသတ်မင်းသည် ဒေဝဒတ်၏ ဩဇာအောက်သို့ လုံးလုံးရောက်နေ၏။ သို့ဖြစ်၍ အဖြစ်မှန်ကို လျှောက်မိလျှင် မင်းမျက်လွတ်မည် မဟုတ်သဖြင့် အခြားသင့်လျော်ရာ စကားများဖြင့်သာ အဆုံးသတ်လာခဲ့ရ၏။ ရာဇဂြိုဟ်မြို့တော်သို့ ဘုရားရှင် တစ်ဖန် ပြန်ကြွလာမည့်နေ့ကိုသာ စောင့်မျှော်နေ ခဲ့သည်ဟု ဆိုပါ၏။

ယခုတော့ သူ့ မျှော်လင့်ချက် ပြည့်ဝသွားပါပြီ။ ဇေတဝန်ကျောင်းတော်မှာ သီတင်းဝါလ ကျွတ်ခဲ့ပြီဖြစ်၍ ဖြည်းဖြည်းသက်သာ လှမ်းလာခဲ့ကြရာ တန်ဆောင်မုန်းလပြည့်နေ့တွင် ရာဇဂြိုဟ်သို့ ကျွန်ုပ်တို့ ပြန်ရောက်လာကြပါသည်။ သည်တစ်ခါတော့ ဆရာဇီဝက၏ လျှောက်ထားချက်အရ ဆရာဇီဝက၏ သရက်တောကျောင်းမှာ ဘုရားရှင် သီတင်းသုံးတော်မူပေသည်။ နောက်ပါ ရဟန်းပေါင်း တစ်ထောင့်နှစ်ရာငါးဆယ် လိုက်ပါလာကြပေသည်။

ထိုညက လပြည့်ဝန်းကြီး ထိန်ထိန်သာလျက် ရှိ၏။ ဆီးနှင်း၊ မြူ၊ တိမ်၊ သူရိန်၊ မိုးခိုးဟူသော အညစ်အကြေး ငါးမျိုးလုံး ကင်းစင်နေသဖြင့် ထက်ကောင်းကင်တစ်ခွင်လုံး ကြည်လင်တောက်ပနေ၏။ ကောင်းကင်မှ အလင်းရောင်သည် သရက်ဥယျာဉ်တစ်ခုလုံးသို့ ထင်ဟပ်နေ၏။ မွေ့လျော်ဖွယ်သော တင့်တင့်တယ်တယ် ရှုချင့်စဖွယ်ဖြစ်သော ညတစ်ညပါပေတည်း။ ရက်စွဲနှင့်တကွ အမှတ်တရ ထားရှိသင့်သော ညတစ်ညပါပေတည်း။

မွေ့လျော်ဖွယ်ကောင်းသောထိုညတွင် တင့်တင့်တယ်တယ် ရှုချင်စဖွယ်ကောင်းသော ထိုဥယျာဉ်တွင် တစ်သက်တာ မှတ်သားထိုက်သော ဒေသနာတော်ကြီးတစ်ပုဒ်ကို ကျွန်ုပ်တို့ ကြားနာကြရ၏။ ဒေသနာတော်၏ အဓိက ဦးတည်ရာကား အဇာတသတ်မင်း ဖြစ်ပေသည်။

ထိန်ထိန်သာသော လရောင်အောက်တွင် အဇာတသတ်မင်းသည် ဆင်မယဉ်သာ ငါးရာဖြင့် ညင်သာတိတ်ဆိတ်စွာ ရောက်လာခဲ့၏။ မင်းခမ်းမင်းနားသုံး တူရိယာတို့သည် မည်သို့မျှ အသံမထွက်ဘဲ သည်အတိုင်း ပါလာကြ၏။ ဆင်မယဉ်သာ တစ်စီးတစ်စီးထက်တွင် ယောကျ်ားအသွင် ဝတ်ဆင်ထားသော နန်းတွင်းသူ တစ်ယောက်စီ လိုက်ပါလာခဲ့၏။ ထိန်ထိန်ညီးအောင် ထွန်းညှိလာခဲ့သော မီးရှူးတိုင်များကို အဝေးမှပင် လှမ်းမြင်နေရ၏။ မင်းမှုရေးရာ ကျွမ်းကျင်လှသော ဆရာဇီဝက၏ အစီအမံဖြင့် မင်းခမ်းမင်းနား အကြီးအကျယ် ခင်းကျင်း၍ လာခဲ့ဟန်တူပါသည်။

သရက်တောကျောင်းထဲသို့ မဝင်မီတွင် အဇာတသတ်မင်းသည် ဆင်တော်မှ ဆင်းသက်ခဲ့၏။ ကျောင်းမြေထဲသို့ ခြေကျင် လျှောက်လာခဲ့၏။ သို့သော် ဘုရားရှင်ရှိရာသို့ တန်းတန်းမတ်မတ်ကား မဝင်လာရဲပါ။ ဘုရားရှင်၏ ကျောင်းဒါယကာ ခမည်းတော်ကြီးကို သတ်ထားမိသော အဖြစ်ဆိုးကြောင့် ဟိုဟိုသည်သည် လျှောက်သွားနေရ၏။ ကျောင်းဒါယကာ ဇီဝကကို လက်ဆွဲကာ ကျောင်းအဆောက်အအုံများကို ချီးမွမ်းသလိုလိုနှင့် သံဃာအားလုံး စုဝေးရာ ဓမ္မာရုံသို့ လျှောက်လာခဲ့၏။ ထိုအချိန်၌ မြတ်စွာဘုရားသည် အလယ်တည့်တည့်ရှိ တိုင်ကို မှီလျက် အရှေ့အရပ်သို့ မျက်နှာမူကာ ထိုင်တော်မူလျက်ရှိပေသည်။

ဤကျောင်းတိုက်တွင် သံဃာ တစ်ထောင့်နှစ်ရာငါးဆယ် ရှိသည်ဟုသာ ဆိုရ၏။ ရဟန်းတို့၏ အသံဗလံဟူ၍ လုံးဝ မထွက်လာပေ။ နှာချေသံ၊ ခြေဆစ် လက်ဆစ် ချိုးသံမျှပင်လျှင် မကြားရပေ။ လရောင်နှင့် အပြိုင်အဆိုင် ဆီမီးမြိုင်မြိုင် ထွန်းထားသဖြင့်သာ ရဟန်းအားလုံး ညီညာဖြိုဖြို စည်းဝေးနေကြကြောင်း တွေ့မြင် နေရ၏။

ကျွန်ုပ်သည် ဘုရားရှင်၏ လက်ယာနံပါး၌ ငြိမ်သက်စွာ ထိုင်လျက် အဇာတသတ်မင်းနှင့် ဆရာ ဇီဝကတို့ကို အကဲခတ်နေ၏။ မဝံ့မရဲ လှမ်းလာသော အဇာတသတ်မင်းနှင့် အတူ ဆရာဇီဝကသည် ခပ်မဆိတ် လျှောက်လာခဲ့၏။ ကျောင်းတော်ဝတွင် ဆင်တော်ပေါ်က ဆင်းသည်မှစ၍ ကျွန်ုပ် လှမ်းမြင်နေရ၏။

အဇာတသတ်မင်းသည် ငယ်ရွယ်စဉ်က ခမည်းတော်ကြီးနှင့် အတူ ဝေဠုဝန် ကျောင်းတော်သို့ အကြိမ်များစွာ လိုက်ပါခဲ့ဖူးသဖြင့် ဘုရားရှင်ကို ကောင်းကောင်း သိကျွမ်းထား၏။ သို့သော် သူသည် အိမ်ရှေ့မင်းသား ဘဝတွင် ကျောင်းတော်နှင့် လမ်းစပြတ်သွား၏။ ဒေဝဒတ်ဘက်သို့ လိုက် ပါကာ သူ့ဆရာ၏ မကောင်းမှုများကို အထောက်အကူ ပြုမိခဲ့၏။ ထို့ ကြောင့် ဘုရားရှင်ရှိရာ လှမ်းလာရာတွင် သူစိမ်းပြင်ပြင်ကဲ့သို့ ဖြစ်နေပေသည်။

ဘုရားရှင်နှင့် အနေစိမ်းခဲ့သဖြင့် အဇာတသတ်မင်းသည် ရှေ့တော်မှောက် မှာ ထိုင်မိပါသော်လည်း စကားတစ်ခွန်းမျှ မလျှောက်ရဲသေးပေ။ ရှိခိုးဦးတင် မလုပ်မိသေးပေ။ ဝဲ ယာ ဝန်းကျင်မှာ အစီအရီ ထိုင်နေကြသော ရဟန်းများကိုသာ လှည့်လည် ကြည့်ရှုနေရာမှ

“ယခုအခါ ရဟန်းတော်များ ငြိမ်သက်စွာ နေတော်မူကြသကဲ့သို့ သားတော် လေး ဥဒယဘဒ္ဒသည်လည်း ငြိမ်သက်စွာ နေနိုင်ပါစေသတည်း”

အဇာတသတ်မင်းက ထုတ်ဖော်ကျူးရင့်လိုက်၏။ ငြိမ်သက်စွာ ထိုင်နေ ကြသော ရဟန်းများကို မြင်လိုက်ရ၍ သူ့စိတ်ထဲမှာ ကြည်နူးသွား၍ ဖြစ်ပါလိမ့်မည်။ ကြည်နူးရာမှ သူ ချစ်လှသော သားကလေး ဥဒယဘဒ္ဒကို ပြေးပြီး သတိရလိုက်ခြင်း ဖြစ်ပါလိမ့်မည်။ ထူးကဲမွန်မြတ်သော မြင်ကွင်းကို မြင်လိုက်ရလျှင် မိမိချစ်ခင်သူကို တမ်းတစမြဲ မဟုတ်ပါလော။

“မင်းကြီး၊ မိုးများသည် မြင့်ရာမှာ ရွာသော်လည်း နိမ့်ရာသို့ စီးဆင်းကြ သကဲ့သို့ သင်မင်းကြီး၏ စိတ်သည်လည်း ရဟန်းများကို ကြည့်ရာမှ ချစ်ခင်သူထံ ရောက်သွားပါသလော”

စကားအစရ ခက်နေသော အဇာတသတ်မင်းအား ဘုရားရှင်က နှုတ်ခွန်းတော် သလိုက်ပေပြီ။ မိမိထံသို့ တိုက်ရိုက်အားဖြင့် လျှောက်ထားရဲလာအောင် လမ်းခင်း

ပေးတော်မူလိုက်ခြင်း ဖြစ်ပေသည်။ ဤသို့ လမ်းခင်းပေးလိုက်ခြင်းကြောင့်ပင် အဇာတသတ်မင်း၏ မျက်နှာ ရွှင်ပျလာကာ

"မှန်ပါသည် အရှင်ဘုရား၊ သားကလေး ဥဒယဘဒ္ဒကို တပည့်တော် အင်မတန် ချစ်လှပါသည်၊ ငြိမ်သက်စွာ ထိုင်နေတော်မူကြသော ရဟန်းတော်များကို ဖူးမြင်ရာမှ တပည့်တော်၏ စိတ်က သားကလေးထံ ရောက်သွားပါသည်။ ဤရဟန်းများ ငြိမ်သက်စွာ နေတော်မူသကဲ့သို့ သားကလေး ဥဒယဘဒ္ဒသည်လည်း ငြိမ်သက်စွာ နေနိုင်စေချင်ပါသည် ဘုရား"

စကားတစ်ခု ရလာပြီမို့ ဝမ်းသာအားရ လျှောက်ထားလိုက်၏။ စကားဝါကျ ပြည့်စုံအောင် လျှောက်ထားရာတွင် ဘုရားရှင်နှင့် ရင်းနှီးခင်မင်သော လေသံများ ပါလာခဲ့ပေပြီ။ ဟိုယခင် ငယ်ရွယ်စဉ်က စိတ်ဓာတ်များ ပြန်လည် နိုးကြားလာ၍ ဖြစ်ပါလိမ့်မည်။ မိမိက အမျိုးမျိုးအဖုံဖုံ ပြစ်မှားမိခဲ့ပါလျက် ဘုရားရှင်ဘက်က မေတ္တာမပျက်ပုံကို သိရှိလာ၍လည်း ဖြစ်ပါလိမ့်မည်။

မပျက်သော မေတ္တာအဟုန်မှာ ခိုလှုံခွင့်ရခါမှ အဇာတသတ်မင်းသည် ဘုရားရှင်ကို ရှိခိုးဝပ်ချပါတော့သည်။ ဤသို့ အရိုအသေပြုပြီးမှ

"အရှင်ဘုရား၊ ဘုရားရှင်က ခွင့်ပြုတော်မူပါလျှင် တပည့်တော် မေးလျှောက်ရန် ရှိပါသည်ဘုရား"

"မေးလော့ မင်းကြီး၊ အလိုရှိရာကို မေးပါလော့"

အဇာတသတ်မင်းက မေးခွင့်တောင်းသည်ကို ဘုရားရှင်က ခွင့်ပြုတော်မူလိုက်ရာ

"အရှင်ဘုရား ဆင်စီးခြင်း၊ မြင်းစီးခြင်း စသော စစ်မှုဆိုင်ရာ အတတ်ပညာသည်များ ရှိကြပါသည်။ ဆတ္တာသည်၊ ခဝါသည်၊ ရက်ကန်းသည် စသော လက်မှုပညာသည်များ ရှိကြပါသည်။ မုန့်သည်၊ ပန်းသည် စသော ဈေးအတတ်တတ်ကျွမ်းသူများ ရှိကြပါသည်။ ထိုပုဂ္ဂိုလ်တို့သည် မိမိတို့ တတ်ကျွမ်းထားသော အတတ်ပညာဖြင့် သူတို့ကိုယ်တိုင် လုလုဝတ်၍ ဝဝ စားကြရပါသည်။ မိဘနှင့် သားသမီးများကို ကျွေးမွေးပြုစုနိုင်ကြပါသည်၊ ဆွေမျိုး မိတ်သင်္ဂဟများကို ထောက်ပံ့နိုင်ကြပါသည်။ ရဟန်း၊ ပုဏ္ဏားတို့ထံ၌ ကောင်းမှုကုသိုလ် ပြုနိုင်ကြပါသည်။ ဤအတတ်ပညာသည်များသည် မျက်မှောက်ဘဝမှာပင် အတတ်ပညာ၏ အကျိုးကျေးဇူးကို ခံစားကြရသကဲ့သို့ သာသနာတော်မှာ ရဟန်းပြုရခြင်း၏ အကျိုးကျေးဇူးကိုလည်း မျက်မှောက်ဘဝမှာ ထင်ရှားပြ၍ ရနိုင်ပါမည်လော"

"မင်းကြီး၊ ရနိုင်ပါသည်။ ရနိုင်ကြောင်း ထင်ရှားစေရန် သင်မင်းကြီးကို မေးမြန်းပါဦးမည်။ သင်မင်းကြီး သဘောကျသလို ဖြေကြားနိုင်ပါသည်။ ဥပမာ

အားဖြင့် သင်မင်းကြီးတွင် တာဝန်ဝတ္တရားကျေပွန်သော အမှုထမ်းတစ်ယောက် ရှိသည်ဆိုကြပါစို့။ ထိုအမှုထမ်းသည် တစ်နေ့သောအခါ သင်မင်းကြီး၏ စည်းစိမ်နှင့် သူ့ဘဝအခြေအနေကို နှိုင်းယှဉ်ကာ လူ့ဘဝမှာ မပျော်ပိုက်တော့သဖြင့် ရဟန်းပြု သွား၏။ ဤအကြောင်းကို သင်မင်းကြီး သိသောအခါ 'အချင်းတို့၊ ထိုအမှုထမ်း ပြန်လာပါစေ၊ ယခင်အတိုင်း ငါ့အမှုတော်ကို ပြန်၍ ထမ်းဆောင်စေ' ဟု သင် မင်းကြီး ဆိုပါမည်လော"

"မဆိုတော့ပါ အရှင်ဘုရား၊ စင်စစ်မှာမူ ထိုရဟန်းကို တပည့်တော်တို့က ရှိခိုးကြရပါဦးမည်။ ဆွမ်း၊ သင်္ကန်း၊ ကျောင်း၊ ဆေး လေးပါးသော ပစ္စည်းတို့ကို လှူဒါန်းကြရပါဦးမည်။ သူ့အတွက် တရားတော်နှင့်အညီ အစောင့်အရှောက် အရံ အတားကို ပေးကြရပါဦးမည် ဘုရား"

"မင်းကြီး၊ ဤသို့ဖြစ်လျှင် ရဟန်းပြုခြင်း၏ အကျိုးကျေးဇူးကို မျက်မှောက် ဘဝမှာပင် ရပါသလော၊ မရပါသလော၊ သင်မင်းကြီး မည်သို့ ထင်မြင်ပါသနည်း"

"အရှင်ဘုရား၊ ဤသို့ဆိုလျှင် ရဟန်းပြုရခြင်း၏ အကျိုးကျေးဇူးကို မျက်မှောက်ဘဝမှာပင် ရနေပါပြီ ဘုရား"

ထိုမှ ဆက်လက်၍ အခွန်ထမ်း လယ်သမားဘဝမှ ရဟန်းပြုလာသူနှင့် ဥပမာပြု၍ မေးတော်မူရာ အဇာတသတ်မင်းကလည်း ယခင်အတိုင်း ဖြေဆိုခဲ့၏။

ထိုမှတစ်ဆင့်တက်၍ သာသနာတော်ကြီးနှင့် ကြုံလာရသည့်အခိုက် ရဟန်း ပြုပြီးလျှင် အငယ်စား၊ အလတ်စား၊ အကြီးစား၊ သီလများလုံခြုံလျက် ဣန္ဒြေ စောင့်စည်းခြင်း၊ သတိသမ္ပဇဉ်နှင့် ပြည့်စုံခြင်း၊ ရောင့်ရဲလွယ်ခြင်း၊ နီဝရဏ တရားများ ပယ်ခွာခြင်းတို့ဖြင့် ဈာန်အဆင့်ဆင့်နှင့် အဘိညာဉ်တန်ခိုးများ ရရှိ ခြင်း၊ ထိုမှတစ်ဆင့် နောက်ဆုံး အာသဝတို့၏ ကင်းရာကုန်ရာ အရဟတ္တဖိုလ်ကို ရခြင်းအထိ အဆင့်အသီးသီးကို ဥပမာအသီးသီးဖြင့် ထင်ရှားအောင် ဟောပြတော် မူပေသည်။

အဆင့်အတန်း မြင့်လှသော တရားတော်များဖြစ်၍ အဇာတသတ်မင်းမှာ သေချာဂဏ နားမလည်နိုင်သေးပါ။ သို့သော် ရတနာသုံးပါးအပေါ် ယုံကြည်ချက် ကား ခိုင်မြဲသွားပေပြီ။ ထို့ကြောင့် ကြားနာရသော တရားတော်ကို ဝမ်းမြောက် ဝမ်းသာ ချီးကျူးလျှောက်ထားကာ–

"အရှင်ဘုရား၊ ယနေ့မှ အစပြု၍ တပည့်တော်အား ရတနာသုံးပါးကို ဆည်းကပ်သော ဥပါသကာဟု မှတ်ယူတော်မူပါ ဘုရား"

ဘုရား တပည့်သားအဖြစ် လက်ခံတော်မူပါရန် လျှောက်ထားပြီးမှ ဆက်လက်၍

"အရှင်ဘုရား၊ တပည့်တော်သည် တရားစောင့်သော၊ တရားသဖြင့် မင်းပြုသော ခမည်းတော် မင်းတရားကြီးကို ထီးနန်းစည်းစိမ် လိုချင်ဇောဖြင့် သတ်ဖြတ်ခဲ့ပါသည်။ မိုက်မဲသည့်အလျောက်၊ တွေဝေသည့်အလျောက်၊ မလိမ္မာသည့် အလျောက် ကျူးလွန်ခဲ့သော ပြစ်မှုများကို သည်းခံတော်မူပါဘုရား။ နောက်နောင်အခါ ရှောင်ကြဉ်ပါတော့မည် ဘုရား"

"မင်းကြီး၊ မိုက်မဲသည့်အလျောက် တွေဝေသည့်အလျောက်၊ မလိမ္မာသည့် အလျောက်၊ ကျူးလွန်မိသော ပြစ်မှုများကို အပြစ်မှန်းသိကာ တောင်းပန်လာသဖြင့် ငါဘုရား သည်းခံပါ၏။ ငါဘုရား သာသနာတော်ဝယ် အပြစ်ကို အပြစ်မှန်းသိ၍ တရားနှင့်အညီ ကုစားလျှင် နောက်နောင်အခါ ရှောင်ကြဉ်သွားလျှင် ကြီးပွားချမ်းသာကြမည်သာ ဖြစ်ပေသည်"

ဤဒေသနာတော်ကို ကြားနာပြီး၍ အဇာတသတ်မင်း ပြန်သွားသောအခါ မြတ်စွာဘုရားက

"ရဟန်းတို့၊ ဤမင်းသည် မိမိကိုယ်ကို သတ်ဖြတ်ခဲ့ပေပြီ။ မိမိ၏ ရပ်တည်ရာကို မိမိဘာသာ ဖျက်ဆီးခဲ့ပေပြီ။ တရားစောင့်သော၊ တရားနှင့်အညီ မင်းပြုသော ခမည်းတော် မင်းတရားကြီးကို အကယ်၍ မသတ်ဖြတ်ခဲ့ပါလျှင် ဤနေရာမှာပင် သောတာပန်စခန်းသို့ တက်လှမ်းနိုင်ပေရာ၏" ဟု မိန့်ကြားတော်မူ၏။

အဖသတ် ကံကြီးက တားဆီးထားသဖြင့် အဇာတသတ်မှာ အကျယ်တဝင့်ရှင်းပြသော ဒေသနာတော်ကြီးကိုကြားနာရပါလျက် မဂ်စခန်း ဖိုလ်စခန်း မတက်လှမ်းနိုင်ခဲ့ပါ။ သို့သော် အကျိုးမဲ့ကား မဟုတ်ပါ။ သူ့အတွက် အကျိုးကျေးဇူး ကြီးလှပါ၏။

ယခင်ကဆိုလျှင် တစ်မှေးလေး မှိတ်လိုက်မိသည်နှင့် တစ်ပြိုင်နက် ထိတ်လန့်တကြား လန့်နိုးခဲ့ရ၏။ ယခုတော့ ဤဝဋ်က ကျွတ်သွားပေပြီ။ မကောင်းဆိုးဝါး အာရုံများ မဝင်လာကြတော့သဖြင့် ကောင်းသော အိပ်ခြင်းဖြင့် အိပ်ရပေပြီ။ ကောင်းသော နိုးခြင်းဖြင့် နိုးရပေပြီ။ ဤကျေးဇူးများကို ဆပ်သောအားဖြင့် သာသနာတော်အတွက် အားတက်သရော ထောက်ပံ့ကူညီသော သာသနာ့ဒါယကာကြီးတစ်ယောက် ဖြစ်လာပေတော့သည်။ သာသနာပြု အဇာတသတ်မင်းကြီး၏ သာသနာပြုလုပ်ငန်းကြီး အကြောင်းကို နောက်ပိုင်းမှာ ကြားနာကြရပါဦးမည်။

**(သီလက္ခန္ဓဝဂ်၊ သာမညဖလသုတ်၊ ပါဠိတော်နှင့် အဋ္ဌကထာ)**

❋❋

# နေမင်းညိုချိန်

သာသနာ့ ဒါယကာ အဇာတသတ်မင်းကို နှုတ်ဆက်ပန်ကြားပြီးနောက် ကျွန်ုပ်တို့ ဒေသစာရီ လှည့်လည်လာခဲ့ကြရာ မွေးရပ်မြေသို့ရောက်လာကြ၏။ သကျမျိုးနွယ်ကြီး အတွင်းမှ ဝေဠေ အမည်ရသော ဆွေမျိုးတစ်သိုက်နေထိုင်ရာ သာမရွာကြီးသို့ ဝင်ခဲ့ကြ၏။ ဝေဠေ ဆွေမျိုးတစ်သိုက် ဆောက်လုပ်ထားသော သရက်တော ကျောင်းမှာ ခရီးတစ်ထောက်နားချိန်တွင် အရှင်စုန္ဒ ရောက်လာခဲ့၏။

အရှင်မဟာသာရိပုတ္တရာ၏ ညီတော်တစ်ပါးဖြစ်သော အရှင်စုန္ဒသည် ပါဝါ မြို့မှ သတင်းတစ်ပုဒ်ကို လျှောက်ထားရန်ဖြစ်၏။ ဤအချိန် ဤအခါ အတော အတွင်းမှာမှ ဆိုက်ဆိုက်မြိုက်မြိုက် ရောက်လာခဲ့သော အရှင်စုန္ဒသည် ကျွန်ုပ်၏ ကယ်တင်ရှင် ဖြစ်ပါတော့သည်။ ကျွန်ုပ်သည် ဘုရားရှင်နောက်တော်ပါးမှ အရိပ် ပမာ လိုက်နေရသည်ဆိုသော်လည်း အမြဲတစေ လိုက်ပါနိုင်သည်ကား မဟုတ်ပါ။ ယခုလို နေ့လယ်ခင်းမှာဆိုလျှင် ကိုယ့်နေရာနှင့်ကိုယ် နေခဲ့ရပါသည်။ ဂန္ဓကုဋိ တိုက်တွင် ဘုရားရှင်တစ်ပါးတည်း နေတော်မူ၍ ဖြစ်ပါသည်။

ဘုရားရှင်သည် နေ့လယ်ခင်းမှာ ဖလသမာပတ် ဝင်စား၍ လက်ငင်း လက်တွေ့ ချမ်းသာကို ခံစား၍ နေတော်မူသကဲ့သို့ ကျွန်ုပ်လည်း ခံစားနေမည်ဆိုလျှင် နေနိုင်ပါ၏။ နေလည်း နေခဲ့ဖူးပါ၏။ သို့သော် တစ်ခု ခက်နေသည်မှာ မိမိ ချမ်းသာစွာ နေရေးထက် ဘုရားရှင်ထံ ချဉ်းကပ်နေရေးကိုသာ ကျွန်ုပ်ပို၍ နှစ်သက် မိ၏။ ထို့ကြောင့်ပင် ယခုထိ ဤအဆင့်က မတတ်နိုင်သေးဘဲ ဖြစ်နေသလား မသိပါ။ ဘုရားရှင်အပေါ် တွယ်တာလွန်းသော စိတ်ကြောင့် တစ်နေ့လယ်လေး ဖဲခွာနေခြင်းကိုပင် ကျွန်ုပ်မှာ သည်းမခံနိုင်အောင် ဖြစ်ရ၏။ ယခုတော့ ကျွန်ုပ်ကို ကယ်တင်မည့်သူ ပေါ်လာပါပြီ။ ပါဝါမြို့မှ အရှင်စုန္ဒယူဆောင်လာသော သတင်း ကိုပင် အကြောင်းပြုကာ ရှေ့တော်မှောက် ဝင်ရောက်ခွင့်ရလာပါပြီ။

"အရှင်ဘုရား၊ တပည့်တော်ထံမှာ အရှင်စုန္ဒက ဤသို့ ပြောကြားခဲ့ပါသည်။ နိဂဏ္ဌနာဋပုတ္တဆရာကြီးသည် ပါဝါမြို့တွင် မကြာမီက ကွယ်လွန်ခဲ့ပါသည်။ ဦးစီးခေါင်းဆောင် ဆရာကြီး ကွယ်လွန်သွားသဖြင့် ကျန်ရစ်သော နိဂဏ္ဌရဟန်းများ အုပ်စုနှစ်စု ကွဲပြားသွားကြပါသည်။ 'ငါသာ တတ်သည်၊ ငါသာ သိသည်၊ ငါ့အကျင့်သာ မှန်သည်' စသည်ဖြင့် အပြန်အလှန် ငြင်းခုံနေကြပါသည်။ တစ်ဖက်နှင့် တစ်ဖက် နှုတ်လှံထိုးနေကြပါသည်။ မိမိဘက်က စကားအရာ အပေါ်စီးရလာသည်နှင့် တစ်ပြိုင်နက် တစ်ဖက် အုပ်စုကို နာလန်မထူနိုင်အောင် ဖိနှိပ်ချုပ်ချယ် ကြပါတော့သည်။

"အမှန်အားဖြင့် သေဆုံးသူမှာ နိဂဏ္ဌနာဋပုတ္တ ဆရာကြီးတစ်ပါးသာ ဖြစ်ပါသည်။ သို့သော် သူ၏ သေဆုံးမှုက နိဂဏ္ဌ ရဟန်းများထံ ကူးစက်သွားပါပြီ။ အအုပ်အစီး မရှိတော့သဖြင့် နိဂဏ္ဌရဟန်းများသည် ပျက်စီးမှုသို့ ရှေးရှုနေကြပါပြီ။ အကိုးကွယ်ခံပုဂ္ဂိုလ်များက တစ်ဖက်နှင့်တစ်ဖက် ငြင်းခုံနေကြ၊ ခိုက်ရန်ဖြစ်နေကြသဖြင့် ကိုးကွယ်သော ဒါယကာ၊ ဒါယိကာမများမှာ သူတို့အပေါ် ယခင်ကလောက် မကြည်ညိုကြတော့ပါ ဘုရား"

အရှင်စုန္ဒ ယူဆောင်လာသော ပါဝါမြို့မှ သတင်းတစ်ပုဒ်ကို အချက်အလက် ပြည့်စုံစွာ လျှောက်ထားလိုက်ရ၏။

"စုန္ဒ၊ သင့်စကား မှန်ပေစွ။ သူတို့မှာ ဓမ္မနှင့် ဝိနယဟူ၍ ရှိသော်လည်း ကောင်းမွန်စွာ ဟောကြားထားသည်မဟုတ်။ သူတို့၏ ဓမ္မနှင့် ဝိနယသည် သံသရာဝဋ်မှ ထွက်မြောက်ကြောင်းလည်း မဟုတ်။ စိတ်နှလုံး၏ အေးချမ်းငြိမ်သက်မှုကိုလည်း မဖြစ်စေနိုင်။ သစ္စာလေးတန် တရားမှန်ကို ဆရာမကူ သယမ္ဘုဉာဏ်ဖြင့် ထိုးထွင်းသိ၍ ဟောကြားထားသည်လည်း မဟုတ်။ ဤသို့သော ဓမ္မဝိနယ ဘောင်အတွင်းမှာ လိုက်နာကျင့်သုံးသူတို့အတွက် ဤသို့ပင် ပျက်စီးရမည်သာတည်း"

သတင်းစကား သယ်ဆောင်လာသူ အရှင်စုန္ဒ ကိုယ်တိုင်ပါလာသဖြင့် ဘုရားရှင်က အရှင်စုန္ဒထံသို့သာ တုံ့ပြန် မိန့်ကြားတော်မူပါ၏။ နိဂဏ္ဌ နာဋပုတ္တ ဆရာကြီးအား ပုဂ္ဂလိဓိဋ္ဌာန်ဖြင့် မည်သို့မျှ မသုံးသပ်ဘဲ ဓမ္မဓိဋ္ဌာန် သက်သက်ဖြင့် ဝေဖန် သုံးသပ်တော်မူသည်ကို ကျွန်ုပ်တို့ သတိ ထားလိုက်မိကြပါသည်။ နိဂဏ္ဌ နာဋပုတ္တ ဆရာကြီးတို့၏ တရားနှင့် သူတို့၏ ကျင့်သုံးပုံများကို ယခင် အခန်းများတုန်းက ကျွန်ုပ်၏ ပရိသတ်များ ကြားနာခဲ့ကြဖူးပါပြီ။

ထိုမှတစ်ဖန် ဘုရားရှင်က မမှန်မကန်သော ဓမ္မဝိနယ ကျင့်သုံးသူရောတိုက်တွန်းသူပါ အပြစ်ကြီးပုံ၊ မှန်ကန်သော ဓမ္မဝိနိယ ကျင့်သုံးသူရော တိုက်တွန်းသူပါ ကောင်းမှုများစွာ ပွားစီးပုံတို့ကို မိန့်ကြားတော်မူ၏။ ထိုမှ ဆက်လက်၍-

"စုန္ဒ၊ ဤကမ္ဘာလောက၌ ကိလေသာမှ ဝေးကွာပြီးသော သစ္စာ လေးတန် တရားမှန်ကို ဆရာမကူ သယမ္ဘူဉာဏ်ဖြင့် ထိုးထွင်း၍ သိပြီးသော ဆရာတစ်ဆူသည် ပွင့်ထွန်းပေါ်ပေါက်လာ၏။ ထိုဆရာသည် သံသရာမှ ထွက်မြောက်စေနိုင်သော စိတ်နှလုံး၏ အေးချမ်းငြိမ်းသက်မှုကို ဖြစ်စေနိုင်သော တရားကို ကောင်းမွန်စွာ ဟောကြား၏။ အကယ်၍ ထိုဆရာသည် တပည့်များအား တရားသဘောကို နားလည်အောင် မဟောကြားခဲ့ပါလျှင် သာဝကတို့၏ ကျင့်စဉ်ကို ပေါ်လွင် ထင်ရှားအောင် မပြခဲ့ပါလျှင် ထိုဆရာ ကွယ်လွန်သွားသောအခါ ကျန်ရစ်သော သာဝကများသည် ပူပန်သောက ရောက်ကြရပေလိမ့်မည်။ အကယ်၍ ထိုဆရာသည် တပည့်များအား တရားသဘောကို နားလည်အောင် ဟောကြားခဲ့ပါလျှင် သာဝက တို့၏ ကျင့်စဉ်ကို ပေါ်လွင်ထင်ရှားအောင် ပြခဲ့ပါလျှင် ထိုဆရာ ကွယ်လွန်သွား သော်လည်း ကျန်ရစ်သော သာဝကများသည် ပူပန်သောက ရောက်ကြရန် မရှိ တော့ပေ"

ဤသို့ ဟောကြားစဉ်က ဆရာဟူ၍ သာမည ရည်ညွှန်းခဲ့သော်လည်း ဆက်လက်၍ ဟောကြားရာတွင်မူ ထိုဆရာမှာ မိမိပင် ဖြစ်ကြောင်း ဘုရားရှင် ဖွင့်ဟ တော်မူပါ၏။

ထိုမှဆက်လက်၍ ထိုဆရာသည် အသက်အရွယ် ကြီးရင့်လာပြီ ဖြစ်ကြောင်း၊ ထိုဆရာ့ထံပါးတွင် အဘက်ဘက်မှ အရည်အချင်းပြည့်ဝသော သာဝကများ သိုက်သိုက်ဝန်းဝန်းကြီး ရှိနေပြီဖြစ်ကြောင်း မိန့်ကြားတော်မူ၏။ ထိုမှ တစ်ဆင့် တက်၍

"စုန္ဒ၊ ထိုသို့ ဖြစ်သောကြောင့် ငါဘုရား ကိုယ်တော်တိုင်သိ၍ ကိုယ်တော်တိုင် ဟောကြားထားသော တရားအားလုံးကို သင်တို့ အရဆောင်ထားကြကုန်လော့။ သင်တို့ အားလုံးစုံညီ စည်းဝေးကြလျက် အနက်အဓိပ္ပာယ်ကို အနက်အဓိပ္ပာယ်ဖြင့် တိုက်ဆိုင်နှီးနှောလျက်၊ သဒ္ဒါကို သဒ္ဒါဖြင့် တိုက်ဆိုင်နှီးနှောလျက် စုပေါင်းရွတ်ဆို ကြကုန်လော့။ တစ်ဦးနှင့် တစ်ဦး ငြင်းခုံမှု မပြုကြကုန်လင့်။ ဤသို့ ဆောင်ရွက် ကြလျှင် ဤသာသနာတော်သည် ကြာမြင့်စွာ တည်ရစ်လတ္တံ့။ ဤသို့ သာသနာတော် ကြာမြင့်စွာ တည်ခြင်းသည် လူအများ၏ အကျိုးငှာ၊ ချမ်းသာသုခ အလို့ငှာ ဖြစ်လတ္တံ့။ ထိုတရားတို့ကား အဘယ်နည်း။ သတိပဋ္ဌာန်လေးပါး၊ သမ္မပ္ပဓာန် လေးပါး၊ ဣဒ္ဓိပါဒ် လေးပါး၊ ဣန္ဒြေ ငါးပါး၊ ဗိုလ် ငါးပါး၊ ဗောဇ္ဈင် ခုနစ်ပါး၊ မဂ္ဂင်ရှစ်ပါးတို့ပေတည်း"

ထိုနေ့က ဟောကြားသော ဒေသနာတော်မှာ ဂင်္ဂါမြစ်ကြီး စီးဆင်းသကဲ့သို့ ဖြစ်ပါ၏။ သိမှတ်ဖွယ် လိုက်နာဖွယ်မျိုးစုံကို အရှိန်အဟုန်ပြင်းစွာ ဆက်တိုက်ကြီး

ဟောကြားတော်မူပါ၏။ ဤမျှလောက် ဝေဝေဆာဆာ ဟောကြားသော တရားတော်ကို မကြားရသည်မှာ တော်တော်ကြာပြီ ဖြစ်၍ ပါဝါမြို့မှ တကူးတက ရောက်လာသော အရှင်စုန္ဒကို ကျေးဇူးတင်လိုက်ရပါပေသည်။

**(ပါထိကဝဂ် ပါဠိတော်၊ ပါသာဒိကသုတ်)**

နိဂဏ္ဌနာဋပုတ္တ ဆရာကြီး ကွယ်လွန်ခြင်းနှင့် အနုသန္ဓေ ဆက်စပ်၍ ဟောကြားခဲ့သော ဤဒေသနာကို ကြားနာရစဉ်က သိမှတ်ဖွယ်၊ လိုက်နာဖွယ် အဖြစ်ဖြင့် ကျွန်ုပ် အားပါးတရကြီး နာခဲ့ရ၏။ မွေးရပ်မြေမှ တစ်ဆင့် သာဝတ္ထိမြို့တော်သို့ ခရီးတစ်ထောက် ရောက်ချိန်မှာကား သိမှတ်ဖွယ်၊ လိုက်နာဖွယ်မျှ မကတော့ဘဲ ခံစားဖွယ်လည်းဖြစ်လာခဲ့ပါ၏။ သာမန်မျှသာ ခံစားရသည် မဟုတ်ပါ။ အံ့သြခြင်း၊ ထိတ်လန့်ခြင်း၊ ယူကျုံးမရခြင်း ဟူသော ခံစားမှုမျိုးစုံကို စုပြုံ၍ ခံစားလိုက်ရပါသည်။

ရဟန်း ပရိသတ်ကို လွဲအပ်ရန် ဒေဝဒတ် တောင်းဆိုစဉ်က ဘုရားရှင်အား အသက်အရွယ် ကြီးရင့်ပါပြီဟု အကြောင်းပြခဲ့၏။ အထက်ပါ ဒေသနာထဲမှာလည်း ဘုရားရှင် ကိုယ်တော်တိုင်က မိမိကိုယ်ကို အသက်အရွယ် ကြီးရင့်လာပြီဖြစ်ကြောင်း၊ ဘဝတစ်သက်တာ၏ နောက်ဆုံး ပစ္ဆိမအရွယ်သို့ ရောက်နေပြီဖြစ်ကြောင်း ဟောကြားတော်မူခဲ့၏။ သည်တုန်းက အသက်အရွယ်နှင့် ပတ်သက်၍ ထူးထူးခြားခြား မခံစားခဲ့ရပါ။ ကျွန်ုပ် ကိုယ်ခန္ဓာမှာ အသက်ခုနစ်ဆယ်တွင်း ရောက်လာပြီဖြစ်၍ ဇရာ လက္ခဏာများ ပြလာခဲ့ပါပြီ။ သို့သော် အဘိုးကြီး စိတ်ဓာတ်ကား မဝင်လာသေးပါ။ ကျွန်ုပ် သက်တမ်းကုန်သည့်တိုင်အောင် ဤစိတ်ဓာတ်မျိုး မဝင်ရောက်စေချင်ပါ။ ကျွန်ုပ်၏ ကျန်းမာရေး အခြေအနေကလည်း ကျွန်ုပ်၏ ဆန္ဒကို အထောက်အကူ ပြုနေပါသည်။ နောက်တော်ပါးမှ ထက်ကြပ်မကွာ လိုက်ပါပြုစုရာတွင် ကျွန်ုပ်ဘက်က ပျက်ကွက်မှုဟူ၍ မရှိခဲ့သေးပါ။ သည်တာဝန်ကို စတင် ထမ်းဆောင်ခဲ့သော အသက် ငါးဆယ်ကျော်တုန်းကနှင့် ဘာမျှ မခြားနားခဲ့ပါ။

အသက်အရွယ်အရ ဇရာလက္ခဏာများ သန်းလာခဲ့သော်လည်း ကျွန်ုပ်၏ ကိုယ်ခန္ဓာမှာ ကျန်းမာသန်စွမ်းလျက်သာရှိ၏။ ထို့အတူပင် ဘုရားရှင်၏ ကျန်းမာရေး အခြေအနေကလည်း ကောင်းနေဆဲသာ ဖြစ်၏။ ကျန်းမာရေး အခြေအနေ ကောင်းသောကြောင့်ပင် ဤမျှ ဝေးလံသော ခရီးများကို လှည့်လည်တော်မူနိုင်ခြင်း ဖြစ်၏။ တစ်ခါတစ်ရံ လေနာရောဂါထခြင်း၊ အထိုင်ကြာလွန်းသောအခါ ခါးနာတတ်ခြင်းတို့ကား ခြွင်းချက် ဖြစ်ပါ၏။ ထိုခြွင်းချက်ကို အကြောင်းပြု၍ပင် ခံစားချက်မျိုးစုံကို စုပြုံ၍ ခံစားလိုက်ရပေသည်။

ထိုနေ့က ဘုရားရှင်နှင့် ကျွန်ုပ် ပုဗ္ဗာရုံ ကျောင်းမှာ ရောက်နေကြ၏။ ဘုရားရှင်သည် နေ့လယ်ခင်းမှာ ထုံးစံအတိုင်း တစ်ပါးတည်း သီတင်းသုံးတော်မူပြီး နေစောင်းချိန်မှာ ထွက်လာတော်မူ၏။ သည်တုန်းက ဆီးနှင်းကျသော ဆောင်းကာလ ဖြစ်ရာ ညနေစောင်း နေရောင်သည် နေထိုင်ကောင်းရုံလောက်သာ ပူ၏။ ဘုရားရှင်ကလည်း ကျောင်းတော်၏ အနောက်ဘက်မှာ ခင်းထားသော နေရာမှာထိုင်လျက် နေပူစာလှုံတော်မူ၏။ နေပူရှိန် တိုက်ရိုက်ခံစားရန် ကေသီသင်္ကန်းကို ချကာ ကျောပြင်သက်သက်ဖြင့် ထိုင်နေတော်မူ၏။

ဤသို့သော ရုပ်သွင်ကို နေ့စဉ် ရေချိုးတိုင်း မြင်ရနေကျ ဖြစ်၏။ မဟာလှေကားပန်းအဆင်းဖြင့် ဝါဝင်းသော သင်္ကန်းတွေ ဝတ်ရုံထားစဉ်က တစ်မျိုး ကြည်ညို၍ ကောင်း၏။ ယခုလို အထက်ပိုင်းမှာ သင်္ကန်းမကပ်နိုင် ပြန်တော့လည်း ကျက်သရေ ရှိနေသည်သာ ဖြစ်၏။

နေ့စဉ်နှင့်အမျှ ဆိုသလိုပင် ကျွန်ုပ်သည် ဘုရားရှင်ကို ခြေဆုပ်လက်နယ် ပြုစုလာခဲ့၏။ သို့သော် ယခုလို အသားသက်သက်ကို နှိပ်နယ်ရသည့် အခါကား ကြုံတောင့်ကြုံခဲ ဖြစ်၏။ များသောအားဖြင့် သင်္ကန်းဝတ်ထားသည့် အပေါ်မှာသာ နှိပ်နယ်ပေးခဲ့ရ၏။

နောင်တော်မြတ်နှင့် ကျွန်ုပ်မှာ ငယ်ရွယ်စဉ်ကပင် လက်ပွန်းတတီး နေလာခဲ့ကြသဖြင့် သူ့အသားအရေကို ကျွန်ုပ် မကြာမကြာ လက်ဖြင့် စမ်းကြည့်ခဲ့ဖူး၏။ သူ့အရေမှာ ဘယ်နေရာတွင်မှ အတွန့်အလိပ် အရေးအကြောင်းမရှိဘဲ တင်း၍ နေ၏။ နွားလားဥသဘ၏ သားရေကို ငုတ်ပေါင်းတစ်ရာ စိုက်၍ ဖြန့်ကျက်ထားသကဲ့သို့ ဖြစ်၏။ စမ်းကြည့်လိုက်သည့် နေရာတိုင်းမှာ အထစ်အငေါ့မရှိဘဲ ကျွန်ုပ်လက်များ ချောချောမောမော လျှောက်သွားနိုင်ကြ၏။

ကိုယ်တော်မြတ်၏ ခန္ဓာကလည်း ယောကျ်ားအာဇာနည် ပီသလှ၏။ အရပ်အမောင်း ကောင်းလှသော အရှင်ဥပနန္ဒထက်ပင် လက်လေးသစ် ပိုမြင့်သေး၏။ ရှည်လျားသော အရပ်တော်သည် ဖွံ့ဖြိုးသော ကိုယ်တော်နှင့် ဆိုတော့ အလောတော်ပင် ဖြစ်၏။ ပညောင်ပင်၏အရပ်သည် အဝန်းနှင့် ညီမျှစွာ ကြည့်၍ ရှု၍ ကောင်းသကဲ့သို့ ဖြစ်၏။ ရပ်နေစဉ်မှာ ဖြစ်စေ၊ ထိုင်နေစဉ်မှာ ဖြစ်စေ၊ ခံ့ညားလှသော ကိုယ်တော်သည် ဖြောင့်ဖြောင့်မတ်မတ် ရှိပါဘိ၏။

ယခုတော့ ယခင်နှင့် မတူချေပြီတကား။ ရွှေအဆင်းကဲ့သို့ ဝါဝင်းသော အရေတော်တွင် အဆင်းအရောင် မပြောင်းသော်လည်း ဇရာလက္ခဏာများကတော့ ပြလာခဲ့ကြပေပြီ။ ပခုံးနှစ်ဘက် အလယ်တွင် အရေးအကြောင်းကို တွေ့လာရပေပြီ။

ယနေ့မှ နီးနီးကပ်ကပ် စေ့စေ့စပ်စပ် ကြည့်မိသဖြင့် ပြောင်းလဲချက်ကို တွေ့မြင်ရခြင်း ဖြစ်ပေသည်။

ထို့ပြင် သက်နီးဖုံးနေ၍ ယခင်ခါတုန်းကလို ထင်နေခဲ့ရသော ကိုယ်တော်ကလည်း ဇရာသဘောကို ပြနေချေပြီ။ တည့်တည့်မတ်မတ်ရှိခဲ့သော ကိုယ်တော်သည် ယခုတော့ ရှေ့သို့ အတန်ငယ် ကိုင်း၍နေပေပြီ။ မျက်လုံးတော် အကြည်ဓာတ်ကလည်း ယခင်ကလောက် မတောက်ပတော့ပြီ။ ဤသည်ကို ထောက်၍ နား၊ နှာခေါင်း စသော အကြည်ဓာတ်များလည်း ဆုတ်ယုတ် လျော့ပါးလာကြပြီ ထင်ပါသည်။

"အရှင်ဘုရား၊ အရွယ်သဘောအရ တပည့်တော်၏ ကိုယ်ခန္ဓာ ပြောင်းလဲလာသည်ကို တပည့်တော် ဖြေနိုင်ခဲ့ပါသည်။ ကိုယ်ခန္ဓာကို ဇရာက ထောင်းလာခဲ့သော်လည်း ဇရာ မထောင်းနိုင်သေးသော စိတ်ဓာတ်ဖြင့် အားတင်းနိုင်ခဲ့ပါသည်။ ယခု ကိုယ်တော်မြတ်၏ ပြောင်းလဲချက်များ ရုတ်တရက် တွေ့လိုက်ရသည့်တွင်ကား တပည့်တော် တအံ့တသြဖြစ် သွားရပါတော့သည်။ ထိတ်လန့်တကြား ဖြစ်သွားရပါတော့သည်။ ရွှေတောင်ကြီးအလား ခံ့ညားလှသော ကိုယ်တော်သည်ပင် ဇရာသဘောကို မလွန်ဆန်နိုင်ပါတကား။ တပည့်တော် ဖူး၍ မဝနိုင်သော၊ ကြည်ညို၍ အားမရနိုင်သော ကိုယ်တော်သည် သည်လိုနှင့် တစ်စနှင့်တစ်စ ယိုယွင်း ပျက်စီးရတော့မှာပါတကား။ ဆောင်းတွင်းနေသည် အကျမြန်လွန်းလှသကဲ့သို့ ကိုယ်တော်မြတ်၏ နေညိုချိန်ကလည်း ရောက်လွယ်လွန်းလှပါသည် ဘုရား"

ယူကျုံးမရ နှမြောလှသော စိတ်များကြောင့် ကျွန်ုပ်၏အသံများ တုန်ယင်၍ နေကြပါ၏။ ကိုယ်တော်မြတ်အပေါ်မှာ သုံးသပ်မိသမျှ အချက်များ ပြည့်စုံအောင် တော်တော်ကြီး ကြိုးစား၍ လျှောက်ထားရပါ၏။

ကျွန်ုပ်က တအံ့တသြ လျှောက်နေသော်လည်း ထိတ်လန့်တကြား ခံစားနေရသော်လည်း ဘုရားရှင်ကတော့ တည်ငြိမ်စွာပင် နားထောင်တော်မူပါသည်။ ကျွန်ုပ်၏ စကားများဆုံးခါမှ....

"အာနန္ဒာ၊ ပျိုသမျှ အိုကြဖို့သာ ဖြစ်ပေသည်။ မာသမျှ နာကြဖို့သာ ဖြစ်ပေသည်။ နေသမျှ သေကြဖို့သာ ဖြစ်ပေသည်။ ဤသဘောတရားကို မည်သူမျှ မလွန်ဆန်နိုင်ချေတကား"

ကျွန်ုပ်က ယူကျုံးမရ နှမြောတသ နေစဉ်တွင် ဘုရားရှင်ကတော့ ဇရာတရားကို တရားသဘောအတိုင်း ခံယူထားပြီး ဖြစ်နေပါပြီ။ ကျွန်ုပ်က ငါ၏ နောင်တော်မြတ်ဟု အရိပ်တကြည့်ကြည့် နေခဲ့သော်လည်း နောင်တော်မြတ်ကတော့ အိုသဘော၊ နာသဘော၊ သေသဘောအတိုင်းသာ ထားတော်မူခဲ့၏။ သည်တော့မှ

ကျွန်ုပ်တို့ မွေးရပ်မြေမှာ ဟောကြားခဲ့သော ဒေသနာတော်ကြီးကို ပြန်၍ သတိရ မိ၏။ အပြန်အလှန် ရွတ်ဖတ်သရဇ္ဈာယ် ကြည့်မိ၏။

သည်ဒေသနာတော်ကြီးမှာ သိစရာတွေ၊ မှတ်စရာတွေ၊ လိုက်နာ ကျင့်သုံး စရာတွေ အမြောက်အမြား ပါဝင်ပါ၏။ သို့သော် လိုရင်းအကျဆုံးက ဘုရားရှင် မရှိတော့သည့် နောက်ဝယ် သာသနာတော် အစွန့်ရှည်အောင် ထိန်းသိမ်းနိုင်ရေးပင် ဖြစ်ပေသည်။ အချင်းချင်း မငြင်းမခုံဘဲ ဥမကွဲ သိုက်မပျက် နေထိုင်ကြရေးပင် ဖြစ်ပေသည်။

နေညိုညို ညနေချမ်းကပင် နေဝင်ချိန်အတွက် ကြိုတင်ပြင်ဆင်ပြီး ဖြစ်နေ ပါပြီကော။

**(မဟာဝဂ်၊ ဣန္ဒြိယသံယုတ်၊ ဇရာသုတ်ပါဠိတော်နှင့် အဋ္ဌကထာ)**

**

## မယ်တော်ကြီး၏ ကန်တော့ပန်း

"ကောင်းသော စကားကို ဆိုတော်မူတတ်သော မြတ်စွာဘုရား၊ တပည့် တော်မသည် အရှင်ဘုရား၏ မယ်တော်ဖြစ်ပါသည်။ အရှင်ဘုရားသည်ကား တပည့်တော်မ၏ ခမည်းတော် ဖြစ်ပါသည်။ သူတော်ကောင်းတရားကို ပေးသနားတော်မူသော မြတ်စွာဘုရား၊ တပည့်တော်မသည် အရှင်ဘုရား၏ အဆုံးအမသြဝါဒမှ ပေါက်ဖွား လာသူ ဖြစ်ပါသည်ဘုရား။

"ကောင်းသော စကားကို ဆိုတော်မူတတ်သော မြတ်စွာဘုရား၊ အရှင်ဘုရား ၏ ကြည်ညိုဖွယ်ရာ သပ္ပာယ်စွာသော ရူပကာယကို တပည့်တော်မက ဖွံ့ဖွံ့ထွားထွား ခံ့ညားလာအောင် ကျွေးမွေး ပြုစုခဲ့ပါသည်။ တပည့်တော်မ၏ မြင့်မြတ်လှသော ဓမ္မကာယကို အရှင်ဘုရားက ဖွံ့ဖွံ့ထွားထွား ခံ့ညားလာအောင် ဟောကြားပြသတော်မူ ခဲ့ပါသည်။

"ကောင်းသော စကားကို ဆိုတော်မူတတ်သော မြတ်စွာဘုရား၊ တပည့်တော် မက အရှင်ဘုရားအား တိုက်ကျွေးခဲ့သော နို့ချိုသည် တစ်ခဏသာ အဆာပြေနိုင် ပါသည်။ အရှင်ဘုရား တိုက်ကျွေးသော တရားနို့ချိုမှာကား အဆုံးစွန်သော ကာလ တိုင်အောင် ဆာလောင်မွတ်သိပ်မှု မရှိ၊ ပကတိ အေးမြလှပါသည် ဘုရား"

မယ်တော်ကြီး မဟာပဇာပတိဂေါတမီက သူ့သားတော် ဘုရားထံ လျှောက် ထားနေခြင်း ဖြစ်ပါသည်။ သားတော် ဘုရားအား သူပြုခဲ့သော ကျေးဇူးများထက် သူ့အပေါ် သားတော် ဘုရားက ပြုခဲ့သော ကျေးဇူးများက သာလွန်မြင့်မြတ်ပုံကို စိကာပတ်ကုံး လျှောက်ထားနေခြင်း ဖြစ်ပါသည်။

ရှင်တော်ဘုရား၏ ဂုဏ်ကျေးဇူးများသည် ချီးကျူး၍ မကုန်နိုင်ပါ။ ထို့အတူ ထိုဂုဏ်ကျေးဇူးများကို ချီးကျူးသံကြားရတိုင်းလည်း ကျွန်ုပ် မကြည်နူးဘဲ မနေနိုင်

ပါ။ မိမိကိုယ်တိုင်က ချီးကျူးလိုသော ဂုဏ်ကျေးဇူးများကို အများတကာကလည်း ချီးကျူးနေကြ၍ ဝမ်းမြောက်ဝမ်းသာ ဖြစ်ရပါသည်။ သို့သော် ဤ တစ်ကြိမ်မှာကား ကျွန်ုပ် ဝမ်းမသာနိုင်တော့ပါ။ ကျွန်ုပ် ချစ်မြတ်နိုးသော နောင်တော်မြတ်၏ ဂုဏ်ကျေးဇူးများကို ချီးကျူးနေမှန်း သိပါလျက်နှင့် ကျွန်ုပ် မကြည်နူးနိုင်တော့ပါ။ ကြည်နူးရမည့်နေရာ ဝမ်းသာရမည့် နေရာများတွင် နှလုံးကြေကွဲ ဝမ်းနည်းမှုများက ဆို့ပိတ် လွှမ်းခြုံ၍ နေကြပါပြီ။ ယခုတစ်လော ကျွန်ုပ်အတွက် ဝမ်းနည်းစရာကိစ္စများနှင့်သာ ဆက်ကာဆက်ကာ ကြုံနေရပါချေသည်။

မဟာပဇာပတိဂေါတမီ အရှင်မကြီးသည် ရဟန်းမတို့အတွက် သီးသန့်ထားသော ကျောင်းတိုက်တာမှ ထွက်လာခဲ့ပါပြီ။ သူနှင့်အတူ ရဟန်းမ ငါးရာလည်း ပါလာကြ၏။ သူတို့တစ်တွေမှာ ဟိုစဉ်အခါ လူ့ဘောင်လောကမှ ထွက်လာတုန်းကလည်း အရှင်မကြီးနှင့် အတူတူလာခဲ့ကြ၏။ ယခု အရှင်မကြီး ထွက်လာပြန်တော့လည်း စိတ်တူကိုယ်တူ ဖြစ်ကြပါပေသည်။

တည်ငြိမ်စွာ လှမ်းလာခဲ့ကြသော ရဟန္တာအရှင်မများ၏ နောက်မှာတော့ တပည့် ဒါယကာ ဒါယိကာမများက တစ်သိုက်တစ်အုံကြီး လိုက်ပါလာကြ၏။ မျက်ရည်စိုရွှဲ ငိုပွဲကြီးဆင်၍ လာကြ၏။ ဤမြင်ကွင်းမျိုးကို တစ်နေ့နေ့ကျလျှင် မြင်ရမည်ဟု စောစောကပင် လှမ်းမြင်ထားခဲ့၏။ သို့သော် သည်တုန်းက ဤမျှလောက် ဝမ်းမနည်းခဲ့ပါ။ ယခု တပည့် ဒါယကာ၊ ဒါယိကာမများ၏ ငိုကြွေးသံကြားရခါမှ ကျွန်ုပ် ရင်ထဲမှာ လှိုက်လှိုက်လှဲလှဲ ဖြစ်လာပါတော့သည်။ ဩော် သည်နေ့သည်ကား မယ်တော်ကြီး မဟာပဇာပတိဂေါတမီ၏ နောက်ဆုံးနေ့ပါတကား။ နောက်ဆုံးနေ့ ရောက်လာပြီမို့ သူ့သားတော် ဘုရားထံ လာရောက်၍ နှုတ်ဆက်ခြင်းပါတကား။

သည်တုန်းကသာ တရားနှင့် ဖြေနိုင်ခဲ့မည်ဆိုလျှင် ဖြေစရာတွေ ရှိခဲ့ပါ၏။ မယ်တော်ကြီးဂေါတမီ၏ အသက်သည် တစ်ရာ့နှစ်ဆယ်တိုင်တိုင် ရှိခဲ့ပါပြီ။ နောက်ဆုံးတန်း၏ ဟိုမှာဘက်သို့ အစွန်းနှစ်ဆယ် ထွက်နေပါပြီ။ ဤမျှလောက် နေလိုက်ရလျှင် သွားရမည့်သူရော၊ ကျန်ရစ်သူများပါ အားရကျေနပ်လောက်ပါပြီ။ သို့ပါလျက် ကျွန်ုပ်မှာ ဤသို့ မဖြေနိုင်ခဲ့ပါ။ အရှင်မကြီး လျှောက်ထားသော စကားများကို ကြားရလေလေ၊ ကျွန်ုပ် ဝမ်းနည်းလေလေ ဖြစ်ခဲ့ရပါ၏။

"လူအပေါင်းတို့၏ နေမင်းတစ်ဆူ ဖြစ်တော်မူသော မြတ်စွာဘုရား၊ နေမျိုးနွယ်တို့၏ တံခွန်သဖွယ် ဖြစ်တော်မူသော မြတ်စွာဘုရားကို တပည့်တော်မ၏ နောက်ဆုံး အချိန်အခါ၌ ရှိသေစွာ ရှိခိုးခဲ့ပါ၏။ ဖူးမြင်၍ မဝနိုင်သော အရှင်ဘုရားကို တပည့်တော်မ နောက်ထပ်တစ်ဖန် ဖူးမြင်ခွင့် မရှိတော့ပါဘုရား။

"လောကထွတ်ထား ရှင်တော်မြတ်ဘုရား၊ ဤကမ္ဘာလောကရှိ အပြစ်မျိုးစုံကို မိန်းမများ ပြုတတ်သည်ဟု ဆိုခဲ့ကြပါသည်။ သို့ဖြစ်ပါ၍ မိန်းမသားတစ်ဦး ဖြစ်သော တပည့်တော်မတွင် အပြစ်တစ်စုံတစ်ရာရှိပါလျှင် သနားခြင်း ကရုဏာ ဖြင့် ခွင့်လွှတ်တော်မူပါ ဘုရား။

"သနားခြင်း ကရုဏာ၏ တည်ရာ ဖြစ်တော်မူသော မြတ်စွာဘုရား၊ မြတ်စွာ ဘုရား၏ထံတော်၌ မိန်းမများ ရဟန်းပြုခွင့်ကို တပည့်တော်မ တောင်းခံခဲ့ပါ သည်။ ဤသို့ တောင်းခံခဲ့သည့်အတွက် အပြစ်တစ်စုံတစ်ရာ ရှိပါလျှင် သနားခြင်း ကရုဏာဖြင့် ခွင့်လွှတ်တော်မူပါဘုရား။

"တည်ကြည်ရဲရင့် လူတို့ထက် မြင့်မြတ်တော်မူသော မြတ်စွာဘုရား၊ တပည့်တော်မနှင့်အတူ ဝင်လာကြသော ရဟန်းမများကို အရှင်ဘုရား၏ ခွင့်ပြုချက် ဖြင့် တပည့်တော်မက အစစအရာရာ ဆုံးမသွန်သင်ခဲ့ပါပြီ။ ထိုသို့ ဆုံးမသွန်သင် ရာ၌ အမှားအယွင်းများရှိပါလျှင် သနားခြင်း ကရုဏာဖြင့် ခွင့်လွှတ်တော်မူပါ ဘုရား"

နောက်ထပ်တစ်ဖန် တွေ့ဆုံရန် မရှိတော့သဖြင့် တောင်းပန်ဖွယ် ရှိသမျှ ထာစ်ခုမျှ မကျန်ရအောင် တောင်းပန်၍ နေပေပြီ။ ဘုရားရှင်ထံ တောင်းပန်ရင်း ထင်ရှားကျော်ကြားသော မထေရ်မြတ်ကြီးများကိုလည်း တစ်ပါတည်း တောင်းပန် သည်ဟု ကျွန်ုပ် ခံစားမိပါသည်။ ကျွန်ုပ်ကိုယ်တိုင်က လေးစားကြည်ညိုရသော ထိုမထေရ်မြတ်ကြီးများတွင် မိန်းမဆိုလျှင် အပြစ်နှင့် ယှဉ်၍ ရှုမြင်တတ်သော ပုဂ္ဂိုလ်ကြီးများ ပါဝင်နေကြ၏။ မိန်းမသားဖြစ်ပါလျက် ရဟန်းပြုခွင့် တောင်းခြင်း ကိုပင် အပြစ်ဟု ရှုမြင်နေသော ပုဂ္ဂိုလ်ကြီးများ ရှိနေကြ၏။ ထိုပုဂ္ဂိုလ်ကြီးများသည် ယခု အရှင်မကြီး၏ တောင်းပန်စကားကို ထောက်ထားသောအားဖြင့် ခွင့်လွှတ်နိုင် ကြလျှင် ကောင်းလေစွ။

"ဂုဏ်ကျေးဇူးတို့၏ တည်ရာဖြစ်သော ဂေါတမီ၊ သင့်မှာ အပြစ် တစ်စုံ တစ်ရာ မရှိခဲ့ပါ။ သို့ဖြစ်၍ ငါဘုရားက တမင်တကာ ခွင့်လွှတ်ရန် မရှိတော့ပါချေ တကား"

ဘုရားရှင်၏ ခွင့်လွှတ်စကားကို ကြားနာပြီးနောက် မယ်တော်ကြီး ဂေါတမီ သည် ရဟန်းများထံလာ၍ ကန်တော့ပြန်ပါ၏။

"အို.... ချစ်သားတို့၊ ဤခန္ဓာကိုယ်ကြီးသည် မြွေဆိုးများ ခိုးကိုးရာ တောင်ပို့ကြီးနှင့် တူပါ၏။ အနာရောဂါ အပေါင်းတို့၏ တည်နေရာဖြစ် ပါ၏။ ဆင်းရဲဒုက္ခ ဟူသမျှ၏ အစုအပုံ ဖြစ်ပါ၏။ အိုခြင်း၊ သေခြင်းတို့၏ ကျက်စားရာ ဖြစ်ပါ၏။ အမျိုးမျိုးသော အညစ်အကြေးတို့ဖြင့် ရောထွေး၍နေပါ၏။ ဤခန္ဓာ

ကိုယ်ကြီးကို သယ်ပိုးနေရသည့်အတွက် ငြီးငွေ့လှပါပြီ။ ဤဒုက္ခအပေါင်းမှ လွတ်မြောက်ရာသို့ သွားလိုလှပါပြီ၊ တပည့်တော်မအား ခွင့်လွှတ်တော်မူကြပါ၊ ချစ်သားတို့ ဘုရား"

မယ်တော်ကြီး လျှောက်ထားနေသော ပုဂ္ဂိုလ်များတွင် ညီတော်နန္ဒ ပါ၏။ သားတော်ရာဟုလာ ပါ၏။ ကျွန်ုပ်လည်း သူတို့နှင့်အတူ ရှိနေ၏။ တစ်နေရာတည်းမှာ အတူတကွ ထိုင်နေကြသော်လည်း သူတို့နှစ်ပါးမှာ ကျွန်ုပ်လို မျက်ရည်ကျတတ်သူ မဟုတ်ကြတော့ပါ။ ဝမ်းနည်းခြင်း ဝေဒနာကို မခံစားတတ်ကြတော့ပါ။ အာသဝတရားဟူသမျှ ကင်းစင်နေကြပါပြီ။ မတုန်မလှုပ် ခိုင်မြဲနေကြပါပြီ။ သို့ဖြစ်၍ သူတို့ကတော့ တရားသဘောဖြင့်သာ ကျူးရင့်ကြပါသည်။

"မတည်မြဲသော သင်္ခတ တရား၊ ငှက်ပျောတုံးကဲ့သို့ အနှစ်မရှိသော တရား၊ မျက်လှည့်ပမာ မရေရာသော သင်္ခတတရား၊ တံလှပ်ကဲ့သို့ ခဏသာ တည်သော တရား၊ ဤသင်္ခတတရားသည် စက်ဆုပ်ဖွယ် ရှိပေစွတကား။

"ဘုရားရှင်ကို ကျွေးမွေးပြုစုခဲ့သော မယ်တော်ကြီးပင် ယခုကွယ်လွန်တော့မှာပါတကား။ သင်္ခတ ဟူသမျှ ဘာတစ်ခုမျှ မမြဲပါတကား"

ကျွန်ုပ်မှာတော့ သူတို့လို တရားသံ မကျူးရင့်နိုင်ပါ။ မျက်ရည်ဖြိုင်ဖြိုင်ကျလျက် "ဖြစ်ရလေခြင်း၊ ဖြစ်ရလေခြင်း" ဟူ၍သာ ရေရွတ်မိပါသည်။ ဤတွင် မယ်တော်ကြီး ဂေါတမီက

"အို ချစ်သား၊ ယခုအချိန်ကား စိုးရိမ်ပူဆွေး ငိုကြွေးရန် မသင့်ပါချေ။ အမှန်ဆိုလျှင် ဤဝဋ်ဒုက္ခမှ ကင်းလွတ်တော့မည် ဖြစ်၍ ဝမ်းသာဖို့ပင် ကောင်းသေးတော့သည်။ သင် ချစ်သားသည် တပည့်တော်မ၏ ကိုးကွယ်ရာ ဖြစ်ပါသည်။ သင်ချစ်သား၏ ကျေးဇူးကြောင့် နိဗ္ဗာန်ကို ရခဲ့ပါပြီ။

"အို ချစ်သား၊ သင်ချစ်သားက တောင်းပန်သဖြင့် ဘုရားရှင်သည် တပည့်တော်မတို့ကို ရဟန်းပြုခွင့် ပေးခဲ့ပါသည်။ သင် ချစ်သား စိတ်မကောင်း မဖြစ်ပါနှင့်။ သင်ချစ်သား၏ ဆောင်ရွက်မှုသည် အကျိုးကျေးဇူး များစွာရှိပေသည်"

ဤသို့ ဖျောင်းဖျပြီးမှ မယ်တော်ကြီး ဂေါတမီတို့ ဘုရားရှင်ထံ ရှိခိုးဦးချ၍ ပြန်ကြရာတွင် ဘုရားရှင်နှင့်တကွ ကျွန်ုပ်တို့ အားလုံးက ကူဋာဂါရ ကျောင်းတော်ဝထိ လိုက်ပါပို့ဆောင် ပေးကြရပေသည်။ မယ်တော်ကြီးနှင့်တကွ အရှင်မ ငါးရာတို့သည် မိမိတို့ ကျောင်းသင်ခန်း၌ ဈာန်အဆင့်ဆင့် ဝင်စားပြီးလျှင် ပရိနိဗ္ဗာန် စံဝင်ကြပေတော့မည်။

ဘုရားရှင်နှင့်တကွ သီတင်းသုံးဖော်များ ပြန်လှည့်သွားကြသော်လည်း တံခါးဝတွင် ကျွန်ုပ်သည် တွေတွေကြီး ရပ်၍ နေမိ၏။ မယ်တော်ကြီးနှင့်တကွ

ဘိက္ခုနီ အရှင်မများကို နောက်ဆုံး ကြည့်ခြင်းဖြင့် ကြည့်နေမိ၏။ ဟိုစဉ်တုန်းကတော့ သာသနာတော်တွင်း ဝင်ရောက်ခွင့်ရရေးအတွက် ကျွန်ုပ်တို့ ရှိရာသို့ လိုက်လာခဲ့ကြရ၏။ နုနယ်သိမ်မွေ့သော အမျိုးသမီးတွေဖြစ်ပါလျက် ဝေးလံလှသော ခရီးကြမ်းကြီးကို ပင်ပန်းကြီးစွာ လှမ်းလာခဲ့ကြရ၏။ ကျောင်းတော်တံခါးဝ ရောက်လာပြန်တော့လည်း ရှေ့တော်မှောက်သို့ မဝင်ရဲကြသဖြင့် ငိုယို၍သာ နေခဲ့ကြရ၏။ ယခုတော့ ကျွန်ုပ်အလှည့် ဖြစ်လာပေပြီ။

ငိုယိုလာသူများကို ဤကျောင်းတော်မှ ကြိုဆိုခဲ့သော ကျွန်ုပ်သည် ယခုတော့ ဤကျောင်းတော်ဝမှာပင် ငိုယိုရင်း ကျန်ရစ်ခဲ့ရပါပြီတကား။

**(မဟာပဇာပတီဂေါတမီထေရီ အပဒါန်ပါဠိတော်)**

❋❋

# ညီတော်သားတော်တို့၏ ကန်တော့ပန်း

ယခင်က ဣန္ဒြေ မစောင့်စည်းသဖြင့် အရှက်ကြီး ရှက်ခဲ့ရသော ညီတော်နန္ဒသည် မယ်တော်ကြီး၏ နောက်ဆုံး ကန်တော့ခြင်းကို တည်ငြိမ်စွာ ခံယူခဲ့၏။ တုန်လှုပ်ခြင်း မရှိ၊ ပကတိ တည်ငြိမ်သော ဣန္ဒြေဖြင့် လောကဓံကို ခံနိုင်ခဲ့ပါ၏။ နေ့စဉ်နှင့်အမျှ သွားရာ၊ လာရာ၊ နေရာ၊ ထိုင်ရာ၊ ပြောဆို စားသောက်ရာမှ စ၍ သွားလာ လှုပ်ရှားမှု ဟူသမျှတွင် ဣန္ဒြေစောင့်စည်းလျက် တည်ကြည် ငြိမ်သက်လှပေသည်။ ထို့ကြောင့်ပင် ဘုရားရှင် ကိုယ်တော်တိုင်က သူ့ညီတော်ကို ဣန္ဒြေ စောင့်စည်းသော အရာဝယ် ဧတဒဂ် ပေးတော်မူခဲ့ခြင်း ဖြစ်ပေသည်။

(အင်္ဂုတ္တရ အဋ္ဌကထာ၊ ဧကကနိပါတ် နန္ဒထေရ ဝတ္ထု)

ဣန္ဒြေစောင့်စည်း၍ ငြိမ်ငြိမ်ကြီး နေလေ့ရှိသော ညီတော်နန္ဒသည် ငယ်ရွယ် သူများ လမ်းမမှားကြရအောင် မကြာခဏ ဆိုဆုံးမတတ်၏။ သူ့ဘဝဇာတ်လမ်းမှ သင်ခန်းစာ ထုတ်ယူနိုင်ကြရန် တိုက်တွန်းတတ်၏။ ယခင်က အခြေအနေနှင့် ယခု အခြေအနေ လုံးဝကြီးဆန့်ကျင်နေပုံကို မကြာခဏ ကျူးရင့်သီဆို၍ နေတတ်၏။

"မသင့်မတင့် နှလုံးသွင်းမိသောကြောင့် ဟို ယခင်က ငါသည် တန်ဆာ ဆင်ယင် အလှပြင်၍ နေခဲ့၏။ ငါ၏ ရင်မှာ လောင်မြိုက်နေသော အချစ်မီးကြောင့် ငါ့စိတ်သည် မတည်မငြိမ် ဖြစ်ခဲ့ရ၏။ ဘုရားရှင်၏ ညီတော်ရင်းချာ ဖြစ်ပါလျက် လျှပ်ပေါ်လော်လီသူ ဟူ၍ နာမည်ကြီးခဲ့ရ၏။

"နေမင်း၏ အဆွေဖြစ်တော်မူသော ဘုရားရှင်က ဥပါယ်တံမျဉ်ကိုသုံးကာ ကျွမ်းကျင်စွာ ကယ်တင်တော်မူသဖြင့် ငါသည် အသင့်အတင့် နှလုံးသွင်းတတ် လာပေသည်။ နည်းမှန်လမ်းကျ ကျင့်သုံးတတ်လာပေသည်။ ကာမဂုဏ်တည်း ဟူသော ညွန်ဗွက်တွင်းမှ နိဗ္ဗာန်တည်းဟူသော ကြည်းကုန်းထက်သို့ တက်ရောက်၍ လာနိုင်ပါပေသည်"

(ဒုကနိပါတ်၊ နန္ဒတ္ထေရ ဂါထာများ)

ကျေးဇူးရှင်ကို ကျေးဇူးဆပ်ရာတွင် ညီတော်နန္ဒသည် ကျွန်ပ်ကဲ့သို့ နောင်တော်မြတ်အပါး ချဉ်းကပ်သည် မဟုတ်ပါ။ ခပ်ကွာကွာ ခပ်လှမ်းလှမ်းမှာနေရင်း ကျေးဇူးဆပ်သည်သာ ဖြစ်၏။ နောင်တော်မြတ်က ပေးသနားခဲ့သော ဖိုလ်ချမ်းသာကို ကြိမ်ဖန်များစွာ ခံစားနေခြင်းသည်ပင် သူ၏အကောင်းဆုံး ကျေးဇူးဆပ်ခြင်း ဖြစ်ပေသည်။ ဤသို့ကျေးဇူးဆပ်ခြင်းကိုကျေနပ်သောကြောင့် သူ့နောင်တော်မြတ်ကလည်း ခွင့်လွှတ်ထားခြင်း ဖြစ်ပေသည်။

ယခင်က ကောင်းပေ့ဆိုသော သက်န်းမျိုးကိုမှ ရွေးချယ်၍ဝတ်ခဲ့သော ညီတော်နန္ဒသည် ယခုတော့ အစပ်တစ်ရာ အဖာတစ်ရာ ပံ့သကူသင်္ကန်းများနှင့် ကျေနပ်နေပါပြီ။ ယခင်က တိုက်ကြီးတာကြီးနှင့် အိမ်ကြီးရခိုင်များကိုမှ ရွေး၍ ဆွမ်းခံခဲ့သော ညီတော်နန္ဒသည် ယခုတော့ သူနေထိုင်ရာ တောရွာကလေးမှာ ရတတ်သမျှသော ဆွမ်း၊ ဆွမ်းဟင်းများဖြင့် မျှတ၍ နေပါပြီ။ ယခင်က ခံ့ပေ့ သန့်ပေ့ ဆိုသော နေရာမျိုးမှာမှ နေထိုင်ခဲ့သော ညီတော်နန္ဒသည် ယခုတော့ သူနေထိုင်ရာ အင်ဖက်မိုးသော ကျောင်းကလေးမှာပင် ပရိနိဗ္ဗာန် စံဝင်သွားပါပြီ။

မိုးလုံသော်လည်း လေမလုံတတ်သော တဲကျောင်းကလေး။ ထိုတဲကျောင်းကလေး၏ ခေါင်းရင်းပိုင်းတွင် လူသေပစ်ရာမှာ အသုံးပြုခဲ့သော ညောင်စောင်းအိုတစ်ခု။ ညောင်စောင်းအိုထက်တွင် ဖြန့်ခင်းထားသော ရေသနုပ် သင်္ကန်းဟောင်းတစ်ထည်။ သူ့နံဘေးက ကျောက်တုံးပေါ်မှာ သောက် ရေထည့်ထားသော မြေသပိတ်တစ်လုံး။ သူ့ခေါင်းအောက်က ဝါးဆစ် ခေါင်းအုံး၊ သူ့ကိုယ်ပေါ် လွှမ်းခြုံထားသည်မှာ ပံ့သကူ သင်္ကန်းသုံးထည်။ သုဒ္ဓေါဒန သကျသားတော်၏ ပိုင်ဆိုင်လေသမျှ ပစ္စည်းများပါ တကား။

မယ်တော်ကြီး ဂေါတမီတို့နှင့်တကွ သားတော်နန္ဒတို့၏ ဘဝနိဂုံး အဆုံးသတ်ပုံသည် တစ်မျိုးစီ ဖြစ်နေကြ၏။ မယ်တော်ကြီးတို့တုန်းကတော့ တစ်ကျောင်းလုံး တစ်မြို့လုံး အုတ်အုတ်ကျက်ကျက် ဖြစ်ခဲ့ရ၏။ သားတော် နန္ဒမှာကား လူသူမနီးသော တောကျောင်းကလေးတွင် တိတ်ဆိတ်စွာ ကွယ်လွန်ခဲ့၏။ မယ်တော်ကြီးတုန်းက အုတ်အော်သောင်းတင်းဖြစ်ခဲ့ရလေသမျှကို သံဝေဂယူကာ မိမိ ပရိနိဗ္ဗာန်ပြုတော့မည့်အကြောင်း မည်သူ့ကိုမျှ မပြောကြားဘဲ ထားခဲ့ဟန်တူပါသည်။

အုတ်အုတ်ကျက်ကျက် ကွယ်လွန်သည်ဖြစ်စေ၊ တိတ်တဆိတ် ကွယ်လွန်သည်ဖြစ်စေ မယ်တော်၊ သားတော် နှစ်ပါးလုံး၏ ကွယ်လွန်ခြင်းကား အတူတူသာ ဖြစ်ပေသည်။ နှစ်ပါးလုံးပင် ပရိနိဗ္ဗာန် ပြုသွားကြခြင်း ဖြစ်ပေသည်။

ပရိနိဗ္ဗာန် ဟူသည်မှာ ဆီမီးတောက်တစ်ခု ငြိမ်းသွားသကဲ့သို့ ငြိမ်းသွားခြင်း ဖြစ်၏။ မီးစာလည်း ကုန်၍ ဆီလည်းခန်း၍ ငြိမ်းသွားလေသော ထိုမီးတောက်သည်

အရှေ့နှင့်အနောက်၊ တောင်နှင့်မြောက်မှစ၍ မည်သည့် အရပ်မျှ ရောက်မသွားပေ။ မည်သည့် နေရာသို့မျှ ပြောင်းရွှေ့မသွားပေ။ ဤနေရာ၊ ဤအရပ်မှာပင် လောင်စာ မရှိတော့၍ ငြိမ်းသွားခြင်းသာ ဖြစ်ပေသည်။

ထို့အတူပင် လွန်လေပြီးသော အချိန်များက အရှင်မကြီးတို့ သားအမိတို့ ပြုခဲ့ကြသော ကောင်းကံ မကောင်းကံတို့သည် ကိလေသာအဖော် မရှိတော့သဖြင့် အရှိန်အဟုန်ကုန်သွားကြပေပြီ။ ရဟန္တာပုဂ္ဂိုလ် အဖြစ်ဖြင့် ပြုစုကြိုးပမ်းခဲ့သော ကောင်းမှုများမှာလည်း ကံဟူ၍ မဆိုထိုက်တော့ပြီ။ ကံဟူသည်မှာ ကိလေသာ အနှောင်အဖွဲ့နှင့် တကွ ပြုခဲ့ကြသော အမှုများဖြစ်၏။ အရှင်မကြီးတို့သားအမိမှာ ကိလေသာအနှောင်အဖွဲ့ဟူ၍ တစ်စိုးတစ်စိမျှ မရှိကြတော့ပေ။ ကိလေသာ အနှောင်အဖွဲ့မရှိ၊ ပကတိစင်ကြယ်သော စိတ်နှလုံးဖြင့် ပြုစုကြိုးပမ်းခဲ့သော ကောင်းမှုများသည် သာသနာတော်ကြီးအား ကျေးဇူးဆပ်ခြင်းသာဖြစ်၏။ သာသနာတော်ကြီး၏ အသီးအပွင့်ကို မိမိတို့စားသုံးကြသကဲ့သို့ အခြားသူများလည်း စားသုံးကြပါစေဟူသော စေတနာသန့်သန့်ဖြင့် အကျိုးဆောင်ခဲ့ခြင်းသာဖြစ်၏။ အရှင်မကြီးတို့ သားအမိအဖို့ နောင်ဘဝသံသရာဟူသော အယူအစွဲမရှိတော့သဖြင့် ဘဝသံသရာ ကောင်းစားရေးကိုလည်း အလေးထားဖွယ် မရှိတော့ပေ။ မည်သူ့အတွက်မျှလည်း ကြောင့်ကြဖွယ် မရှိ၊ တောင့်တဖွယ်မရှိ။ မိမိတို့ သယ်ပိုးထားရသော ဝဋ်ခန္ဓာကြီးကို စိတ်နှလုံး အေးချမ်းစွာဖြင့် စွန့်ပစ်လိုက်ကြခြင်းသာဖြစ်၏။ ထို့ကြောင့် အရှင်မ ကြီးတို့သားအမိ၏ ဘဝနိဂုံးကို ပရိနိဗ္ဗာန်ပြုသည် ခေါ်ဝေါ်ကြရပေသည်။

ဤသို့သော တရားသဘောများပါဝင်သော ရတနသုတ်ကို ကျွန်ုပ် ကိုယ်တိုင် အကြိမ်ကြိမ်အထပ်ထပ် ရွတ်ဖတ်ခဲ့ဖူးပါ၏။ အရှင်မကြီးတို့ ခေါင်းချသွားရာ ဝေသာလီမြို့တော်ကြီး၏ တံတိုင်းသုံးထပ်ကြားဝယ် လှည့်လာခေါက်ပြန် စင်္ကြံလျှောက်ရင်း ရွတ်ဖတ်ခဲ့ဖူးပါ၏။ ဤဒေသနာတော်ကို နှုတ်တက်ရွရွ ရရှိခဲ့သော ကျွန်ုပ်သည် တစ်ခါတစ်ရံမှာကား တရားလက်လွတ် ငှက်တောင်ကျွတ် ဖြစ်ခဲ့ရ၏။ ထို့ကြောင့် မယ်တော်ကြီး ဂေါတမီတို့ ပရိနိဗ္ဗာန်ပြုစဉ်က ကျူကျူပါအောင် ငိုခဲ့ရ၏။ သားတော် ရင်းချာ နန္ဒက ကျွန်ုပ်ကို ဖျောင်းဖျခဲ့ရ၏။ ဖျောင်းဖျသူကိုယ်တိုင် တိတ်တိတ်ကလေး ပရိနိဗ္ဗာန် စံပြန်တော့လည်း ကျွန်ုပ် မျက်ရည်မဆည်နိုင်ပါ။ ယသော်ဓရာတို့ ညီအစ်မတွေ ပရိနိဗ္ဗာန်ပြုကြပြန်တော့လည်း သားတော်ရင်းချာ ရာဟုလာက မငိုရဘဲ မောင်ဖြစ်သူ ကျွန်ုပ်မှာသာ ငိုပွဲကြီးဆင်ခဲ့ရ၏။

တွယ်တာတတ်သော သမုဒယကြောင့် ကျွန်ုပ် ငိုခဲ့ရလေသမျှသည် ကိုယ်ရောစိတ်ပါ ပင်ပန်းရုံသာ ဖြစ်၏။ ရှိက်ငင်လှိုက်ဖို ကျွန်ုပ် ငိုယိုနေဆဲမှာပင် ကျွန်ုပ် တွယ်တာခဲ့ရသူများက ကျွန်ုပ်ကို မျက်နှာလွှဲ၍ သွားကြချေပြီ။ တွယ်တာခြင်း မရှိ၊ ပကတိ အေးချမ်းသော စိတ်မနောဖြင့် ခန္ဓာဝန်ကို ပစ်ချ၍သွားကြချေပြီ။

ကျွန်ုပ် ငိုယိုနေသည့် အခါတိုင်းမှာပင် တူဖြစ်သူရာဟုလာသည် ကျွန်ုပ်ကို စူးစူးစိုက်စိုက် ကြည့်နေတတ်ပါ၏။ သူ့နှုတ်ဖျားမှကား စကားတစ်ခွန်းမျှ ထွက်မလာပါ။ အကယ်၍ ထွက်လာလျှင် မည်သို့များ ဖြစ်ပါမည်နည်း။ နှုတ်ဖျားမှာ တရားတွေသီးနေပါလျက် တရားနှင့် မဖြေနိုင်ရန်ကောဟု အပြစ်တင်ချိမ့်မည်လော။ သို့မဟုတ် သူမတူအောင် စိတ်ထိခိုက်ရ ရှာပေသည်ဟု ကရုဏာ ပွားနေလိမ့်မည်လော။ ရာဟုလာ၏ စိတ်သဘောကို ရာဟုလာကိုယ်တိုင်သာ အသိဆုံးဖြစ်ပါလိမ့်မည်။

ခမည်းတော် ဘုရား၏ ဆုံးမစကားတည်း ဟူသော နေရောင်ခြည်နှင့်ထိတွေ့ရသဖြင့် ကြာဖူးကြာငုံသည် ငွားငွားစွင့်စွင့် ပွင့်လာခဲ့၏။ အမြင့်ဆုံး အဆင့်ထိ အပွင့်ကြီး ပွင့်လာခဲ့သော ရာဟုလာသည် လာခြင်းကောင်းသော မိမိ၏အဖြစ်ကို ကြည့်ကာ ကြိမ်ဖန်များစွာ ဥဒါန်းကျူးရင့်ခဲ့၏။ ခမည်းတော်ဘုရား၏ ကျေးဇူးကို ထပ်ကာထပ်ကာ ချီးကျူး ဂုဏ်ပြုခဲ့၏။ သို့သော် ကျွန်ုပ်တို့ကဲ့သို့ ဘုရားရှင်နှင့် နီးနီးကပ်ကပ်ကြီးကား မနေပါ။ သူ့ခမည်းတော် ဘုရားထံမှ မတောင်းရဘဲ ရရှိထားသော ရတနာရွှေအိုးများကိုသာ အချိန်ရတိုင်း သုံးဆောင် ခံစား၍နေ၏။ အခြားသောရဟန္တာ မထေရ်ကြီးများကဲ့သို့ တပည့်ပရိသတ်လည်း မထားသဖြင့် ကိုယ့်တရားနှင့်ကိုယ် လွတ်လွတ်လပ်လပ် နေနိုင်ပါပေသည်။

အထက် မဂ်များ၏ အရှိန်အဟုန်ဖြင့် ရာဟုလာ၏ စိတ်သန္တာန်ဝယ် စိုးရိမ်ပူဆွေး ငိုကြွေးလိုသော စိတ်သဘောတို့ မရှိနိုင်တော့ပါ။ ရာဟုလာ၏ မျက်လုံးထဲဝယ် မျက်ရည်စများ မတွေ့ရတော့ပါ။ သို့သော် ခက်ထန် တင်းမာခြင်းလည်း မရှိပါ။ တစ်ခု ထူးခြားသည်မှာ ကျွန်ုပ် ငိုနေမိသော အချိန်များတွင် ခါတိုင်းထက် ပို၍ ကျွန်ုပ်ကို စူးစူးစိုက်စိုက် ကြည့်နေတတ်ခြင်း ဖြစ်ပါသည်။ အပြစ်ကင်းစင် ကြည်လင်နေသော သူ့မျက်နှာသည် တစ်စုံတစ်ရာ ပြောင်းလဲမှုမရှိပါ။ သို့သော် ကျွန်ုပ်၏ အတွေ့အကြုံအရ ကျွန်ုပ်၏ တူဖြစ်သူသည် ကျွန်ုပ်အပေါ် အပြစ်တင်လိမ့်မည် မထင်ပါ။ သည်အသက် သည်အရွယ်ထိအောင် မျက်ရည်မသိမ်းနိုင်သေးသော သူ့ဘထွေးတော်အတွက် ကရုဏာသက်ရုံသာ ရှိပါလိမ့်မည်။

ရာဟုလာမှာ ခုနစ်နှစ်သားရှိခါမှ သူ့ခမည်းတော်နှင့် တွေ့ဆုံခွင့်ရခဲ့၏။ သူ့ခမည်းတော်သည် သားတော်ကလေး ဖွားမြင်လာခြင်းကိုပင် ရာဟု အဖမ်းခံရသကဲ့သို့ မသက်မသာ ခံစားကာ ထိုညမှာပင် အနော်မာသောင်သို့ ထွက်ပြေးသွားခဲ့၏။ ဤလောက လူ့ရွာတွင် ခမည်းတော်ဟူ၍ အထင်အရှား ရှိနေပါလျက် ရာဟုလာလေးခမျာ ဖတဆိုး ဖြစ်ခဲ့ရရှာ၏။ ထို့ကြောင့်လည်း သူ့မယ်တော်က သူ့ကို မေတ္တာ၊ ကရုဏာ၊ လက်နှစ်ဘက်ဖြင့် ယုယုယယ ထွေးပိုက်ခဲ့ရ၏။

ဖတဆိုးလေး ပါကလား ဟူသော ကရုဏာစေတသိက်က နှိုးဆော်ပေးသဖြင့် ဘိုးအေ၊ ဘွားအေကြီးများ၏ မေတ္တာစေတ်များ ပိုမို၍ ထက်သန်လာခဲ့ကြ၏။ ထို့ကြောင့်ပင် ရာဟုလာကလေးကို ရှင်ပြုပေးလိုက်တုန်းက မြေးကို ချစ်သော မေတ္တာစေတ်သည် အသွေးအသားကို ကျော်လွန်ကာ ရိုးတွင်းခြင်ဆီထိ စူးဝင်နေပါသည်ဟု သူ့ဘိုးအေကြီးက လျှောက်ထားခဲ့ရခြင်း ဖြစ်ပေသည်။

တစ်နန်းတော်လုံး တစ်ဆွေလုံး တစ်မျိုးလုံးက ရာဟုလာလေးအပေါ် ချစ်အားပိုကြရာတွင် ကျွန်ုပ် ပါဝင်ကြောင်းကိုကား အထူးတင်ပြရန် လိုမည် မထင်ပါ။ လူ့ဘဝမှာ ရှိကြစဉ်တုန်းကလည်း သည်တူကလေးကို ကျွန်ုပ် မကြာခဏ ချီခဲ့ရ၊ ပိုးခဲ့ရ၏။ သာသနာ့ဘောင်မှာ ဆုံမိကြတော့လည်း သူ့အတွက် လိုအပ်ရာရာကို ကျွန်ုပ် ကြောင့်ကြစိုက်ကာ စောင့်ရှောက်ခဲ့ရ၏။ ထို့အတူပင် ရာဟုလာဘက်ကလည်း ကျွန်ုပ်၏ မေတ္တာ၊ စေတနာကို တန်ဖိုးထားခဲ့ပါ၏။ ရဟန္တာအရှင်မြတ်တစ်ပါး ဖြစ်လာသည့်တိုင်အောင် ကျွန်ုပ်အပေါ် လေးလေးမြတ်မြတ် ရှိခဲ့ပါ၏။ ယခု နောက်ပိုင်းမှာ ဘုရားရှင်၏ အလုပ်အကျွေးတာဝန် ထမ်းဆောင်လာရသည်တွင်ကား ကျွန်ုပ်ကို ပို၍ အရေးတယူ ရှိလာပေသည်။ ဘုရားရှင်အား ပြုစုလုပ်ကျွေးရာတွင် ပါဝင်ခွင့်မရသော်လည်း ကျွန်ုပ်အတွက် သက်သောင့်သက်သာရှိရေးကိုကား ဂရုတစိုက် ရှိပါပေသည်။

ကျွန်ုပ် သက်သောင့်သက်သာရှိရေးကို ရှေးရှုခဲ့သော ရာဟုလာသည် နောက်ဆုံးခန္ဓာဝန်ချသည့် အခါမှာပင် ကျွန်ုပ်အတွက် သက်ညှာစွာ ပြုခဲ့ပါသေးသည်။

မယ်တော်ကြီး ဂေါတမီနှင့် ယသော်ရောတို့ ညီအစ်မတွေ ပရိနိဗ္ဗာန်စံကြသည်မှာ ကျွန်ုပ်တို့ ရှေ့မှောက်မှာပင် ဖြစ်၏။ နောက်ဆုံးအချိန်တွင် ဘုရားရှင်နှင့်တကွ ကျွန်ုပ်တို့ တစ်တွေကို ကန်တော့၍ သွားကြသေး၏။ သားတော်မြတ်ရာဟုလာ ပရိနိဗ္ဗာန်စံရာကား ကျွန်ုပ်တို့ မျက်ကွယ်ရာ တာဝတိံသာ နတ်တို့ရွာမှာ ဖြစ်၏။ ထို့ပြင် ကျွန်ုပ်တို့ကိုလည်း လုံးဝ နှုတ်ဆက်မသွားပါ။ သူ့ဝရီးတော် နည်းတူမည်သူ့ကိုမျှ ကာယကံမြောက် နှုတ်ဆက်မသွားခဲ့ပါ။ သို့သော် သူ့ခမည်းတော်ဘုရားကိုကား မနောကံအားဖြင့် ကန်တော့၍ သွားခဲ့ပါလိမ့်မည်။ တာဝတိံသာ နတ်တို့ရွာတွင် ပရိနိဗ္ဗာန်ပြုလိုပါကြောင်း မြင့်မြတ်သော စိတ်မနောဖြင့် လျှောက်ထားခဲ့ပါလိမ့်မည်။ သားတော်မြတ်အား မဟာကရုဏာတော်ဖြင့်ရင်အုပ်မကွာ စောင့်ရှောက်တော်မူလာခဲ့သော ဘုရားရှင်ကလည်း သားတော်ရာဟုလာ ပရိနိဗ္ဗာန်စံပုံကို ဉပေက္ခာ ဘာဝနာဖြင့် အကြည်အသာ ကြည့်ရှု၍ နေတော်မူခဲ့ပါလိမ့်မည်။

တစ်ကြိမ်သောအခါက ကျွန်ုပ်သည် ရာဟုလာတို့ သားအဖကို ရွှေလောင်းကြီးနှင့် ရွှေလောင်းငယ်အဖြစ် တင်စားခဲ့ဖူးပါ၏။ ရွှေလောင်းကြီး နောက်က

ထက်ကြပ်မကွာ လိုက်ပါလာခဲ့သော ရွှေလောင်းငယ်သည် ကျွန်ုပ်တို့ မြင်ကွင်းမှ ပထမဦးစွာ ပျောက်ကွယ်သွားပါချေပြီ။

ချစ်ခင်မြတ်နိုးသူများ၏ နောက်ဆုံးကန်တော့ပွဲများ၌ ရှိုက်ကြီးတငင် ငိုပွဲဆင်ခဲ့ခဲ့သော ကျွန်ုပ်သည် ယခု ရာဟုလာ၏နောက်ဆုံးအချိန်မှာကား မျက်ရည်ဖြင့် နှုတ်မဆက်လိုက်ရတော့ပါ။ ဤသို့ ကျွန်ုပ်အပေါ် သက်ညှာခဲ့သော တူဖြစ်သူသည် ကွယ်ရာမှာ မျက်ရည်ကျနေဦးမည့် ဘထွေးတော်၏ ဖြစ်အင်ကို တွေးမှ တွေးခဲ့မိပါလေစ။ **(မဟာဝဂ်၊ သတိပဋ္ဌာနသံယုတ်၊ စုန္ဒသုတ် အဋ္ဌကထာ)**

**

# ယာလက်ရုံးကြီး ပြုတ်ချိန်တန်

တူဖြစ်သူ ရာဟုလာက ကရုဏာဖြင့် သက်ညှာခဲ့သဖြင့် ပွဲတိုင်းကျော် မျက်ရည်သည်ကြီး သက်သာခွင့် ရခဲ့ပါ၏။ အကင်းကြီး အရှင်းကြီး မဟုတ်စေကာမူ ရှိုက်ကြီးတငင် ငိုပွဲကြီးဆင်ရသော အဖြစ်သို့ကား မရောက်ခဲ့ပါ။ သို့သော် ထိုနေ့က သက်သာမှုသည် နောက်တစ်ခါ ပူပန်မှုအတွက် နေရာပေးထားခြင်းသာ ဖြစ်ပေသည်။

ရာဟုလာ ပရိနိဗ္ဗာန်ပြုရာဌာနသည် ကျွန်ုပ် မျက်ကွယ်ရာမှာ ဖြစ်၏။ တာဝတိံသာ နတ်တို့ရွာ၌ ပရိနိဗ္ဗာန်ပြုကြောင်း ဈာန်အဘိညာဉ်ရ ပုဂ္ဂိုလ်များ ပြောပြကြ၏။ အရှင်မဟာသာရိပုတ္တရာ ပရိနိဗ္ဗာန်ပြုရာအရပ်မှာလည်း ကျွန်ုပ် မျက်ကွယ်ပင် ဖြစ်၏။ ဇေတဝန်ကျောင်းတော်နှင့် ဝေးကွာလှသော သူတို့ ဇာတိရပ်ရွာမှာ ဖြစ်၏။

မဂဓတိုင်းအတွင်းရှိ နာလကရွာကြီးသည် အရှင်မြတ်ကြီး၏ ဇာတိချက်မြှုပ် ဖြစ်၏။ ထိုရွာကြီးတွင် သူ၏မယ်တော် သာရိပုဏ္ဏေးမကြီးသည် မြေးကလေး ဥပရေဝတနှင့်အတူ ရှိနေခဲ့၏။ ထိုမယ်တော်ကြီး၏ တိုက်ခန်းသည် အရှင်မဟာသာရိပုတ္တရာ၏ ဖွားမြင်ရာဌာနလည်း ဖြစ်ပေသည်။

မယ်တော်ကြီးသည် ကုသိုလ်ကံ အင်မတန် ထူးလှ၏။ ထေရီထေရာ ရဟန္တာပုဂ္ဂိုလ်ကြီး ခုနစ်ပါး၏ မယ်တော်ကြီးဖြစ်၏။ စာလာ၊ ဥပစာလာ၊ သိသူပစာလာ ဟူသော သမီးသုံးယောက်လုံးသည် ထင်ရှားသော ရဟန္တာ အရှင်မကြီးများ ဖြစ်ကြ၏။ အရှင်မဟာသာရိပုတ္တရာ၊ အရှင်ဥပသေန၊ အရှင်စုန္ဒနှင့် ညီအထွေးဆုံး ရေဝတတို့လည်း ဂုဏ်သတင်းကြီးမားသော ရဟန္တာ အရှင်မြတ်များ ဖြစ်ကြ၏။ ထိုအထဲက အရှင်မြတ်သုံးပါးတို့သည် ဧတဒဂ် ဂုဏ်ထူးများကို ဆွတ်ခူးနိုင်ခဲ့ကြ၏။

တောကျောင်းနေ တေဒင်္ဂုဏ်ထူးရ ရေဝတအကြောင်းကို သာမဏေကျော်များ အခန်းမှာ တင်ပြခဲ့ပြီးပါပြီ။ ယခု စကားစပ်လာသည့်အခိုက် သမန္တပါသာဒိက ဧတဒဂ်ဂုဏ်ထူးရ အရှင်ဥပသေနအကြောင်းကို အမြွက်မျှ တင်ပြချင်ပါသေးသည်။

နောင်တော်ကြီးကို အတုယူကာ ရဟန်းပြု၍ တစ်ဝါအရတွင် အရှင်ဥပသေနသည် သာသနာတော် ကြီးပွားစေရန် ဟူသော ရည်ရွယ်ချက်ဖြင့် တပည့်တစ်ဦးကို ရဟန်းခံ၍ ပေးခဲ့၏။ ဆရာက နှစ်ဝါ၊ တပည့်က တစ်ဝါအရတွင် ဘုရားရှင့်ရှေ့တော်သို့ ဝင်လာကြရာ–

"အို အချည်းနှီးသော ယောကျ်ား၊ သင်ကိုယ်တိုင်မှာ သူတစ်ပါးထံမှ အဆုံးအမ ခံယူရဦးမည် ဖြစ်ပါလျက် အဘယ့်ကြောင့် သူတစ်ပါးကို ဆုံးမရန် စိတ်ကူးရဘိသနည်း။ အသင်းအပင်းဖွဲ့၍ ပရိသတ်ကြီးပွားအောင် လုပ်ဆောင်ခြင်းသည် စောလွန်းစွတကား"

တပည့်မွေး စောနေသော အရှင်ဥပသေနအား ဘုရားရှင်က ဤသို့ ရှုတ်ချတော်မူကာ မိမိက ဆယ်ဝါ မပြည့်သေးလျှင် ဥပဇ္ဈာယ်ပြု၍ ရဟန်းခံ မပေးရဟု သိက္ခာတော်ပုဒ်ကို ပညတ်တော်မူခဲ့ရ၏။

(ဝိနည်းမဟာဝဂ်၊ မဟာခန္ဓက၊ အာစရိယဝတ္တကထာ)

ထိုစဉ်တုန်းက အရှုတ်ချခံလိုက်ရခြင်းသည် အရှင် ဥပသေနအဖို့ အားသစ်လောင်းပေးလိုက်ခြင်းသာ ဖြစ်၏။ ဧတဒဂ်ဂုဏ်ထူး ဆွတ်ခူးနိုင်ရန် လမ်းစဖော်ပေးလိုက်ခြင်းသာ ဖြစ်၏။ ဘုရားရှင်၏ ရှုတ်ချစကားကြောင့် အရှင် ဥပသေနသည် သတိသံဝေဂ ရမိသော်လည်း စိတ်ပျက်အားငယ်မှုကား ဖြစ်ပွားမလာပါ။ "ဘုရားရှင်က ပရိသတ်ကို အကြောင်းပြပြီး ငါ့ကို ရှုတ်ချခဲ့ပြီ။ လပြည့်ဝန်းကဲ့သို့ ကျက်သရေမင်္ဂလာ ပြည့်စုံစွာသော ထိုနှုတ်ဖျားတော်မှပင် ငါ့ကို ချီးမွမ်းလာအောင် ငါ ဆောင်ရွက်အံ့။ ပရိသတ်ကို အကြောင်းပြု၍ပင် ချီးမွမ်းစကားကို ငါခံယူအံ့" ဟူ၍သာ အားတင်းထားခဲ့၏။

အားတင်းထားခဲ့သည့်အတိုင်း ဆယ်နှစ်အကြာတွင် ဓုတင်ဆောင် တပည့်ပရိသတ်ကြီး ငါးရာ ခြံရံလျက် ဘုရားရှင့် ရှေ့တော်မှောက်သို့ ပြန်ရောက်လာပေသည်။

ယခင်တစ်ခေါက်တုန်းက အမျိုးမျိုးအဖုံဖုံ ရှုတ်ချတော်မူခဲ့သော ဘုရားရှင်သည် ဤအခေါက်မှာတော့ ဝမ်းမြောက်ဝမ်းသာ ကြိုဆိုတော်မူပါ၏။ ဆရာကောင်း တပည့် ပီသစွာ ဓုတင်ဆောက်တည်နေကြသော ရဟန်းများကို စေ့စေ့စပ်စပ် ကြည့်တော်မူကာ "ဥပသေန၊ သင့်ပရိသတ်သည် ကြည်ညိုဖွယ်ရှိပေစွ" ဟု

ရွှေနှုတ်တော်မှ ထုတ်ဖော် ချီးမွမ်းတော်မူပါ၏။ ဘုရားရှင် ရှုတ်ချခံထားရသော ရဟန်းတစ်ပါးအဖို့ ထိုအပြစ်မှ လွတ်မြောက်ရန်နည်းလမ်းမှာ ကျင့်ဝတ်နှင့် ပြည့်စုံရေးသာ ဖြစ်ပေသည်။ အရှင်ဥပသေနမှာကား မိမိကိုယ်တိုင် ကျင့်ဝတ်နှင့် ပြည့်စုံရုံမက တပည့်အားလုံးကိုပါ ကြည်ညိုဖွယ်ဖြစ်အောင် ဆုံးမသွန်သင်နိုင်သဖြင့် သမန္တပါသာဒိက တေဒဂ် ဂုဏ်ထူးကို ဆွတ်ခူးနိုင်ပေသည်။ စိတ်ကောင်း နှလုံးကောင်း ရှိသူအဖို့ မိမိအပေါ် ပြောလေသမျှ ဆိုလေသမျှ အကျိုးရအောင် ကြံဆောင်နိုင်ကြသည်သာတည်း။

ကျွန်ုပ်၏ တစ်သက်တာမှတ်တမ်း ဇာတ်လမ်းရှည်ကြီးကို ဤ အရှင်မြတ်၏ ဥဒါန်းစကားဖြင့် နိဂုံးချုပ်ရမည်ဖြစ်၍ ဤနေရာမှ အမှတ်တရ တင်ပြရခြင်း ဖြစ်ပါသည်။

**(ပါရာဇိကကဏ္ဍ၊ နိဿဂ္ဂိပါစိတ်၊ နိဿိဒနသန္တကသိက္ခာပုဒ်ပါဠိတော်နှင့် အဋ္ဌကထာ၊ အင်္ဂုတ္တရ၊ ဧကကနိပါတ် အဋ္ဌကထာ၊ ဥပသေန ဝင်္ဂန္တပုတ္တတ္ထေရ ဝတ္ထု)**

ဤမျှလောက် အရှိန်အဝါကြီးမားလှသော သားသမီးများကို မွေးထုတ်ခဲ့သော မယ်တော်ကြီးသည် တစ်ဖက်က ကြည့်ပြန်တော့လည်း ကံဆိုးသည်ဟုဆိုရန် ရှိနေ၏။ ထေရီထေရာ ရဟန္တာပုဂ္ဂိုလ်ကြီး ခုနစ်ပါး၏ မယ်တော်ကြီး ဖြစ်ပါလျက် သူ့ခမျာ ယခုထက်ထိ ရတနာသုံးပါးနှင့် မထိတွေ့ရရှာသေးချေ။ အယူအစွဲ ပြင်းထန်လှသော ဗြာဟ္မဏတို့ လမ်းကြောင်းအတိုင်း စိုက်လိုက်မတ်တတ် လိုက်နေဆဲသာ ဖြစ်၏။

လူမှန်းသိတတ်ကတည်းက ဤလမ်းကြောင်းအတိုင်း လိုက်လာခဲ့ရာ ယခုအသက် ရှစ်ဆယ်ကျော်၍ ကိုးဆယ်ဘက် နီးလာခဲ့ပြီ။ သို့သော် သူတို့တစ်တွေ ကိုးစားမျှော်လင့်ခဲ့သော ဗြဟ္မာကြီးများကိုကား တစ်ကြိမ်တစ်ခါမျှ မဖူးကြရ။ မမြင်ကြရချေ။

ဗြဟ္မာဟူသည် မြင့်မြတ်သော ဂုဏ်ကျေးဇူးပင်ဖြစ်ရာ ထိုဂုဏ်ကျေးဇူးကို သရုပ်ခွဲကြည့်လျှင် မေတ္တာ၊ ကရုဏာ၊ မုဒိတာနှင့် ဥပေက္ခာ ဟူ၍ လေးမျိုးလေးစား ရှိပေသည်။ ရှိရှိသမျှ သတ္တဝါ အနန္တတို့အား မိမိကိုယ်နှင့် မခြား ချစ်ခင်ခြင်း၊ ဒုက္ခိတသတ္တဝါတို့အား သနားခြင်း၊ သုခိတ သတ္တဝါတို့အတွက် ဝမ်းမြောက်ခြင်း၊ မိမိ ဖြစ်စေချင်တိုင်း မဖြစ်နိုင်သော သဘောကို သိ၍ ဝမ်းနည်းဝမ်းသာ မဖက် တည့်မတ်စွာ နေထိုင်ကျင့်သုံးခြင်းဟု အစီပွာယ်ရ၏။ ဤတရားလေးမျိုးတို့ကို ကျွန်ုပ်တို့ သာသနာတော်က ဗြဟ္မဝိဟာရဟု ခေါ်ဝေါ်သမုတ်ထား၏။ တစ်စုံတစ်ယောက်သောသူသည် ဤလေးပါးလုံးကိုဖြစ်စေ၊ တစ်ပါးပါးကိုဖြစ်စေ ထိထိမိမိ ပွားများနိုင်ပါလျှင် မိမိကိုယ်တိုင် ဗြဟ္မဝိဟာရ မြင့်မြတ်သောနေခြင်းဖြင့် နေထိုင်သူ

ဖြစ်တော့၏။ ထက်ကောင်းကင်မှ ဗြဟ္မာကြီးများကို မျက်မှန်းရမ်းဆ တမ်းတနေမည့်အစား ဤသို့ မိမိကိုယ်တိုင် နေထိုင်ကျင့်သုံးမှုက ပိုမို၍ အကျိုးရှိပေသည်။

အရှင်သာရိပုတ္တရာ၏ မယ်တော်ကြီးကား ကိုယ်တိုင် ကျင့်သုံးရမည့်အစား ထက်ကောင်းကင်ကဗြဟ္မာကြီးများကို လှမ်းမျှော်နေသည်ဟု ဆိုကြ၏။ ထိုသို့ အစွဲအလမ်းကြီးလွန်းလှသဖြင့် သူ့သားတော် သမီးတော်များသည် ဝေးဝေးက ခွာနေခဲ့ကြဟန် တူပါသည်။ ယခုတော့ သားကြီးဩရသက သူရှိရာသို့ ကြွချီလာပါတော့မည်။ ဤသို့ကြွချီလာခြင်းမှာ မယ်တော်ကြီးအား ချေချွတ်ရန် သက်သက်သာဖြစ်လျှင် ကောင်းလေစွ။ မယ်တော်ကြီးကို ချေချွတ်ပြီးနောက် နောက်ပါ တပည့်ရဟန်းများနှင့်အတူ ဇေတဝန်ကျောင်းတော်သို့ ပြန်ကြွလာလျှင် ကောင်းလေစွ။ သို့သော် အရှင်မြတ်ကြီး၏ ကြွချီခြင်းကား နောက်ထပ်တစ်ဖန် ပြန်ကြွလာရန် မရှိတော့သော ကြွချီခြင်းပါတကား။

"ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ရှင်တော်မြတ်၏ ခြေတော်အစုံကြာပဒုံကို ဦးခိုက်ရှိခိုးခွင့်ရသဖြင့် တပည့်တော်၏ လိုအင်ဆန္ဒများ ပြည့်ဝခဲ့ပါပြီ။ ဘုန်းတော်ကြီးသော ဘုရားရှင်နှင့် တပည့်တော်တို့မှာနောက်ထပ် တစ်ဖန်ဆုံတွေ့ရန် အကြောင်းမရှိတော့ပါပြီ။ အရှင်ဘုရားနှင့် တပည့်တော်တို့၏ အကျွမ်းတဝင် ချစ်ကြည်မှုသည် ဤနေရာမှာပင် ပြီးပြတ်ခဲ့ပါပြီ။ တပည့်တော်သည် ခပ်သိမ်းသော ဘုရားရှင်တို့ထုံးကို နှလုံးထား၍ အေးချမ်းသော စိတ်မနောဖြင့် ခန္ဓာဝန်ကို ချပါတော့မည်။ မယ်တော်ကြီး၏ တိုက်ခန်းသို့ တပည့်တော် သွားပါတော့မည်။ တပည့်တော်၏ ကာယကံ၊ ဝစီကံ၊ မနောကံတို့တွင် မနှစ်သက်ဖွယ်ကို အကယ်၍ တွေ့ရှိပါလျှင် ဘုရားရှင် ခွင့်လွှတ်တော်မူပါဘုရား"

"သာရိပုတ္တရာ၊ သင်၏ ကာယကံ၊ ဝစီကံ၊ မနောကံတို့တွင် ငါ ဘုရား မနှစ်သက်ဖွယ်ဟူ၍ လုံးဝ မရှိပါ။ သာရိပုတ္တရာ၊ သင့်ရည်မှန်းရာဌာနသို့ သွားလိုက သွားနိုင်ပါပြီ"

အရှင်မြတ်ကြီးနှစ်ပါးတို့က နောက်ဆုံး နှုတ်ဆက်ခြင်းဖြင့် နှုတ်ဆက်၍ ပြီးကြပါပြီ။ အရှင်မြတ်ကြီး၏ ညီလတ် အရှင်စုန္ဒသည် သူ့နောင်တော်ကြီး၏ သပိတ် သင်္ကန်းများကို အသင့်ဆောင်ယူ၍ ထားပါပြီ။ အရှင်မြတ်ကြီး၏ အတူနေ တပည့်ရဟန်း ငါးရာကလည်း ဆရာအရှင်နှင့် အတူလိုက်ရန် အသင့် ပြင်ဆင်၍ ထားကြပါပြီ။

"ရဟန်းတို့၊ သင်တို့၏ အကြီးဆုံး နောင်တော်ကြီးကို လိုက်ပို့ကြကုန်လော့"

မယ်တော်ကြီး ဂေါတမီ ထွက်ခွာစဉ်တုန်းက ခပ်မဆိတ်နေတော် မူခဲ့သော ဘုရားရှင်သည် အရှင်မြတ်ကြီး အလှည့်တွင်ကား ရွှေနှုတ်တော်မှ ထုတ်ဖော်၍

တိုက်တွန်းတော်မူပေသည်။ နဂိုကပင် လိုက်ပို့ရန် ပြင်ဆင် နေကြသော ကျွန်ုပ်တို့မှာ အမိန့်တော်ထွက်လာသည်နှင့် အရန်သင့် ဖြစ်သွားကြပေသည်။

အရှင်မြတ်ကြီး၏ နောက်ပါးမှ ရဟန်းငါးရာနှင့်အတူ ရှိရှိသမျှ ရဟန်းများလည်း လိုက်ပါသွားကြ၏။ ဇေတဝန် ကျောင်းတိုက်ကြီးတစ်ခုလုံးတွင် လိုက်မပို့သူဟူ၍ ဘုရားရှင် တစ်ပါးတည်းသာ ရှိပေသည်။ အနာဂါမ်၊ ရဟန္တာ ပုဂ္ဂိုလ်များမှ လွဲ၍ အားလုံး မျက်ရည်စက်လက်နှင့် ဖြစ်ကြ၏။ ထိုအထဲမှာ ကျွန်ုပ်ပါဝင်ကြောင်းကိုကား အထူးဖော်ပြရန် လိုမည်မထင်ပါ။

ဇေတဝန် ကျောင်းတော်မှ ထွက်၍ သာဝတ္ထိမြို့တော်ကို ဖြတ်သွားရပြန်တော့လည်း သတင်းကြားပြီးသော ဒါယကာ ၊ ဒါယိကာမများက ကြိုဆိုလျက်ရှိကြ၏။ မြို့တံခါးဟူသမျှ ပြည့်ကျပ်၍နေကြ၏။ သူတို့၏လက်ထဲမှာ ပန်းနံ့သာစသော ပူဇော်ဖွယ်များ ရှိနေသကဲ့သို့ပင် မျက်နှာ အားလုံးမှာလည်း ကျမျက်ရည် စိုစိုရွှဲ၍ နေကြပေသည်။

"အို တပည့်တို့၊ အို ဒါယကာ ဒါယိကာမတို့၊ သည်လမ်းခရီးကား မည်သူမျှ ရှောင်လွှဲ၍ မရနိုင်ပေ။ သင်္ခါရတရားတို့သည် ဤသို့ ဖြစ်လေ့ရှိကြ၏။ မိမိ ရရှိထားသော တရားကို မမေ့မလျော့ ကျင့်သုံးပွားများ ကြကုန်လော့"

တမ်းတငိုယိုနေကြသော ပရိသတ်အပေါင်းကို အရှင်မြတ်ကြီးက စိတ်ပြေရာ ပြေကြောင်း ဟောကြားရပေသည်။ ထို့နောက်မှ ကျွန်ုပ်ထံ လှည့်ကာ....

"ငါ့ရှင်တို့၊ ဤမျှဖြင့် ရပ်ကြကုန်လော့။ ဆက်လက်၍ မလိုက်ပါကြကုန်လင့်။ ဘုရားရှင်အား ပြုစုလုပ်ကျွေးရန် တာဝန်ကို မမေ့မလျော့ကြစေနှင့်"

အထိရောက်ဆုံးသော အကြောင်းပြချက်ဖြင့် တားမြစ်လိုက်ပါတော့သည်။ အရှင်မြတ်ကြီး မိန့်ကြားရာတွင် ဗဟုဝုစ် စကားကို အသုံးပြုထားပါ၏။ သို့သော် ထိုအကြောင်းပြချက်ဖြင့် ကျွန်ုပ်ကို အထူးပြုလိုက်ကြောင်း ကျွန်ုပ် သဘောပေါက်ပါသည်။ အရှင်မြတ်ကြီးထံ တစ်လျှောက်လုံး ဆည်းကပ်ခွင့်ရခဲ့ပြီမို့ ဉာဏ်ပညာနှင့် ထပ်တူ ကြီးမားဖြူစင်လှသော မေတ္တာစာတ်ကို ကျွန်ုပ် ခံယူခဲ့ရပြီဖြစ်၏။ ဘုရားရှင့်အပေါ်မှာမူကား ထိုမေတ္တာရှင် စေတနာရှင်၏ မိန့်ကြားချက်ကို တစ်သဝေမတိမ်း လိုက်နာရပါသည်။ မိန့်ကြားသံနာခံရသော အရပ်မှာပင် ခြေစုံရပ်ကာ လက်အုပ်ချီ၍ ထားလိုက်ရပါတော့သည်။ **(သတိပဋ္ဌာနသံယုတ်၊ စုန္ဒသုတ် အဋ္ဌကထာ)**

ကျွန်ုပ်တို့ လက်အုပ်ရှေ့မှ အဂ္ဂသာဝက အရှင်မြတ်ကြီး ထွက်ခွာသွားပါပြီ။ သူ၏ နောက်မှာလည်း တပည့်ရဟန်း ငါးရာတို့က တသီတတန်းကြီး လိုက်ပါသွားကြပါပြီ။ သူတို့က ခြားကွယ်လိုက်သဖြင့် အရှင်မြတ်ကြီး၏ ရုပ်သွင်သည် ကျွန်ုပ်တို့ မြင်ကွင်းမှ ပျောက်ကွယ်သွားပါ၏။ သို့သော် ကျွန်ုပ်၏ စိတ်ထဲမှာကား

ဆက်လက်၍ ဖူးနေရဆဲသာ ဖြစ်ပါ၏။ အရှင်မြတ်ကြီး၏ ရုပ်ပုံလွှာသည် ကျွန်ုပ်နှင့်အတူ ဇေတဝန် ကျောင်းတော်ထိ ပါလာခဲ့၏။ ဘုရားရှင်ကို ပြုစုလုပ်ကျွေးနေစဉ်မှာလည်း ကျွန်ုပ်အနားမှာပင် အရှင်မြတ်ကြီး ရှိနေပေသည်။

ရှေ့အခန်းများမှာတုန်းကလည်း ဆရာသခင် ကျေးဇူးရှင်ကြီး၏ ဂုဏ်ကျေးဇူးများကို ကျွန်ုပ် ဖော်ကျူးခဲ့ပါပြီ။ ကြိမ်ဖန်များစွာ နေရာအနှံ့အပြား၌ အားပါးတရ ချီးကျူးခဲ့ဖူးပါပြီ။ ယခု အကြောင်းတစ်ဖန် ဆုံလာပြန်ရာ၌လည်း လက်ယာရံ အဂ္ဂသာဝကကြီး၏ ဂုဏ်ကျေးဇူးများကို ထပ်မံ ဖော်ကျူးရပါဦးမည်။ အမှန်ဆိုသော် ယခု ဖော်ကျူးအံ့သော ဂုဏ်ကျေးဇူးများသည် ထိုစဉ်အခါတုန်းက ကျွန်ုပ်၏ အာရုံကို လွှမ်းခြုံလျက် ရှိခဲ့၏။ ထိုဂုဏ်ကျေးဇူးများကို အောက်မေ့နေရသဖြင့် ကြွသွားလေသူ အရှင်မြတ်ကြီးအတွက် လွမ်းဆွတ်တသ ပူဆွေးရသော စိတ်ဝေဒနာများမှာ အတန်အသင့် သက်သာခွင့် ရခဲ့ပေသည်။

ပညာအရာ ဧတဒဂ်ရ အရှင်မြတ်ကြီး၏ အထူးခြားဆုံး ဂုဏ်ကျေးဇူး တစ်ခုကား တည်ကြည် ငြိမ်သက်ခြင်း ဖြစ်၏။ ထိုသို့ ငြိမ်သက်ခြင်း ကြောင့်ပင်လျှင် ကျွန်ုပ်မှာ ဘုရားရှင်၏ အကြိမ်းအမောင်းကို ခံခဲ့ရပါချေသည်။

ထိုနေ့က တရားသဘင်ဝယ် အရှင်မဟာသာရိပုတ္တရာသည် နိရောဓသမာပတ်နှင့် ပတ်သက်သော တရားများ ဟောကြား၏။ သီလ၊ သမာဓိ၊ ပညာ သိက္ခာသုံးရပ်နှင့် ပြည့်စုံသော ရဟန်းသည် ထိုသမာပတ်သို့ ဆိုက်ရောက်နိုင်ကြောင်းဖြင့် တရားပွဲ စတင်လိုက်၏။ ဤသို့ စတင်လိုက် ရုံဖြင့်ပင် နှောင့်ယှက်သူက ပေါ်လာတော့သည်။ ထိုသူကား လာဠုဒါယီ ပါတည်း။

နေရာတကာ ကန့်လန့်ကန့်လန့်နှင့် ပါလာတတ်သော လာဠုဒါယီသည် ဤလို ဓမ္မသဘင် မျိုးမှာလည်း အလွတ်မပေးပါချေ။ အလွတ်မပေးသဖြင့် တကယ်တမ်း တရားသဘောသက်ဝင်လျှင် ကောင်းလေစွ။ မရှင်းလင်းသည်ကို အကျိုးသင့် အကြောင်းသင့် မေးလျှင် ကောင်းလေစွ။ သို့သော် လာဠုဒါယီကား ဤလို တောင့်တ၍ ရစကောင်းသူ မဟုတ်ပါ။ မရှင်းလင်းတာကို မေးမြန်းဖို့ထက် အတိုက်အခံ လုပ်ဖို့ကိုသာ အားသန်သူ ဖြစ်၏။

ယခင်တစ်ခါကလည်း ဤသို့ အတိုက်အခံ လုပ်ခဲ့မိ၍ ပရိသတ် အလယ်မှာ အရှက်ကွဲခဲ့ရပြီ ဖြစ်၏။ သို့သော်လည်း လာဠုဒါယီမှာ အမှတ်သည်းခြေ မရှိချေ။ ဆင်ခြင်တိုင်းထွာ နိုင်စွမ်းလည်း မရှိချေ။ မိမိကို တရားနာပရိသတ်က အထင်ကြီးလိမ့်မည်ဟူ၍ ဇွတ်ဝင်လာခြင်းသာ ဖြစ်၏။

မလိမ္မာသူက ဇွတ်တရွတ်ဝင်၍ အနှောင့်အယှက် ပြုသော်လည်း အရှင်မြတ်ကြီးက စိတ်မပျက်ပါ။ သုံးကြိမ်တိုင်တိုင် ဤအကြောင်းအရာကိုသာ ထပ်၍

ဟောၓ်။ လာဠုဒါယီကလည်း ဟောသမျှ လိုက်၍သာ နှောင့်ယှက်၏။ မအပ်မရာ နှောင့်ယှက်မှန်း သိပါသော်လည်း ကျွန်ုပ်တို့မှာ သည်အတိုင်း ကြည့်နေမိကြ၏။ လာဠုဒါယီကို တားမြစ်ရန်သော်လည်းကောင်း၊ အရှင်မြတ်ကြီး၏ တရားကို ထောက်ခံရန်သော်လည်းကောင်း မည်သူမျှ သတိမထားမိကြ။ အဆုံးကျလျှင် လာဠုဒါယီကို အရှင်မြတ်ကြီး နှိမ်နင်းနိုင်လိမ့်မည် ဟူသော ယုံကြည်ချက်ဖြင့် ခပ်မဆိတ် နေခဲ့ကြပေသည်။ ယခင်တစ်ခါတုန်းက နိဗ္ဗာန်နှင့်ပတ်သက်၍ လာဠုဒါယီ၏ စောဒနာမှုကို အရှင်မြတ်ကြီးက ချက်ကျလက်ကျ ဖြေရှင်းခဲ့၏။ ယခုတော့ အကြောင်းပြု၍ စောဒနာဝင်ခြင်း မဟုတ်ပါ။ သက်သက် အတိုက်အခံ လုပ်ခြင်းဖြစ်၍ တရားပွဲကို ရုပ်သိမ်း၍ ဘုရားရှင် ရှေ့တော်မှောက်သို့ ကြွသွားရ၏။

ဘုရားရှင့် ရှေ့တော်မှောက်မှာလည်း အရှင်မဟာသာရိပုတ္တရာသည် ဤတရားကိုပင် ထပ်၍ ဟော၏။ အတင့်ရဲလွန်းလှသော လာဠုဒါယီကလည်း ရှေ့တော်မှောက်ထိ လိုက်၍ အတိုက်အခံ လုပ်၏။ သုံးကြိမ်တိုင်တိုင် ဟော၍ သုံးကြိမ်တိုင်တိုင် အတိုက်အခံ လုပ်ပြီးချိန်မှာကား အရှင်မြတ်ကြီး နှုတ်ဆိတ်သွားတော့၏။ ဤတွင်မှ ဘုရားရှင်က လာဠုဒါယီအား ကိုယ့်အရာ မဟုတ်ရာ၌ ဝင်မရှုပ်ရန် သတိပေးတော်မူကာ ကျွန်ုပ်ထံ မျက်နှာတော်မူလာပြီးလျှင်....

"အာနန္ဒာ၊ ဖြစ်မှုဖြစ်ရလေခြင်း၊ မထေရ်ကြီးကို နှိပ်စက်နေမှန်း သိပါလျက် သင်တို့ လျစ်လျူရှုနိုင်ကြပါဘိ၏။ အနှိပ်စက်ခံနေရသော မထေရ်ကြီးတစ်ပါးကို သင်တို့ မသနားကြလေကုန်သလော"

ကျွန်ုပ်ကို အမည်တပ်၍ ကြိမ်းမောင်းတော်မူလိုက်ပါသည်။

အစိအရိထိုင်နေကြသောရဟန်းများစွာရှိနေပါလျက် ကျွန်ုပ်ကိုမှရွေးကောက်၍ ကြိမ်းမောင်းတော်မူလိုက်သဖြင့် ရုတ်တရက် ကျွန်ုပ် အတွေးရခက်သွား၏။ ခေါင်းအေးအေးထားပြီး စဉ်းစားလိုက်ခါမှ အဖြေမှန်က ပေါ်လာပေသည်။ အရှင်မဟာသာရိပုတ္တရာသည် ကျွန်ုပ်နှင့် ချစ်ကျွမ်းဝင်သူ မဟုတ်ပါလော။ ချစ်ကျွမ်းဝင်သော မထေရ်ကြီးတစ်ပါး အနှိပ်စက်ခံရနေလျှင် ကျွန်ုပ်က ဝင်ရောက်၍ ကူညီဖေးမရမည် မဟုတ်ပါလော။ ဤသို့သော တာဝန်မကျေပွန်သဖြင့် အကြိမ်းမောင်းခံရခြင်း ဖြစ်ပေသည်။

မည်သို့ပင်ဖြစ်စေ၊ အရှင်မြတ်ကြီးနှင့် ကျွန်ုပ်တို့၏ ချစ်ကျွမ်းဝင်မှုကို ဘုရားရှင် ကိုယ်တော်တိုင်က အသိအမှတ် ပြုတော်မူသဖြင့် ကျွန်ုပ် တွေးမိတိုင်း ကျေနပ်မိပါသည်။

**(အင်္ဂုတ္တရ၊ စတုက္ကနိပါတ်၊ အာဃာတဝဂ်၊ နိရောဓသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)**

**

# ယာလက်ရုံးကြီးပြုတ်လေပြီ

အရှင်မြတ်ကြီးကို မခန့်လေးစား ပြုမိ၍ လာဋုဒါယီ ဒဏ်ခတ်ခံရသည်မှာ နှစ်ခါ ရှိပေပြီ။ သို့သော် သူလိုရဟန်းမျိုးကား အရှက်ရှိတတ်သူ မဟုတ်ပေ။ မကောင်းမှုမှ ရှက်တတ်သော သဘောမှာ သင့် မသင့် တော် မတော် ချင့်ချိန်တတ်သူများ အတွက်သာဖြစ်ရာ လာဋုဒါယီမှာ ထိုအရည်အချင်းမျိုး လုံးဝ မရှိပေ။ ထို့ထက်ပို၍ ဆိုးဆိုးရွားရွား ဒဏ်ခတ်ခံရသည့် တိုင်အောင် လာဋုဒါယီ ရှက်တတ်မည် မဟုတ်ပါ။

ဤသာသနာတော်ဝယ် ဘုရားရှင်ပြီးလျှင် အရှင်မဟာသာရိပုတ္တရာသည် ဉာဏ်ပညာ အကြီးမားဆုံးဖြစ်၏။ ထို့ကြောင့်လည်း မကောင်းမှုဟူသမျှကို ရှက်ရွံ့စွာ ဝေးဝေးက ရှောင်ခွာ၏။ အပြစ်ရှိသော အမှုများကို မဆိုထားနှင့်။ သတိမေ့၍ ပျက်ကွက်သွားသော ဝတ္တရားတစ်ခုအတွက်ပင် အရှက်ကြီးစွာ ရခဲ့ပေသည်။

တစ်ခါတုန်းက အရှင်မဟာသာရိပုတ္တရာသည် လူသူကင်းရှင်းရာ အရပ်သို့ တစ်ပါးတည်း ကြွကာ နိရောဓသမာပတ် ဝင်စားနေခဲ့သည်ဆို၏။ သံဃာများနှင့် ကျောင်းမှာနေလျှင် အရှင်မြတ်ကြီးသည် နေ့စဉ် တံမြက်လှည်းနေကျ ဖြစ်၏။ ကျောင်းကန်တိုက်တာမှာ တံမြက်လှည်းထားခြင်းဖြင့် မိမိနှင့် ထပ်တူ အခြားသူ များလည်း စိတ်နှလုံး ကြည်လင်၏။ တံမြက်လှည်းခြင်းကို ဘုရားရှင် ကိုယ်တော်တိုင် မကြာခဏ ချီးမွမ်းတော်မူရာ တံမြက်လှည်းသူတိုင်းသည် ဘုရားရှင်၏ အဆုံးအမကို လိုက်နာသူများ ဖြစ်ကြပေသည်။

ဘုရားရှင်၏အဆုံးအမကို တစ်သဝေမတိမ်း လိုက်နာခဲ့သော အရှင်မဟာ သာရိပုတ္တရာသည် ထိုနေ့မှာကား တံမြက်လှည်းဝတ် ပျက်ကွက်သွားခဲ့၏။ တောကြို ချုံကြား၌ တစ်ပါးတည်း ရှိနေသည် ဟူ၍လည်း လျစ်လျူရှုခဲ့မိခြင်း ဖြစ်၏။ သို့ပါလျက် သူရှိရာအရပ်သို့ ဘုရားရှင်က ရောက်ဖြစ်အောင် ရောက်တော်မူလာ ၏။ ရောက်လာတော်မူတုန်းကတော့ အရှင်မဟာသာရိပုတ္တရာ လုံးဝ မသိခဲ့။

နိရောဓ သမာပတ် ဝင်စားနေသဖြင့် အသိဟူသမျှ၊ ခံစားမှုဟူသမျှ ချုပ်ငြိမ်းနေကြ၏။ နိရောဓသမာပတ်မှ ထခါမှ အဖြစ်မှန်ကို သိရပေသည်။ အမှိုက်သရိုက်များ ပြန့်ကြဲနေသောမြေပြင်ထက်ဝယ် ဘုရားရှင်၏ ခြေတော်ရာအစုံ ရှိနေရစ်သည် မဟုတ်ပါလော။

ပြုနေကျ ဝတ္တရားတစ်ခု ပျက်ကွက်မိသဖြင့် အရှက်ကြီးစွာရခဲ့သော အရှင်မြတ်ကြီးသည် ထို့နောက်မှာကား ထိုဝတ္တရားကို နေ့စဉ်နေ့တိုင်း မပျက်တမ်း မကွက်တမ်း ဆောင်ရွက်ခဲ့ပါပေသည်။

**(ပရိဝါအဋ္ဌကထာ၊ ကေတ္တဝိရိကနယ၊ ပဋ္ဌကဝါရအဖွင့်)**

ထို့နောက်တွင်ကား အရှင်မြတ်ကြီး တောထဲမှပြန်လာတိုင်း ရွှင်ရွှင်ပျပျ သပ္ပာယ်လှသော မျက်နှာကို ကျွန်ုပ် ဖူးမြင်ရပေသည်။ ကျွန်ုပ် မေးလျှောက်ကြည့်သောအခါတိုင်း ဈာန်သမာပတ် တစ်မျိုးမျိုး ဝင်စားလာခဲ့ကြောင်း အရှင်မြတ်ကြီးက ရှင်လန်းစွာ ဖြေကြားပါ၏။ ဤသို့ဖြေကြားရာမှ ဆက်လက်၍

"အာနန္ဒာ၊ ဤသို့ ဈာန်သမာပတ် ဝင်စားသောအခါ ငါ ဈာန် သမာပတ် ဝင်စားသည်ဟူ၍လည်းကောင်း၊ ငါ ဈာန်သမာပတ်မှ ထခဲ့ပြီး ဟူ၍လည်းကောင်း ငါတွေးတောခြင်း မပြုခဲ့ပါ"

"မှန်ပါသည် အရှင်ဘုရား။ အရှင်မြတ်ကြီး၏ စိတ်သန္တာန်ဝယ် ငါတည်းဟူသော မာန်မာနနှင့် ငါ့ဟာ ဟူသော အယူအစွဲများကို ပယ်နုတ် ထားသည်မှာ ကြာလှပါပြီ။ ထို့ကြောင့်ပင် ထိုသို့သော တွေးတောမှု မရှိခြင်း ဖြစ်ပါသည်ဘုရား"

လေးနက်လှသော မိန့်ကြားချက်နှင့် အံဝင်ခွင်ကျဖြစ်အောင် ကျွန်ုပ်က လျှောက်လိုက်ရ၏။ အရှင်မြတ်ကြီးသည် သူကရခတ လိုဏ်ဂူတံခါးဝ၌ တူဖြစ်သူ ဒီဃနခပရိဗိုဇ်အား ဝေဒနာပရိဂ္ဂဟသုတ္တန်ကို ဘုရားရှင် ဟောကြားစဉ် ကိလေသာ စင်ကြယ်သော ရဟန္တာအရှင်မြတ်ကြီး ဖြစ်ခဲ့ရာ ထိုနေ့ကို ရည်ညွှန်း၍ ကြာလှပါပြီဟု လျှောက်ထားခဲ့ရခြင်း ဖြစ်ပေသည်။ လကျ်ာရံ သာဝကကြီးသည် မိမိကိုယ်တိုင် ဈာန်သမာပတ် အဆင့်ဆင့် ဝင်စားခဲ့၏။ သတ်မှတ်ထားသော အချိန်စေ့လျှင် ဈာန်သမာပတ်မှ ထလာခဲ့၏။ သို့ပါလျက် အထက်ပါအတိုင်း မိန့်ကြားပုံမှာ အခြေခံ မရှိလျှင် နားထွေး၍ သွားလောက်ပေသည်။ အရှင်မြတ်ကြီး၏ တရားများကို ကြိမ်ဖန်များစွာ နာကြားခဲ့ရပြီမို့ ကျွန်ုပ်၏ ပရိသတ်များကား နားထွေးလိမ့်မည် မထင်ပါ။

**(ခန္ဓဝဂ်၊ သာရိပုတ္တသံယုတ်၊ ဝိဝေကဇ စသောသုတ်များ)**

ဈာန်သမာပတ်နှင့် ပတ်သက်၍ အစွဲအလမ်း ကင်းရှင်းသော အရှင်မြတ်ကြီးသည် တစ်ခါတုန်းကလည်း ဤသို့ မိန့်ကြားခဲ့ပါသေး၏။

"ငါ့ရှင်တို့၊ ဆိတ်ငြိမ်ရာအရပ်၌ တစ်ပါးတည်း ကိန်းအောင်းစဉ် ငါသည် ဤသို့ စဉ်းစားခဲ့၏။ 'ဤလောက၌ တစ်စုံတစ်ရာ ဖောက်ပြန်ပျက်စီး သွားသဖြင့် ငါ့မှာ စိုးရိမ်ပူဆွေး ငိုကြွေးစရာ ရှိမည်လော'ဟု ကိုယ့်စိတ်ကို မေးမြန်းကြည့်ခဲ့၏။ ဤတွင် အဖြေထွက်လာသည်မှာ 'ဤလောက၌ တစ်စုံတစ်ရာ ဖောက်ပြန်ပျက်စီး သွားသဖြင့် ငါ့မှာ စိုးရိမ်ပူဆွေး ငိုကြွေးစရာ မရှိ' ဟူ၍ ဖြစ်ပေသည်"

အစွဲကင်းပြီးသော အဂ္ဂသာဝကကြီး၏ အစွဲကင်းရေး တရားတစ်ပုဒ် ဖြစ်ပါ၏။ သူကဲ့သို့ အစွဲကင်းစွာ နေတတ်ကြရန်၊ သူကဲ့သို့ ချမ်းချမ်းသာသာ နေနိုင်ကြရန် တိုက်တွန်းလိုက်ခြင်းလည်း ဖြစ်ပါ၏။

ကျောက်ထီးတန္တု အလေးပြုအပ်သော ဆရာသမား၏ မိန့်ကြားချက်ကို ကျွန်ုပ်တို့ စောဒကတက်ရန် မရှိပါ။ လက်မခံနိုင်စရာလည်း လုံးဝမရှိပါ။ သို့သော် ဤမိန့်ကြားချက် မည်မျှလောက်ထိ ခိုင်မာနေသနည်းဟူ၍လည်းကျွန်ုပ် စမ်းသပ်ချင်စိတ် ပေါ်ပေါက်လာ၏။ ထို့ကြောင့်-

"အရှင်ဘုရား၊ မြတ်စွာဘုရားကိုယ်တော်တိုင် ပျက်စီးရွေ့လျားသွားလျှင်ကော စိုးရိမ်ပူဆွေး ငိုကြွေးမှု မပြုတော့ပါပြီလော"

"အာနန္ဒာ၊ ဘုရားရှင်ကိုယ်တော်တိုင် ပျက်စီးရွေ့လျားသွားလျှင်လည်း ငါ့မှာ စိုးရိမ်ပူဆွေး ငိုကြွေးစရာ မရှိပါ။ သို့ရာတွင် တရားနှင့်ယှဉ်သော သံဝေဂ တရားကိုကား ပွားများပါလိမ့်မည်။ 'ဘုန်းတန်ခိုးအရှိန်အဝါ ကြီးမားတော်မူသော ဘုရားရှင်သည်ပင် ကွယ်လွန်ခဲ့ရချေပြီတကား။ အကယ်၍ ဘုရားရှင်သည် ကာလ တာရှည် တည်နေတော်မူပါလျှင် လူအပေါင်းတို့ အကျိုးများကြပါလိမ့်။ ချမ်းသာ သုခ ပွားကြပါလိမ့်မည်' ဤသို့ကား တွေးမိပါလိမ့်မည်"

ငါ တည်းဟူသော မာန်မာနနှင့် ငါ့ဟာ ဟူသော အယူစွဲများကို ပယ်စွန့် ပြီးပြီမို့ ဤသို့ မိန့်ကြားနိုင်ခြင်း ဖြစ်ပေသည်။

**(နိဒါနဝဂ်၊ ဘိက္ခုသံယုတ်၊ ဥပတိဿသုတ်)**

တရားအမြင်ဖြင့် ဤသို့ မိန့်ကြားခဲ့သော အရှင်မြတ်ကြီးသည် ယခု မရှိတော့ပါပြီ။ မိမိ ဖွားမြင်ခဲ့ရာ တိုက်ခန်းသာဝယ် ဝမ်းသွေးသွန်သော ရောဂါဖြင့် ပရိနိဗ္ဗာန် ပြုခဲ့ပါပြီ။ ပရိနိဗ္ဗာန်မစံမီတွင် မယ်တော်ကြီးအား သောတာပတ္တိမဂ်ဖိုလ် အဆင့်သို့ ပို့ဆောင်ကာ မွေးကျေးဖူး ဆပ်နိုင်ခဲ့သည်ဟု ဆိုပါသည်။

ပညာဂုဏ်ရောင် ထွန်းပြောင်ခဲ့သော အရှင်မြတ်ကြီးသည် ယခုတော့ ဓာတ်တော်မျှသာ ကြွင်းရစ်ပါတော့သည်။ သူ၏ ညီဖြစ်သူ စုန္ဒက ကြွင်းကျန်ရစ် သော သပိတ်၊ သင်္ကန်းများနှင့်တကွ ဓာတ်တော်များကို ရေစစ်ဖြင့်ထည့်၍ ဇေတဝန် ကျောင်းတော်သို့ ယူဆောင်လာခဲ့ပေပြီတကား။

အရှင်မဟာသာရိပုတ္တရာ၏ညီဖြစ်သူ စုန္ဒသည် ကျွန်ုပ်၏တပည့်ရင်းချာလည်း ဖြစ်၏။ ကျွန်ုပ်မှာ သူ၏ ဥပဇ္ဈာယ်ဆရာ ဖြစ်၏။ ထို့ကြောင့် စုန္ဒသည် ဘုရားရှင်ထံ ဝင်ရောက်ရန်ကိစ္စတွင် ကျွန်ုပ်၏ အထောက်အကူကို ယူလာခြင်းဖြစ်ပေသည်။

ဘုရားရှင်၏ အမြဲတမ်း အလုပ်အကျွေးဖြစ်၍ ကျွန်ုပ်သည် ရှေ့တော်မှောက်သို့ အချိန်မရွေး ဝင်ရောက်ခွင့် ရှိပါသည်။ သို့သော် တစ်စုံတစ်ရာ လျှောက်ထားရန်မရှိဘဲနှင့်ကား မဝင်ရဲပါ။ လျှောက်ထားစရာမပါလျှင် မဝင်လာပါနှင့်ဟု မိန့်ကြား၍ မထားခဲ့သော်လည်း နောင်တော်မြတ်၏ အရှိန်အဝါက ကျွန်ုပ်ကို ဟန့်တား၍ ထားပေသည်။ ထို့ကြောင့်ပင် စုန္ဒထံမှ ကြားရသော သတင်းကို အကြောင်းပြုကာ ရှေ့တော်မှောက်သို့ ဝင်ရောက်လာခဲ့၏။ လက်ယာရံ သာဝကကြီး၏ နောက်ဆုံးသတင်းကို ကြားသိကြရပြီမို့ ရှိရှိသမျှ ရဟန်းများကလည်း ကျွန်ုပ်တို့ နှစ်ပါးနှင့်အတူ လိုက်ပါလာကြပေသည်။

ဘုရားရှင်သည် စုန္ဒထံမှ ဓာတ်တော်များကို လက်တော်ဖြင့် ခံယူကာ ယာလက်ရုံးကြီး၏ စွမ်းပကားမျိုးစုံကို ချီးကျူးတော်မူ၏။ မိမိကိုယ်စား မြွက်စားခံခဲ့ရသော တပည့်ကြီးအား နောက်ဆုံးပိတ် ချီးမြွက်ခြင်းဖြင့် ချီးမြွက်တော်မူ၏။ ရွှေနှုတ်တော်မှ ထုတ်ဖော် ချီးကျူးခဲ့သောစကားစုမှာ ဂါထာ ငါးရာခန့်အထိ ရှိပေသည်။

ဘုရားရှင်ကတော့ ချီးမြွက်သင့်သော ဂုဏ်ကျေးဇူးကို ထိုက်ထိုက်တန်တန် ချီးမြွက်တော်မူခြင်းသာ ဖြစ်၏။ ကြားနာရသော ရဟန်းအပေါင်းအား ဉာဏ်ပညာ ရရာရကြောင်း ကောင်းမွန်စွာ ကြိုးစားကြရန်တိုက်တွန်းတော်မူခြင်းလည်း ဖြစ်၏။ သို့သော် ယခုလောလောဆယ်မှာကား ကျွန်ုပ်မှာ ဉာဏ်ပညာ တိုးတက်မလာသေးပါ။ ထို့ကြောင့်–

"အရှင်ဘုရား၊ အရှင်မဟာသာရိပုတ္တရာ ပရိနိဗ္ဗာန်ပြုပြီဟု ကြား လိုက်ရသဖြင့် တပည့်တော်တစ်ကိုယ်လုံး လေးလံထိုင်းမှိုင်းသွားပါတော့သည်။ ကိုယ်ရောစိတ်ပါ နွမ်းနယ်လွန်းသဖြင့် အရပ်မျက်နှာကိုမှ မခွဲခြားနိုင်တော့ပါ။ တရားဒေသနာတော်များ သင်ယူလိုစိတ် ရွတ်ဖတ်ဟောကြားလိုစိတ်များလည်း မရှိတော့ပါ ဘုရား"

ကျွန်ုပ် ခံစားနေရသော သောကပရိဒေဝတို့ကို မျိုသိပ်မထားနိုင်တော့သဖြင့် ဤသို့ ထုတ်ဖော် လျှောက်ထားလိုက်ရ၏။ အရှင်မြတ်ကြီးကတော့ ဘုရားရှင် ကွယ်လွန်သော်လည်း စိုးရိမ်ပူဆွေး ငိုကြွေးရန်မရှိ။ သံဝေဂ ပွားများရုံသာဟု မိန့်ဆိုခဲ့၏။ ယခု ဤအရှင်မြတ်ကြီး ကွယ်လွန်သည်တွင်ကား ကျွန်ုပ် သံဝေဂယူ၍ မရနိုင်ပါ။ ငိုချင်စိတ်ကို ဆို့ပိတ်၍ မရနိုင်တော့ပါ။

ဤတွင် ဘုရားရှင်က ကရုဏာမျက်လုံးများဖြင့် ကျွန်ုပ်ကို စူးစူး စိုက်စိုက် ကြည့်တော်မူကာ–

"အာနန္ဒာ၊ သာရိပုတ္တရာ ပရိနိဗ္ဗာန်ပြုရာတွင် သင်၏ သီလဂုဏ်၊ သမာဓိဂုဏ်၊ ပညာဂုဏ်တို့ ပါသွားကြပါသလော"

"ဤဂုဏ်များ ပါမသွားကြပါ ဘုရား။ သို့ရာတွင် အရှင်မဟာသာရိပုတ္တရာသည် တပည့်တော်အား တရားပြသ ဆိုဆုံးမသူ ဖြစ်ပါသည်။ တရားသဘော အချက်အလက်များကို မသိ သိအောင် မမြင် မြင်အောင် နည်းမျိုးစုံဖြင့် သင်ပြသူ ဖြစ်ပါသည်။ တရားဟောရန် စိတ်ထက်သန်ပါသည်။ သီတင်းသုံးဖော်များကို ချီးမြှောက်ပါသည်။ အရှင်မြတ်ကြီး၏ ဂုဏ်ကျေးဇူးများကို မမေ့နိုင်အောင် ဖြစ်ရပါသည် ဘုရား"

"အာနန္ဒာ၊ သင့်ကို ငါဘုရား စောစောကတည်းက ဟောထားခဲ့သည် မဟုတ်ပါလော။ ချစ်ခင်အပ်၊ မြတ်နိုးအပ်သော သူများနှင့် ရှင်ကွဲသော်လည်းကောင်း၊ သေကွဲသော်လည်းကောင်း ကွဲရမည်။ ဖောက်လွဲဖောက်ပြန် ဖြစ်တတ်သည်ဟု သတိပေးထားခဲ့သည် မဟုတ်ပါလော။ ဖြစ်သဘောရှိ၍ ပျက်တတ်သော တရား အစုကို မပျက်ပါစေနှင့်ဟု တောင့်တ၍ မရစကောင်းပေ။

"အာနန္ဒာ၊ ထိုသို့ဖြစ်သောကြောင့် သင်တို့သည် မိမိကိုယ်ကိုသာ အားကိုးကြကုန်လော့။ မိမိ ရရှိထားသော တရားကိုသာ အားကိုးကြကုန်လော့"

ဘုရားရှင်က ကျွန်ုပ်၏ စိတ်ဒုက္ခများမှ သက်သာခွင့် ရစေရန် ဟောကြားတော်မူပါ၏။ ကျွန်ုပ်အပေါ် ကြီးမြတ်သော ကရုဏာ ထားရှိတော်မူပါ၏။ သို့သော် လောကဓံတရားကြီးကတော့ ကျွန်ုပ်ကို လုံးဝမသက်ညှာပါ။ သနားခြင်းကရုဏာ လုံးဝမထားပါ။ ဤကိစ္စအတွက် သက်သာခွင့်လေး ရမည့်ဆဲဆဲမှပင် သည့်ထက်တိုး၍ ခံစားရစေရန် စီမံပေးလိုက်ပါတော့သည်။

(မဟာဝဂ်၊ သတိပဋ္ဌာနသံယုတ်၊ စုန္ဒသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)

**

# လက်ရုံးနှစ်ဆူလုံး ဆုံးလေပြီ

"ရဟန်းတို့၊ သာရိပုတ္တရာ၊ မောဂ္ဂလာန်တို့ကို မှီဝဲကြကုန်လော့။ သူတို့သည် ပညာရှိသော ရဟန်းများ ဖြစ်ကြ၏။ သီတင်းသုံးဖော်များအား အာမိသနှင့် ဓမ္မအားဖြင့် နှစ်ပါးသော ချီးမြှောက်ခြင်းဖြင့် ချီးမြှောက်ကြကုန်၏။ ဥပမာအားဖြင့် သာရိပုတ္တရာသည် မွေးမိခင်နှင့်တူ၏။ မောဂ္ဂလာန်သည် ကျွေးမိခင်နှင့် တူ၏။ သာရိပုတ္တရာသည် သောတာပတ္တိဖိုလ်ရရှိရန် သွန်သင်ပြသ၏။ မောဂ္ဂလာန်သည် အထက်မဂ်ဖိုလ်များ ရရန် သွန်သင်ပြသ၏။

ယာဘက် ဝဲဘက် လက်ရုံးကြီးနှစ်ဆူကို ဘုရားရှင်ကိုယ်တော်တိုင်က ဤသို့ ချီးကျူးတော်မူခဲ့၏။ ရွှေနှုတ်တော်မှ ထုတ်ဖော်၍ ချီးကျူးရလောက်အောင်ပင် လက်ရုံးကြီးနှစ်ဆူကလည်း သန့်စွမ်းကြပါဘိ၏။ သာသနာ့တာဝန် ကျေပွန်ကြပါဘိ၏။

အရှင်မဟာသာရိပုတ္တရာသည် မိမိထံမှာရဟန်းပြုလာသူများကိုဖြစ်စေ၊ တခြားမထေရ်များထံ ရဟန်းပြုလာသူများကိုဖြစ်စေ ချီးမြှောက်တတ်၏။ သင်္ကန်းပရိက္ခရာနွမ်းပါးသူများကို ပြည့်စုံအောင် ဖန်တီးပေး၏။ ပစ္စည်းရော သဒ္ဓါပါ ပြည့်စုံကုံလုံသော တပည့် ဒါယကာ ဒါယိကာမများတွေ ပေါများသဖြင့် အရှင်မြတ်ကြီး ဖန်တီးပေးသမျှ ပြည့်ဝကြသည်သာဖြစ်၏။ လိုအပ်သော ပရိက္ခရာများ ပြည့်စုံပြီးနောက် ကိုယ်တိုင်ကိုယ်ကြပ် တရားကျင့်သုံးရန် ညွှန်ပြရသေး၏။ ဖျားနာသော ရဟန်းများကို ပြုစုရသေး၏။ ဤသို့သော အစောင့်အရှောက်ဖြင့် ထိုရဟန်းသစ်များ သောတာပန်ဉာဏ်အလင်းကို ရသွားကြလျှင်ကား အရှင်မဟာသာရိပုတ္တရာက မျက်နှာလွှဲလိုက်ပေပြီ။ ဤမျှလောက် အခြေခံဖြင့် အထက်မဂ်ဖိုလ်ကို တစ်နေ့နေ့တွင် သူတို့ဘာသာ ရနိုင်ကြလိမ့်မည်ဟုဆိုကာ အခြားရဟန်းသစ်များကို ဆက်လက်၍ ချီးမြှောက်ပေသည်။

အရှင်မဟာမောဂ္ဂလာန်မှာလည်း ထို့အတူ ကူညီစောင့်ရှောက်ပါ၏။ သို့သော် ဤအရှင်မြတ်ကြီးကား သောတာပန်သောက် ရောက်ရုံမျှဖြင့် မျက်နှာမလွှဲပါ။ ဘုရားရှင်ကိုယ်တော်တိုင်က "ဝဋ္ဋဘဝ ဝဋ္ဋခန္ဓာကို လက်ဖျစ် တစ်တွက်လေးမျှပင် ဖြစ်ပါစေ ငါဘုရား မချီးမွမ်းပေ။ အနည်းငယ်မျှသော မစင်သည် အနံ့ဆိုးသကဲ့သို့ အနည်းငယ်မျှကြသော ထိုဒုက္ခသည်လည်း အခံရ ဆိုးသည်သာတည်း" ဟု မိန့်ကြားတော်မူခဲ့၍လည်း ဖြစ်၏။ ဤသို့ဖြင့် ဝဋ္ဋဘဝ ဝဋ္ဋခန္ဓာဟူသမျှ ရုပ်သိမ်းရာ ချုပ်ငြိမ်းရာ အရဟတ္တဖိုလ်ရောက်ခါမှ မျက်နှာလွှဲတော့သည်။

**(ဉပရိပဏ္ဏာသ၊ သစ္စဝိဘင်္ဂသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)**

သီတင်းသုံးဖော် ရဟန်းများအား အရဟတ္တဖိုလ်အရောက် ပို့ဆောင်ရာတွင် အရှင်မဟာမောဂ္ဂလာန်သည် မိမိ၏အတွေ့အကြုံဖြင့် သင်ခန်းစာပေး၍ဟောကြားလေ့ရှိ၏။ ခရီးတစ်ဆစ်၌ မိမိကိုယ်တိုင် အဟန့်အတား ခံခဲ့ရသည်ကို ဖော်ပြကာ တရားနာသော ရဟန်းများအား ထိုအဟန့်အတားနှင့် မကြုံတွေ့စေရန် သတိပေးလေ့ရှိ၏။

"ငါ့ရှင်တို့၊ အနိမိတ္တစေတောသမာဓိ၊ အနိမိတ္တစေတောသမာဓိဟူ၍ ဟောပြောလျက် ရှိကြ၏။ အနိမိတ္တစေတောသမာဓိ ဟူသည် အဘယ်နည်း။ ဤသို့ ငါကိုယ်တိုင် မေးခွန်းထုတ်ကြည့်ပြီးလျှင် ငါကိုယ်တိုင်ပင် အဖြေကို တွေ့မြင်လာခဲ့၏။ ဤသာသနာတော်၌ ဘာဝနာပွားများသော ရဟန်းသည် နိစ္စ၊ သုခ စသော အလုံးစုံသော နိမိတ်တို့ကို အာရုံမပြုမူ၍ ထိုနိမိတ်တို့မှ လွတ်မြောက်ရာ ဝိပဿနာသမာဓိကို ပွားများ၍နေ၏။ ဤသို့ နေခြင်းပင်လျှင် အနိမိတ္တစေတော သမာဓိ ဖြစ်၏။ ဤသို့ အဖြေတွေ့လာသည့်အတိုင်း ငါသည် နိစ္စ၊ သုခစသော အလုံးစုံသော နိမိတ်တို့ကို အာရုံမပြုမိ၍ ထိုနိမိတ်တို့မှ လွတ်မြောက်ရာ ဝိပဿနာ သမာဓိကို ပွားများ၍နေ၏။

"ငါ့ရှင်တို့၊ ဤသို့ ပွားများ၍ နေခဲ့သော်လည်း ငါ၏ စိတ်သည် နိစ္စ၊ သုခ စသော နိမိတ်တို့နောက်သို့ အစဉ် လိုက်ပါလျက် ရှိနေ၏။ ဤအခြေအနေတွင် ဘုရားရှင်သည် ငါ့ထံပါးသို့ ဘွားခနဲ ကြွလာတော်မူကာ လမ်းမှန်ရောက်အောင် ပို့ဆောင်ပေးတော်မူပါသည်။ "အို မောဂ္ဂလာန်၊ အို သူတော်ကောင်း၊ အနိမိတ္တစေတောသမာဓိကို မမေ့နှင့်။ မိမိစိတ်ကို အနိမိတ္တစေတောသမာဓိမှာသာ ထားလိုက်ပါ။ မိမိစိတ်ကို အနိမိတ္တစေတော သမာဓိမှာသာ တည်ငြိမ်စွာ ထားလိုက်ပါ။ မိမိစိတ်ကို အနိမိတ္တစေတောသမာဓိမှာသာ ကောင်းစွာ ထားလိုက်ပါ" ဟု သေချာဂဏာ ညွှန်ပြတော်မူပါသည်။

"ငါ့ရှင်တို့၊ ဘုရားရှင် ပြန်ကြွတော်မူသောအခါ ငါသည် နိစ္စ၊ သုခ စသော အလုံးစုံသော နိမိတ်တို့ကို အာရုံမပြုမူ၍ အနိမိတ္တစေတောသမာဓိကို ပွားများလိုက်ရာ နိမိတ်ဟူ၍ မြူမျှမရှိ၊ ပကတိသန့်ရှင်းသော နိဗ္ဗာန်တရား တော်ကြီးကို မျက်မှောက်ပြု

လိုက်ရပေတော့သည်။ သောတာပန်အဆင့်မှ တက်၍အရဟတ္တဖိုလ်ထိ ဆိုက်ရောက်လာပေသည်။ ထို့ကြောင့်ပင်ဘုရားရှင်၏ ချီးမွမ်းမှုကိုခံယူ၍ ဘုရားတပည့်သားတစ်ဦးသည် တန်ခိုးကြီးသောအဖြစ်သို့ ရောက်၏ဟု ထိုက်ထိုက်တန်တန်ဆိုလိုပါလျှင်ငါ့ကို ဆိုရန်သာ ရှိပေသည်"

တန်ခိုးဣဒ္ဓိပါဒ်တို့၏ အခြေခံ ဈာန်သမာပတ်များကို အားပါးတရ ဟောကြားလေ့ရှိသော အဂ္ဂသာဝကကြီးသည် ဝိပဿနာတရားကိုလည်း ပြတ်ပြတ်သားသားဟောကြားပါပေသည်။ ဤသို့ လောကုတ္တရာ သမာဓိနှင့် ယှဉ်လာသဖြင့် တန်ခိုးကြီးသောအရာဝယ် ဧတဒဂ်ဂုဏ်ထူး ဆွတ်ခူးနိုင်ခြင်း ဖြစ်ပေသည်။ တန်ခိုးကြီးသောသာဝကကြီး ဟောကြားသော ဝိပဿနာမှာ အခြေခံမျှ မကပေ။ အခြေခံမှတစ်ဆင့်မဂ်ဖိုလ်စခန်းသို့ တက်လှမ်းနိုင်သော ဝုဋ္ဌာနဂါမိနီ ဝိပဿနာ ဖြစ်ပေသည်။

**(သဠာယတနဝဂ်၊ မောဂ္ဂလာနသံယုတ် ပါဠိတော်နှင့် အဋ္ဌကထာ)**

ကျွန်ုပ်တို့ မဇ္ဈိမဒေသ၌ ဗုဒ္ဓသာသနာတော်ကြီးသည် ဤမျှလောက် ပွင့်ထွန်းလာခြင်းမှာ အရှင်မြတ်ကြီးတို့၏ အထောက်အကူကြောင့် ဖြစ်၏။ ဗုဒ္ဓမြတ်စွာကရှေ့ဆုံးမှ လမ်းပြလျက် ကြွသွားတော်မူခဲ့၏။ အဂ္ဂသာဝက အရှင်မြတ်ကြီးများကဖဝါးခြေထပ် လိုက်ပါကာ နောက်ပါရဟန်းအပေါင်းကို ဦးဆောင်ဦးရွက်ပြုကြ၏။ ပစ္စည်းရေး၊ တရားရေး နှစ်မျိုးလုံးဖြင့် ကူညီ စောင့်ရှောက် ကြ၏။ ဤကျေးဇူးများကိုကျွန်ုပ် တစ်သက်တာမေ့နိုင်မည် မဟုတ်ပါ။ သာသနာတော်ကို ကြည်ညိုသူမှန်သမျှလည်း ဤသို့ပင် ဖြစ်ကြပါလိမ့်မည်။

သို့ရာတွင် ဤကမ္ဘာမြေ၌ ဤကျေးဇူးကို မတင်နိုင်ကြသူများလည်း ရှိနေသေး၏တကား။ တကယ်တော့ သူတို့သည် သာမန် လူစားများ မဟုတ်ကြပေ။ ကျွန်ုပ်တို့ကဲ့သို့ သာမဏအမည်ခံကာ တရားကျင့်နေသူများ ဖြစ်၏။

သူတို့အထဲက တချို့မှာ တကယ့်ခွဲနပ်နှင့် ပြင်းပြင်းထန်ထန်ကြီး ကျင့်သုံးနေကြ၏။ သို့ပါလျက် အကျင့်ရှေ့မှာ အသိ ပါမလာသဖြင့် သူတို့ ကျင့်လေသမျှ ဆင်းရဲဒုက္ခ ခံစားရုံမျှသာ။ အပြင်းအထန် ကျင့်သုံးမှုများမှာလည်း အလွန်အကျွံကိုမှ နှစ်ခြိုက်တတ်သူများကိုသာ ဆွဲဆောင်နိုင်၏။ အသိအလိမ္မာ မကြွယ်ဝသူများကိုသာ သိမ်းသွင်းနိုင်၏။ အသိအလိမ္မာ ကြွယ်ဝသူတို့ကား ကြည်ညိုဖွယ်ရာ ဣန္ဒြေ သိက္ခာရှိသူများကိုမှကြည်ညိုကြ၏။ ပစ္စည်းလေးပါး ထောက်ပံ့ကြ၏။ ကျွန်ုပ်တို့ သိတင်းသုံးဖော်များကြည်ညိုဖွယ်ရာ ဖြစ်ကြသည်မှာ တရားအသိနှင့် ယှဉ်ကြသောကြောင့် ဖြစ်ပေသည်။

ကြည်ညိုဖွယ်ရာ ဂုဏ်သိက္ခာကို ဆောင်နိုင်ကြသဖြင့် ကျွန်ုပ်တို့ သာသနာတော်ကြီးသည် အင်နှင့်အားနှင့် တိုးတက်လာခဲ့၏။ သာသနာ့ဝန်ထမ်း အားလုံးအတွက် လိုအပ်သမျှ ဝတ္ထုပစ္စည်းများ ပြည့်လျှံနေကြ၏။ အပြင်အပ[...] ရဟန်း

ဆိုသူများမှာကား စားရနိုးနိုး သောက်နိုးနိုး ဖြစ်နေကြရ၏။ ဤသည်မှာ ဘယ်သူ မပြု မိမိမှုသာ ဖြစ်၏။ ကြည်ညိုဖွယ်ရာ ဂုဏ်သိက္ခာကို မဆောင်နိုင်ကြ၍သာ ဖြစ်၏။ သူတို့အဖို့ ကျွန်ုပ်တို့လိုပြည့်စုံ ချင်လျှင် ကျွန်ုပ်တို့လို ကျင့်သုံးကြရုံသာရှိ၏။ ကျွန်ုပ်တို့သာသနာတော်တွင် ဝင်မလာနိုင်လျှင် နေပါ၊ လူမသတီစရာ ကျင့်ကြံ နေထိုင်ပုံများကို ပြုပြင်နိုင်လျှင်ပင် အတန်အသင့် နေသာထိုင်သာ ရှိလာကြပါ လိမ့်မည်။ သို့သော် သူတို့ကတော့ ပြုပြင်ရန် စိတ်ကူးကြမည် မဟုတ်ပါ။ သူတို့ ထက် မျက်နှာပန်းလှနေသူများကို ချိုးနှိမ်နိုင်ရန်သာ လုံးပန်းခဲ့ကြ၏။

သုန္ဒရီအမိုက်မလေးကို စားစာခံထား၍ သူတို့လုပ်ကြံခဲ့ပုံကို ရှေ့နားမှာ တင်ပြခဲ့ပါပြီ။ သူတို့၏ လုပ်ကြံမှုမှာ ထိုမျှဖြင့် ရပ်စဲမသွားပါ။ ဂုဏ်သိက္ခာ ချိုးနှိမ် နိုင်ရေးမှတစ်ဆင့် ပုဂ္ဂိုလ်ရေး လုပ်ကြံမှုအထိ ပြင်းထန်လာ၏။ အသိဉာဏ် မရကြ သမျှ ကြံစည်တိုင်း လွဲရသော သာဓကများ ဖြစ်ပေသည်။

ခုနက တင်ပြခဲ့သည့်အတိုင်း ကျွန်ုပ်တို့ သာသနာတော်ကြီး သိုက်မြိုက် စည်ကားနေသည်မှာ ကြည်ညိုဖွယ်ရာ ဆောင်နိုင်ကြ၍သာဖြစ်၏။ အသိဉာဏ်ယှဉ်၍ မှန်ကန်စွာ ကျင့်သုံးကြသောကြောင့်သာ ဖြစ်၏။ ထိုသို့ ကျင့်သုံးနိုင်ကြရန် အရှင်မဟာသာရိပုတ္တရာ၊ အရှင်မဟာမောဂ္ဂလာန် စသော ဦးစီးခေါင်းဆောင် အရှင်မြတ်ကြီးတို့က နည်းမှန်လမ်းမှန် ပြသကြ၏။ လမ်းမှန်ပေါ်မှ ဖဲ့ဆင်းမသွားရန် ဆိုဆုံးမကြ၏။ သာသနာပက ရဟန်းများသည် ဤသို့သော အကြောင်းရင်းကိုကား မမြင်မြင်အောင် မကြည့်ကြပေ။ သူတို့အထင်၊ သူတို့ အတွေးဖြင့်သာ အကဲဖြတ် ကြ၏။ ဤသာသနာတော်ကြီး ဤမျှလောက် ထွန်းကားနေသည်မှာ အရှင်မဟာ မောဂ္ဂလာန်က တန်ခိုးပြ၍ စည်းရုံးသောကြောင့် ဖြစ်သည်ဟု တစ်ဖက်သတ် ဆုံးဖြတ်လိုက်ကြတော့သည်။

မျက်မှန်းရမ်းဆ၍ တစ်ဖက်သတ် ဆုံးဖြတ်မှု မနာလိုဝန်တိုမှု၊ ဘုန်းကံကြီးမား လာဘ်လာဘပေါများလိုမှုများကြောင့် ကျွန်ုပ်တို့၏ ဆရာမြတ်ကြီးတစ်ဆူ ဆုံးပါး ရပါတော့သည်။ ဣသိဂိလိတောင်နံပါးရှိ ကာဠသီလာ ကျောက်ဖျာထက်ဝယ် ခန္ဓာကိုယ်တစ်ခုလုံး စိစိညက်ညက်ကျေကာ ပရိနိဗ္ဗာန်စံရပါတော့သည်။

အကယ်၍ မိမိအသက်ကို ငဲ့ကွက်ပါလျှင် အရှင်မဟာမေဂ္ဂလာန်သည် မိမိ တန်ခိုးဖြင့် ရှောင်ထွက်နိုင်သည်သာ ဖြစ်၏၊ နောက်လိုက်နောက်ပါများနှင့်တကွ ကြေးစားလူသတ်သမားကြီးသမဏဂုတ္တိက လာနေသည်ကို ကြိုတင်သိထားသဖြင့် နှစ်ကြိမ်တိုင်တိုင် ရှောင်ထွက်ခဲ့သေးသည် ဆိုပါ၏။ သုံးကြိမ်မြောက်တွင်ကား ရှောင်မထွက်တော့ပါ။ ရှောင်ထွက်သော်လည်း တစ်နည်းနည်းဖြင့် သေရမည်ဟု စိတ်နှလုံး တုံးတုံးချလိုက်ဟန်တူပါသည်။

သာသနဒါယကာ အဇာတသတ်မင်းက စုံထောက်များ စေလွှတ်ကာစုံစမ်းသဖြင့် ဤအမှုကြီး၏ တရားခံများကို ဖော်ထုတ်နိုင်ပါ၏။ အမှုနှင့် ထိုက်တန်စွာ အပြစ်ဒဏ် ပေးနိုင်ခဲ့ပါ၏။ သို့သော် ဘုရားရှင်၏ လက်ဝဲတော်ရံ သာဝကကြီးကိုတော့ အစားပြန်မရနိုင်တော့ပါ။ ကျွန်ုပ်တို့ ကျောက်ထီးတန္တု အလေးပြုရသော ဆရာမြတ်ကြီးတစ်ဆူထံ ဆည်းကပ်ခွင့် မရနိုင်တော့ပါ။

ဆရာမြတ်ကြီးအဖို့မှာတော့ ဘယ်နည်းနှင့် အသက်ဆုံးဆုံး အကြောင်းမထူးဟု ဆိုပါလိမ့်မည်။ ထမ်းထားရသော ခန္ဓာဝန်ကြီးကို ပစ်ချနိုင်ရေးသာ အဓိကဟု နှလုံးသွင်းခဲ့ပါလိမ့်မည်။ ခံရသူက သတိသမ္ပဇဉ်ဖြင့် ဆင်ခြင်ခဲ့မည် ဖြစ်သော်လည်း ကျွန်ုပ်မှာတော့ ဝမ်းနည်းကြေကွဲမှုကို မတားဆီးနိုင်ပါ။ အရှင်မြတ်ကြီး၏ ကြွင်းကျန်ရစ်သော ကိုယ်ခန္ဓာကို ဖုတ်ကြည်းသဂြိုဟ်ရင်း မျက်ရည်ဖြိုင်ဖြိုင် ကျခဲ့ရပါသည်။ တကယ်အရေးကျလျှင် မကယ်တင်နိုင်သော ဈာန်တန်ခိုးများ အတွက် သံဝေဂကြီးစွာ ရခဲ့ပါသည်။ **(စတ္တာလီသနိပါတ်၊ သရဘင်္ဂတော်၏ ပစ္စုပ္ပန်ဝတ္ထု)**

မဂဓတိုင်း၊ ရာဇဂြိုဟ်မြို့တော် အနီးရှိ ကာဠသီလာ ကျောက်ဖျာထက်တွင် အရှင်မဟာမောဂ္ဂလာန်၏ ရုပ်ကလာပ်ကို သဂြိုဟ်ပြီးနောက် ကျွန်ုပ်တို့သည် ဝဇ္ဇီတိုင်း ဥက္ကစေလမြို့သို့ ဒေသစာရီ လှည့်လာကြ၏။ ခါတိုင်းလိုပင် ဘုရားရှင်၏ နောက်တော်မှ ရဟန်းများစွာ လိုက်ပါလာကြ၏။ ယခင်အခေါက်များထက် ပိုချင်သာ ပိုပါလိမ့်မည်။ ယုတ်လျော့သွားခြင်းကား မရှိပါ။ သို့သော် ဤတစ်ခေါက် ခရီးထွက်ရာတွင် ကျွန်ုပ် ရင်ထဲမှာ ဟာတိဟာတာကြီး ဖြစ်နေ၏။ ရှေ့ဆုံးမှ ဘုရားရှင်သာ မားမားမတ်မတ် ပါမလာလျှင် ကျွန်ုပ် ခရီးထွက်နိုင်မည် မထင်ပါ။

အရိယာဉာဏ်အရာတွင် ကျွန်ုပ်နှင့် အဆင့်တူသော သီတင်းသုံးဖော်များလည်း ကျွန်ုပ်ကဲ့သို့ မျက်နှာညှိုးလျက် ရှိကြ၏။ ယခင်က ကျွန်ုပ်တို့ စည်းဝေးမိကြလျှင် တရားဆွေးနွေးပွဲသော်လည်း ဖြစ်တတ်၏။ သို့မဟုတ်လျှင် အချင်းချင်း၏ သာရေးနာရေးကိုသော်လည်း မေးမြန်းပြောဆိုတတ်ကြ၏။ အခု အစည်းအဝေးတွင်ကား ရှေ့ဆင့်နောက်ဆင့် ပရိနိဗ္ဗာန်ပြုခဲ့ကြသော အရှင်မြတ်ကြီးများကို နှမြောတသ နေကြရ၍ ဖြစ်ပါလိမ့်မည်။

ကျွန်ုပ်တို့တစ်တွေ စကားမဆိုနိုင်ဘဲ ထိုင်နေကြစဉ် ဘုရားရှင် ကြွလာတော်မူ၍ အားတက်သွားကြရပါသည်။ ဘုရားရှင်သည် စကားတိတ်ဆိတ် နှုတ်သံပိတ်နေသော ရဟန်းပရိသတ်ကြီး တစ်ခုလုံးကို ခြုံငုံ၍ ကြည့်တော်မူကာ–

"ရဟန်းတို့၊ သာရိပုတ္တရာနှင့် မောဂ္ဂလာန်တို့ ပရိနိဗ္ဗာန် ပြုကြသောကြောင့် ဤပရိသတ်သည် ဟာလာဟင်းလင်း ဖြစ်သွားသကဲ့သို့ ထင်ရ၏။ သာရိပုတ္တရာ၊ မောဂ္ဂလာန်တို့သာ ရှိလျှင် သူတို့ရှိရာအရပ်ဝယ် တရားသံ မဆိတ်ပေ။ သူတို့သာ

ရှိနေလျှင် ကြောင့်ကြစိုက်ဖွယ် မရှိပေ။ ရှေးရှေးက ပွင့်တော်မူခဲ့ကြသော ဘုရားရှင်တို့မှာလည်းကောင်း၊ နောက်နောက်မှာ ပွင့်တော်မူကြမည့် ဘုရားရှင်တို့မှာလည်းကောင်း၊ အမြတ်ဆုံး တပည့်သည် နှစ်ပါးသာလျှင် ရှိလတ္တံ့။ ယခု ငါဘုရား လက်ထက်တော်မှ သာရိပုတ္တရာ၊ မောဂ္ဂလာန်တို့ နည်းတူသာလျှင် ဖြစ်လတ္တံ့။

"ရဟန်းတို့၊ သာဝက နှစ်ပါး တို့သည် အံ့သြဖွယ် ရှိကြပေစွ။ မဖြစ်ဖူးမြဲ ထူးကဲကြပေစွ။ သူတို့သည် ငါဘုရား၏ အဆုံးအမ သြဝါဒကိုလည်း တစ်သဝေ မတိမ်း လိုက်နာကြပါပေ၏။ သိတင်းသုံးဖော်တို့၏ ချစ်ခင်ခြင်း၊ မြတ်နိုးခြင်း၊ လေးစားခြင်းကိုလည်း ခံယူနိုင်ကြပါပေ၏။

"ရဟန်းတို့၊ ငါဘုရားသည်လည်း အံ့သြဖွယ် ရှိပေစွ။ မဖြစ်ဖူးမြဲ ထူးကဲပေစွ။ လက်ရုံးနှစ်ဆူကဲ့သို့ အားထားရသော သာဝကကြီးနှစ်ပါးလုံး ပရိနိဗ္ဗာန် စံခဲ့ကြပါလျက် ငါဘုရားမှာ စိုးရိမ်ပူဆွေး ငိုကြွေးခြင်းမရှိပါချေ။ ဤသို့ မရှိခြင်းမှာ ဤသို့သော အသိတရားကြောင့် ဖြစ်၏။ 'ဖြစ်ပေါ်လာသော တရားမှန်လျှင် အကြောင်းမကင်းသော တရားမှန်လျှင်၊ ပျက်စီးတတ်သော တရားမှန်လျှင် ဧကန် ပျက်စီးရမည်သာ ဖြစ်၏။ မပျက်ပါစေနှင့်ဟု တောင့်တ၍ မရစကောင်းချေတကား"

ကောင်းဆိုး နှစ်တန် လောကဓံကြောင့် ယိမ်းယိုင်တုန်လှုပ်ခြင်း မရှိသော တာဒိဂုဏ်တော် ကို ထုတ်ဖော်တော်မူလိုက်ခြင်း ဖြစ်ပေသည်။ ဤသို့ ထုတ်ဖော်ရင်း ကျွန်ုပ်တို့ကိုလည်း တရားပြသ၍ ဆုံးမတော်မူပေသည်။ နောက်နောက်တွင် သည့်ထက်ပို၍ စိတ်ထိခိုက်စရာကောင်းသော ကိစ္စကြီး များ ပေါ်ပေါက်လာသောအခါ ကျွန်ုပ်တို့ စိတ်ဖြေသာအောင် ကြိုကြိုတင်တင် သတိပေးထားခြင်းလည်း ဖြစ်ပေသည်။ (မဟာဝဂ်၊ သတိပဋ္ဌာနသံယုတ်၊ ဥက္ကစေလသုတ်)

✳✳

# ကောသလမင်းကြီး၏ နောက်ဆုံးနေ့

ကျွန်ုပ်တို့ ဆွေတော်မျိုးတော်များသည် သကျနယ်မြေမှာ နေထိုင်ကြ၏။ ပသေနဒီ ကောသလမင်းကြီးသည် ကာသိ၊ ကောသလ ဟူသော တိုင်းကြီးနှစ်တိုင်းကို တစ်နိုင်ငံတည်းပြု၍ စိုးမိုးအုပ်ချုပ်၏။ ကောသလနှင့် သကျနယ်မြေချင်း ဆက်စပ် နေကြသကဲ့သို့ ကောသလမင်းကြီးနှင့် ဆွေတော်မျိုးတော်များ၏ ကံကြမ္မာချင်း လည်း ဆက်စပ်၍ နေကြပေသည်။

ဤသို့သော ကံကြမ္မာ ဖန်လာစေရန် ကောသလမင်းကြီးက စတင်ပြုလုပ်ခဲ့ သဖြင့် ကောသလမင်းကြီး၏ ကံကြမ္မာကို ဦးစွာ တင်ပြလိုပါသည်။

ကောသလမင်းကြီး၏ ဘဝနိဂုံးကို မလှမပ အဆုံးသတ်စေသော ကံကြမ္မာ ကား ကုန်းသမားတို့၏ စကားကို ယုံလွယ်ခြင်း ဖြစ်၏။ ယုံလွယ်သည့်အလျောက် အဆောတလျင် မဆင်မခြင် ပြုတတ်ခြင်း ဖြစ်၏။

ကျွန်ုပ်တို့၏ ပရိသတ်များသည် သုန္ဒရီပရိဗိုဇ်မကလေး၏ ဇာတ်ရှုပ်ကို သတိရကြပါလိမ့်မည်။ အကြံပက်စက်သော ပရိဗိုဇ်များက သုန္ဒရီကို ဘုရားရှင်နှင့် ထင်ယောင်ထင်မှားဖြစ်အောင် ခိုင်းစေကာ သူတို့တပည့်မကို သူတို့ဘာသာ သတ်ခဲ့ ကြ၏။ ဇေတဝန် ကျောင်းတော်အောက ပန်းအမှိုက်ပုံ အောက်မှာ သူတို့ဘာသာ မြှုပ်နှံထားကြပြီးမှ နန်းတော်သို့သွား၍ အကြောင်းကြားကြ၏။ သုန္ဒရီ ပျောက်ဆုံး နေမှုတွင် ဇေတဝန်ကျောင်းတော်မှ ပုဂ္ဂိုလ်များကို မသင်္ကာပါသဖြင့် ဇေတဝန် ကျောင်းတော်အောမှာ ရှာလိုကြောင်း ခွင့်တောင်းကြ၏။

စောစောပိုင်းမှာ ကြိမ်ဖန်များစွာ တင်ပြခဲ့သည့်အတိုင်း ကောသလမင်းကြီး သည် ရတနာသုံးပါးကို ကြည်ညိုသဒ္ဓါ ထက်သန်လှသူဖြစ်ပါ၏။ သာသနာ့ဝန်ထမ်း ရဟန်းတော်များနှင့် အကျွမ်းတဝင် ဖြစ်ချင်လွန်းလှသဖြင့် သကျမင်းသမီးတစ်ပါး ကိုပင် တောင်းယူထားခဲ့သေး၏။ သို့သော် သူ၏ သဒ္ဓါတရားတွင် အသိပညာ

ဦးမစီးနိုင်သဖြင့် ဤလို ကိစ္စမျိုးများနှင့် ကြုံသောအခါ ပါမိပါရာ ပါသွားခဲ့ပေသည်။ ပရိဗိုဇ်များ၏ အလိုကျ ဇေတဝန် ကျောင်းတော်အဘေးမှာ ရှာဖွေကြရန် အခွင့်အာဏာ ပေးခဲ့မိပေသည်။ ဘုရားရှင်နှင့်တကွ သူ၏ တပည့်ရဟန်းများသည် ဤလို ယုတ်ညံ့ သောအမှုမျိုးကို မပြုတန်ရာဟူ၍ မတွေးမိခဲ့၍ ဖြစ်ပါလိမ့်မည်။

ထိုကိစ္စဖြစ်ပွားပြီး မကြာမီ ကျွန်ုပ်သည် ကောသလမင်းကြီးနှင့်တွေ့ဆုံခဲ့၏။ ကျွန်ုပ်က သူ့နန်းတော်သို့ ရောက်သွား၍ မဟုတ်ပါ။ သုန္ဒရီသေဆုံးမှုနှင့် ပတ်သက်၍ သာဝတ္ထိမြို့တော်တွင်းမှာ စကားအမျိုးမျိုး ဖြစ်ပေါ်နေသကဲ့သို့ပင် နန်းတော်ထဲ မှာလည်း နှစ်ဘက်နှစ်တန် ငြင်းခုံလျက်သာရှိကြ၏။ ဤသို့သော အခြေအနေမျိုးတွင် ကျွန်ုပ်တို့သည် နန်းတော်ကို ခပ်ခွာခွာ နေကြရမြဲ ဖြစ်၏။ သာဝတ္ထိမြို့တော်တွင်းက ဒါယကာ ဒါယိကာမများထံသို့သာ ဆွမ်းခံ၍ စားသောက်နေကြ၏။ ဤသို့ ကျွန်ုပ်တို့က ရှောင်ထားကြသော်လည်း ကောသလမင်းကြီးက ကျွန်ုပ်တို့ထံ ချဉ်းကပ် လာပေသည်။

ထိုနေ့က ကျွန်ုပ်သည် ဇေတဝန်ကျောင်းတော်မှ ပုဗ္ဗာရုံကျောင်းတော်ဆီသို့ ထွက်ခွာလာခဲ့၏။ ဆွမ်းစားပြီးချိန်တွင် ဘုရားရှင်သည် တစ်ပါးတည်း ကိန်းအောင်း တော်မူမြဲဖြစ်ရာ ထိုနေ့လယ်ပိုင်း အချိန်တွင် တစ်စုံတစ်ရာ ပြုဖွယ်ကိစ္စ မရှိတတ် သဖြင့် ဤသို့ ထွက်လာခဲ့၏။ ပုဗ္ဗာရုံကျောင်းတော်မှ သီတင်းသုံးဖော်များနှင့် တွေ့ဆုံ၍ စကားစမြည် ပြောဆိုရန် ရည်ရွယ်လာခဲ့၏။ တွေ့လိုဆုံလိုသော သီတင်း သုံးဖော်များနှင့် မဆုံရမီမှာပင် သိရိဝဍ္ဍအမတ်ကြီးနှင့် တွေ့ဆုံရပေတော့သည်။

"အရှင်အာနန္ဒာဘုရား၊ ပသေနဒီကောသလမင်းကြီးသည် အရှင် ဘုရား၏ ခြေတော်အစုံကို ဦးခိုက်လိုက်ပါသည်။ အရှင်ဘုရားမှာ အရေး တကြီး ကိစ္စမရှိလျှင် ခေတ္တခဏ ဆိုင်းငံ့တော်မူရန်လည်း လျှောက်ထားလိုက် ပါသည်ဘုရား"

သိရိဝဍ္ဍအမတ်ကြီး၏ လျှောက်ထားချက်အရ သစ်ပင်ရိပ် တစ်နေရာမှ ကျွန်ုပ် ရပ်၍ စောင့်နေခဲ့၏။ နေ့လယ်ခင်းမှာ ထွက်လာခဲ့သော ကောသလမင်းကြီးသည် ကျွန်ုပ်နှင့် တော်တော်ကွာလှမ်းသော နေရာမှပင် ပုဏ္ဍရိက ဆင်တော်မှဆင်းကာ ခြေကျင်လျှောက်လာခဲ့၏။ ကျွန်ုပ်၏ ရှေ့မှောက် အရောက်တွင် ရိုသေစွာ ရှိခိုးဦးချ ပြီးလျှင်–

"အရှင်အာနန္ဒာဘုရား၊ အရှင်ဘုရားမှာ အရေးတကြီးကိစ္စ မရှိပါလျှင် တပည့်တော်အား သနားသောအားဖြင့် အစိရဝတီ မြစ်ကမ်းပါးသို့ ကြွတော်မူစေ ချင်ပါသည်ဘုရား" ဟု လျှောက်၏။

ကောသလမင်းကြီး၏ လျှောက်ထားချက်ကို ကျွန်ုပ်က ဆိတ်ဆိတ်နေခြင်း ဖြင့် လက်ခံကာ အစိရဝတီ မြစ်ကမ်းပါးရှိ အရိပ်ကောင်းသော သစ်ပင်အောက်သို့

လျှောက်လာခဲ့၏။ ကြွေကျထားသော သစ်ရွက်များကို စုပုံကာ ထိုအပေါ်မှာ နှစ်ထပ်သင်္ကန်းကြီးကို လေးခေါက်ခေါက်ထားခြင်းဖြင့် ကျွန်ုပ်အတွက် ထိုင်စရာနေရာ ရရှိလာ၏။ ထို့ကြောင့် ကောသလမင်းကြီးက–

"အရှင်ဘုရား၊ ဤဆင်တင်ကော်ဇောကြီးပေါ်မှာ ထိုင်တော်မူပါ ဘုရား" ဟု ဖိတ်ကြားသည်ကို ငြင်းပယ်လိုက်ရ၏။ မင်းမှုထမ်းများ ခင်းပေးသော ဆင်တင် ကော်ဇောကြီးသည် ကောသလမင်း အတွက်သာ ဖြစ်ပေတော့သည်။

ကိုယ့်နေရာနှင့်ကိုယ် အသီးသီး ထိုင်မိကြပြီးနောက် ကောသလမင်းကြီးက–

"အရှင်အာနန္ဒာဘုရား၊ ရဟန်းပုဏ္ဏားတို့ အပြစ်တင်ထိုက်သော ကာယကံ မကောင်းမှုများကို ဘုရားရှင် ပြုကျင့်တော်မူပါသလော"

"မင်းကြီး၊ မကောင်းမှုဟူသမျှကို ဘုရားရှင် ပြုကျင့်တော်မမူပါ"

သုန္ဒရီ အရှုပ်တော်ပုံကို ရည်ညွှန်း၍ မေးမှန်းသိသော်လည်း ကျွန်ုပ်က မေးသမျှကိုသာ ဖြေကြားလိုက်ပါ၏။ ဤသို့ မေးမြန်းပုံကို ထောက်သောအားဖြင့် မလိုသူတို့ လုပ်ကြံပြောကြားသော စကားကို နားယောင်ခဲ့ကြောင်း ထင်ရှားပေသည်။

"အရှင်အာနန္ဒာဘုရား၊ ဤအကြောင်းကိစ္စကို တပည့်တော် မေးမြန်းခဲ့ပေါင်း များလှပါပြီ။ ဖြေကြားသူတိုင်းက မရှင်းမလင်းသာ ဖြေကြားခဲ့ကြပါသည်။ ယခု အရှင်အာနန္ဒာ ဖြေရှင်းလိုက်မှ တပည့်တော် သိချင်သမျှ ပြည့်ဝသွား ပါတော့သည်။ မသိမလိမ္မာသူတို့က မစူးစမ်း မဆင်ခြင်ဘဲ ချီးမွမ်းသော စကားကိုလည်းကောင်း၊ ကဲ့ရဲ့သော စကားကိုလည်းကောင်း တပည့်တော် စိတ်ချယုံကြည်မှု မပြုတော့ပါ။ တတ်သိနားလည်သူများက အသေအချာ စူးစမ်းဆင်ခြင်၍ ဖြေဆိုကြသော ချီးမွမ်း စကား၊ ကဲ့ရဲ့စကားများကိုသာ တပည့်တော် စိတ်ချယုံကြည်ပါတော့သည်ဘုရား"

မလိုသူတို့၏ စကားကို ရုတ်တရက် နားယောင်ခဲ့မိသော ကောသလမင်းကြီး က မိမိ၏ ဂုဏ်သိက္ခာကို ပြန်၍ ဆယ်နေခြင်း ဖြစ်ပါသည်။ မိမိအမှားကို မိမိ ဘာသာ ရှုမြင်၍ ပြင်ဆင်ဖော်ရသော ပုဂ္ဂိုလ်တစ်ဦးအား ကျွန်ုပ်က ရှုတ်ချကဲ့ရဲ့ရန် မလိုပါ။ ကျွန်ုပ်တို့ သာသနာတော်ကြီးအား ထောက်ပံ့ကူညီခဲ့သော သာသနာ့ ဒါယကာကြီးတစ်ယောက် အမြင်မှန်ရလာသည့်အတွက် ဝမ်းမြောက်ဝမ်းသာပင် ဖြစ်ခဲ့ပါသေးသည်။ **(မဇ္ဈိမပဏ္ဏာသ၊ ဗာဟီတိကသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)**

ထိုစဉ်တုန်းက အမြင်မှန်ရလာသော ကောသလမင်းကြီးအတွက် ဝမ်းမြောက် ဝမ်းသာဖြစ်ခဲ့ရသော ကျွန်ုပ်သည် မကြာမီ ထိုမင်းကြီးအတွက်ပင် စိတ်မချမ်းမသာ ဖြစ်ခဲ့ရပြန်ပါသည်။ ပသေနဒီကောသလမင်းကြီးသည် နယ်ပယ်ဒေသ ကျယ်ဝန်း သည်နှင့်အမျှ လူဦးရေ များပြားလှသော နိုင်ငံကြီး တစ်ခုလုံးကို စိုးမိုးအုပ်ချုပ်ရ၏။ ထိုသို့ စိုးမိုးအုပ်ချုပ်နိုင်ခြင်းမှာ စစ်သူကြီး ဗန္ဓုလ၏ ကျေးဇူးကြောင့်ပင် ဖြစ်၏။

စစ်သူကြီး ဗန္ဓုလသည် စင်စစ်တော့ ကောသလတိုင်းရင်းသား မဟုတ်ပေ။ မလ္လတိုင်းမှာ မွေးဖွားခဲ့သော မလ္လ အမျိုးသားတစ်ယောက် ဖြစ်၏။ စစ်သူကြီးကတော်မှာလည်း သူ့နည်းတူ မလ္လအမျိုးသမီးဖြစ်၏။ ထို့ကြောင့် ကောသလနန်းတော်တစ်ခုလုံးက သူ၏ မျိုးရိုးကို အမွှမ်းတင်သောသဘောဖြင့် မလ္လိကာဟု ခေါ်ခဲ့ကြပေသည်။

မလ္လိကာဟူသော အမည်သည် ငယ်နာမည် မဟုတ်သကဲ့သို့ ဗန္ဓုလ ဟူသော အမည်သည်လည်း ဖခင်ဘ၀ရောက်ခါမှ ရရှိသော အမည်ဖြစ်၏။ စိတ်သဘောထား ထူးခြားလှသော မလ္လိကာသည် သားဖွားရာ၌လည်း ထူးခြားလှပါ၏။ တစ်ဆယ့်ခြောက်ကြိမ်တိုင်တိုင် သားဖွားကာ အကြိမ်တိုင်းမှာလည်း နှစ်မြွှာပူးချည့် မွေးဖွား၏။ ထိုသား သုံးဆယ့်နှစ်ယောက်ကို အကြောင်းပြုကာ သူတို့ဖခင် စစ်သူကြီးသည် ဗန္ဓုလဟု အမည်တွင်လာ၏။ ဗန္ဓုလဟူသည်မှာ ဆွေမျိုးပေါက်ဖော်များသူဟု အဓိပ္ပာယ်ရပေသည်။

စစ်သူကြီး ဗန္ဓုလ၏ သားများသည်လည်း ဖအေတူသားများဖြစ်ကြ၏။ ရှေ့ဆင့်နောက်ဆင့် အရွယ်ရောက် လာကြပြီးလျှင် ဖခင်နည်းတူ လက်ရုံးစွမ်းပကား ပြသနိုင်ကြ၏။ သုံးဆယ့်နှစ်ယောက်စလုံး စစ်မှုထမ်းချည့် ဖြစ်လာကြ၏။ ဖခင် စစ်သူကြီးမှာ လက်အောက်ငယ်သားများ ပေါသကဲ့သို့ သူတို့ဆီမှာလည်း အခြွေအရံ ပေါများကြ၏။ နန်းတော်မှာ ညီလာခံ၀င်ကြစို့ဆိုလျှင် ဗန္ဓုလ၏ ပရိသတ်က နန်းရင်ပြင်တစ်ခုလုံးကို လွှမ်းမိုးနေသည်ဟု ဆိုပါ၏။

တစ်နေ့မှာတော့ စစ်သူကြီးဗန္ဓုလသည် တရားသူကြီးရာထူးကိုပါ ထမ်းဆောင်ခွင့်ကြုံလာ၏။ ဤရာထူးကို ကောသလမင်းကြီးက ခန့်ထားသည် မဟုတ်ပါ။ လက်ရှိတရားသူကြီး၏ အဆုံးအဖြတ်ကို မကျေနပ်၍ ၀င်လုပ်လိုက်ရခြင်းသာ ဖြစ်၏။ လက်ရှိတရားသူကြီးသည် မျက်မြင်နားကြား သက်သေများ၏ ထွက်ဆိုချက်ကို လျစ်လျူရှုကာ တံစိုးလက်ဆောင်ပေးနိုင်သူကိုသာ အနိုင်ပေးခဲ့၏။ ဤတွင် စစ်သူကြီးဗန္ဓုလက မဟုတ်မခံ မှန်ကန်ရာ ဖြစ်စေရမည်ဟု ဆိုကာ သူကိုယ်တိုင် တရားသူကြီးနေရာ၀င်ယူပြီး အမှုကို စေ့စပ်သေချာစွာ စစ်ဆေး၏။ မျက်မြင်နားကြား သက်သေများ ထွက်ဆိုချက်အရ ဥစ္စာရှင် ဖြစ်ထိုက်သူကိုသာ အနိုင်ပေးလိုက်၏။ ဤတွင် တရားခွင် တစ်ခုလုံးက ကောင်းချီးသြဘာပေးကြရာ ကောသလမင်းကြီးကပါ ဤရာထူးကို တရား၀င် လွှဲအပ်လိုက်ပေသည်။

ရာထူးနှစ်ခု ဖြစ်လာပြီးနောက် များမကြာမီတွင် ဗန္ဓုလတို့အိမ်မှ ဆွမ်းစားပင့်လာ၏။ ထိုနေ့က အိမ်မှာ စစ်သူကြီးဗန္ဓုလ မရှိပါ။ တိုင်းစွန်ပြည်ဖျားတွင် သူပုန်ထကြွနေသည်ဟူသော သတင်းစကားကြောင့် သားများနှင့်တကွ စစ်ချီသွားခိုက် ဖြစ်၏။ သို့ဖြစ်၍ ဘုရားရှင်နှင့်တကွ ကျွန်ုပ်တို့ကို မလ္လိကာ ဒါယိကာမကြီးက

ကြီးမှူး၍ ဆွမ်းဆက်ကပ်ရ၏။ ထောင့်စေ့အောင် စီမံနိုင်သော ဒါယိကာမကြီးဖြစ်၍ ကျွန်ုပ်တို့၏ ဆွမ်းပွဲများမှာ လိုလေသေးမရှိ ပြည့်စုံပါ၏။ တင့်တင့်တယ်တယ် ဖွယ်ဖွယ်ရာရာ ရှိပါ၏။

ဆွမ်းဘောဇဉ်ကို မြိန်ယှက်စွာ စားသောက်ရင်း ကျွန်ုပ်သည် ဆွမ်းအမကြီးကို အကဲခတ်နေမိ၏။ ယခုဆိုလျှင် ဒါယိကာမကြီးသည် အသက် ငါးဆယ်ကျော် ခြောက်ဆယ်နီးပါး ရှိနေလောက်ပါပြီ။ အသက်က စကားပြောလာ၍ ဇရာလက္ခဏာများ ထင်ရှားလာပေပြီ။ သို့သော်လည်း ခံ့ညားသော အသွင်ကား ရှိနေဆဲဖြစ်၏။ သူ၏ ကိုယ်ခန္ဓာကလည်း ကြံ့ခိုင်လှသေးသည်။ သုံးဆယ်နှစ်ယောက်သော သားများကို လူလားမြောက်အောင် ပြုစုနိုင်ရန်မှာ သူလို မိခင်မျိုးမှ ဖြစ်ပေမည်။ ကိုယ်ခန္ဓာ ကြံ့ခိုင်သော်လည်း သူ့လှုပ်ရှားဟန်က ညင်သာလှ၏။ ထို့အတူပင် သူ့နှုတ်ထွက် စကားတို့ကလည်း သာယာညင်းပျောင်း ရှိပါဘိ၏။ တည်ကြည်အေးချမ်းသော မျက်နှာဖြင့် အစစ မလစ်ဟင်းရအောင် စီစဉ်ညွှန်ကြား၍နေပေသည်။

အစစအရာရာ အဆင်ပြေနေသော ဆွမ်းကျွေးပွဲသည် ပြီးခါနီးမှ အရုပ်ဆိုးသလို ဖြစ်သွားရ၏။ သို့သော်လည်း ကြီးကြီးကျယ်ကျယ်တော့ မဟုတ်ပါ။ သံဃာတော်များအား ဆက်ကပ်ရန် ထောပတ်အိုး ယူဆောင် လာစဉ် ကျကွဲသွားခြင်းသာ ဖြစ်ပါ၏။

‘မလ္လိကာ၊ ထောပတ်အိုးကျကွဲသွားခြင်းကို အကြောင်းပြုပြီး စိတ်မချမ်းမသာ မဖြစ်လေနှင့်”

ဆွမ်းစားခြင်းကိစ္စပြီးစီးသောအခါ ဘုရားရှင်က ထိုကိစ္စနှင့် ဆက်စပ်၍ မိန့်ကြားတော်မူ၏။ မပြောပလောက်သော ကိစ္စကလေးပင် ဖြစ်သော်လည်း ဆွမ်းအမကြီးထံမှ စကားစ ထွက်လာစေရန် စကားခင်းပေးတော်မူလိုက်ခြင်း ဖြစ်ပါသည်။ ဤတွင်ဆွမ်းအမကြီးသည် အဝတ်ကြားမှာ ထုတ်ထားသော သဝဏ်လွှာတစ်စောင်ကို ဘုရားရှင့်ရှေ့တော်မှာ ဖြန့်ပြကာ–

“အရှင်ဘုရား၊ စစ်သူကြီး ဗန္ဓုလနှင့်တကွ သားသုံးဆယ့်နှစ်ယောက်လုံးပါ တောစခန်းတစ်နေရာတွင် လုပ်ကြံသတ်ဖြတ်ခြင်း ခံခဲ့ရပါပြီ။ ဤ သဝဏ်လွှာကို ဆွမ်းမကပ်ခင် ကလေးကမှ တပည့်တော်မ ရခဲ့ပါသည်။ သို့သော် ဆွမ်းကျွေးပွဲမှာ အနှောင့်အယှက် ဖြစ်မည်စိုး၍ မည်သူ့မျှမပြဘဲ တပည့်တော်မ သိမ်းဆည်းထားပါသည် ဘုရား”

အဆိုးတကာ့ အဆိုးဆုံး လောကဓံကြီးကို ကြံ့ကြံ့ခံနိုင်သော ဒါယိကာမကြီးကို ချီးကျူးမိသည်နှင့်အမျှ ကောသလမင်းကြီးအတွက် စိတ်မချမ်းမသာ ဖြစ်ရပြန်ပါပြီ။ နားယောင်အောင် သွေးဆောင်သူမှာ တခြားသူ မဟုတ်နိုင်ပါ။ ယခင် တရားသူကြီး

ဟောင်းပင် ဖြစ်ပါလိမ့်မည်။ တပည့်လက်သား အခြွေအရံများလှသော ဗန္ဓုလ ပရိသတ်ကို ပြကာထီးနန်း စည်းစိမ်အတွက် အစိုးရိမ်ပိုလာအောင် သွေးဆောင်၍သာ ဖြစ်ပါလိမ့်မည်။

ထို့နောက် မလ္လိကာဒါယိကာမကြီးသည် ချွေးမ အားလုံးအား အဖြစ်မှန်ကို ပြောပြ၍ တရားပြသ ဆုံးမကာ ဆွေမျိုးများရှိရာ ကုသိနာရုံသို့ ပြန်သွားပေတော့သည်။

စစ်သူကြီးကတော် မလ္လိကာ မွေးရပ်မြေ ပြန်သွားချိန်တွင် မိဖုရားကြီး မလ္လိကာ ရှိနေသေးလျှင် ကောသလမင်းကြီးအား ဖျောင်းဖျနှစ်သိမ့်ပေးနိုင်လောက် ပါ၏။ သို့ရာတွင် မလ္လိကာမိဖုရားကြီးကား ကွယ်လွန်ခဲ့ပါချေပြီ။ ချစ်မြတ်နိုးလှစွာ သော မိဖုရားကြီး ကွယ်လွန်ကြောင်း သိရသည်နှင့် ဆောက်တည်ရာမရ သောကဖိစီး ခဲ့ရသော ကောသလမင်းကြီးအား ဘုရားရှင်က တရားချခဲ့ရပါသေးသည်။ အိုခြင်း၊ နာခြင်း၊ သေခြင်း၊ ကုန်ခမ်းခြင်းနှင့် ပျက်စီးခြင်းဟူသော သဘောတရား ငါးမျိုး ကို မည်သူမျှ တားဆီး၍မရနိုင်ကြောင်း ဟောကြားတော်မူခဲ့ရပေသည်။

ထိုအပူ ငြိမ်းသွား၍ မကြာသေးမီမှာပင် ယခု အပူနှင့် တွေ့ရခြင်းဖြစ်ပေ သည်။ မလ္လိကာမိဖုရားကြီးအတွက် လွမ်းဆွတ်ကြေကွဲရသော်လည်း သူ့ဘာသာ ကံကုန်၍ သေဆုံးရသဖြင့် ဖြေသာပါသေး၏။ စစ်သူကြီးဗန္ဓုလမှာကား သူ့ဘာသာ ကံကုန်၍ သေဆုံးရခြင်း မဟုတ်ပေ။ ကုန်းစကားကို နားယောင်ကာ မင်းကြီး ကိုယ်တိုင်က အသတ်ခိုင်းခဲ့မိ၏။ မင်းကြီးအမိန့်ဖြင့်ပင် သားအဖ သုံးဆယ့် သုံးယောက်လုံး တစ်နေရာတည်းမှာ တစ်ချိန်တည်းမှာ သေခဲ့ကြရ၏။

ပြည်ထောင်ထိန်းဖက် သူငယ်ချင်းဟောင်းကို ပြစ်မှားမိသောအချိန်မှ စ၍ ကောသလမင်းကြီးမှာ မည်သည့် ပွဲလမ်းသဘင်ကိုမျှ အရသာခံ၍ မရတော့ပေ။ မည်သည့် စည်းစိမ်ကိုမျှ မြိန်မြိန်ယှက်ယှက် မရှိတော့ပေ။ နှစ်ပေါင်းများစွာ စံစားလာခဲ့သော နန်းတော်ထဲမှာပင် မပျော်မွေ့နိုင်တော့သဖြင့် ဟိုဟိုသည်သည် ခရီးထွက်၍ချည်း နေ၏။ ရှစ်ဆယ်ဟူသော သူ့အသက်အရွယ်ကိုမျှ မငဲ့နိုင်အောင် ဖြစ်နေရှာ၏။

ဘဝမခြားဘဲ အမှားဒဏ် ခံနေရသော ကောသလမင်းကြီးနှင့် နောက်ဆုံး တွေ့ဆုံရသည်မှာ ကျွန်ုပ်တို့ ဇာတိနယ်မြေမှာ ဖြစ်၏။ မေဒါဠုပရွာကြီးမှာ ကျွန်ုပ် တို့ ရှိကြစဉ် ဘုရားဖူးရန် ဆိုက်ရောက်လာ၍ဖြစ်၏။ နဂရက ရွာကြီးမှတစ်ဆင့် ခရီးဆက်လာရသည်ဟု ဆိုပါ၏။ ကောသလမင်းကြီး၏ လုံခြုံရေးအတွက် တပ်ချီ၍ လိုက်ပါရသူမှာ ဒီဃကာရာယန စစ်သူကြီး ဖြစ်၏။ ဝါသဘခတ္တိယာမှ ဖွားမြင်သော ဝိဋူဍူဘမင်းသားသည်လည်း အရွယ်ရောက်နေပြီဖြစ်၍ တပ်တော်ကြီးနှင့်အတူ လိုက်ပါလာပေသည်။

ဇေတဝန်ကျောင်းတော်တွင် ဘုရားရှင် တစ်ပါးတည်း သီတင်းသုံးတော်မူရန် ဂန္ဓကုဋိတိုက်ကျောင်း ရှိ၏။ ဤရွာမှာကား ကျွန်ုပ်တို့ အမြဲ နေသော ကျောင်းများသာ ရှိ၏။ ထို့ကြောင့် သပ်ရပ်ကောင်းမွန်သော တဲကျောင်းတစ်ခုကို ဘုရားရှင်အတွက် ဂန္ဓကုဋိကျောင်း ပြုလုပ်ထားကြ၏။ ထိုကျောင်းသို့ ဝင်ခါနီးတွင် ကောသလမင်းကြီး သည် မင်းမြောက်တန်ဆာ ငါးပါးကို ဒီဃကာရာယန စစ်သူကြီးထံ အပ်နှံထားခဲ့၏။ ဤသို့အပ်နှံခြင်းသည် ကာသိ ကောသလ ဟူသော တိုင်းကြီးနှစ်တိုင်း၏ အချုပ်အခြာ အာဏာကို လွှဲအပ်လိုက်ခြင်းနှင့်မခြားပါချေ။ သန်လျက်၊ မကိုဋ်၊ သား မြီးယပ်၊ထီးဖြူ နှင့် ဖိနပ်တို့သည် အချုပ်အခြာအာဏာပိုင်စိုးခြင်း၏ အထိမ်းအမှတ် မဟုတ်ပါလော။

ကောလသမင်းကြီးအနေနှင့်ကတော့ ဤသဘောကို တွေးမိမည် မထင်ပါ။ တွေးမိလျှင်လည်း အပ်နှံဖြစ်မည် မဟုတ်ပါ။ သူ အလွန်တရာ လေးစားကြည်ညိုသော ဘုရားရှင့်ရှေ့တော်မှောက်သို့ ဝင့်ဝင့်ကြွားကြွားကြီး မဝင်လို၍ ဖြစ်နိုင်ပါသည်။ ထိုသို့ မဟုတ်လျှင်လည်း ဘုရားရှင်ရှေ့တော်မှောက်သို့ သူတစ်ဦးတည်း လွတ်လွတ်လပ်လပ် ဝင်ရောက်လို၍ဖြစ်ပါလိမ့်မည်။ မင်းမြောက်တန်ဆာ ငါးပါးတို့ ရပ်တန့်ရာဌာန မှာပင် မူးမတ်ဗိုလ်ပါအပေါင်းတို့ ရပ်တန့်နေကြရသော ထုံးတမ်းစဉ်လာ ရှိပေသည်။

ဒီဃကာရာယန စစ်သူကြီးသည် ကွယ်လွန်သူ ဗန္ဓုလစစ်သူကြီး၏ တူ အရင်းအချာ ဖြစ်၏။ ကောသလမင်းကြီးက မင်းမြောက်တန်ဆာငါးပါးကို ယုံကြည် စိတ်ချစွာ အပ်နှံခြင်း ခံရသော်လည်း သူ့မျက်နှာတွင်ဝမ်းမြောက် ဂုဏ်ယူသော အမူအရာ မရှိပါ။ တစ်စုံတစ်ခုသော အတွေးအာရုံဖြင့် သုန်သုန်မှုန်မှုန်ကြီး ဖြစ်နေ ၏။ အပြစ် တစ်စုံတစ်ရာ မရှိပါဘဲလျက် သူ့ဦးရီးတော် လုပ်ကြံသတ်ဖြတ်ခြင်း ခံရသည့်အတွက် မင်းကြီးအပေါ် အခဲမကျေ ဖြစ်နေသလား မဆိုနိုင်ပါ။ ကျွန်ုပ် အကဲခတ်နေဆဲမှာပင် ဒီဃကာရာယန စစ်သူကြီးသည် ဝိဋူဍဘမင်းသား ရှိရာသို့ လျှောက်သွားပါတော့သည်။ ကာသိ၊ ကောသလတိုင်းကြီးများ၏ အချုပ်အခြာ အာဏာသည် ခမည်းတော် ကောသလမင်းကြီးထံမှ သားတော် ဝိဋူဍဘထံသို့ ရွေ့ရှ သွားချေပြီတကား။

ထိုအချိန်မှာပင် ကောသလမင်းကြီးကတော့ ဘုရားရှင့် ခြေတော်အစုံကို နဖူးပြင်ဖြင့် ပွတ်သပ်လျက်ရှိ၏။ ခြေချောင်းများကို အမြတ်တနိုး နမ်းစုပ်လျက် ရှိ၏။ ခြေတော် နှစ်ဘက်လုံးကို လက်များဖြင့် ပွတ်သပ် ဆုပ်နယ်လျက်ရှိ၏။ "အရှင်ဘုရား၊ တပည့်တော် ပသေနဒီကောသလမင်းပါ ဘုရား" ဟုလည်း ထပ်ကာထပ်ကာ လျှောက်ထား၏။ သူ့ကိုယ်သူ အာဏာလက်လွတ် ဖြစ်နေကြောင်း မရိပ်မိရှာသေးပါ။

"မင်းကြီး၊ မည်သို့သော အကျိုးကျေးဇူးကို ရှုမြင်ရ၍ ဤကိုယ်ခန္ဓာပေါ်မှာ ဤမျှလောက် အလေးဂရု ပြုနေရပါသနည်း၊ အမြတ်တနိုးဖြစ်နေရပါသနည်း"

အကြောင်းမှန်ကို ကောန် သိမည် ဖြစ်သော ဘုရားရှင်ကလည်း ခေါ်မြဲတိုင်းသာ ခေါ်၍ မေးတော်မူပါ၏။ ကောသလမင်းကြီးကလည်း သူ ရှုမြင်ထားရသော အကျိုးကျေးဇူးများကို ပြည့်ပြည့်စုံစုံ လျှောက်ထား၏။ ဘုရားတပည့်သား ရဟန်းတော်များသည် သာသနာ့တာဝန်ကို ရာသက်ပန် ဆောင်ရွက်သွားကြပုံ၊ ရဟန်းအချင်းချင်း သင့်သင့်မြတ်မြတ် နေသွားကြပုံ၊ သာသနာ့ဘောင်မှာ မွေ့လျော်ကြသည့်အတွက် ရွှင်ရွှင်လန်းလန်း တက်တက်ကြွကြွ ရှိကြပုံ၊ သက်ဦးဆံပိုင် ဘုရင်ကို မင်းမှုထမ်းများ လေးစားသည်ထက် ဘုရားရှင်အပေါ် လေးစားကြပုံ၊ ပညာဂုဏ်မောက်သူ လူတန်းစား ပေါင်းစုံက ဘုရားရှင့်ရှေ့တော်မှောက်မှာ ဝပ်စင်းလာရပုံမှစ၍ ရှုမြင်သုံးသပ်ထားမိ သမျှကို စီကာပတ်ကုံး လျှောက်ထားပေသည်။

သူ့ရင်ထဲမှာ စေတနာ သဒ္ဓါတရားများ ကွန့်မြူးနေကြသည့် အလျောက် လျှောက်ထားနေခြင်း ဖြစ်ပါလိမ့်မည်။ ယခင်တုန်းကသာ ဤမျှလောက် ပြည့်ပြည့်စုံစုံ ကြားနာရလျှင် အင်မတန် နှစ်ထောင်းအားရ ဖြစ်မိပါလိမ့်မည်။ ယခုတော့ ကောသလမင်းကြီး၏ အဖြစ်မှန်ကို ကျွန်ုပ် မျက်မြင်ကိုယ်တွေ့ ဖြစ်နေသဖြင့် စိတ်မဖြောင့်နိုင်အောင် ဖြစ်နေရပါသည်။

ထိုညနေက တွေ့ဆုံခဲ့ရခြင်းသည် ကျွန်ုပ်တို့ ဆွမ်းဒါယကာကြီး တစ်ဦးအား နောက်ဆုံး တွေ့ဆုံလိုက်ရခြင်း ဖြစ်ပါ၏။ ကောသလမင်းကြီး ဂန္ဓကုဋိထဲမှ ပြန်ထွက်လာချိန်တွင် နောက်လိုက်ဗိုလ်ပါ တစ်ယောက်မျှ မရှိတော့ပါ။ ဒီဃကာရာယနစစ်သူကြီးက ထားခဲ့သော မိန်းမတစ်ယောက်သာ ရှိပါတော့သည်။

အာဏာလက်လွှတ်သွားရသော ကောသလမင်းကြီးသည် ထိုမိန်းမကို အဖော်ပြုကာ မဂဓတိုင်းဆီသို့ ရှေးရှု ထွက်ခွာသွားပါ၏။ မဂဓတိုင်းနှင့် ကောသလတိုင်းသည် နယ်နိမိတ်ချင်း ဆက်စပ်နေသဖြင့် သူနှင့်အဇာတသတ် မင်းတို့ ကြိမ်ဖန်များစွာ စစ်တိုက်ခဲ့ကြဖူး၏။ သို့သော် ယခုလို အရေးကြီး လာပြန်တော့လည်း သွေးနီးရာ သို့သာ ပြေးရပေသည်။ အဇာတသတ်မင်း၏ မယ်တော် ဝေဒေဟီသည် သူ၏နှမ မဟုတ်ပါလော။

သို့သော် တူတော်မောင်ကို အားကိုးပြု၍ သူ့ထီးနန်းကို ပြန်မယူနိုင်တော့ပါ။ လမ်းခရီးမှာ စားရသည်က ဆန်ကွဲထမင်း၊ ပုန်းရေဟင်း။ သောက်ရသည့်ရေက ရွံ့နှစ်ရေ။ နေက ပူလိုက်၊ လေက တိုက်။ ဤသို့သော လောကဓံများကို ခံစားရသဖြင့် ရာဇဂြိုဟ်မြို့တော် တံခါးအနီးက ဇရပ်ကြီးမှာပင် ကွယ်လွန်သွားပြီဟု ကြားသိရပါ၏။ **(မဇ္ဈိမပဏ္ဏာသ၊ ဓမ္မစေတီယသုတ်၊ ပါဠိတော်နှင့် အဋ္ဌကထာ။ ဒွါဒသနိပါတ်၊ ဘဒ္ဒသာလဇာတ်၏ ပစ္စုပ္ပန်ဝတ္ထု။ အင်္ဂုတ္တရ၊ ပဉ္စကနိပါတ်၊ မုဏ္ဍရာဇဝဂ်၊ ကောသလသုတ်)**

**

# သကျတို့၏ နေဝင်ချိန်

ကောသလမင်းကြီး၏ နောက်ဆုံးနေ့သည် သကျမျိုးနွယ်တို့၏ နေဝင်ချိန်ဖြစ်ပါတော့သည်။ ဒီဃကာရာယန စစ်သူကြီးက မင်းမြောက်တန်ဆာ ငါးပါးကိုယူကာ ဝိဍူဍဘမင်းသားထံ သွားကတည်းက ဤသဘောကို ကျွန်ုပ် တွေးခဲ့မိပါ၏။ သို့သော် ရှင်ဘုရင်သစ် ဝိဍူဍဘသည် ဘုရားရှင့် ကျေးဇူးတော်ကို ထောက်ထားကာ ဆွေတော်မျိုးတော်တို့အား သက်ညှာ လာလေမလားဟု တစ်ဖက်ကလည်း ဖော့၍ တွေးခဲ့မိပြန်ပါသည်။

ဝါသဘခတ္တိယာကို ကောသလမင်းကြီးက ချစ်မြတ်နိုးသည်နှင့်အမျှ ဝိဍူဍဘမင်းသားလေးမှာလည်း ချမ်းမြေ့ပျော်ရွှင်စွာ ကြီးပြင်းခဲ့ပါ၏။ ဘာမဆို လိုတာရခဲ့သူဖြစ်ပါ၏။ သို့သော် ခုနစ်နှစ်သားအရွယ် လူမှန်းသူမှန်း သိတတ်လာသည်တွင်မူ သူ့မှာ ချို့တဲ့ချက်တစ်ခု ရှိနေသည်ကို သူ့ဘာသာ တွေ့သွားသည် ဆို၏။ အခြားအခြားသော မင်းသားလေးများမှာ သူတို့ မယ်တော်ဘက်က ဘိုးအေ ဘွားအေများထံမှ လက်ဆောင်ပစ္စည်းများ ရရှိကြ၏။ သူ့ဆီကိုကား ဘာလက်ဆောင်တစ်ခုမျှ ရောက်မလာချေ။ အစားအသောက် အဝတ်အဆင် သူလိုချင်သမျှ ရနေပါလျက် ဤချို့တဲ့ ချက်ကြောင့် သူ့ခမျာ အနေခက်ခဲ့ရ၏။ ထို့ကြောင့် မယ်တော့်ဆီမှာ အကျိုးအကြောင်း မေးမြန်းရာ....

"သားတော်၊ သားတော်၏ အဘိုးအဘွားများက ကပိလဝတ်မြို့မှာနေကြသည်။ ဤသာဝတ္ထိမြို့တော်ကြီးနှင့် ခရီး အလှမ်းကွာသေးလှသည်။ ထို့ကြောင့် သားတော်ထံ လက်ဆောင်မပို့နိုင်ကြသည်ကို ဝမ်းမနည်းပါနှင့်"

အဖြစ်မှန်ကို ပြောပြရန် ခက်လှ၍ ဤမျှဖြင့် နှစ်သိမ့်ပေးရပေသည်။

ငယ်ရွယ်စဉ်က ဤမျှဖြင့် ကျေနပ်ခဲ့သော ဝိဍူဍဘသည် တစ်ဆယ့်ခြောက်နှစ်သား ရှိလာလျှင်ကား တစ်ဆင့်တက်လာပါတော့သည်။ "ဘိုးအေ ဘွားအေများက

လက်ဆောင် မပို့နိုင်လည်း ရှိပါစေတော့။ ဘိုးအေ၊ ဘွားအေများထံသို့ သားတော် သွား၍ ကန်တော့ပါရစေ" ဟု ဆိုလာပါတော့သည်။ ဝါသဘခတ္တိယာ မည်သို့ ပြုရပါမည်နည်း။

အသက်ကလေး ရလာသည်နှင့်အမျှ သားတော်၏ စိတ်ဓာတ်ကလည်း ခက်ထန်လာ၏။ ကောင်းသည် ဖြစ်စေ၊ ဆိုးသည်ဖြစ်စေ၊ တစ်စုံတစ်ရာကို ဦးတန်း မိလျှင် မဖြစ်ဖြစ်အောင် လုပ်ရမှ ကျေနပ်၏။ ထို့ကြောင့် ဤတစ်ကြိမ်မှာကား ခါတိုင်းလို ဖျောင်းဖျ၍ ရနိုင်ဖွယ် မရှိပြီ။ မဖျောင်းဖျနိုင်၍ လွှတ်လိုက်ကြစို့ ဆိုတော့လည်း အခက်သား။ ဟိုတစ်ဖက်ကလည်း သူတို့၏ မာန်မာနကို ဘယ်တော့မှ ချိုးနှိမ်ကြမည် မဟုတ်ပေ။

နှစ်ဘက် ပြဿနာကြားမှာ ဗျာများနေရသော ဝါသဘခတ္တိယာသည် နောက်ဆုံးမှာကား သားတော်၏ တောင်းဆိုချက်ကို ခွင့်ပြုလိုက်ရပါတော့သည်။ ဘိုးအေဘွားအေများနှင့်တကွ ဆွေတော်မျိုးတော်တို့ထံ ပေးဆက်ရန် လက်ဆောင် ပစ္စည်းများ စီရင်ပေးရပါတော့သည်။ နောက်ကွယ်မှာလည်း အထောက်တော် တစ်ယောက်ကို ကပိလဝတ်သို့ ကြိုတင်၍ လွှတ်ထားရပါသေးသည်။ သားတော်လေး ဝိဍူဍဘ ရှေ့မှာ အဖြစ်မှန် မပြောလိုက်ကြရန် ဖြစ်ပေသည်။

ထိုစဉ်တုန်းက ရွှေပန်းခိုင် ငွေပန်းခိုင်များနှင့် သွားခဲ့သော ဝိဍူဍဘသည် ယခုတော့ စစ်တပ်ကြီးစွာဖြင့် ချီတက်၍သွားပေပြီ။ ဤစစ်တပ်ကြီးများဖြင့် နင်းချေပါက ကျွန်ုပ်တို့ ဇာတိနယ်မြေ တစ်ခုလုံး ထောင်းထောင်းကြေရပေတော့ မည်။ သို့သော် ဤကိစ္စမှာ ကျွန်ုပ် မည်သို့ တတ်နိုင်ပါမည်နည်း။ ဝိဍူဍဘမင်းသား ဘဝက ကယ်ဆယ်ခဲ့ဖူးသော ဘုရားရှင်သည်ပင် သည်အတိုင်း ကြည့်နေတော်မူ ရသည် မဟုတ်ပါလော။

ကပိလဝတ်က ပြန်လာချိန်တွင် ဝိဍူဍဘမှာ ကျွန်မသား ဖြစ်ကြောင်း အများက သိလာကြ၏။ ကောသလမင်းကြီးမှာ အညာခံလိုက်ရ၍ ရှက်လည်း ရှက်၏။ မတော်တလျော်ပြုရက်ကြသော သကျမျိုးနွယ်များကိုလည်း စိတ်နာလှ၏။ သို့သော် ဘုရားရှင် မျက်နှာတော်ကို ထောက်ထားကာ ဆွေတော်မျိုးတော်များကို စစ်ချီချေမှုန်းခြင်း မပြုခဲ့ပါ။ သူ့လက်ထဲက သားအမိကိုသာ ဖိ၍ မဲခဲ့၏။ မင်းညီ မင်းသား၊ မင်းမိဖုရားတို့၏ အဆောင်အယောင်ဟူသမျှကို ပယ်နုတ်ကာ ကျွန်များ ကြားသို့ ပို့ဆောင်လိုက်၏။ ဤတွင် ဘုရားရှင်က အမိဘက်က မျိုးရိုးထက် ဖခင်ဘက်က မျိုးရိုးသာ အဓိကဖြစ်ကြောင်း ထုံးဟောင်း သာဓကနှင့်တကွ ဟောတော်မူသဖြင့် ဝိဍူဍဘတို့ သားအမိ နဂိုအတိုင်း ပြန်၍ ခံစားခဲ့ကြရပေ သည်။

ဤသို့သော ကျေးဇူးကို ထောက်ထား၍ ဆွေတော်မျိုးတော်များအား သက်ညှာမည့် အရေးကား ကျွန်ုပ်၏ မျှော်လင့်ချက်ဟုလည်း ဆိုနိုင်ပါသည်။

ဤကိစ္စနှင့်ပတ်သက်၍ ကျွန်ုပ်၏ တောင့်တချက်ဟူ၍ ဘာတစ်ခုမျှ မပြည့်ဝခဲ့ပါ။ ပထမဦးစွာ သကျမင်းသမီးတစ်ပါး တောင်းလာတုန်းက နောင်တော်ကြီး မဟာနာမ်သည် ရာဇပရိယာယ်ကြွယ်ဝစွာ ဆောင်ရွက်နိုင်လျှင် ကောင်းလေစွ။ နောက်ကြောင်းအေးစွာ ဆောင်ရွက်နိုင်မည့် နည်းလမ်းကို မိမိဘာသာ မရှာဖွေနိုင်သော် ဘုရားရှင်ထံ လူလွှတ်၍ လျှောက်ထားလျှင် ကောင်းလေစွဟု တောင့်တမိခဲ့၏။ အကယ်၍ အချိန်မီသာ လျှောက်ထားခဲ့ပါလျှင် ဘုရားရှင်ကလည်း ဆွေတော်မျိုးတော်တို့၏ အကျိုးစီးပွားကို ဆောင်ရွက်တော်မူမည်သာ ဖြစ်ပါ၏။

ရောဟိဏီ အရေးတော် ပေါ်ပေါက်တုန်းက ဆွေတော်မျိုးတော်တို့ မရှုမလှ သေဆုံးကြရမည့်ဘေးမှ အချိန်မီ ကယ်တင်တော်မူခဲ့သည် မဟုတ်ပါလော။ သို့သော် သည်တုန်းကလည်း ကျွန်ုပ်၏ တောင့်တချက်မအောင် မြင်ခဲ့ပါ။ ဝါသဘခတ္တိယာ ကျွန်မကို တကယ့်သကျမင်းသမီးတစ်ပါးဟု လည်ဆယ်၍ ပေးခဲ့ကြ၏။

ကောသလမင်းကြီး၏ သံတမန်များ ယုံကြည်စေရန် နည်းပရိယာယ်ဆင်ရာတွင် ကျွန်ုပ်၏ နောင်တော်ကြီးကိုယ်တိုင် ပါဝင်ခဲ့မိ၏။ ဆွေအား မျိုးအားကို မလွန်ဆန်နိုင်၍ဟု အကြောင်းပြမည်ဆိုလျှင် ပြနိုင်ပါ၏။ သို့သော် အမှားကား အမှန် ဖြစ်မလာနိုင်တော့ပါ။

နောက်တစ်ခါ ဝိဋူဍဘ ဖွားမြင်လာတော့လည်း ကောသလမင်းကြီးက နောင်တော်ကြီး မဟာနာမ်ထံသို့ အမတ်တစ်ယောက် စေလွှတ်လိုက်ပါသေး၏။ မိမိ မျိုးရိုးအမည် ပေးမည့်အစား မယ်တော်ဘက်က မျိုးရိုးအမည် ပေးနိုင်ရန်ဖြစ်၏။ ဝါသဘခတ္တိယာအပေါ် ကောသလမင်းကြီးက ဤမျှလောက် ချစ်မြတ်နိုးမှုကို ကျွန်ုပ်တို့ ဆွေတော်မျိုးတော်များ ထောက်ထားနိုင်ခဲ့ကြလျှင် ကောင်းလေစွ။ တစ်ကြိမ်တစ်ခါ မှားခဲ့သည်ကို အသာထားကာ နောင်တစ်ခါ မမှားအောင် ရှောင်နိုင်ကြလျှင် ကောင်းလေစွာ။ သို့သော် ဆွေတော်မျိုးတော်များနှင့် ပတ်သက်လာလျှင် ကျွန်ုပ်၏ တောင့်တချက် ပြည့်လာရိုး မရှိပါ။ နောင်တော်ကြီး မဟာနာမ်သည် တလေးတစားစေလွှတ်လိုက်သော ကောသလတိုင်းက အမတ်ကိုပင် တော်စွာလျော်စွ ပြောလွှတ်လိုက်၏။ ရောက်လာသောအမတ်က အတန်ငယ် နားလေးနေ၍သာ တော်တော့သည်။

နားလေးလေးနှင့် မှတ်ယူလာခဲ့သော စကားလုံးသည်ပင် ဝိဋူဍဘ ဟူသော အမည်နာမ ဖြစ်လာရ၏။ ဘုရင်မွေးသည့် မင်းသေးဖြစ်ပါလျက် ဝိဋူဍဘမှာ ခမည်းတော်၏ မျိုးရိုးအမည်လည်း မခံယူခဲ့ရ။ မယ်တော်ဘက်ကမှ မျိုးရိုး

အမည်လည်း မခံယူခဲ့ရ။ တော်စွာလျော်စွာ ပြောလိုက်သော စကားတစ်ခွန်းကို တလွဲတချော် မှတ်ယူလာခဲ့သည်အတိုင်း ရာသက်ပန် အမည်တွင် သွားရပေတော့သည်။ သူ့ဘက်က ကြည့်လျှင် မည်မျှလောက် အသည်းနာစရာ ကောင်းပါမည်နည်း။

ဖြစ်များဖြစ်နိုင်မည်ဆိုလျှင် ကျွန်ုပ်၏ပရိသတ်များရှေ့မှာ ဤအကြောင်းခြင်းရာများကို မတင်ပြလိုပါ။ ကိုယ့်ပေါင်ကိုယ်လှန်ထောင်းရသော အလုပ်မျိုးကို မလုပ်လိုပါ။ သို့သော် ကျွန်ုပ်၏ တစ်သက်တာမှတ်တမ်းကြီးတွင် ဤအကြောင်းခြင်းရာများကို ချန်လှပ်ထားခဲ့လျှင် ဟာကွက်တစ်ခု ဖြစ်နေရစ် ပါလိမ့်မည်။ ကျွန်ုပ်၏ တစ်သက်တာ အတွေ့အကြုံများကို တင်ပြရာတွင် ကျွန်ုပ်၏ ဆွေတော်မျိုးတော်များလည်း မလွဲသာမရှောင်သာ ပါလာကြရပါလိမ့်မည်။ ဤအကြောင်းခြင်းရာများကို ကြားနာကြရသောအားဖြင့် ကျွန်ုပ်၏ ပရိသတ်များသည် မသင့်လျော်သော မာန်မာန တရားများကို အချိန်မှီ ပယ်စွန့်နိုင်ကြလိမ့်မည်ဟု မျှော်လင့်ပါသည်။

အချိန်မီဟူသော စကားကို ကျွန်ုပ်က အမှတ်ထင်ထင်ထည့်၍ ပြောလိုက်ခြင်း ဖြစ်ပါသည်။ ဆွေတော်မျိုးတော်များသည် အထက်ပါ အမှားအယွင်းများလောက်ဖြင့် ရပ်တန့်သွားကြလျှင် မာနကိုပယ်စွန့်ရန် အချိန်မီကြပါသေးသည်။ လက်လွန်ခဲ့ပြီးသော အမှားများကို အဖတ်ဆယ်၍ ရနိုင်ကြ ပါသေးသည်။ သို့ပါလျက် ကျွန်ုပ်၏ ဆွေတော်မျိုးတော်များသည် မိလိုက်သေးသော အချိန်ကို အသုံးမပြုနိုင်ခဲ့ကြပါ။ ပြုပြင်၍ မရနိုင်တော့သော အမှားကြီးကိုမှ တစ်ခါထပ်၍ ကျူးလွန်ခဲ့ကြပါချေပြီ။

ဝိဋူဋဘမင်းသား ကန်တော့လာစဉ်တုန်းက သူ့ထက်ငယ်သော မင်းညီမင်းသား ကလေးသူငယ်မှန်သမျှကို လွတ်ရာသို့ပို့ထားကြ၏။ ထို့ကြောင့် ယဉ်ကျေးမှုထုံးတမ်းအစဉ်အလာအရ ဝိဋူဋဘကသာ သကျမျိုးနွယ်များကို ရှိခိုးခဲ့ရ၏။ ဝိဋူဋဘကို ရှိခိုးသူဟူ၍ တစ်ယောက်မျှ မတွေ့ခဲ့ရ။ ဤမျှနှင့်ဆိုလျှင် တော်ပါသေးသည်။ စိတ်ဖြေ၍ ရနိုင်စရာ ရှိပါသေးသည်။ ဝိဋူဋဘအဖို့ တစ်သက်တာအတွက် စိတ်နာကြည်းဆုံး ဖြစ်ရသည်ကား သကျတို့၏ လွှတ်တော်ဆောင်မှပြန်ဆင်းလာခဲ့ပြီးမှ ဖြစ်ပါသည်။

ဝိဋူဋဘမင်းသား ပြန်ဆင်းသွားလျှင် သွားချင်း ဆွေတော်မျိုးတော်များသည် ဝိဋူဋဘ ထိုင်သွားသော နေရာကို နွားနို့ဖြင့်ဆေးကြောကြတော့သည် ဆိုပါ၏။ သူတို့နှုတ်မှလည်း ကျွန်မသား ထိုင်သွားသောနေရာ၊ဘာဖြစ်သည်၊ ညာဖြစ်သည် စသည်ဖြင့် ဆဲဆိုရေရွတ်ကြသေးသည် ဆိုပါ၏။ 'ကျွန်မသား' ကို စိတ်လွတ်ကိုယ်လွတ် ဆဲဆိုနေစဉ်တွင် 'ကျွန်မသား'၏ ကိုယ်ရံတော်တစ်ယောက် ရောက်လာမည့် အရေးကိုကား သူတို့ မမျှော်လင့်ခဲ့ကြပေ။ လက်နက်တစ်ခု မေ့ကျန်ခဲ့သော

ကိုယ်ရုံတော်က လွှတ်တော်ထဲသို့ ရုတ်တရက် ဝင်လာခါမှ သူတို့အားလုံး အံ့အားသင့်နေကြရတော့၏။ အမှားကိုမြင်၍ ပြင်ကြမည်ပြုသော်လည်း နောက်ကျသွားချေပြီ။ ဘုရားရှင် ကိုယ်တော်တိုင်သော်မှ သူ့ကို ကံကြမ္မာဆိုးကို မျက်နှာလွှဲ၍ ထားတော်မမူရပေပြီ။

ဟိုတစ်ချိန်က သကျတို့သည် ဝိဋူဋဘကို ကျွန်မသားဟူ၍ ရှုတ်ချ စကားဆိုခဲ့ကြ၏။ 'ကျွန်မသား' ထိုင်ခဲ့သောနေရာကို နွားနို့များဖြင့်ဆေးကြော ခဲ့ကြ၏။ ယခု သူတို့နယ်မြေဆီသို့ 'ကျွန်မသား' ၏ စစ်တပ်ကြီးများ ချီတက်သွားချေပြီ။ သကျ အရှင်သခင်များက နွားနို့ဖြင့် ဆေးကြောခဲ့သော ထိုနေရာကို ယခုတော့ 'ကျွန်မသား' က သူတို့၏ လည်ချောင်းသွေးဖြင့် ဆေးတော့မည်ပါတကား။

(ဒွါဒသကနိပါတ်၊ ဘဒ္ဒသာလဇာတ်၏ ပစ္စုပ္ပန်ဝတ္ထု)

✳✳

# နောင်တော်ကြီးသို့အမှတ်တရ

ယခုအချိန်မှာတော့ ကပိလဝတ်မြို့တော်ကြီးမှာ အမည်မျှသာ ရှိပါတော့သည်။ မြို့ဟူသည်ထက် မြို့ပျက်ကြီးဟု ဆိုမှ ပို၍ ဆီလျော်ပါလိမ့်မည်။

ဝိဋူဍဘ စစ်တပ်ကြီးများက မြေလှန်စနစ်ဖြင့် ဖျက်ဆီးခဲ့ကြသဖြင့် အိမ်ရာ တိုက်တာဟူသမျှ ထောင်းထောင်းကြေလျက် ရှိကြသည် ဆိုပါ၏။ ပြေးနိုင်လွှားနိုင် ပုန်းအောင်းနိုင်၍ ကျန်ရစ်သူများလည်း မသေသော် မလှမပ ဆိုသကဲ့သို့ ဖြစ်နေကြရ၏။ တိုက်ပျက်အိမ်ပျက်များကြားဝယ် ဖြစ်သလိုနေကြရ၏။ ဝိဋူဍဘစစ်တပ်ကြီး ပြန်ဆုတ်သွားသော်လည်း သူတို့ခမျာ အန္တရာယ် မကင်းသေးပါ။ တောမီး လောင်လျှင် တောကြောင် လက်ခမောင်းခတ် ဆိုသကဲ့သို့ ဤလို အခြေအနေမျိုး တွင် လူဆိုးသူခိုးများ၏ ရန်ကလည်း ရှိနေပါသေးသည်။ ထို့ထက်ပို၍ ဆိုးသည်ကား လူလူချင်း သတ်ဖြတ်နှိပ်စက်သော သတ္တန္တရကပ်ကြီး နောက်ဝယ် ဒုဗ္ဘိက္ခန္တရကပ်နှင့် ရောဂန္တရကပ်ကြီးများ လိုက်ပါလာခြင်းပါတည်း။

ယခု လောလောဆယ်တွင် သကျတို့နယ်မြေ၌ စိုးမိုးအုပ်ချုပ်သော ရာဇာဟူ၍ မရှိတော့ပါ။ အစာရေစာ ငတ်မွတ်ခြင်းနှင့် ရောဂါထူပြောခြင်းတို့ကသာ အပြိုင်အဆိုင် မင်းမူလျက်ရှိကြ၏။ သတ်ကြဖြတ်ကြသည့်ဘေးမှ ကျန်ကောင်းကျန်ရာ ကျန်ရစ်သူ များသည် ထိုဘေးကြီးများကြောင့် တဖြုတ်ဖြုတ် သေကြရပြန်ပေသည်။

လူကြီးသူမများ အဆင့်ဆင့်ပြောကြားလာခဲ့သော စကားအရ ဤ မြို့တော် သည် ကပိလရသေ့ကြီး၏ ကျောင်းသင်္ခမ်းရာမှာ တည်ထောင်ခဲ့၏။ ကပိလရသေ့ကြီး ၏ အဆိုအရ ခြင်္သေ့များ၊ ကျားများရန်ကြောင့် အသက် ဆံဖျား ပြေးလာခဲ့ရသော သမင်များ၊ ဝက်များသည် ဤနေရာရောက်လျှင် ခြင်္သေ့များ၊ ကျားများကို ပြန်၍ မာန်ဖီနိုင်ကြ၏။ မြွေကြီးများ၊ ကြောင်ကြီးများ လိုက်၍ အမောတကော ပြေးလာ ခဲ့ကြရသော ဖားများ ကြွက်များသည် ဤမြေပေါ် ရောက်လျှင် မြွေကြီးများ၊ ကြောင်

ကြီးများကို ပြန်၍ ခြိမ်းခြောက် နိုင်ကြ၏။ ထို့ကြောင့် မြေတို့၏ အထွတ်အမြတ် ဖြစ်သော မြေနေရာတွင် မြို့တည်ရန် ရသေ့ကြီးက ညွှန်ကြားခဲ့ပေသည်။ ကပိလ ရသေ့ကြီး၏ သင်္ခမ်း ကျောင်းရာတွင် တည်ထောင်ခဲ့သဖြင့် ကပိလဝတ္ထုဟု မော်ကွန်း ထိုးခဲ့ကြရ ပေသည်။ ကပိလဝတ်မြို့တော်ကြီး ဤသို့ နိဂုံးချုပ်ရမည့် ဖြစ်အင်ကို ကပိလရသေ့ကြီးသည် မြင်မှမြင်ခဲ့ပါလေစ။

ကျွန်ုပ်တို့၏ ဘေးတော် ဩက္ကာကရာဇ် မင်းကြီးမှစ၍ အစဉ်မပျက်ဆက်လက် အုပ်ချုပ်လာခဲ့သော မြို့တော်ကြီးသည် နောင်တော်ကြီး မဟာနာမ် လက်ထက်တွင် ပြာပုံအတိ ဖြစ်သွားရပါချေပြီ။ အမျိုးဇာတ် မပျက်အောင် သားစဉ်မြေးဆက် ကြိုးစားလာခဲ့ကြသော ဆွေတော်မျိုးတော်များသည် ယခုတော့ ဆွေဂုဏ်မျိုးဂုဏ် မမောက်နိုင်ကြတော့ပြီ။ ဆွေဂုဏ်မျိုးဂုဏ် မောက်မိလေသမျှ ယခုတော့ အတိုးချ၍ ဒဏ်ခတ်ခံနေကြရပါချေပြီ။

**(သီလက္ခန္ဓဝဂ်၊ အမ္ဗဋ္ဌသုတ် အဋ္ဌကထာ)**

ဆွေတော် မျိုးတော်တို့၏ ပျက်စီးခန်းကို ကျွန်ုပ်ကိုယ်တိုင် မြင်ခွင့်ရလျှင် မည်သို့ရှိမည် မသိပါ။ သတင်းစကား ကြားရရုံနှင့်ပင် ကျွန်ုပ်၏ စိတ်နှလုံး တုန်လှုပ် ရပါသည်။ ယူကျုံးမရ ပင်ပန်းလှပါသည်။ နောင်တော်မြတ် ကွယ်ရာတွင် မျက်ရည် ဖြိုင်ဖြိုင် ကျခဲ့ရပါသည်။

ဟိုစဉ်အခါတုန်းက တစ်စုံတစ်ရာ ထူးထူးခြားခြား တွေ့ကြုံလာရလျှင် ကျွန်ုပ်သည် နောင်တော်မြတ်ထံ ချဉ်းကပ်ခဲ့ပါ၏။ တွေ့ကြုံရသောဖြစ်ရပ်၏ အကြောင်းအကျိုးကို မေးမြန်းခဲ့ပါ၏။ သို့သော် ယခုအတွေ့အကြုံနှင့် ပတ်သက် ၍ကား နောင်တော်မြတ်ထံ ကျွန်ုပ် ဘာတစ်ခုမျှ မလျှောက်ထားလိုတော့ပါ။

ဆွေတော်မျိုးတော်တို့ အသက်ဘေးကို ကယ်တင်နိုင်ရန် ဘုရားရှင်သည် နှစ်ကြိမ်တိုင်တိုင် ကြိုးစားတော်မူခဲ့ပါ၏။ ဝိဍူဍဘတို့ စစ်တပ်ကြီး ချီတက်သွား ချိန်တွင် ဘုရားရှင်သည် နှစ်နိုင်ငံနယ်စပ်သို့ ရောက်တော်မူနေနှင့်၏။ နယ်နိမိတ် ကျောက်တိုင်၏ တစ်ဖက်တစ်ချက်တွင် သစ်ပင်တစ်ပင်စီ ရှိနေရာ သကျတို့ဘက်မှ သစ်ပင်အောက်တွင် ဘုရားရှင် သီတင်းသုံးတော် မူလျက်ရှိ၏။ ဤတွင် ဝိဍူဍဘ မင်းသည် တိုက်ဆင်ကြီးပေါ်မှ ဆင်း၍ ဘုရားရှင်ကို ရှိခိုးဦးချကာ–

"အရှင်ဘုရား၊ ဤမှာဘက်က သစ်ပင်သည် အခက်အရွက်သိပ်သည်း ပါ၏။ အရိပ်အာဝါသ ကောင်းလှပါ၏။ အရှင်ဘုရား၏ သစ်ပင်ကား အခက်အရွက် ကျဲလွန်းလှပါ၏။ အရိပ်အာဝါသ မကောင်းပါ။ သို့ပါလျက် ဘုရားရှင်သည် အရိပ်အာဝါသ မကောင်းသော သစ်ပင်အောက်မှာ နေတော် မူဘိသည် တကား"

"မင်းကြီး၊ ဆွေမျိုးတို့ အရိပ်သည် အေးချမ်းလှပါပေသည်"

ဝိဋူဍူဘမင်း၏ မေးလျှောက်ချက်ကို ဘုရားရှင်က တိုတိုတုတ်တုတ်သာ ဖြေကြားတော်မူခဲ့၏။ တိုတိုတုတ်တုတ် ဖြေကြားချက်တွင် အဓိပ္ပာယ်က အပြည့်အဝပါနေ၏။ ထိုအဓိပ္ပာယ်ကို ဝိဋူဍူဘမင်းကလည်း ရိပ်မိသဖြင့် စစ်တပ်ကြီးများပြန်ဆုတ်ခဲ့ရသော်လည်း သကျတို့အပေါ်မှာကား ရန်ငြိုးမပြေနိုင်သေးပါ။ ထို့ကြောင့်ပင် တစ်ကြိမ်မှ နှစ်ကြိမ်၊ နှစ်ကြိမ်မှ သုံးကြိမ်ထိ စစ်ချီခဲ့ခြင်း ဖြစ်ပေသည်။ ဆွေတော် မျိုးတော်များအတွက် နှစ်ကြိမ်တိုင်တိုင် စစ်ဦးမှ ရပ်ပေးတော်မူခဲ့သော ဘုရားရှင်သည် သုံးကြိမ်မြောက်မှာကား လျစ်လျူရှုတော်မူခဲ့ရပါတော့သည်။ ဆွေတော်မျိုးတော်များ၏ ဆိုးရွားလှသော ကံကြမ္မာကို တားဆီးကာကွယ်၍ မရနိုင်ကြောင်း မိန့်ကြားတော်မူခဲ့ပါသည်။

ဤအဖြစ်ဆိုးနှင့် တိုးမိစေသော အကြောင်းတရားများအနက် အတိတ်ကံကို ကျွန်ုပ် မပစ်ပယ်ပါ။ ပယ်လည်း မပယ်ထိုက်ပါ။ အတိတ်ကံသည် ပစ္စုပ္ပန်ကံ၏ အထောက်အကူ မပါဘဲနှင့်ကား ဤမျှလောက် ထင်ထင်ရှားရှားကြီး ဆိုးကျိုးမပေးနိုင်ပါ။ အကယ်၍ လူ့ဘောင်လောကမှာ ကြုံလာလေသမျှ အတိတ်ကံချည်း တရားသေ စွဲမှတ်ထားလျှင် ကျွန်ုပ်တို့သည် ဘုရားရှင့် တပည့်သား ပီသမည်မဟုတ်တော့ပါ။ ပုဗ္ဗေကတဟေတုဒိဋ္ဌိ၏ အစေအပါးသာလျှင် ဖြစ်ကြရပါတော့မည်။

ထို့ကြောင့် ကျွန်ုပ်တို့သည် အတိတ်ကံ အကြောင်းများကို ပယ်လည်း ပယ်မနေဘဲ တွယ်လည်း တွယ်မနေဘဲ ပစ္စုပ္ပန်ဘဝတွင် ကောင်းသောကံများကို အစွမ်းနိုင်ဆုံး စုဆောင်းကြရမည် ဖြစ်၏။ ကံကြမ္မာ၏ ဖန်တီးမှုကို အာသာငမ်းငမ်း တမ်းတနေမည့်အစား၊ ကံကြမ္မာ၏ ဒဏ်ခတ်မှုကို ခေါင်းငုံ့ခံနေမည့်အစား ကျွန်ုပ်တို့ကလည်း ကောင်းသောကံကြမ္မာကို ဖန်တီးရမည် ဖြစ်၏။ သို့မှသာ ကံကြမ္မာ၏ ကျေးကျွန်အဖြစ်မှ လွတ်မြောက်ကာ ကျွန်ုပ်တို့ကိုယ်တိုင် ကံကြမ္မာ၏ အရှင်သခင်များ ဖြစ်လာကြပါလိမ့်မည်။

ထို့ကြောင့် ဆွေတော်မျိုးတော်တို့၏ ရှေးအတိတ်ကံကို ကျွန်ုပ်၏ ဉာဏ်စွမ်းသက်သက်ဖြင့် မသိနိုင် မမြင်နိုင်သော်လည်း ထိုကံကို အထောက်အကူပြုသော ပစ္စုပ္ပန်ကံများကိုကား ကျွန်ုပ်တို့ မျက်ဝါးထင်ထင် မြင်နိုင်ကြပေသည်။ သားစဉ်မြေးဆက် လက်ဆင့်ကမ်းလာခဲ့ကြသော မာန်မာနဖြင့် ပြောခဲ့မိ ပြုခဲ့မိသော အမှုများသည်ပင် သူတို့၏ ပစ္စုပ္ပန်ကံတို့ ဖြစ်ကြပေသည်။

နောင်တော်ကြီး မဟာနာမ်သည် လွှဲမှားစွာ မာနထားနေကြသော ဆွေတော်မျိုးတော်များအား ဖိဖိစီးစီး ထိန်းနိုင်ခဲ့ပါလျှင် ယခုလို အဖြစ်ဆိုးနှင့် တွေ့ရမည် မထင်ပါ။ ယခုတော့ ဆွေတော်မျိုးတော်များကို လမ်းမှန်ကျအောင် ဦးဆောင်မှု မပေးနိုင်သဖြင့် သူပါရောစု၍ ပါသွားရရှာချေပြီ။

ဤသို့ ဆိုလိုက်သဖြင့် သွားလေသူ နောင်တော်ကြီးအား ကျွန်ုပ်က ရှုတ်ချနေသည်ဟု မရှုမမြင်ကြစေချင်ပါ။ ဆွေတော်မျိုးတော်များ အပြစ်ကို နောင်တော်ကြီးပေါ်မှာချည်း စုပုံပေးနေသည်ဟု မထင်ကြစေချင်ပါ။ နောင်တော်ကြီးတို့တစ်တွေ၏ ဇာတ်သိမ်းခန်းမှ ကျွန်ုပ်၏ ပရိသတ်များ သင်ခန်းစာ ထုတ်နိုင်ကြရန် အမှတ်တရ တင်ပြနေခြင်းသာ ဖြစ်ပါသည်။

နိုင်ငံရေးမှာ မကျွမ်းကျင်၍ အမှားတွေ့ခဲ့ရသော နောင်တော်ကြီး မဟာနာမ်သည် ရတနာသုံးပါး ကြည်ညိုသည့် နေရာမှာကား ဘုရားရှင် ကိုယ်တော်တိုင်က ချီးမွမ်းရသူ ဖြစ်ပါ၏။

နောင်တော်ကြီးမဟာနာမ်မှာ အုပ်ချုပ်ရေးတာဝန်ကို တစ်ဖက်က ထမ်းဆောင်ရင်း မိသားစု စီးပွားရေးကိုလည်း တစ်ဖက်က ဦးဆောင်ရသေး၏။ ကိုယ်ပိုင်လယ်ယာ မြောက်မြားစွာတွင် ခိုင်းနွားရောနို့စားနွားမများပါ မွေးမြူထား၏။ ခြံထွက်နွားနို့များကို ထောပတ်ဆီဦး ချက်လုပ်သဖြင့် ဝင်ငွေကောင်းလှ၏။ ရဟန်းသံဃာတော်များကို အလျှုပယ် လှူဒါန်းနိုင်၏။ ရဟန်းများ စိတ်ချလက်ချ အလှူခံနိုင်အောင် ဘုရားရှင်ထံ လေးလပတ်လုံး ဆေးပစ္စည်း လှူဒါန်းနိုင်ရန် ခွင့်တောင်းထား၏။

ဘုရားရှင် ခွင့်ပြုတော်မူသဖြင့် ရဟန်းများလည်း ထောပတ်ဆီဦး အလှူခံ၍ စားသုံးကြပါ၏။ သို့သော် ရဟန်းများမှာ မျှတရုံ စားသုံးကြသဖြင့် ရဟန်းများအတွက် သီးသန့်ထားသော ထောပတ်ဆီဦးများမှာ အရာမယွင်း လှသေးချေ။ ထို့ကြောင့် လေးလမျှမက လှူဒါန်းခွင့်ကို တောင်းရပြန်ပေသည်။ ဤသို့ စေတနာထက်သန်စွာ လှူဒါန်းခဲ့ခြင်းကြောင့် မွန်မြတ်သော အလှူဝတ္ထုများ လှူဒါန်းသော အရာဝယ် အထူးမြတ်ဆုံး ဧတဒဂ်ဂုဏ်ထူးကို ဆွတ်ခူးနိုင်ပေသည်။

(သုတ္တပါဠိ၊ မဟာနာမသိက္ခာပုဒ်၊ စေကနိပါတ်၊ အင်္ဂုတ္တရ အဋ္ဌကထာ၊ ဧတဒဂ္ဂဝဂ်၊ မဟာနာမသက္ကဝတ္ထု)

ဘုရားအမှူးရှိသော သံဃာတော်များအား စေတနာထက်သန်စွာ လှူဒါန်းခဲ့သော နောင်တော်ကြီးသည် သူ့စိတ်ထဲမှာ သံသယတစ်ခုခု ဝင်လာလျှင်လည်း ညီတော်မြတ်ထံ ချဉ်းကပ်ရန် ဦးမလေးပါ။ ဤသို့ ဦးမလေးခဲ့၍ပင် ကျွန်ုပ်ကိုယ်တိုင်က သူ့ကို လက်မောင်းမှ ဆွဲထုတ်ခဲ့ရဖူးပါသည်။ ဘုရားရှင် နာလန်ထခါစလေးတွင်မှ အလိုက်မသိ ပြဿနာ လာမေးနေ၍ ဖြစ်ပါသည်။

သူမေးခဲ့သော ပြဿနာများထဲမှာ သူ့အတွက် အဓိကအကျဆုံးမှာ သူ၏ နောင်ရေးဖြစ်၏။ နောင်ရေးဆိုသော်လည်း သာမန်နောင်ရေးမဟုတ်။ ဤဘဝက သေဆုံး ပြီးနောက် ရောက်လာမည့်အရေး ဖြစ်၏။ သူ့စိတ်ထဲမှာ ကြိမ်ဖန်များစွာ ခံစားခဲ့ရသော အတွေ့အကြုံများအရ ဤပြဿနာများကို မေးလျှောက်ခဲ့ခြင်း ဖြစ်ပေသည်။

"အရှင်ဘုရား၊ ဤကပိလဝတ်မြို့တော်သည် စားရေရိက္ခာ ပြည့်စုံလှပါ၏။ အဆင်တန်ဆာ၊ အဝတ်အထည်မှစ၍ လူသုံးကုန်ပစ္စည်းများ ပေါများလှပါ၏။ လူဦးရေထူထပ်လှပါ၏။ လမ်းသေးလမ်းမွှားကလေးများက ပင့်ကူအိမ်ကဲ့သို့ ယှက်သန်းနေကြပါ၏။ ဤနိဂြောဓာရုံ ကျောင်းတော်ကား မြို့နှင့် မနီးမဝေးမှာပင် ဖြစ်၍ မျက်စိရှင်းလှပါပေသည်။ နားအေးပါးအေး ရှိပါပေသည်။ ဘုရားရှင်နှင့် တကွ ရဟန်းတော်များကို ဖူးမြင်ရ၍ တပည့်တော်၏ နှလုံးစိတ်အား ပွားများ ရပါသည်။ သို့သော် ညနေချမ်းရောက်လျှင်ကား တပည့်တော်မှာ မြို့တော်တွင်းသို့ ပြန်ရပါတော့သည်။ မြို့တော်လမ်းမသို့ ခြေချမိသည်နှင့် တစ်ပြိုင်နက် မျက်စိ နောက်စရာ၊ နားငြီးစရာများနှင့်တွေ့ရ ပါတော့သည်။ ဆင်များ၊ မြင်းများ၊ ရထားများနှင့် လှည်းများသည် လမ်းသေးလမ်းမွှားကလေးများမှ အရှိန်အဟုန်နှင့် ထွက်လာတတ်ကြပါသည်။ ကိုယ့်အရေးနှင့်ကိုယ် ဒုန်းစိုင်း၍ ပြေးလာသူများလည်း ရှိပါသည်။ ထိုအရာများနှင့် ဗြုန်းခနဲ တွေ့လိုက်ရသောအခါ တပည့်တော် သတိ လက်လွတ် ဖြစ်သွားပါတော့သည်။ ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးကို မေ့လျော့သွားပါတော့သည်။ ထိုအခိုက်မှာများ တပည့်တော် သေဆုံးခဲ့ပါလျှင် ဘယ်လို ဂတိမျိုးသို့ ရောက်ပါလိမ့်မည်နည်းဟု တွေးတောခဲ့မိပါသည် ဘုရား"

သူတွေးတောခဲ့သည်ကို လျှောက်ထားခြင်းဖြင့် မေးမြန်းပြီး ဖြစ်ပေသည်။ သကျတို့၏ 'ရာဇာ' တာဝန်ထမ်းဆောင်နေရသော နှောင်တော်ကြီးသည် ကျောင်းတော်သို့ လာရာတွင်ကား မည်သည့် ရထားယာဉ်ကိုမျှမစီးပါ။ မည်သည့် အဆောင်အယောင်မျှ မခြံရံခဲ့ပါ။ သာမန် အရပ်သားတစ်ယောက် အဖြစ်ဖြင့်သာ လာနေကျ ဖြစ်၏။ ထို့ကြောင့်လည်း လမ်းခရီးတွင် အနှောင့် အယှက်များနှင့် တွေ့ရခြင်း ဖြစ်ပေသည်။

နှောင်တော်ကြီး၏ အမေးကို ညီတော်မြတ်က ဖြေကြားရင်း အားပေး နှစ်သိမ့်တော်မူလို၍-

"မဟာနာမ်၊ မကြောက်ပါနှင့်။ မဟာနာမ်၊ မကြောက်ပါနှင့်။ ထိုအခိုက် အတန့်မှာ သင် သေဆုံးရသည့်တိုင်အောင် ယုတ်ညံ့သော သေဆုံးခြင်း မဖြစ်နိုင်ပါ။ မြင့်မြတ်သော သေဆုံးခြင်းသာ ဖြစ်ပါလိမ့်မည်။ ရတနာမြတ် သုံးပါးတို့၏ ဂုဏ်တော် ကျေးဇူးတော်များ၌ သက်ဝင်ယုံကြည်၍ ကိုယ်ကျင့် သီလ ပြည့်ဝဖြူစင်သောအရိယာ သာဝကသည် နိဗ္ဗာန်သို့ ကိုင်းလျက်သာ ရှိ၏။ နိဗ္ဗာန်သို့ ရှိုင်းလျက်သာရှိ၏။

"မဟာနာမ်၊ ဥပမာအားဖြင့် အရှေ့အရပ်သို့ ညွတ်နေသော အရှေ့အရပ်သို့ ကိုင်းနေသော အရှေ့အရပ်သို့ ရှိုင်းနေသော သစ်ပင်သည် အမြစ်ပြတ်၍ လဲခဲ့သော် မည်သည့်အရပ်သို့ လဲမည်နည်း"

"အရှေ့အရပ်သို့သာ လဲပါလိမ့်မည် အရှင်ဘုရား"

"မဟာနာမ်၊ ဤဥပမာအတိုင်းသာ ဖြစ်ပေသည်။ သောတာပန်တို့၏ ဂုဏ်အင်္ဂါလေးပါးနှင့်ပြည့်စုံသော အရိယာသာဝကသည် နိဗ္ဗာန်သို့ ညွတ်လျက်သာ ရှိပေသည်။ နိဗ္ဗာန်သို့ကိုင်းလျက်သာ ရှိပေသည်။ နိဗ္ဗာန်သို့ ရှိုင်းလျက်သာရှိပေသည်"

နောင်တော်ကြီးကသူ့အတွေ့အကြုံအရမေးမြန်းသော်လည်း ညီတော်မြတ်ကတော့အရိယာသာဝကအားလုံးကိုသိမ်းကျုံး၍ဖြေတော်မူလိုက်ပေသည်။

မှန်ပါသည်။ သောတာပန်စသော အောက်ဆင့် အရိယာသာဝကများသည် သာမန်အချိန်များ၌ မေ့မေ့လျော့လျော့ နေကောင်းနေကြပါလိမ့်မည်။ မေ့လျော့ခြင်း အကြောင်းကြောင့် မကောင်းမှုများကိုလည်း အတန်အသင့် ပြုမိကောင်း ပြုမိကြပါလိမ့်မည်။ သို့သော် သူတို့၏ ကိုယ်ပိုင်ဉာဏ်သည် နိဗ္ဗာန်တရားတော်မြတ်ကြီးနှင့် ထိတွေ့ဆက်ဆံခဲ့ရဖူးပြီ ဖြစ်ရာ တစ်မျိုးလုံး တစ်ဆွေလုံး ပြုတ်ပြုတ်ပြုန်းမည့် ဘေးဆိုးကြီးနှင့် တွေ့ရသောအခါ စောစောက မေ့လျော့ထားခဲ့သော ထိုနိဗ္ဗာန်တရား ဆီသို့ ချဉ်းကပ်ကြရတော့မည် ဖြစ်၏။ ဤလို အချိန်မျိုးတွင် နိဗ္ဗာန်တရားမှ တစ်ပါး သူတို့အားကိုးရာ ဘာမျှ မရှိတော့သည်ကို သူတို့ သတိရလာကြမည် ဖြစ်၏။ ထို့ကြောင့် ဝဋ်နှင့်ကြမ္မာ မလွတ်သာ၍ သေကြရသော်လည်း သူတို့၏ သေဆုံးခြင်းကို မြတ့်မြတ်သည်ဟု ဆိုရပါလိမ့်မည်။

မွန်မြတ်သော လျှူဖွယ်ဝတ္ထုလှူဒါန်းရာတွင် ဧတဒဂ်ဂုဏ်ထူး ဆွတ်ခူးခဲ့သော နောင်တော်ကြီးသည်လည်း အရိယာစာရင်းဝင်ဖြစ်၍ မြင့်မြတ်သော သေခြင်းဖြင့် သေဆုံး၍ သွားခဲ့ပေပြီ။ သွားလေသူ နောင်တော်ကြီး တစ်ယောက်အတွက် ကျွန်ုပ်က ဤသို့ပင် အလွမ်းဖြေရပါတော့သည်။

**(မဟာဝဂ်၊ သောတာပတ္တိသံယုတ်၊ သရဏာနိဝဂ်၊ ဒုတိယမဟာနာမသုတ်)**

✻✻

## စစ်နှင့် ငြိမ်းချမ်းရေး

အင်အားကြီး နိုင်ငံတစ်ခုကြောင့် သကျတို့၏ ဂဏအုပ်ချုပ်ရေး နိုင်ငံကလေး ကြေပျက်၍ သွားခဲ့ပါပြီ။ သည်အချိန်မှာပင် အခြားအင်အားကြီး နိုင်ငံတစ်ခုကလည်း ဂဏအုပ်ချုပ်ရေး နိုင်ငံကလေးတစ်ခုကို စစ်ပြုရန် စီမံနေပေပြီ။

ယခင်တုန်းကတော့ မဂဓနှင့် ကောသလ နိုင်ငံကြီးများသည် သူတို့အချင်းချင်း တိုက်ခိုက်ခဲ့ကြ၏။ ပြင်းထန်လှသော တိုက်ပွဲကြီးများ ကြိမ်ဖန်များစွာ ဖြစ်ပွားခဲ့၏။ ရံဖန်ရံခါ ကောသလမင်းကြီးက အောင်နိုင်၏။ ရံဖန်ရံခါ အဇာတသတ်မင်းက အသာရ၏။ သို့သော် တစ်နိုင်ငံက တစ်နိုင်ငံကို အပြတ်အသတ် ချေမှုန်းနိုင်ခြင်းကား မရှိပါ။ အင်အားခြင်း မျှနေ၍ ဖြစ်ပါသည်။

နှစ်နိုင်ငံစပ်ကြားမှာ စစ်မက်ဖြစ်ပွားသော်လည်း ကောသလမင်းကြီးနှင့် အဇာတသတ်မင်းတို့မှာ တူဝရီး အရင်းအချာဖြစ်ကြ၏။ အဇာတသတ်မင်း၏ မယ်တော် ဝေဒေဟီမိဖုရာကြီးသည် ကောသလမင်းကြီး၏နှမအရင်း ဖြစ်၏။ ခမည်းတော် မဟာကောသလမင်းကြီးရှိစဉ်က သမီးတော်ဝေဒေဟီနှင့် ဗိမ္ဗိသာရမင်းတို့၏ လက်ထပ်မင်္ဂလာတွင် အခွန်တစ်သိန်းထွက်သော ကာသိရွာကြီးကို လက်ဖွဲ့ခဲ့၏။ နှစ်နိုင်ငံ နယ်စပ်အနီးက ရွာကြီးဖြစ်၏။ ထိုအချိန်က အဇာတသတ်သည် ထီးနန်းစည်းစိမ်အတွက် ခမည်းတော်ကြီးကို ရက်စက်စွာသတ်ခဲ့၏။ ခမည်းတော်ကြီးနှင့် ကွေကွင်းရသောဒဏ်ချက်ဖြင့် မယ်တော်ကြီး ဝေဒေဟီမှာလည်း မကြာမီမှာပင် ကွယ်လွန်ခဲ့၏။ ဤတွင်ကောသလမင်းကြီးက “အဇာတသတ်သည် ခမည်းတော်ရော မယ်တော်ကိုပါ သတ်ခဲ့၏။ မယ်တော် မရှိတော့သဖြင့် သူ့အတွက် လက်ဖွဲ့လိုက်သော ကာသိရွာကြီးသည် အဇာတသတ်နှင့် မဆိုင်တော့။ ငါ့ခမည်းတော်၏ ရွာသည် ငါ့ရွာပင် ဖြစ်တော့သည်”ဟု အရေးဆို၏။ အဇာတသတ်မင်းကလည်း ဦးရီးတော် စကားကိုလက်မခံပါ။ သည်ရွာကြီးကို လက်ဝယ်ပိုင်ပိုင်ထားနိုင်ရေးအတွက် စစ်ပွဲကြီး ဆင်နွှဲပါတော့သည်။

(သဂါထာဝဂ်၊ ကောသလသံယုတ်၊ ပထမသံဂါမသုတ် အဋ္ဌကထာ)

ကောသလ မင်းကြီး ကွယ်လွန်သွားပြီမို့ ယခုတော့ စစ်ပွဲကြီးများ ပြီးသွားကြပါပြီ။ ဤသို့ ကောသလဘက်က စစ်ရှိန် လျော့သွားချိန်တွင် မာဂဓဘက်ကတော့ စစ်သံတွေ တညံညံ ထွက်လာကြပါပြီ။

မဂဓတိုင်းကြီး၏အရှင် ဘုရင်အဇာတသတ် မျက်မုန်းကျိုးနေသည်ကား လိစ္ဆဝီအမျိုးသားများ ဖြစ်၏။ ဝေသာလီမြို့တော်ကို ဗဟိုပြုထားသော ဝဇ္ဇီတို့မှာ မျက်မုန်းကျိုးစရာ ဖြစ်ပါလိမ့်မည်။ မိမိတို့နိုင်ငံထက် အဆမတန် ကျယ်ဝန်းသောနိုင်ငံ၊ အဆများစွာ သာလွန်သော စစ်တပ်ကြီးများကိုပင် ဝဇ္ဇီတို့က မထီလေးစား ပြုခဲ့ကြပြီ မဟုတ်ပါလော။

ဝဇ္ဇီဟူသည်မှာ လိစ္ဆဝီအမျိုးသားများပင် ဖြစ်၏။ သူတို့၏ ဘိုးဘေးဘီဘင်များ လက်ထက်မှစ၍ ဤအမည် တွင်လာခဲ့၏။ သူတို့ကိုတော့ ဝေးဝေးက ကြဉ်ကြရှောင်ကြတော့ ဟု အမိပ္ပာယ်ရ၏။ သူငယ်တို့ဘဝ အတူတကွ ကစားကြရာတွင် ထိုသူငယ်များက အင်မတန် စွာကျယ်ကျယ်နိုင်လှ၏။ ထစ်ခနဲရှိလျှင် အရွယ်နှင့်မလိုက်အောင် သူတို့ကချည်း လက်ချက်ဦးခဲ့ကြ၏။ ထို့ကြောင့် အခြားကလေးတို့၏ မိဘတို့က ထိုကလေးများကို ဝေးဝေးက ကြဉ်ကြရှောင်ကြဟု မိမိကလေးများကို ပြောဆိုထားကြရသော ဟူ၏။

ဘိုးဘေးဘီဘင် အစဉ်မပျက် အမွေဆက်ခံလာခဲ့ကြသော ဝဇ္ဇီတို့သည် ယခုအချိန်မှာလည်း စွာကျယ်ကျယ်နိုင်ကြတုန်းဖြစ်၏။ သူတို့၏ ဦးစီး ခေါင်းဆောင်များမှ လွဲ၍ ဘယ်သူ့ကိုမှ ထိမထင်ကြတုန်းဖြစ်၏။ သူတို့၏ အားကိုးရာကားရေဝယ်သား၍ အခြားမထင်သကဲ့သို့ စည်းလုံးညီညွတ်ခြင်း ဖြစ်၏။ ညီညာထကြွလုံ့လရှိခြင်း ဖြစ်၏။

ဤသို့သော အရည်အချင်းများဖြင့် အဇာတသတ်၏ စစ်တပ်ကြီးများအပေါ် အသာစီး ယူနိုင်ခဲ့သည်မှာ နှစ်ကြိမ်တိုင်တိုင် ရှိခဲ့ပါပြီ။ ဂင်္ဂါမြစ်ဆိပ်ကမ်း တစ်နေရာတွင် ရွာကြီးတစ်ရွာရှိ၏။ ရွာနယ်မြေအကျယ်အဝန်းမှာ တစ်ယူဇနာမျှ ရှိရာ တစ်ဝက်မှာ ဝဇ္ဇီတို့ ပိုင်နက်ဖြစ်၍ ကျန်တစ်ဝက်ကား မဂဓနယ်ထဲမှာ ပါဝင်၏။ ယခင်နှစ်တုန်းက ဤရွာခြေသို့ တောင်ကျချောင်း ကလေးမှ အဖိုးမဖြတ်နိုင်သော ကျောက်မျက်ရတနာများ မျောပါလာကြ၏။ ရေမြေပိုင်စိုးသော မင်းတို့၏ ဥစ္စာဖြစ်သဖြင့် ကျေးရွာ အကြီးအကဲများမှာ ထိုရတနာတို့ကို တွေ့ရှိသော နေရာမှာပင် အခြေမပျက် စောင့်ရှောက်ထားကြရ၏။ နှစ်ဖက်သော ပြည့်ရှင်မင်းတို့ လာ၍ ခွဲဝေယူကြရန် စောင့်မျှော်နေကြ၏။ သို့သော် မဂဓဘက်ကမလာခင် ဝဇ္ဇီတို့က တပ်ချီ၍ ရောက်လာကြ၏။ တွေ့ရှိသော ရတနာများကို တစ်ခုမကျန် သိမ်းကျုံး၍ ယူသွားကြ၏။ အဇာတသတ်မင်း ရောက်လာချိန်မှာကား နေရာမျှသာ ပြစရာ

ရှိပါတော့သည်။ ကြီးမားလှသော စစ်တပ်ကြီးများကို စုစည်းရင်း နေ့ရွှေ့ရက်ရွှေ့ ရွှေ့ခဲ့၍ပင် ဖြစ်ပါလိမ့်မည်။

အလာကောင်းပါလျက် အရောက်နှောင်းခဲ့သော အဇာတသတ်မင်းသည် မိမိ၏ ချို့တဲ့ချက်ကို အချိန်မှီ ပြုပြင်ရမည့်အစား လက်ဦးသွားသူများကိုသာ မျက်မာန်ပွားနေဟန် ရှိပါသည်။ ထို့ကြောင့်ပင် ယခုနှစ် ရတနာများ ပျောပါလာတော့လည်း လက်လွှတ်ခဲ့ရပြန်ပါပြီ။ အဇာတသတ်မင်း၏ ဒေါသဇောများ အထွတ်အထိပ်သို့ ရောက်သွားကြပါလိမ့်မည်။ ဖြစ်များဖြစ်နိုင်မည်ဆိုပါလျှင် ဝိဋူဍဘ၏ လမ်းကြောင်းအတိုင်း နေ့မဆိုင်း ညမဆိုင်း တိုက်မိပါလိမ့်မည်။ သို့သော် ဝဇ္ဇီတို့ကား သကျတို့လို မဟုတ်ချေတကား။

အားမနာတမ်း ပြောကြစို့ဆိုလျှင် ကျွန်ုပ်တို့ ဆွေတော်မျိုးတော်များသည် ဝမရှိဘဲ ဝိလုပ်ကြသူများ ဖြစ်၏။ နိုင်ငံကြီးများကို အန်တုနိုင်သော စစ်အင်အားသည် လည်းကောင်း၊ အဆက်မပြတ် စစ်ရေးလေ့ကျင့်ခြင်းသည်လည်းကောင်း သူတို့မှာ မရှိပါ။ ကျွမ်းကျင် ပါးနပ်သော နိုင်ငံရေး နည်းပရိယာယ်ကိုလည်း မကျင့်သုံးတတ်ကြပါ။ သားစဉ်မြေးဆက် မရောနှောခဲ့ သော မျိုးရိုးနှင့် ပတ်သက်၍ အခြောက်တိုက်ဂုဏ်မောက်နေသူများသာ ဖြစ်ကြ၏။ ဝဇ္ဇီတို့မှာကား သူတို့လို မဟုတ်ပေ။ ဝရှိ၍ ဝိလုပ်ကြသူများ ဖြစ်ကြ၏။ ဆင်၊ မြင်း၊ ရထားမှစ၍ စစ်ဆင်ရေးအတတ်မျိုးစုံကို ပိုင်ပိုင်နိုင်နိုင် တတ်မြောက်ထားကြ၏။ နိုင်ငံကြီးများလောက် စစ်အင်အားမများသော်လည်း သူတို့၏ တိုက်ရည်ခိုက်ရည်ကို နိုင်ငံကြီးများက အလေးမူကြရ၏။ အဆက်မပြတ် စစ်ရေးလေ့ကျင့်နေကြသဖြင့် သူတို့၏ အရည်အသွေးက တရှိန်ရှိန် တက်လျက် ရှိ၏။ သို့ဖြစ်၍ပင် အဇာတသတ်မင်းက သူတို့ကို စစ်ချီတိုက်ခိုက်ရန် အချိန်ဆိုင်းနေရခြင်း ဖြစ်ပေသည်။

တစ်ချိန်သော အခါမှာကား ဝဇ္ဇီတို့သည်လည်း ဆွေတော်မျိုးတော် များ၏ ကံကြမ္မာမျိုးနှင့် တိုးကြရမည်သာ ဖြစ်ပါ၏။ ဝဇ္ဇီအမျိုးသားအများစု မှာလည်း သာသနာ့ ဆွေတော်မျိုးတော်များသာ ဖြစ်ကြ၏။ ဆွေသိုက်မျိုးသိုက် နှစ်ခုလုံးပင် ကံတူအကျိုးပေးများ ဖြစ်ကြ၏။ သို့သော် ဝိဋူဍဘတုန်းက စစ်ရေးသန့်သန့် အဖြစ်သာ ပြုလုပ်ခဲ့၏။ စိတ်မာန်ကြီးစွာဖြင့် စစ်ချီသွားသည့်ကြားကပင် ဘုရားရှင်ကို မြင်သော် နှစ်ကြိမ်တိုင်တိုင် ပြန်၍ ဆုတ်ခဲ့သေး၏။ သူ၏ စစ်ရေးစစ်ရာကိစ္စ အတွက် ဘုရားရှင်၏ အထောက်အကူကို မယူခဲ့ပါ။

မဂဓတိုင်းသခင် ဘုရင်အဇာတသတ်ကား သူ့လို ရှင်းရှင်းလင်းလင်း မပြုခဲ့ပါ။ သူ၏ စစ်ရေးကိစ္စအတွက် ဘုရားရှင်၏ အထောက်အကူကို ရအောင် ယူခဲ့၏။ သူသိလိုသော အချက်အလက်များကို သူ၏ သံအမတ်ကြီးမှ တစ်ဆင့်

အရယူ၏။ ကျွန်ုပ်တို့ရှိရာ ဝေဠုဝန်ကျောင်းတော်သို့ သာသာနာရေး ကိစ္စဖြင့် လာသည်မဟုတ်။ စစ်ရေး ရည်ရွယ်ချက်တစ်ခုဖြင့် လာခဲ့၍ သံအမတ်ကြီးဟု ကျွန်ုပ်က ဆိုလိုက်ရပါသည်။ ထိုသံအမတ်ကြီးကား အခြား မဟုတ်။ အရှင်ဝနိယ၏ သစ်မှုကြီးကို ပေါ်ပေါက်အောင် စစ်ဆေးခဲ့သော ဝဿကာရအမတ်ကြီး ဖြစ်ပါသည်။ မဂဓ၏ ပြိုင်ဘက်ကင်းသော နိုင်ငံရေးသုခမိန် ဗြာဟ္မဏကြီး ဖြစ်ပါသည်။

ဝဿကာရအမတ်ကြီးသည် ကျွန်ုပ်တို့သာသနာတော်ကြီးကို ကိုးကွယ် ဆည်းကပ်သူ မဟုတ်ပါ။ ယဇ်ပူဇော်ခြင်း၊ ရေချိုးခြင်းစသောကျင့်ဝတ်များဖြင့် သူတို့ကိုးကွယ်သော ဗြဟ္မာကြီးများထံ အရောက်သွားနိုင်ရေးကိုသာ ရှေးရှုနေသူ ဖြစ်ပေသည်။ သို့သော် သာသနာတော်ကိုကြည်ညိုသော အဇာတသတ်မင်း၏ ညာလက်ရုံးကြီးဖြစ်နေသဖြင့် သာသနာတော်နှင့် လုံးလုံးကြီး ကင်းကွာ၍လည်း မနေနိုင်ပါ။ အကြောင်းအားလျော်စွာ ဝေဠုဝန်ကျောင်းတော်သို့ ရောက်လာတတ် ပေသည်။ ဘုရားရှင်နှင့် စကားစမြည် ပြောဆိုတတ်ပေသည်။

"အရှင်ဂေါတမ၊ ဤလောက၌ အကြားအမြင်များခြင်း၊ စကားအမျိုးမျိုး တို့၏ အနက်အဓိပ္ပာယ်ကို နားလည်ခြင်း၊ ပြောခဲ့လေသမျှ ပြုခဲ့လေသမျှ အမှုဟောင်း များကို ကြာညောင်းသော်လည်း သတိရခြင်း၊ ပြုဖွယ်ကိစ္စ ဟူသမျှ၌ ကျွမ်းကျင် လိမ္မာ ခြင်း ဟူ၍ ဤသို့သော ဂုဏ်အင်္ဂါလေးပါးနှင့် ပြည့်စုံသောသူကို ယောကျ်ားမြတ် ဟူ၍ တပည့်တော်တို့ သတ်မှတ်ထားကြပါသည် ဘုရား။ ဤစကားကို အရှင် ဂေါတမက ထောက်ခံသင့်လျှင် ထောက်ခံလိုက်ပါ။ ကန့်ကွက်သင့်လျှင်လည်း ကန့်ကွက်လိုက်ပါ ဘုရား"

ကျောင်းတော်သို့ ရောက်လာခိုက် ဝဿကာရအမတ်ကြီး လျှောက်ထားခဲ့ ဖူးသော စကားများဖြစ်၏။ သူ၏ အာလုပ်စကားလုံးကို ကြည့်ခြင်းဖြင့် ဘုရား ရှင်ကို ကိုးကွယ်ဆည်းကပ်သော သာဝကတစ်ဦးမဟုတ်မှန်း သိသာနေပေသည်။ ကျွန်ုပ်တို့တစ်တွေက ဘုရားရှင်ကို ခေါ်ဝေါ်လိုပါလျှင် အရှင် ဘုရားဟူ၍ ရိုသေ လေးစားစွာ ခေါ်ဝေါ်ကြရ၏။ ဝဿကာရအမတ်ကြီးကမူ ပြည်သူလူထုနှင့်တကွ ပြည့်ရှင်မင်းကိုယ်တိုင်က လေးစားရသော ဘုရားရှင်ကို လေးစားပါသော်လည်း သူ၏ ဆရာသခင် ကျေးဇူးရှင်ဟု မသတ်မှတ်နိုင်သဖြင့် အရှင်ဂေါတမဟု အမျိုး အမည်ပါတပ်၍ ခေါ်ဝေါ်ခဲ့ပေသည်။

"ဗြာဟ္မဏ၊ သင့်စကားကို ငါဘုရားက ထောက်ခံခြင်းလည်း မပြုလိုပါ။ ကန့်ကွက်ခြင်းလည်း မပြုလိုပါ"

မိမိအား မဆည်းကပ် မကိုးကွယ်သူ၏ စကားကိုလည်း ဘုရားရှင်က ဂရု တစိုက် ဖြေကြားတော်မူပါ၏။ ဘုရားရှင်တို့ ထောက်ခံတော်မူသည်မှာ လောကုတ္တရာ

အကျိုးစီးပွားနှင့် စပ်သော စကားများသာ ဖြစ်၏။ ယခု ဝဿကာရအမတ်ကြီး၏ စကားမှာ လောကုတ္တရာအကျိုးစီးပွားနှင့် မစပ်ဆိုင်။ လောကီ အကျိုးစီးပွား အတွက်သာဖြစ်၍ ဘုရားရှင်ထောက်ခံတော်မမူပေ။ ထို့အတူပင် လောကီအကျိုး စီးပွားအတွက် ပြောဆိုသော စကားကို လောကုတ္တရာမျက်စိဖြင့် ကြည့်ရှု၍ ကန့်ကွက်ရန်လည်း မသင့်ပါ။ ထို့ကြောင့် ဘုရားရှင်က နှစ်ဘက်စလုံးမှ ရှောင်ကြဉ်ကာ သာသနာတော်ဘက်က သတ်မှတ်ချက်ကိုသာ မိန့်ကြားတော်မူရပေသည်။

"ဗြာဟ္မဏ၊ လူအမြောက်အမြားအား အရိယာဉာဏ် အမြင်သန်လာအောင် ဟောပြောဆုံးမခြင်းဖြင့် လူအများ၏ အကျိုးစီးပွားများ ပွားများစိမ့်သောငှာ၊ ချမ်းသာသုခရစိမ့်သောငှာ ဆောင်ရွက်ခြင်း၊ မကောင်းသော စိတ်အကြံအစည်များကို လက်မခံဘဲ ကောင်းမြတ်သော စိတ်အကြံအစည်များကိုသာ ပွားများခြင်း၊ ဈာန် လေးပါးတို့ကို မပင်မပန်း ချမ်းသာစွာရရှိခြင်း၊ အရဟတ္တဖိုလ်ကို မျက်မှောက်ပြု နိုင်ခြင်း ဤသို့သော ဂုဏ်အင်္ဂါလေးပါးနှင့် ပြည့်စုံသော သူကို ယောကျ်ားမြတ်ဟူ၍ ငါဘုရားက သတ်မှတ်ပေသည်"

ဤစကားကို ထောက်ခံရန်သော်လည်းကောင်း ကန့်ကွက်ရန်သော် လည်း ကောင်း ဘုရားရှင်က မဖိတ်မခေါ်ခဲ့ပါ။ သို့သော် ဝဿကာရအမတ်ကြီးကတော့ အားပါးတရ ထောက်ခံခဲ့ပေ၏။ ဘုရားရှင်ကိုယ်တော်မြတ်ကြီးသည် ဤဂုဏ်အင်္ဂါ လေးပါးနှင့် ပြည့်စုံသော ယောကျ်ားမြတ်ဖြစ်ကြောင်း ချီးကျူး၍ သွားခဲ့ပေသည်။

**(အင်္ဂုတ္တရ၊ စတုက္ကနိပါတ်၊ ပဌမပဏ္ဏာသက၊ စက္ကဝဂ်၊ ဝဿကာရသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)**

ယခုတစ်ခေါက် သူရောက်ရသည်ကား ဝေဠုဝန်ကျောင်းတော် မဟုတ်ပါ။ ဂိဇ္ဈကုဋ်တောင်ပေါ်သို့ တက်လိုက်လာရပါသည်။ သကျမျိုးဖြုတ် စစ်ပွဲကြီး ပြီးကတည်းက ဘုရားရှင်နှင့်တကွ ကျွန်ုပ်တို့တစ်တွေ ရာဇဂြိုဟ်သို့ လာခဲ့ကြ၏။ ဝေဠုဝန်ကျောင်းတော်မှာဆိုလျှင် ရဟန်းပရိသတ်၊ လူပရိသတ်များ ပေါများလွန်း သဖြင့် ဤတောင်၏ကျောက်ဆောင်ရိပ်များသို့ မကြာမကြာ လာခဲ့ရ၏။ ဝဿကာရ အမတ်ကြီးသည် အခြွေအရံများနှင့် ယာဉ်များကို တောင်ခြေမှာထားကာ ကျွန်ုပ်တို့ ထံသို့ တစ်ယောက်တည်းတက်လာပေသည်။ သည်ကတည်းက အရေးကြီးသော ကိစ္စတစ်ခုခု ပါလာပြီဖြစ်ကြောင်း ကျွန်ုပ် ရိပ်မိထားပါပြီ။

"အရှင်ဂေါတမ၊ မဂဓတိုင်းကြီးသခင် ဘုရင်အဇာတသတ်က အရှင်ဂေါတမ ၏ ခြေတော်ကို ဦးခိုက်လိုက်ပါသည်။ အရှင်ဂေါတမ၏ ကျန်းမာကြောင်း၊ ချမ်းသာ ကြောင်းကိုလည်း မေးမြန်းလိုက်ပါသည်။ ထို့ပြင် အထူးလျှောက်ထားလိုသည်မှာ ညီလာခံသဘင် ဆင်ယင်ကျင်းပတိုင်း 'ဤမျှလောက် စွမ်းပကားကြီးမားသော

ဝဇ္ဇီတို့ကို ငါမျိုးဖြုတ်လိုက်မည်၊ အတုံးအရုံး သတ်ဖြတ်ပစ်လိုက်မည်' ဟု ကြုံးဝါးနေပါသည် ဘုရား"

ရှေ့ပိုင်းက အစချီလာသော စကားအရ သူ့သခင် ကိုယ်တိုင်က စေလွှတ်၍ လျှောက်ထားခိုင်းကြောင်း ပေါ်လွင်နေပါသည်။

သူ့သခင် ဘုရင်အဇာတသတ်သည် ဝဇ္ဇီတို့ကို စစ်တိုက်ချင်နေ၏။ သူတို့၏ ရန်ကြွေးကို သွေးနှင့် ဆပ်ချင်နေ၏။ သို့သော် စစ်ရေးစွမ်းပကားကြီးမားရုံမက ကျစ်လျစ်ခိုင်မာစွာ ရပ်တည်နေကြသော ဝဇ္ဇီတို့ကို ဖြိုခွင်းရန်ကလည်း ခပ်ခက်ခက်။ အရေအတွက်အရာတွင် သူ့ဘက်ကအဆမတန် သာလွန်ပါသော်လည်း လက်လွတ်စပယ် လုပ်ရဲမည် မဟုတ်ပါ။ ထို့ကြောင့် ဤပြဿနာ၏ အဖြေကို ဘုရားရှင်ထံတော်မှာ ရှာဖွေရန် စေလွှတ်လိုက်ခြင်းဖြစ်ပါလိမ့်မည်။ ဘုရားရှင်၏ မိန့်တော်သံကိုနာခံပြီးမှ လုပ်သင့်လုပ်ထိုက်ရာကို လုပ်နိုင်ရန် ဖြစ်ပါလိမ့်မည်။ စစ်တိုက်ရေး မတိုက်ရေး ကိစ္စကိုပင် ဘုရားရှင်၏ ညွှန်ကြားချက်ကို ရယူလိုကြသေးသည်တကား။ ဘုရားရှင် ဟောကြားတော်မူသမျှ တရားတော်များဝယ် ညှဉ်းဆဲသတ်ဖြတ်ရေးဟူ၍ တစ်လုံးတစ်ပါဒမျှ မပါဝင်ပါချေ။ အကယ်၍ သူတစ်ပါးအား သတ်ဖြတ်ညှဉ်းဆဲမှုကို လုံးဝ မပြုပါနှင့် မိန့်ကြားလျှင်ကော လိုက်နာပါမည်လော။

"အာနန္ဒာ"

ဝဿကာရ အမတ်ကြီး၏ လျှောက်ထားချက်နှင့် ဆက်စပ်၍ စိတ်ထဲမှာ အမျှင်တန်းနေဆဲတွင် ဘုရားရှင်က ခေါ်တော်မူလိုက်သဖြင့် "အရှင်ဘုရား" ဟု ထူးလိုက်ရပေသည်။ ဗြာဟ္မဏအမတ်ကြီး၏ လျှောက်ထားချက်နှင့် ပတ်သက်၍ အမတ်ကြီးနှင့် မဆွေးနွေးဘဲ ကျွန်ုပ်နှင့် ဆွေးနွေးတော်မူလို၍ ဖြစ်ပါလိမ့်မည်။

"အာနန္ဒာ၊ ဝဇ္ဇီတို့သည် နိုင်ငံတော်နှင့် ပတ်သက်သော လုပ်ငန်းဆောင်တာများအတွက် မကြာခဏ စည်းဝေးကြ၏ဟု သင်ကြားဖူးပါသလော"

"ကြားဖူးပါသည် အရှင်ဘုရား"

"အာနန္ဒာ၊ ဝဇ္ဇီတို့သည် ရှေးကမပြုလုပ်ခဲ့သေးသော အခွန်ကောက်ခြင်း၊ ဒဏ်ပေးခြင်းကို မပြုလုပ်ကြ။ အမှုအခင်း တစ်ခုခု ပေါ်ပေါက်လာလျှင် ရှေးသူဟောင်းတို့၏ ထုံးတမ်းစဉ်လာ ဥပဒေအရသာ ဆုံးဖြတ်စီရင်ကြကုန်၏ဟု သင်ကြားဖူးပါသလော"

"ကြားဖူးပါသည် အရှင်ဘုရား"

"အာနန္ဒာ၊ ဝဇ္ဇီတို့သည် လူကြီးသူမများကို လေးမြတ်ကြည်ညို ရိုသေကြကုန်၏။ လူကြီးသူမများ၏စကားကို နာခံကြကုန်၏ဟု သင် ကြားဖူးခဲ့ပါသလော"

"ကြားဖူးပါသည် အရှင်ဘုရား"

"အာနန္ဒာ၊ ဝဇ္ဇီတို့သည် အမျိုးသမီးများကို နိုင်ထက်ကလူ သိမ်းယူခြင်း မပြုကြကုန်ဟု သင်ကြားဖူးပါသလော"

"ကြားဖူးပါသည် အရှင်ဘုရား"

"အာနန္ဒာ၊ ဝဇ္ဇီတို့သည် လူများစွာတို့ ကိုးကွယ်ဆည်းကပ်နေသော ဘာသာရေး အဆောက်အအုံများကို ရိုသေစွာ စောင့်ရှောက်ပေးကြကုန်၏ဟု သင်ကြားဖူးပါသလော"

"ကြားဖူးပါသည် အရှင်ဘုရား"

"အာနန္ဒာ၊ ဝဇ္ဇီတို့သည် မိမိတို့နိုင်ငံသို့ ရောက်လာကြသော သာသနာပြု သူတော်စင်များကို ဝမ်းမြောက်ဝမ်းသာ ကြိုဆိုကြ၏။ ရောက်နှင့်ပြီးသော သူတော်စင်များကိုလည်း တရားဥပဒေနှင့် လျော်ညီသော အစောင့်အရှောက်ကို ပေးကြကုန်၏ဟု သင်ကြားဖူးပါသလော"

"ကြားဖူးပါသည် အရှင်ဘုရား"

"အာနန္ဒာ၊ ဝဇ္ဇီတို့သည် ဤသို့သော ကြီးပွားကြောင်း တရားခုနစ်ပါးတို့နှင့် ပြည့်စုံနေသမျှ ကာလပတ်လုံး သူတို့အတွက် တိုးတက်ကြီးပွားခြင်းသာ ဖြစ်လတ္တံ့။ ဆုတ်ယုတ်ပျက်စီးခြင်းဟူ၍ မရှိနိုင်ပေ"

ဤစကားများကို ထောက်ခြင်းအားဖြင့် ဝဇ္ဇီတို့အပေါ် ထားရှိသော ဘုရားရှင်၏ စေတနာ မေတ္တာစာတ်ကို သိသာနိုင်ပေသည်။ ဂဏအုပ်ချုပ်ရေး နိုင်ငံငယ်တစ်ခုမှာ ဖွားမြင်ခဲ့သော ဘုရားရှင်က ဂဏအုပ်ချုပ်ရေး နိုင်ငံငယ်တစ်ခုအပေါ် ဤသို့ စေတနာ မေတ္တာထားခြင်းမှာ သဘာဝကျပါပေသည်။

အထက်ပါ စကားများ၌ စစ်တိုက်ရန်သော်လည်းကောင်း၊ နည်း ပရိယာယ်နှင့် ဖျက်ဆီးရန်သော်လည်းကောင်း ညွှန်ပြသောစကား လုံးဝ မပါဝင်ပါ။ စစ်သွေးစစ်မာန် တက်ကြွနေသော ဧကရာဇ်မင်းအား စစ်မတိုက်ရန် သွယ်ဝိုက်၍ မိန့်ကြားတော်မူလိုက်ခြင်းသာ ဖြစ်ပေသည်။

မိန့်ကြားတော်မူလိုက်သော ဘုရားရှင်၏ စိတ်သဘောထားက မည်မျှပင် ဖြောင့်မှန်သော်လည်း ဝဿကာရအမတ်ကြီးကတော့ သူ့အစီအစဉ်နှင့်သူ ကောက်ယူပါ၏။ သူကောက်ယူပုံကို ထုတ်ဖော်လိုက်ခါမှ ကျွန်ုပ် ကျောချမ်း၍ သွားရပါ၏။

"အရှင်ဂေါတမ၊ ကြီးပွားကြောင်းတရား တစ်ပါးပါးဖြင့်ပင် ဝဇ္ဇီတို့အတွက် ကြီးပွားခြင်းသာ ဖြစ်ရာ၏။ ဆုတ်ယုတ်ပျက်စီးမှုဟူ၍ မဖြစ်နိုင်ရာ။ ကြီးပွားကြောင်းတရား ခုနစ်ပါးလုံးနှင့် ပြည့်စုံသော်ကား အဘယ်ဆိုဖွယ်ရာ ရှိချိမ့်မည်နည်း။ အရှင်ဂေါတမ၏ မိန့်ကြားချက်အရ တပည့်တော် သဘောပေါက်သွားပါပြီ။

အဓာတသတ်မင်းသည် ဝဇ္ဇီတို့ကို စစ်ရေးဖြင့် မချေမှုန်းသင့်ပါ။ ဖြားယောင်း သွေးဆောင်ခြင်းဖြင့်သော်လည်းကောင်း၊ သူတို့အချင်းချင်း သင်းခွဲပေးခြင်းဖြင့်သော် လည်းကောင်း သူတို့ကို ချေမှုန်းရပါတော့မည် ဘုရား"

ဖြောင့်မှန်စွာ မိန့်ကြားသော ဘုရားစကားတော်ကို ဗြာဟ္မဏ အမတ်ကြီးက သူလိုရာ ဆွဲ၍ အဓိပ္ပာယ်ကောက်ယူလိုက်ပါပြီ။ သူ့သဘောနှင့်သူ ကောက်ယူ ထားသည်ဖြစ်၍ ဘုရားရှင်ကလည်း မကန့်ကွက်သာ။ ကျွန်ုပ်မှာလည်း မည်သို့မျှ မဆိုသာ။ တိုင်းရေးပြည်ရေး ပေါက်နှင့် ကျေး ဟူသော ဆိုရိုးစကားအတိုင်း ဝေခွဲရ ခက်သော တိုင်းရေးပြည်ရေးများကို သံဝေဂပွားနေမိပါသည်။

(သုတ်မဟာဝဂ်၊ မဟာပရိနိဗ္ဗာနသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)

✳✳

# ပါငှလိနယ်ခြားမြို့

ဝဇ္ဇီတို့၏ ဂုဏ်အင်္ဂါ ခုနစ်ပါးသည် နိုင်ငံအုပ်ချုပ် မင်းလုပ်လိုသူ အားလုံးအတွက် လမ်းညွှန်ချက်များဖြစ်၏။ နိုင်ငံကြီးတစ်ခုလုံးကို အုပ်ချုပ်ရသော မင်းဧကရာဇ်များမှစ၍ ရပ်ကွက် ကျေးရွာ အုပ်ချုပ်ရသူများအထိ ဤဂုဏ်အင်္ဂါများ ပြည့်စုံစွာ အရေးကြီး၏။ ထို့ကြောင့် ထိုဂုဏ်အင်္ဂါ ခုနစ်ပါးကို မင်းတို့၏ ကြီးပွားကြောင်း တရားဟုလည်း ခေါ်နိုင်ပေသည်။

မင်းကြီးတို့၏ ကြီးပွားကြောင်းတရား ဟောကြားရာမှ စကားဆက်စပ်၍ ရဟန်းတို့၏ ကြီးပွားကြောင်းတရားတို့ကိုလည်း ဘုရားရှင် ဟောကြားတော်မူ၏။ အနည်းနည်း အဖုံဖုံ ဝေဖန်၍ ဟောကြားတော်မူ၏။ ကြိမ်ဖန်များစွာ ထပ်ကာထပ်ကာ ဟောကြားတော်မူ၏။ ထိုအရာများကို သေသေချာချာ စိစစ်ကြည့်လျှင် သီလ၊ သမာဓိ၊ ပညာတို့ကို တွေ့ရမည်ဖြစ်၏။ သာသနာ့အခြေခံ တရားကြီးများဖြစ်၍ လည်း ဘုရားရှင်က ဤမျှလောက် အလေးထား၍ ဟောကြားနေရခြင်း ဖြစ်ပေ သည်။ အရေးကြီးသော တရားများမို့ ထပ်မနား ဟောကြားနေရခြင်း ဖြစ်ပေသည်။

ဤသို့ သဘောပေါက်ခြင်းမှာ နောက်ပိုင်းကျမှဖြစ်၏။ ထိုစဉ်တုန်းကတော့ ဟောကြားပုံ ထူးခြားလှပါတကား ဟု အကဲခတ်မိရုံမျှသာ ဖြစ်၏။ အဘယ့်ကြောင့် ဤသို့ ဟောကြားရသည်ဟု ခြေခြေမြစ်မြစ် မသိခဲ့ပါ။ ဘုရားရှင်ကိုလည်း မလျှောက် ထားခဲ့မိပါ။ တရားဘဏ္ဍာထိန်းပီပီ ဟောကြားခဲ့သော တရားများကို မမေ့ မပျောက်အောင် ထိန်းသိမ်းရုံနှင့်သာ ကျေနပ်နေခဲ့မိပါသည်။

ရာဇဂြိုဟ်မြို့တစ်ဝိုက်မှ ရဟန်းအပေါင်းအား ဤတရားသုံးပါးကို ထပ်ကာ ထပ်ကာ ဟောကြားတော်မူပြီးနောက် ဘုရားရှင်က–

"အာနန္ဒာ၊ သွားကြစို့။ အမ္ဗလဋ္ဌိကာဥယျာဉ်သို့ ချဉ်းကပ်ကြစို့"

"ကောင်းပါပြီ အရှင်ဘုရား"

ပေးလာသော အမိန့်တော်ကို နာခံရင်း ဘုရားရှင်နှင့် ကျွန်ုပ်တို့၏ သင်္ကန်း၊ သပိတ်၊ ပရိက္ခရာများကို အသင့်ပြင်ဆင်ထားလိုက်ရ၏။ ရှိရှိသမျှ ရဟန်းအပေါင်းအားလည်း မိမိတို့ ပရိက္ခရာများဖြင့် အသင့်ဖြစ်နေကြရန် ကျွန်ုပ်က တစ်ဆင့်နှိုးဆော်လိုက်ရပေသည်။

အမ္ဗလဋ္ဌိကာဥယျာဉ်ရှိ မင်းကွန်းစံကျောင်း ရောက်သောအခါမှာလည်း ဘုရားရှင်က သီလ၊ သမာဓိ၊ ပညာ တရားသုံးပါးကိုသာ အဓိကထား၍ ဟောကြားတော်မူပေသည်။

အမ္ဗလဋ္ဌိကာဥယျာဉ်မှတစ်ဆင့် ကျွန်ုပ်တို့သည် နာဠန္ဒာမြို့သို့ဆိုက်ရောက်ခဲ့ကြ၏။ ဥပါလိသူကြွယ် စသော တပည့် ဒါယကာများ၏ ပြုစုလုပ်ကျွေးမှုကိုခံယူကာ ပါဝါရိက သူဌေး၏ သရက်ဥယျာဉ်ကျောင်းမှာ ရက်အတန်ကြာ နေခဲ့ကြ၏။ ထိုမှတစ်ဆင့် ပါဋလိရွာသို့ ခရီးဆက်ခဲ့ကြပေသည်။

ပါဋလိရွာသည် ဂင်္ဂါမြစ်၏ တောင်ဘက်ကမ်းပါးမှာ တည်ရှိ၏။ အဇာတသတ်မင်း ပိုင်စိုးသော မဂဓတိုင်းကြီး၏ မြောက်ဘက်အစွန်ဆုံး နယ်နိမိတ်ဖြစ်၏။ သို့သော် ဤရွာတွင် အဇာတသတ်မင်း၏ အာဏာတစ်ခုတည်း သက်ရောက်ရာ မဟုတ်ပါ။ ဝဇ္ဇီမင်းတို့၏ အာဏာကလည်း ဤရွာထိ သက်ရောက်လျက်သာ ရှိ၏။ အဇာတသတ်မင်း၏ အမှုထမ်းများကဲ့သို့ ဝဇ္ဇီသစ္စာခံ အမှုထမ်းများသည်လည်း ဤရွာသို့ ရောက်ကြသည်သာ။ သူတို့ရောက်လာလျှင် အိမ်ကောင်းကောင်း ရှိသူများ ဒုက္ခရောက်ကြရတော့၏။ ရောက်လာသော အမှုထမ်းများသည် အိမ်ရှင်များကို အတင်းနှင်ထုတ်ကြ၏။ အိမ်ရှင်များ ကသိလင်တဖြစ်နေချိန်တွင် သူတို့ကတော့ အိမ်ကြီးအိမ်ကောင်းများတွင် အခန့်သား နေထိုင်ကြ၏။ တစ်ခါတစ်ခါ ရောက်လာလျှင် ဆယ့်ငါးရက်မှ တစ်လအထိ ကြာတတ်၏။ ထို့ပြင် တစ်ခေါက်နှင့် တစ်ခေါက် ကလည်း ကွာခြားလှသည် မဟုတ်ပေ။

အမြဲလိုလို နှောင့်ယှက်ခံနေရသော ရွာသူရွာသားများသည် နောက်ပိုင်းတွင် အကြံတစ်ခု ရလာကြ၏။ ကိုယ့်အိုးကိုယ့်အိမ်နှင့် စိတ်ချလက်ချ နေနိုင်ရေးအတွက် ရွာလယ်ခေါင်မှာ တည်းခိုစခန်းကြီးတစ်ခု ဆောက်လုပ်ကြရ၏။ ပစ္စည်းထားရန် လုံခြုံသောအခန်းများနှင့် လူနေစရာ ကျယ်ကျယ်ပြန့်ပြန့် စီမံထားကြရ၏။ ကျွန်ုပ်တို့ ရောက်သွားချိန်တွင် ထိုတည်းခိုစခန်းကြီး ဆောက်လုပ်ပြီးစ ဖြစ်ရာ ပါဋလိရွာ ဒါယကာ ဒါယိကာမများက ဘုရားရှင်အား ထိုတည်းခိုစခန်းကြီးသို့ ပင့်ဆောင်ကြ၏၊ ကျွန်ုပ်တို့ရောက်သွားသည်မှာ နေဝင်ဖျိုးဖျဖြစ်၍ တည်းခိုစခန်းကြီးတစ်ခုလုံး ဆီမီးထိန်ထိန် ထွန်းထားကြ၏။ ဖျာသင်ဖြူးနှင့် ကော်ဇောများအပြည့် ခင်းထားကြ၏။ သောက်ရေ သုံးရေအိုးများကိုလည်း အစီအရီ တည်ထားကြ၏။

ဆောက်လုပ်ပြီးစီးစ တည်းခိုစခန်းကြီးတွင် ဘုရားရှင်နှင့် ကျွန်ုပ်တို့ တည်းခိုနေထိုင်ခြင်း၊ တရားဓမ္မ ဟောကြားခြင်းဖြင့် မင်္ဂလာကျက်သရေ တိုးတက်စေရန် ရည်သန်ထားကြ၍ပင် ဖြစ်ပါလိမ့်မည်။

ဘုရားရှင်သည် ခြေတော်ကို ခါလျက် ပထမဦးစွာ တက်ရောက်တော်မူ၏။ အလယ်ဗဟိုတိုင်ကိုမှီကာ အရှေ့ကို မျက်နှာမူလျက် ထိုင်နေတော်မူ၏။ ကျွန်ုပ်တို့အားလုံးကလည်း အနောက်ဘက် အုတ်နံရံကို ကျောပေးကာ အစီအရီ ထိုင်နေကြ၏။ ပါဋလိရွာ ဒါယကာ ဒါယိကာမများကလည်း အရှေ့ဘက် အုတ်နံရံကို ကျောပေးကာ ဘုရားရှင်ထံ လက်အုပ်ချီလျက် ထိုင်နေကြ၏။

"ဒါယကာတို့"

တိတ်ဆိတ်ငြိမ်သက်စွာ နားစွင့်နေကြသော ပရိသတ်ကြီးကို ဘုရားရှင်က ဤသို့ နှုတ်ခွန်းတော် စလိုက်ပြီးလျှင်–

"သီလမရှိသူ၊ သီလကျိုးပေါက်သူသည် မေ့မေ့လျော့လျော့ ပေါ့ပေါ့တန်တန် နေထိုင်တတ်၊ လုပ်ကိုင်တတ်သဖြင့် စီးပွားဥစ္စာ အမြောက်အမြား ဆုံးရှုံးပျက်စီးတတ်၏။

"သီလမရှိသူ၊ သီလကျိုးပေါက်သူ၏ မကောင်းသတင်းသည်အကျော်တစော ထွက်ပေါ်လာတတ်၏"

"သီလမရှိသူ၊ သီလကျိုးပေါက်သူသည် ပရိသတ် ဗိုလ်ပုံ အလယ်သို့ ဝင်ရောက်သောအခါ ကိုယ့်စိတ်ကိုယ်မလုံသဖြင့် မျက်နှာမထားတတ်အောင် ဖြစ်ရ၏။

"သီလ မရှိသူ၊ သီလကျိုးပေါက်သူသည် တွေဝေမိန်းမောလျက် သေဆုံးရ၏။

"သီလမရှိသူ၊ သီလကျိုးပေါက်သူသည် သေလွန်ပြီးနောက် အပါယ်ငရဲသို့ ကျရောက်တတ်၏။ ဒါယကာတို့၊ ဤသို့အားဖြင့် သီလမရှိသူ၊ သီလကျိုးပေါက်သူအတွက် အပြစ်ငါးမျိုး ရှိနေပေသည်"

သီလကျိုးပေါက်မှုအတွက် အပြစ်ငါးမျိုးကို ဟောကြားတော်မူပြီးနောက် သီလစင်ကြယ်သူများအတွက် အကျိုးတရား ငါးမျိုးကိုဆက်လက်၍ ဟောကြားတော်မူ၏။ အပြစ်ငါးမျိုး၏ ဆန့်ကျင်ဘက် ယူသောအားဖြင့် အကျိုးငါးမျိုး ဖြစ်လာပေသည်။

သီလကထာ ဤဒေသနာတော်ကို ပါဋလိရွာသား ဒါယကာ ဒါယိကာမများအား ဘုရားရှင် ဟောကြားတော်မူခဲ့၏။ သို့သော် ဒါယကာ ဒါယိကာမများအတွက်ချည့် သီးသန့်ထား၍ ဟောကြားခဲ့ခြင်း မဟုတ်ပါ။ သာသနာ့ဝန်ထမ်း ရှင်ရဟန်းများနှင့်လည်း ဆိုင်ပေသည်။ ရဟန်းများနှင့် ဆီလျော်အောင် အတန်အသင့် ပြုပြင်ရန်ကား လိုပေသည်။

ဥပမာအားဖြင့် လူအများသည် ကုန်သွယ်၊ လယ်လုပ် စသည်ဖြင့် စီးပွား ရှာကြရာတွင် မေ့မေ့လျော့လျော့ ပြုသဖြင့် စီးပွားဥစ္စာ ပျက်စီးရ၏။ ရဟန်းတို့မှာကား စီးပွားဥစ္စာ မရှိသဖြင့် သဒ္ဓါ၊ သီလ၊ သုတ၊ စာဂ၊ ပညာ၊ ဟိရီ၊ ဩတ္တပ္ပဟူသော သူတော်ကောင်းဥစ္စာများ ပျက်စီးကြရပေသည်။ အကျိုးတရားဘက်ကျတော့လည်း ဤအချက်ကို ပြောင်းပြန်ထား၍ ကြည့်ကြရန် ဖြစ်ပါသည်။ ကျန်သော အပြစ်နှင့် အကျိုးတို့ကိုလည်း ဤသို့ပင် ဆီလျော်အောင် အဓိပ္ပာယ်ကောက်ယူကြရမည် ဖြစ်ပေသည်။

သီလကထာ ဒေသနာတော်များ ဟောကြားပြီးနောက် ဘုရားရှင်သည် ဆိတ်ငြိမ်သောနေရာသို့ ကြွတော်မူ၏။ ဆိတ်ငြိမ်သောနေရာဆိုသော်လည်း ဇေတဝန် ကျောင်းတိုက်ထဲက ဂန္ဓကုဋိ တိုက်ခန်းကဲ့သို့ သီးသီးသန့်သန့်ကား မရှိပါ။ အထွတ် အမြတ်ထားသော နေရာတွင် တင်းတိမ်များ ကာရံ၍ ဘုရားရှင်အတွက် သီးသန့် ထားသော နေရာမျှသာ ဖြစ်ပေသည်။

တည်းခိုစခန်းကြီးမှာ တစ်ညတာ ကျိန်းစက်ကြပြီးလျှင် ကျွန်ုပ်တို့သည် ပါဋလိ မြို့သစ်ပိုင်းသို့ ရောက်ကြရပြန်၏။ ပါဋလိရွာ၏ အနီးတွင် တည်ထောင်သည် ဖြစ်၍ ထိုမြို့သစ်ကိုလည်း ပါဋလိဟုပင် ခေါ်တွင်ပေသည်။ ပါဋလိမြို့သစ်ကား ဝဇ္ဇီတို့ ကျူးကျော်မလာစေရန် ခုခံရမည့် နယ်ခြားမြို့ပါတည်း။ ဝဇ္ဇီတို့ကို မျိုးဖြုတ် ပစ်လိုက်မည်ဟု ကြုံးဝါးခဲ့သော အဇာတသတ်မင်းသည် ယခုတော့ ဝဇ္ဇီတို့ရန်ကို ပထမဦးစွာ ခုခံနေရချေပြီကော။

အဇာတသတ်မင်း၏ အမိန့်ဖြင့် မြို့သစ် တည်နေရသူများကား ဝဿကာရနှင့် သုနိဓအမတ်ကြီးတို့ ဖြစ်၏။ ဝဿကာရ ဗြာဟ္မဏအမတ်ကြီး အကြောင်းကို စောစောက တင်ပြခဲ့ပြီ။ သုနိဓအမတ်ကြီးမှာလည်း သူ့လို ဗြာဟ္မဏမျိုးနွယ် ဖြစ်၏။ မျက်မြင်ထင်ရှားရှိနေသော ရတနာမြတ်သုံးပါးကို ကျော်လွန်ကာ အထက် ကောင်းကင်က ဗြဟ္မာကြီးများကို မှန်းကာရမ်းကာ ပူဇော်နေသူဖြစ်၏။

အမတ်ကြီး နှစ်ယောက်လုံးသည် သူတို့သဘောသက်သက်ဖြင့်ကား ပင့်ချင်မှ ပင့်ပါလိမ့်မည်။ သာသနာတော်ကို ကြည်ညို လေးစားသော အဇာတသတ်မင်းက မေးလျှင် မျက်နှာပန်းလှလှ ဖြေကြားနိုင်ရန် ပင့်ဆောင်ခြင်းသာ ဖြစ်ပါလိမ့်မည်။ ပင့်သူက မည်သို့ပင် သဘောထားပါစေ။သတ္တဝါ ဝေနေယျတွေ အကျိုးစီးပွား ဖြစ်ထွန်းမည်ဆိုလျှင် ဘုရားရှင်ကလည်း ငြင်းပယ်ရိုး မရှိပါ။ ပင့်ဆောင်ရာသို့ လိုက်ပါတော်မူသည်သာ ဖြစ်၏။

သုနိဓ၊ ဝဿကာရ အမှူးရှိသော ဆွမ်းဒါယကာ၊ ဆွမ်းအမများ၏ ဆွမ်း ဘောဇဉ်ကို ဘုဉ်းပေးတော်မူပြီးလျှင် ဘုရားရှင်က ဆွမ်းအနုမောဒနာတရား

ချီးမြှင့်တော်မူ၏။ ထို့နောက် ပါဠေယျ်လိမ္မိုသစ်ထဲမှ ဖြတ်၍ကြွတော်မူ၏။ ဘုရားရှင်နောက်တော်ပါးမှ အမတ်ကြီးနှစ်ယောက်ကလည်း ထက်ကြပ်မကွာ ပါလာကြ၏။ ဘုရားရှင်နှင့် ကျွန်ုပ်တို့ကို ကြည်ညိုရ၍ကားမဟုတ်ပါ။ တံခါးအမည်၊ ရေဆိပ်အမည် တပ်လို၍သာ ဖြစ်၏။ ဤသို့ဖြင့် ဘုရားရှင် ထွက်တော်မူခဲ့သော တံခါးသည် ဂေါတမတံခါး ဖြစ်သွား၏။ ဘုရားရှင် ဆင်းသက်တော်မူခဲ့သော ရေဆိပ်သည်လည်း ဂေါတမရေဆိပ်ဟု အမည်တွင်လာရပေသည်။

(သုတ်မဟာဝဂ်၊ မဟာပရိနိဗ္ဗာနသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)

*:*

# ဘုရားပေးသည့် တရားကြေးမုံ

ဂေါတမဆိပ်ကမ်းမှ ဂင်္ဂါမြစ်ကို ဖြတ်ကျော်လာခဲ့ပြီးနောက် ကျွန်ုပ်တို့သည် ကောဋိရွာသို့ ရောက်လာကြ၏။ ကောဋိဟူသည်မှာ အစွန်အဖျားဟု အဓိပ္ပာယ်ရ၏။ ရှေးဟောင်းသူတို့၏ စကားအရ ဘုန်းတန်ခိုးကြီးမားလှသော မဟာပနာဒမင်းသည် ကြီးကျယ်စွာသော နန်းပြာသာဒ်ကြီးနှင့် နေခဲ့သည်ဟူ၏။ ထိုနန်းပြာသာဒ်ကြီး ပြိုလဲသောအခါ ပြာသာဒ်၏ အစွန်အဖျားသည် ဤရွာနေရာသို့ ကျရောက်သဖြင့် ကောဋိရွာဟုအမည်တွင်ခဲ့ခြင်းဖြစ်ပေသည်။

ကောဋိရွာတွင်လည်း ဘုရားရှင်က သီလ၊ သမာဓိ၊ ပညာဆိုင်ရာ တရားများနှင့်တကွ သစ္စာလေးပါး တရားတော်ကို ဟောကြားတော်မူ၏။ သစ္စာလေးပါး တရားတော်၏ သဘောအဓိပ္ပာယ် အကျယ်ဝေဖန်ချက်များကို ရှေ့ပိုင်းမှာတုန်းက ကျွန်ုပ်၏ ပရိသတ်များ ကြားနာခဲ့ကြရပါပြီ။ ဓမ္မစကြာသုတ်ကို ဖွင့်ဆိုစဉ်တုန်းက ဖြစ်ပါသည်။

ကောဋိရွာမှ တစ်ထောက်နားပြီးနောက် ကျွန်ုပ်တို့သည် နာတိကာရွာသို့ ဆိုက်ရောက်ကြရပြန်၏။ နာတိကာဟူသော အမည်မှာ ညာတိကာ ဟူသောစကားမှ ရွေ့လျောလာသည်ဖြစ်၍ ဆွေမျိုးသားချင်းများ၏ရွာဟု အဓိပ္ပာယ်ရ၏။ တစ်ဖက် ဆည်ကန်ကြီး တစ်ခုကို အမှီပြုကာ တစ်ဝမ်းကွဲ ညီအစ်ကိုနှစ်စုသည် တစ်ရွာစီ တည်ခဲ့ရာမှ တစ်စတစ်စ ကြီးထွားလာသော ရွာများဖြစ်၏။ နှစ်ရွာလုံးပေါင်း၍ နာတိကာဟု ခေါ်ကြရ၏။

နာတိကာရွာတွင် အချိန်ကြာကြာ နေကြမည် မဟုတ်၍ ကျွန်ုပ်တို့သည် ထိုရွာနှစ်ရွာကြားရှိ တည်းခိုစခန်းမှာပင် နေကြ၏။ တည်းခိုစခန်းမှာ အုတ်နံရံကာထားသဖြင့် ကျွန်ုပ်တို့အတွက် မိုးဒဏ်လေဒဏ်မှ အကာအကွယ် ရပေသည်။

နာတိကာ ရွာသူရွာသားချင်း ဆွေရိပ်မျိုးရိပ် မကင်းကြသကဲ့သို့ ကျွန်ုပ်တို့ သိတင်းသုံးဖော်များသည် ဤရွာမှာ ပျော်ပျော်ကြီးနေခဲ့ကြ၏။ ဒါယကာ၊ ဒါယိကာမ

များဘက်ကလည်း သဒ္ဓါလက်ကိုင် ခိုင်မြဲကြ၏။ ကိုယ်ကျင့်သီလ စင်ကြယ်ကြ၏။ ဘာဝနာတရား ပွားများကြ၏။ သစ္စာဉာဏ်ရောင် ထွန်းပြောင်ကြ၏။ သည် တစ်ခေါက် ရောက်လာသည့်အခိုက်တွင် သူတို့ မရှိကြောင်းကို ကြားလိုက်ရသည်နှင့် ကျွန်ုပ် ရင်ထဲမှာ ဟာ၍ သွားတော့၏။ သူတို့အထဲမှ တော်တော်များများသည် ကျွန်ုပ်နှင့် တရင်းတနှီး နေလာခဲ့ကြ၏။

သိတင်းသုံးဖော်များထဲမှ အရှင်သာဠှနှင့် အရှင်မနန္ဒာတို့ ကွယ်လွန်ခဲ့သည်မှာ တော်တော်ကြာသွားပြီ ဟူပါ၏။ ထို့နောက် ဇေတဝန်ကျောင်း ဒါယကာကြီး ငယ်နာမည်နှင့် တူညီသော ဒါယကာကြီး သုဒတ္တလည်း ကွယ်လွန်သွားခဲ့ပေပြီ။ ဆွမ်းကောင်း ဟင်းကောင်းချက်၍ လောင်းတတ်သော သုဇာတာ ဒါယိကာမကြီး လည်း ကွယ်လွန်ခဲ့ပြီ။ ကုက္ကုဋ၊ ကာဠိမ္ဗ၊ နိကဋ၊ ကဋိဿဟ၊ တုဋ္ဌ၊ သန္တုဋ္ဌ၊ ဘဒ္ဒနှင့် သုဘဒ္ဒတို့လည်း ရှေ့ဆင့်နောက်ဆင့် ကွယ်လွန်ခဲ့ကြချေပြီ။

သူတို့တစ်တွေသည် ကျွန်ုပ်အပေါ် မေတ္တာရှေ့ထားခဲ့ကြသူများ ဖြစ်ကြ၏။ ထို့အတူပင် ကျွန်ုပ်၏ မေတ္တာကလည်း သူတို့အပေါ် ဖြန့်ကြက်လျက်သာ ရှိ၏။ သို့ရာတွင် ကျွန်ုပ်မှာ နောင်တော်မြတ်နှင့်ထပ်တူ ရာနှုန်းပြည့် ဖြူစင်သော မေတ္တာ ဘာဝနာ ပွားနိုင်ခြင်းမရှိပါ။ ဖြူစင်သောမေတ္တာ နောက်ဝယ် သံယောဇဉ် အမျှင် ကလေးက ကပ်၍ ပါသွားခဲ့၏။ ဤသံယောဇဉ်မှာ ကာမဂုဏ်နယ်မှ လူသားများ ကဲ့သို့ ရုန့်ရင်း ကြမ်းတမ်းသည် မဟုတ်ပါ။ သိမ်သိမ်မွေ့မွေ့လေးသား ဖြစ်ပါ၏။ ဤသို့ သိမ်မွေ့နေ၍လည်း အပယ်ရ အနုတ်ရ ခက်နေဟန် ရှိပါသည်။

အမှန်ဆိုရသော် ထိုစဉ်တုန်းက ကျွန်ုပ်သည် ဤသို့သော သံယောဇဉ်ကို ပယ်နုတ်လိုစိတ် မရှိပါ။ ဤသို့သော သံယောဇဉ်ကြောင့်ဘဝတစ်သက်တာတွင် မျက်ရည်ကြီးငယ် ကျခဲ့ရပေါင်း များလှပါပြီ။ ရှိုက်ကြီးတငင် ငိုပွဲ ဆင်ခဲ့ရပေါင်း များလှပါပြီ။ သို့သော် ကျွန်ုပ်မှာ ဤဒုက္ခများကို ငြီးငွေ့ခြင်း မရှိသေးပါ။ ငြီးငွေ့စရာဟူ၍ အသိအမြင် မပေါ်လာသေးပါ။ သံယောဇဉ် ဟူသမျှ အနုအရင့် မချန်၊ အားလုံးကုန် ပယ်စွန့်ရေးအတွက် ဟောကြားထားသော ဒေသနာတော်များကို ကျွန်ုပ် ကြိမ်ဖန်များစွာ ကြားနာခဲ့ရ၏။ အကြောင်းသင့်သောအခါတိုင်း ကျွန်ုပ် ကလည်း ဤဒေသနာတော်များကို တစ်ဆင့် ဟောပြခဲ့ရ၏။ ကျွန်ုပ်ထံမှ ကြားနာ ရ၍ သံယောဇဉ်ဟူသမျှ တစ်စမကျန် ပြတ်တောက်သွားသူတွေ များလှပါပြီ။ ကျွန်ုပ်မှာတော့ ရောက်လေရာရာတွင် သံယောဇဉ် အမျှင်လေးတွေက တိုးလိုး တန်းလန်း ရှိနေဆဲဖြစ်၏။

သံယောဇဉ်ကြောင့် စိတ်နှလုံး နာကျင်နေရသော ကျွန်ုပ်သည် ဤဝေဒနာ တို့မှ သက်သာခွင့် ရနိုင်ရန် ဘုရားရှင့်ထံ ဝင်ရောက်ခဲ့၏။ နာတိကာရွာမှာ ကွယ်လွန်

ခဲ့သူများ၏ အမည်များကို ထုတ်ဖော်လျှောက်ထားကာ ထိုသူတို့ လားရောက်ရာဘဝကို မေးလျှောက်ရ၏။ ဤတွင် ဘုရားရှင်က ကွယ်လွန်သူ အားလုံးတွင် ရဟန္တာဖြစ်၍ ပရိနိဗ္ဗာန်ပြုသွားသော အရှင်သာဠှနှင့်တကွ အရိယာဉာဏ် အဆင့်ဆင့်ရ၍ အဆင့်အားလျော်စွာ ပရိနိဗ္ဗာန် ပြုကြမည့်အကြောင်းကို တစ်ဦးချင်း မိန့်ကြားတော်မူပါ၏။

အကျွမ်းတဝင် ချစ်ခင်သူများ၏ကြောင်းခြင်းရာကို ကြားနာရသဖြင့် ကျွန်ုပ်စိတ်သက်သာရာ ရလာပါ၏။ ကွယ်လွန်သူများအတွက် ဝမ်းနည်းပက်လက်ဖြစ်ရာမှ သူတို့ရရှိထားသော လောကုတ္တရာတရားအတွက် ဝမ်းမြောက်မိပါ၏။ ထို့ထက်ပို၍ ဝမ်းမြောက်ရသည်ကား ဘုရားပေးသည့် တရားကြေးမုံကို ရှုမြင်ခွင့်ရသောကြောင့် ဖြစ်ပါသည်။

"အာနန္ဒာ၊ လူတစ်ဦးတစ်ယောက် ကွယ်လွန်သောအခါ ငါဘုရားထံ ချဉ်းကပ်၍ ထိုသူ လားရောက်ရာဘဝကို မေးတတ်ကြသည်မှာ အဆန်း မဟုတ်ပေ။ အံ့ဩစရာမဟုတ်ပေ။ သို့ရာတွင် ဤသို့ မေးလာသမျှကိုဖြေကြား နေရသဖြင့် ငါဘုရား၏ ကိုယ်ခန္ဓာပင်ပန်း၏။ ထို့ကြောင့် သင်တို့အားလုံးအတွက် တရားကြေးမုံကို ငါဘုရား ပေးထားလိုက်မည်။ တရားကြေးမုံမှာ ထပ်ဟင်လာသည့်အတိုင်း မိမိဘာသာ ကြည့်ရှု၍ မိမိအခြေအနေကို မိမိ ဘာသာဆုံးဖြတ်ကြရန် ဖြစ်ပေသည်။ မိမိကိုယ်ကို အပါယ်တံခါးပိတ်ပြီ၊ သောတာပန်ပြီဟု ပြောလိုက ပြောနိုင်ကြရန် ဖြစ်ပေသည်။

"အာနန္ဒာ၊ ထိုတရားကြေးမုံသည်ကား ဤသို့ ဖြစ်၏။ ဤသာသနာတော်အတွင်းရှိ အရိယာ၏ တပည့်သည် ဘုရားဂုဏ်တော်များ၌ မတုန်မလှုပ် သက်ဝင်ယုံကြည်၏။ တရားဂုဏ်တော်များ၌ မတုန်မလှုပ် သက်ဝင်ယုံကြည်၏။ သံဃာဂုဏ်တော်များ၌ မတုန်မလှုပ် သက်ဝင်ယုံကြည်၏။ အရိယာတို့ နှစ်သက်မြတ်နိုးသော ငါးပါးသီလကို မကျိုးပေါက်ရအောင် ထိန်းသိမ်းစောင့်ရှောက်၏။ ဤသည်လျှင် ငါဘုရားပေးသော တရားကြေးမုံပါပေတည်း"

ဤဒေသနာတော်ဝယ် သောတာပန်ကို အစဦးထား၍ ဟောကြားထား၏။ အထက်တန်း အရိယာပုဂ္ဂိုလ်များလည်း အလိုရှိလျှင် မိမိအဆင့် အတန်းကို ပြောပြနိုင်သည်သာ ဖြစ်၏။ ရဟန်း၊ ရဟန်းမများ အတွက်လည်း သိက္ခာပုဒ်နှင့် မဆန့်ကျင်သော အရာဌာနများတွင် ပြောကြားခွင့်ရှိပေသည်။

ဘုရားရှင့်ဂုဏ်တော်များ၌ မတုန်မလှုပ် သက်ဝင်ယုံကြည်ခြင်းဟူရာ၌ ဘုရားရှင့် ဂုဏ်တော်အားလုံးကို တစ်ခုမကျန် လိုက်လံ ကြည်ညိုနိုင်မှ မဟုတ်ပါ။ ဘုရားရှင်၏ ဂုဏ်တော်များကို ဘုရားရှင်ကဲ့သို့သော ပုဂ္ဂိုလ်ထူးများကသာ အပြည့်အစုံ ကြည်ညိုနိုင်ပါလိမ့်မည်။ ထို့ကြောင့် သာဝကများအဖို့ မိမိ စိတ်ဓာတ်နှင့်

ဟာပ်မိရာ၊ မိမိဉာဏ်နှင့် လက်လှမ်းမီရာ ဂုဏ်တော်များကို ယုံကြည်စွာ ပွားများကြရပါလိမ့်မည်။

ဘုရားရှင်၏ ဂုဏ်တော်အနန္တတွင် အရိယာသာဝကတိုင်းနှင့် လက်လှမ်းမီနိုင်သော ဂုဏ်တော်တစ်ခုကား ဗုဒ္ဓဂုဏ်တော် ဖြစ်၏။ ဗုဒ္ဓဟူသည်မှာ သစ္စာလေးတန် တရားမှန်ကို သိမြင်ခြင်းဖြစ်၏။ ဒုက္ခ၊ သမုဒယ၊ နိရောဓနှင့် မဂ္ဂဟူ၍ သစ္စာလေးပါး ရှိရာတွင် မဂ်ဉာဏ်ဖြင့် မျက်မှောက်ပြုရသော သစ္စာကား နိရောဓသစ္စာ ဖြစ်၏။ နိရောဓသစ္စာကို မျက်မှောက်ပြုသောအားဖြင့် ကျန်သော သစ္စာတို့ကိုလည်း ပြုအပ်သော ကိစ္စအဖြစ်ဖြင့် တစ်ပါ တည်း သိပြီးသား ဖြစ်သွား၏။ ဤသို့ နိရောဓသစ္စာကို မျက်မှောက်ပြုပြီးသော အရိယာသာဝကသည် ဘုရားရှင်ကို မမီလိုက်သော်လည်း မိမိဉာဏ်အားဖြင့် ဖူးမြင်၍ ရနိုင်ပေသည်။ မိမိ မျက်မှောက်ပြုလိုက်ရသော အငြိမ်းဓာတ်၊ အအေးဓာတ် နိဗ္ဗာန်တရားကြီးသည် လွန်ခဲ့သော တစ်ချိန်က သမ္မာသမ္ဗုဒ္ဓ ဘုရားရှင် ကိုယ်တော်တိုင် မျက်မှောက်ပြုခဲ့သော တရားကြီးပါတကား။ ဤတရားကြီးကြောင့် မိမိ၏ နှလုံးစိတ်ဝမ်း ငြိမ်းချမ်းရသကဲ့သို့ပင် ဘုရားရှင် ကိုယ်တော်မြတ်ကြီး၏ စိတ်အစဉ်မှာလည်း သည်ထက်ပို၍ ငြိမ်းချမ်းခဲ့လိမ့်မည် တကား။ ဤသို့ သဘောပေါက် ဉာဏ်ရောက်ကာ ဗုဒ္ဓဂုဏ်တော်ကို ကြည်ညိုရာမှတစ်ဆင့် ကိုယ်တိုင်ကိုယ်ကြပ် သိမြင်ရသော သန္ဒိဋ္ဌိက ဓမ္မ ဂုဏ်တော်များကိုလည်း ဆက်လက်၍ ကြည်ညိုနိုင်ပေသည်။ အခြားအခြားသော ဓမ္မဂုဏ်တော်များကို လည်းကောင်း၊ သံဃာ့ဂုဏ်တော်များကိုလည်းကောင်း လက်လှမ်းမီသမျှ ကြည်ညို၍ ရနိုင်ကြပါလိမ့်မည်။

(သုတ်မဟာဝဂ်၊ မဟာပရိနိဗ္ဗာနသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)

အရိယာတို့ ချစ်မြတ်နိုးသော ငါးပါးသီလစောင့်ထိန်းရာတွင် မဂ္ဂင် သီလ ဖြစ်နိုင်ကြရန် ဗြဟ္မဏ သစ္စသုတ်က ဤသို့ လမ်းညွှန်ထားပေသည်။

"အို ပရိဗိုဇ်တို့၊ ဤသာသနာတော်၌ သူတော်သူမြတ် တစ်ဦးသည် သတ္တဝါဟူသမျှကို မသတ်ထိုက်ဟု ဆို၏။ ဤသို့ ဆိုခြင်းသည် မှန်ကန်သည်သာ ဖြစ်၏။ မှားယွင်း ချွတ်ချော်ခြင်း မရှိပါပေ။ ထိုသို့ ဆိုခဲ့သည့်အတိုင်း သတ္တဝါများကို သတ်ဖြတ်ခြင်းမှ ရှောင်ကြဉ်ခြင်းဖြင့် ငါ ရဟန်းဟူ၍ လည်းကောင်း၊ ငါသူတော်သူမြတ်ဟူ၍လည်းကောင်း မာန်မူခြင်းမရှိပေ။ သူများသီလထက် ငါ့သီလက သာသည် ဟူ၍လည်းကောင်း၊ သူများ သီလအောက် ငါ့သီလက ယုတ်ညံ့သည် ဟူ၍လည်းကောင်း မာန်မူခြင်း မရှိပေ။ မှန်ကန်သော နိရောဓသစ္စာကို ကိုယ်ပိုင် ကိုယ်တိုင် သိသောအားဖြင့် သတ္တဝါတို့အား သနားသဖြင့် သတ်ဖြတ်ခြင်းမှ ရှောင်ကြဉ်သော အကျင့်ကိုသာ ကျင့်ပေသည်"

ဤဒေသနာတော်သည် ရဟန္တာပုဂ္ဂိုလ်များ၏ ကျင့်သုံးမှုကို ဟောကြားထား၏။ သို့ရာတွင် ထိုက်သင့်သည့်အားလျော်စွာ ယူလျှင် သောတာပန် ပုဂ္ဂိုလ်များလည်း ရနိုင်သည်သာ။ ရဟန္တာပုဂ္ဂိုလ်များသည် တဏှာ၊ မာန ဒိဋ္ဌိဟူသော မာန်မူခြင်း တရားသုံးပါးမှ လွတ်မြောက်ပြီး ဖြစ်ကြ၏။ သောတာပန် ပုဂ္ဂိုလ်များမှာလည်း ဒိဋ္ဌိဟူသော မာန်မူခြင်းမှ လွတ်မြောက်ပြီးဖြစ်၏။ ထို့ကြောင့် ငါးပါးသီလ စောင့်ထိန်းရာတွင် 'ငါသောတာပန်မို့ ရှောင်ကြဉ်လိုက်သည်' စသည်ဖြင့် ငါစွဲများ မပါနိုင်ပေ။ ငါကို အရှိထား၍ ငါ့အတွက် အကျိုးများရန် ဟူ၍လည်းကောင်း၊ ငါ့အတွက် အပယ်လေးပါးက လွတ်မြောက်ရန် ဟူ၍လည်းကောင်း စွဲလမ်းကပ်ငြိမှု မရှိနိုင်ပေ။ မိမိက သီလ ချိုးဖောက်လိုက်လျှင် ထိခိုက်နစ်နာ ရာကြမည့် ပုဂ္ဂိုလ်သတ္တဝါများကို သနားသဖြင့် ရှောင်ကြဉ်ရုံမျှသာ ရှိနိုင်ပေသည်။

ထို့ပြင် သောတာပန်ပုဂ္ဂိုလ်များ အပါယ်တံခါးပိတ်ခြင်းနှင့်ပတ်သက်၍ သတိထားကြရန် ရှိနေ၏။ တချို့က သောတာပန်ပုဂ္ဂိုလ် ဖြစ်လာလျှင် ဘာကိုပဲ လုပ်လုပ် အပါယ်မကျတော့ဘူးဟု ဆိုတတ်ကြ၏။ အပါယ်ကျမည် ဟု ယူစွဲထားလျှင် ကေန် အပါယ် ကျလိမ့်မည်ဟု အသိဗန္ဓကပုတ္တ ရွာသူကြီးအား ဘုရားရှင် ဟောကြားခဲ့ဖူး၏။ 'ဘာပဲလုပ်လုပ် အပါယ်မကျ' ဟု ဆိုသော သူသည်လည်း ယူစွဲမှုတစ်မျိုးသာလျှင် ဖြစ်၏။ လိုရင်းမှာ ကျလိမ့်မည်ဟု စွဲစွဲ၊ မကျနိုင်ဟု စွဲစွဲ ငါတည်းဟူသော အစွဲပါနေလျှင် ဒိဋ္ဌိ ယှဉ်လာတော့သည်သာ ဖြစ်၏။

ထို့ကြောင့် အစစ်အမှန် သိကြရန်မှာ သောတာပန်ပုဂ္ဂိုလ်များ အပါယ်မကျခြင်းမှာ ငါတည်းဟူသော မိစ္ဆာဒိဋ္ဌိ ကင်းကွာခဲ့ပြီမို့ အပါယ် ရောက်စေကြောင်း မကောင်းသော အမှုများကို မပြုသောကြောင့်သာ အပါယ်တံခါး ပိတ်ခြင်းဖြစ်၏။ ဤသို့ အတ္တမခံသော အရိယဉာဏ်ဖြင့် စောင့်ထိန်းသော သီလသည်ပင် အရိယာတို့ ချစ်မြတ်နိုးသော သီလ ဖြစ်ပေသည်။

**(အင်္ဂုတ္တရ၊ စတုက္ကနိပါတ်၊ ဗြဟ္မဏဝဂ်၊ ဗြာဟ္မဏသစ္စသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)**

**

# အောင်နိုင်သူတို့၏ အောင်နိုင်သူ

နာတိကာရွာတွင် ဒါယကာ ဒါယိကာမများ ကျေနပ်ရုံမျှ နေခဲ့ကြပြီးလျှင် ကျွန်ုပ်တို့သည် ဝေသာလီ မြို့တော်သို့ ခရီးဆက်ခဲ့ကြရပြန်၏။ ဝေသာလီမြို့တော်နားသို့ ညနေစောင်းမှ ရောက်သွားကြသဖြင့် ကျွန်ုပ်တို့ မြို့ထဲထိ ဆက်သွားရန် မလိုတော့ပါ။ ကူဋာဂါကျောင်းတော်ထိအောင်လည်း မသွားဖြစ်တော့ပါ။ စိမ်းလန်းစိုပြည် နေချင်စရာ ကောင်းလှသော ဥယျာဉ် တစ်ခုက လမ်းဘေးမှ ကြိုဆိုလျက်ရှိနေပါပြီ။ ဤဥယျာဉ်နားသို့ကျွန်ုပ်တို့ ကြိမ်ဖန်များစွာ ရောက်ခဲ့ဖူး၏။ ရောက်သည့်အခေါက်တိုင်းမှာလည်း စိမ်းလန်းစိုပြည်လျက် ရှိခဲ့၏။ ရာသီအလိုက် ဖူးပွင့်သော အပင်များသာ ပြောင်း၏။ အသီးအနှံများသာ ကွာခြား၏။ ရေနှင့်မြေနှင့် ပနံတင့်သဖြင့် စိုက်လေသမျှ သစ်ပင်ပန်းမန်များ ဖြစ်ထွန်းကြသည်သာ။ ယခုလို ဝါဆိုလဆန်းပိုင်းနှင့် ကြုံပါလျှင်ကား ရေအလုံအလောက် သောက်ထားရသဖြင့် ပိုမို၍ စိမ်းစိုနေပေသည်။

ဤဥယျာဉ်ကို အမ္ဗပါလီဥယျာဉ်ဟူ၍ ပိုင်ရှင်၏အမည်ဖြင့် ခေါ်ဝေါ်ကြ၏။ အမ္ဗပါလီကား ဝေသာလီမြို့တော်တွင် အချိန်ကြာမြင့်စွာကတည်းက ကျော်ကြားလာခဲ့သော အမျိုးသမီးဖြစ်၏။ ရုပ်ဆင်းအင်္ဂါလှပ၏။ ချောမွေ့၏။ သူ့အသံသည် နားဝင်ချိုလှ၏။ ဤသို့သော အခြေခံတွင် အချိုးအဆစ် ပြေပြစ်စွာ ကပြတတ်သဖြင့် သူ့ပင်ကိုယ်အလှသည် ပိုမို၍တောက်ပလာ၏။ ဂီတသံစဉ်ဖြင့် နားဝင်ချိုအောင် သီဆိုတတ်သဖြင့် ပင်ကိုက ချိုလွင်သော သူ့အသံသည် ပိုမို၍ မြူးကြွလာ၏။ သူ့အလှ သူ့အကကို မြင်ရသူတိုင်း ယစ်မူးကြရ၏။ သူ့သီချင်းသံ ကြားရသူတိုင်း ဂီတလှိုင်းမှာ မျောပါသွားကြရ၏။ အရွယ်တော်တော် ထောက်လာသည့်တိုင် အောင်ပင် သူ့အရှိန်က မကျသေးချေ။

မိန်းမပျို တစ်ယောက်အဖို့ ဤသို့သော ဂုဏ်ထူးများ ရှိနေသဖြင့် ကောင်းသည့် ဘက်ကလည်း ရှိပါ၏။ ဆိုးသည့် ဘက်ကလည်း ရှိပါ၏။ ကောင်းသည့်

ဘက်က ကြည့်သော် အကကောင်း၊ အဆိုကောင်းသဖြင့် လူအပေါင်း၏ ချစ်ခင်မှုကို ခံယူရ၏။ စားဝတ်နေရေး ပြည့်စုံ၏။ တစ်ဖက်က ကြည့်ပြန်တော့လည်း ဤလိုစန်းပွင့်နေသောကြောင့်ပင် ရန်များလှ၏။ ရွှေပွဲလာ ပရိသတ်ထဲတွင် ဘဝတူ အမျိုးသမီးများအတွက်ကား ပြဿနာ မဖြစ်လှပါ။ သူတို့အဖို့ အမ္ဗပါလီ၏ အလှအပကို ငေးမောရုံမျှ၊ တေးဂီတ အရသာကို ကြည်နူးရုံမျှနှင့် ကိစ္စပြီးနိုင်၏။ သည့်ထက်ပိုလာလျှင်လည်း သူ့ကို အားကျရုံမျှ၊ တချို့မှာတော့ မနာလိုဝန်တိုဖြစ်ရုံမျှသာ။ ရွှေပွဲလာ မင်းပရိသတ်များမှာကား ဤမျှဖြင့် မပြီးနိုင်ပါချေ။ သူတို့သည် အမ္ဗပါလီ၏ အလှအကကို ငေးမောရုံမျှနှင့် မကျေနပ်နိုင်ပေ။ ဂီတသံကို ကြည်နူးရုံနှင့် အားမရနိုင်ပေ။ ထိုအလှ၊ ထိုအသံတို့၏ ပိုင်ရှင်ကိုပါ အပိုင်လိုချင်လာကြ၏။ ဝေသာလီရှိ မင်းပျိုမင်းလွင် မှန်သမျှ အမ္ဗပါလီကို ရလိုသူများချည့်ဖြစ်ကြကုန်၏။ အမ္ဗပါလီထံ လက်ဆောင်အမျိုးမျိုးဖြင့် ချဉ်းကပ်ကြ၏။ သူ့ထက်ငါ ကြိုးစားကြ၏။

ဓားရေး၊ လှံရေး၊ မြားရေးမှစ၍ ယောကျ်ားတို့ တတ်အပ်သောပညာရပ်များကို သင်ယူကြစဉ်ကလည်း သူတို့သည် ဆရာကောင်းများထံချဉ်းကပ် ခဲ့ကြရ၏။ အနိုင်မခံ အရှုံးမပေးသော စိတ်ဖြင့် သူ့ထက်ငါ သာအောင် ကြိုးစားခဲ့ကြ၏။ ထိုစဉ်က သူတို့ ချဉ်းကပ်ခဲ့လေသမျှသည် အတတ်ပညာရရှိ ရေးအတွက်သာဖြစ်၏။ ထိုစဉ်က သူတို့ ကြိုးစားခဲ့လေသမျှသည် ကိုယ့်တိုင်းကိုယ့်ပြည် ကာကွယ်နိုင်ရေးအတွက်သာ ဖြစ်၏။ ထိုစဉ်က သူတို့ ဖွဲ့ကောင်းခဲ့လေသမျှသည် တိုင်းပြည်ကောင်းစားရေးအတွက် ဖြစ်သော်လည်း ယခုတော့ တိုင်းပြည်နစ်နာစေရန်ဖန်လာပေပြီ။ ဟိုယခင်က တစ်ယောက်နှင့်တစ်ယောက် ရေဝယ်သား၍ အခြားမထင်ခဲ့သူများသည် မ,စိတ်မွှန်ကာ စိတ်ဝမ်းကွဲလာကြပေပြီ။ ဤတွင် နိုင်ငံခေါင်းဆောင်များက လွှတ်တော်အစည်းအဝေးကျင်းပ၍ အမိန့်တစ်ခုကို ချမှတ်ရပေတော့သည်။

"အမ္ဗပါလီကို မည်သူမျှ လက်ထပ်သိမ်းပိုက်ခြင်း မပြုရ၊ အမ္ဗပါလီသည် ဝဇ္ဇီမင်းညီမင်းသား အားလုံးပိုင်သော ပြည့်တန်ဆာမ ဖြစ်ရမည်"

အမိန့်သံ နာခံရစဉ်က ချုံးချုံးချ၍ ငိုခဲ့ရသော အမ္ဗပါလီသည် နောက်ပိုင်းမှာတော့ နေသားကျ၍လာပါပြီ။ မိမိစိတ်ဆန္ဒအတိုင်း ဖြစ်နိုင်ခွင့်မရှိသော ဘဝဝယ် ဖြစ်သလို နေတတ်လာပါပြီ။ မိမိချစ်မြတ်နိုးသူကို လက်ထပ်ယူခွင့် ဆုံးရှုံးခဲ့ရသော အမ္ဗပါလီအား နိုင်ငံခေါင်းဆောင်များက အခြား တစ်ဖက်မှ သက်ညှာထားကြ၏။ အမ္ဗပါလီနှင့် တစ်ညတာ ပေါင်းဖက်လိုလျှင် အသပြာ ငါးဆယ်ပေးရန် သတ်မှတ်၍ ပေးကြပေသည်။ ငွေတစ်ကျပ်ဖြင့် မိသားစု တစ်ရက်စာ ရနိုင်သောအခါတွင် ငွေငါးဆယ် သတ်မှတ်ပေးခြင်းဖြင့် အမ္ဗပါလီကို ချီးမြှောက်ထားခြင်း ဖြစ်ပေသည်။

အထက်အမိန့်အရ မိမိကိုယ်ခန္ဓာနှင့် ရင်းနှီး၍ အသက်မွေးရသော်လည်း အမ္ဗပါလီသည် ထိုအလုပ်မှရသောငွေကို အကျိုးရှိရှိ သုံးခဲ့ပါ၏။ ဝေသာလီသို့ ကျွန်ုပ်တို့ရောက်တိုင်း သူ့တိုက်သို့ ပင့်၍ ဆွမ်းကပ်ခဲ့၏။ ကျွန်ုပ်တို့အတွက် သင်္ကန်း၊ သပိတ်၊ ပရိက္ခရာမှစ၍ လိုအပ်သမျှပစ္စည်းများ လှူဒါန်းခဲ့၏။ ဘုရားရှင်၏ တပည့်မပီသစွာ သာသနာတော်ကို အလုပ်အကျွေးပြုသကဲ့သို့ မြို့သူမြို့သားများ အတွက်လည်း အကျိုးပြုခဲ့၏။ ယခု ကျွန်ုပ်တို့ ရောက်ရှိနေကြသော ဥယျာဉ်ကြီးမှာ မြို့သူမြို့သားများ အပန်းဖြေနိုင်ရန် ဝယ်ယူထားခြင်း ဖြစ်ပေသည်။

သာသနာ့အသိ၊ လူမှုရေးအသိ နှစ်ဘက်လုံး ပြည့်ဝသော အမ္ဗပါလီသည် မိခင်ကောင်း တစ်ယောက်လည်း ဖြစ်ပါ၏။ ဤလို အလုပ်မျိုးကို လုပ်ရသော အမျိုးသမီးများသည် သားသမီး မွေးဖွားရန် မလိုလားကြပေ။ တတ်နိုင်သမျှ သားသမီးကို ရှောင်တတ်ကြ၏။ မလွှဲသာ၍ မွေးဖွားလာရသော်လည်း မွေးကင်းစမှာပင် စွန့်ပစ်တတ်ကြ၏။ ယောကျ်ားသားတို့စိတ် ဝင်စားမှု လျော့မသွားစေရန် ဖြစ်၏။ ကျွန်ုပ်တို့၏ ဆေးဆရာအကျော်အမော် ဇီဝကမှာ ဤကဲ့သို့ စွန့်ပစ်ခံရသူဖြစ်ပေသည်။

အမ္ဗပါလီမှာကား စကတည်းက မိမိသဘောဖြင့်ပြုလုပ်ရခြင်းမဟုတ်သဖြင့် ယောကျ်ားတို့အလိုကို စဉ်းစားမနေဘဲ သားတစ်ယောက် ဖွားမြင်ခဲ့၏။ ဖွားမြင်ပြီးနောက်မှာလည်း မိမိကိုယ်တိုင် လူလားမြောက်အောင် ကျွေးမွေးခဲ့၏။ ယခု ထိုသားရတနာသည် အရှင်ဝိမလကောဏ္ဍညဟူသော ဘွဲ့မည်ဖြင့် ရဟန်းတစ်ပါး ဖြစ်နေပေပြီ။

ဝိမလကောဏ္ဍညသည် ကျွန်ုပ်တို့နှင့်အတူ ပါမလာပါ။ ဘာဝနာစခန်း လမ်းမဆုံးသေးသဖြင့် တောကျောင်းတစ်ခုမှာ နေရစ်ခဲ့၏။ ဘာဝနာစခန်း လမ်းဆုံးရောက်ခါမှ သူ့မယ်တော်ကို သာသနာတော်တွင်းသို့ အပါခေါ်မည်ဟု ဆိုပါ၏။ သူ့ရည်မှန်းချက် အောင်မြင်ပါစေဟု ကျွန်ုပ်တို့က အားပေးစကား ပြောကြားခဲ့ရပေသည်။

**(အမ္ဗပါလီထေရီဂါထာ ပါဠိတော်နှင့် အဋ္ဌကထာ။ ဝိနည်းမဟာဝဂ်၊ စီဝရက္ခန္ဓက)**

စိမ်းစိုသော ဥယျာဉ်ထဲမှာ နေရာယူကြပြီးလျှင် ဘုရားရှင်က သတိလက်ကိုင် ခိုင်မြဲရေးတရားကို ဟောကြားတော်မူပါ၏။ ကာယ၊ ဝေဒနာ၊ စိတ္တ၊ ဓမ္မအားဖြင့် လေးဌာနတို့ အပေါ်ဝယ် သတိခိုင်ခိုင်ထား၍ ပွားများကြရန် ဖြစ်ပေသည်။

ဤဒေသနာတော် ဟောကြားပြီး၍ မကြာမီမှာပင် ဥယျာဉ်ပိုင်ရှင် အမ္ဗပါလီ ရောက်လာ၏။ သူစီးလာသောရထားသည် တင့်တယ်ထည်ဝါ လှပါ၏။ နောက်ပါ အခြွေအရံတို့၏ ရထားများလည်း ခမ်းနားလှပါ၏။ ခရီးသွားများမှတစ်ဆင့် ကျွန်ုပ်တို့ ရောက်ရှိနေကြောင်းကို သိ၍ အဆောတလျင် ထွက်လာခဲ့ခြင်း ဖြစ်ပါ

လိမ့်မည်။ အသက်အရွယ်ကြောင့်ရုပ်ပြောင်းလဲမှု ရှိလာသော်လည်း မိန်းမလှတို့၏ အသရေကို ထိန်းထားနိုင်ဆဲဖြစ်ပေသည်။

ဘုရားတပည့်မ အမ္ဗပါလီသည် ဉယျာဉ်ဝမှာဗင် ရထားကိုရပ်စေကာ နုနယ်လှသော ခြေဖဝါးများဖြင့် လျှောက်လာခဲ့၏။ လှပဆန်းကြယ်စွာ ကပြခဲ့သော လက်အစုံဖြင့် ဘုရားရှင်၏ ခြေတော်ရင်းဝယ် ရှိခိုးဝတ်ပြု၏။ ခြေတော်ရင်းမှာ ဝပ်စင်းလာသော တပည့်မတစ်ယောက်အား ဘုရားရှင်က တရားပြသ ဆုံးမတော်မူ၏။ ကြောက်သင့်သော ဒုစရိုက်အမှုများကို ကြောက်တတ်ရန် ဟောကြားကာ ပြုသင့်ပြုထိုက်၍ ပြုခဲ့ရသော ကောင်းမှုကုသိုလ်များ အတွက်လည်း ဝမ်းမြောက်ရွှင်လန်းစေရန် ဟောကြားတော်မူပေသည်။

တရားတော်ကို ရိုသေစွာ နာယူပြီးလျှင် အမ္ဗပါလီသည်....

"အရှင်ဘုရား၊ နက်ဖြန်နံနက် တပည့်တော်မ၏နေအိမ်သို့ သံဃာတော်များနှင့်တကွ ဆွမ်းဘုဉ်းပေး ကြွတော်မူပါဘုရား"ဟု လျှောက်၏။ ဘုရားရှင်က ဆိတ်ဆိတ်နေခြင်းဖြင့် လက်ခံတော်မူလိုက်၏။

အမ္ဗပါလီတို့ ရထားများ ဉယျာဉ်ဝမှ ထွက်သွား၍ မကြာမီတွင် နောက်ထပ်ရထားများ ရောက်လာကြပြန်၏၊ သည်တစ်ခါ ရောက်လာသူ တို့ကား ဝဇ္ဇီမင်းသားတို့ဖြစ်၏။ နှစ်ပြည်ထောင် နယ်စပ်က ရတနာကို အဓာတသတ်မင်းထက် လက်ဦးအောင် ယူနိုင်ခဲ့ကြသူများသည် ယခုတော့ အမ္ဗပါလီထက်နောက်ကျနေကြပါပြီကော။

နောက်ကျမှ ရောက်လာသူများသည် "အချင်းတို့၊ ငါတို့ကို မိန်းမသားတစ်ယောက်က အနိုင်ယူပေစွ။ အချင်းတို့၊ ငါတို့ကို မိန်းမသားတစ်ယောက်က အနိုင်ယူပေစွ"ဟု မကျေနိုင် မချမ်းနိုင် ရေရွတ်လာကြ၏။ သူတို့ကို အနိုင်ယူခဲ့သော မိန်းမသားမှာ အမ္ဗပါလီက လွဲ၍ တခြားသူ မဖြစ်နိုင်ပါ။ ဝဇ္ဇီမင်းသားအပေါင်းအား ခန္ဓာကိုယ်တစ်ခုလုံး ပုံအပ်ထားခဲ့ရသော အမ္ဗပါလီ သည် သူ၏အရှင်သခင်တို့အပေါ် မည်သို့များ အနိုင်ယူခဲ့ပါသနည်း။

"ရဟန်းတို့၊ တာဝတိံသာနတ်တို့ကို မမြင်ဖူးကြလျှင် လိစ္ဆဝီပရိသတ်ကို ကြည့်ကြကုန်လော့။ လိစ္ဆဝီပရိသတ်ကို ထပ်ကာ ထပ်ကာ ကြည့်ကြကုန်လော့။ လိစ္ဆဝီပရိသတ်ကို တာဝတိံသာနတ်တို့နှင့် ထပ်တူ သဘောထားကာ ကြည့်ကြကုန်လော့"

ဘုရားရှင်က မိန့်ကြားလိုက်သဖြင့် ကျွန်ုပ်၏ ဆန့်တန်းမည့်ဆဲဆဲ အတွေးမျှင်ပြတ်တောက်သွားရ၏။ အချို့သော လိစ္ဆဝီတို့သည် အသားရောင် အညို၊ အဝတ်အညို၊ အဆင်တန်ဆာ အညိုတို့ဖြင့်။ အချို့သောလိစ္ဆဝီတို့သည် အသားရောင်အဝါ၊ အဝတ်အဝါ၊ အဆင်တန်ဆာအဝါတို့ဖြင့်။ အချို့သော လိစ္ဆဝီတို့သည် အသားရောင်

အနီ၊ အဝတ် အနီ၊ အဆင်တန်ဆာ အနီတို့ဖြင့်။ အချို့သော လိစ္ဆဝီတို့သည် အသားရောင်အဖြူ၊ အဝတ်အဖြူ၊ အဆင်တန်ဆာတို့သည် အဖြူတို့ဖြင့် အလှပြင်၍ လာကြ၏။ ပကတိ အသားအရောင်အပေါ်မှာ မိမိနှစ်သက်ရာ အလိမ်းအခြယ်တို့ဖြင့် ပြုပြင်လာကြခြင်း ဖြစ်ပေသည်။

ယခင်အချိန်များတုန်းက ဘုရားရှင်သည် မြင်ခြင်း၊ ကြားခြင်းစသည်တို့၌ သာယာဖွယ်၊ နှစ်သက်ဖွယ် အရိပ်နိမိတ်များကို မယူစွဲကြရန် ဟောကြားတော်မူခဲ့၏။ ယနေ့မှာမူ ရောက်လာသော လိစ္ဆဝီမင်းသားများကို ထပ်ကာ ထပ်ကာ ကြည့်ကြလော့ဟု မိန့်ကြားတော်မူ၏။ တာဝတိံသာနတ်တို့နှင့် တူသည်ဟူ၍လည်း ချီးမြှောက်တော်မူခဲ့၏။ ဤသို့ မိန့်ကြားခြင်း၊ ချီးမြှောက်ခြင်းသည် သူတို့တစ်တွေ ယနေ့ ထူးထူးခြားခြား လှပနေသောကြောင့် ဖြစ်လေသလော။

ဤသို့ တစ်စုံတစ်ယောက်က မေးလာပါလျှင် ကျွန်ုပ်က မဟုတ်ပါ ဟူ၍ ဖြေရပါလိမ့်မည်။ လိစ္ဆဝီတို့၏ လှပခြင်းကို အကြောင်းပြု၍ ဘုရားရှင်သည် ယခင် ဟောခဲ့သော ဒေသနာတော်များကို ပယ်ဖျက်မည် မဟုတ်ပါ။ အခြားအကြောင်း တစ်ခုခုရှိ၍သာ ဖြစ်ပါလိမ့်မည်။ ထိုအကြောင်းကို နောက်ပိုင်းကျခါမှ ကျွန်ုပ်ဘာသာ သဘောပေါက်လာပါသည်။

ဘုရားရှင်တော်ထံမှ တရားနာကြပြီးနောက် လိစ္ဆဝီတို့ကလည်း နက်ဖြန်နံနက်တွင် ဆွမ်းဘုဉ်းပေးကြရန် လျှောက်ကြပြန်၏။ ဤတွင် ဘုရားရှင်က....

"လိစ္ဆဝီတို့၊ ပြည့်တန်ဆာမ အမ္ဗပါလီက နက်ဖြန်နံနက် ဆွမ်းဘုဉ်းပေးပင့်ထားသည်ကို ငါဘုရား လက်ခံထားလိုက်ပြီ"

"အချင်းတို့၊ ငါတို့ကို မိန်းမသားတစ်ယောက်က အနိုင်ယူပေစွ"

ဘုရားရှင့် အမိန့်သံ နာခံရသဖြင့် လိစ္ဆဝီ ပရိသတ်အားလုံးက ရေရွတ်ကြပြန်ပေသည်။ ကျောင်းတော်သို့ ရောက်လာစဉ်တုန်းကလည်း ဤသို့ပင် ရေရွတ်လာခဲ့ကြ၏။ လာစဉ်တုန်းက မိန်းမသားတစ်ယောက်ကို အရှုံးပေးခဲ့ရသကဲ့သို့ ယခုလည်း အရှုံးပေးခဲ့ရပြန်ပေပြီ။ မဂဓစစ်တပ်ကြီးများအပေါ် အောင်ပွဲလှလှ ရခဲ့ကြသော လိစ္ဆဝီတို့သည် ယခုတော့ မိန်းမသားတစ်ယောက်ရှေ့မှာ အညံ့ခံလိုက်ကြရပေပြီ။ ဘဝတစ်လျှောက်လုံး သူတို့ပြုသမျှ နုခဲ့ရသော အမ္ဗပါလီသည် ယနေ့ညနေမှာတော့ သူတို့၏ ရထား ဝင်ရိုးစွန်းကို သူ့ရထားဝင်ရိုးစွန်းဖြင့် တိုက်ခဲ့သေးသည် ဟူပါ၏။

နောက်တစ်နေ့ နံနက်တွင် ကျွန်ုပ်တို့သည် အမ္ဗပါလီ နေအိမ်သို့ ဆွမ်းစားကြွကြရ၏။ ဘုရားရှင်ကိုယ်တော်တိုင် ရှေ့ဆုံးမှ မားမားမတ်မတ် ကြွချီတော်မူ၏။ အောင်နိုင်သူတို့၏ အောင်နိုင်သူ အမ္ဗပါလီလည်း ဘုရားရှင်နှင့်တကွ ရဟန်းအားလုံးအား ရိုသေစွာ ဆွမ်းလုပ်ကျွေးပြီးလျှင်....

"အရှင်ဘုရား၊ တပည့်တော်မ၏ ဤဥယျာဉ်ကို ဘုရားအမှူးရှိသော ရဟန်းသံဃာအား လှူဒါန်းပါ၏ ဘုရား"

အမြတ်တနိုး ဝယ်ယူထားသောဥယျာဉ်ကို ရွှေကရားဖြင့် ရေစက်သွန်းချ၍ လှူဒါန်းလိုက်လေသည်။ ဤသတင်းကို သားဖြစ်သူ ဝိမလ ကောဏ္ဍည ကြားသိရလျှင် ဝမ်းမြောက်ဝမ်းသာ အနုမောဒနာ ပြုပါလိမ့်မည်။

(သုတ်မဟာဝဂ်၊ မဟာပရိနိဗ္ဗာနသုတ်၊ အမ္ဗပါလီ ဂဏိကာဝတ္ထု ပါဠိတော်နှင့် အဋ္ဌကထာ)

**

# ဝေဠုဝရွာမှာ နောက်ဆုံးဝါ

ကျွန်ုပ်၏ စိတ်နှလုံးကို ရွှင်ပြုံးစေတတ်သော အိုသူတော် သူမြတ် အပေါင်းတို့၊ လာခြင်းကောင်းသော ဘုရားရှင် ကိုယ်တော်မြတ်ကြီးနှင့်တကွ သာဝကကြီးငယ်တို့၏ ကောင်းသောလာခြင်း၊ ကောင်းသတင်းအဖုံဖုံတို့ကို ဇာတ်စုံခင်း၍လာခဲ့ရာ ထင်ရှားကျော်ကြားသော သာဝကကြီးများ၏ ဇာတ်သိမ်းခန်းများ ပါဝင်ခဲ့ပါပြီ။ ယခုတစ်ဖန် ကျွန်ုပ်၏ အသက်မက ချစ်ခင်လေးစားရသော နောင်တော်မြတ်၏ ဇာတ်သိမ်းခန်းကို တင်ပြရပါတော့မည်။

ဤဇာတ်သိမ်းခန်းကို တင်ပြရသော ကျွန်ုပ်နှင့်တကွ ကြားနာရသော ပရိသတ်များအဖို့ ဝမ်းမြောက်ဝမ်းသာ ဖြစ်စရာမရှိပါ။ ထို့အတူပင် ဝမ်းနည်းစရာလည်း မရှိပါ။ အရှင်မဟာသာရိပုတ္တရာ ရှင်တော်မြတ်ကြီး မိန့်ကြားသကဲ့သို့ သံဝေဂရရုံမျှသာ ဖြစ်ပါသည်။ "ဘုန်းတန်ခိုးအရှိန်အဝါကြီးမား တော်မူသော ဘုရားရှင်သည်ပင် ကွယ်လွန်ခဲ့ချေပြီတကား"ဟု တရားချရုံသာ ရှိပါသည်။

သို့ရာတွင် ထိုစဉ်တုန်းက ကျွန်ုပ်မှာ ဤသို့ တရားချနိုင်စွမ်း မရှိသေးပါ။ ချစ်ခင်လေးစားရသော နောင်တော်မြတ်ကို အနီးကပ် ပြုစုလုပ်ကျွေးရန်က လွဲ၍ ဘာကိုမျှ စိတ်မဝင်စားခဲ့ပါ။ နောင်တော်မြတ်၏ မျက်နှာတော်ကို ထာဝစဉ် ဖူးမြင်ခွင့်ရနေလျှင်ပင် ကျွန်ုပ်အတွက် အားလုံးကုန် ပြည့်စုံနေပါပြီ။ ဘုရားရှင် ထံတော်ပါးမှာနေပါလျက် ဤမျှလောက် တရားနှင့် ဝေးရသလောဟု ပြောလျှင်လည်း ခံရပါလိမ့်မည်။ ဘုရားရှင့်အပေါ် တွယ်တာမှုဖြင့် ကျွန်ုပ်မှာ တကယ်ပင် တရား ဝေးခဲ့ရသူ ဖြစ်ပါသည်။ ဤအကြောင်း ခြင်းရာ ထင်ရှားစေရန် အနည်းငယ်မျှ နောက်ကြောင်း ပြန်ရပါဦးမည်။

အခြားခြားသော ရဟန်းများသည် ခန္ဓာငါးပါး တရားတို့၏ အနိစ္စ၊ ဒုက္ခ၊ အနတ္တ လက္ခဏာများကို ဝိပဿနာခွင်တင်၍ သုံးသပ်ကာ အရဟတ္တဖိုလ်ထိ ဆိုက်ရောက်ခဲ့ကြ၏။ သူတို့ရရှိထားသော အရဟတ္တဖိုလ်ကို ဘုရားရှင့် ရှေ့တော်

မှောက်မှာ ဝမ်းမြောက်ဝမ်းသာ လျှောက်ထားကြ၏။ ထိုပုဂ္ဂိုလ်တို့ကို အားကျကာ ကျွန်ုပ်လည်း ဘုရားရှင်ထံ တရားတောင်းပါ၏။ ဘုရားရှင်ကလည်း ခန္ဓာငါးပါးကို အခြေပြုကာ အနိစ္စအချက်၊ ဒုက္ခအချက်၊ အနတ္တ အချက်တို့ကို ကွက်ကွက်ကွင်းကွင်း မြင်လောက်အောင် ဟောကြားတော်မူပါ၏။ ဤတရားကို အခြေပြု၍ နောင်အခါတွင် ကျွန်ုပ်၏ အရဟတ္တဖိုလ်ဉာဏ် ရင့်သန်လာခဲ့ရပါ၏။ သို့ရာတွင် ဘုရားရှင် သက်တော်ထင်ရှား ရှိစဉ်တုန်းမှာတော့ အရဟတ္တဖိုလ်ဉာဏ်ကို မရခဲ့ပါ။ ဤသို့ မရခြင်းမှာ ဟောကြားသော တရားက အဆင့်အတန်း နိမ့်နေသောကြောင့် မဟုတ်ပါ။ ဘုရားရှင်က တရားအားမထုတ်ရန် ကန့်ကွက်ထားသောကြောင့်လည်း မဟုတ်ပါ။ တရားတော်နှင့် ပတ်သက်လျှင် ဘုရားရှင်သည် မိမိကိုယ်ရေးကိုယ်တာ ကိစ္စထက်ပင် အလေးထားတော်မူပေသည်။

ဘုရားရှင်က တရားရေး အလေးထားပါလျက် ကျွန်ုပ် တရားမရသည်မှာ ကျွန်ုပ်၏ တွယ်တာစိတ်ကြောင့်သာ ဖြစ်ပါသည်။ ရဟန္တာဖြစ်နိုင်လောက်သော တရားကို ကြားနာပြီးနောက် ကျွန်ုပ်သည် သူများနည်းတူ သစ်တစ်ပင်ရင်း၊ ဝါးတစ်ရုံအောက် သွားရောက်၍ တရားအားထုတ်ပါ၏။ နှလုံးသွင်းပါ၏။ သို့သော် တရားက ကျွန်ုပ်၏ နှလုံးထဲမှာ ကြာကြာမနေပါချေ။ တစ်ကြိမ်နှစ်ကြိမ်မျှ ပေါ်လာပြီး ပျောက်ဆုံးသွား၏။ ဘုရားရှင်ကို ပြုစုလုပ်ကျွေးရဦးမှာပါကလား ဟူသော ကြောင့်ကြစိတ်က နှင်ထုတ်လိုက်သောကြောင့် ဖြစ်ပေသည်။

(ခန္ဓသံယုတ်၊ ဒီဃဝဂ်၊ အာနန္ဒသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)

အနီးကပ် ပြုစုလုပ်ကျွေးလာရသဖြင့် ရှင်တော်မြတ်၏ ရုပ်ခန္ဓာ၌ ဇရာလက္ခဏာများ တစ်စတစ်စထင်ရှားလာသည်ကို ကျွန်ုပ် သတိပြုမိပါ၏။ အလှမ်းအကြွ၊ အထအထိုင် တို့၌ နှေးကွေး လေးလံလာသည်ကို တွေ့လာရပါ၏။ သက်တော် ရှစ်ဆယ်အရွယ်ပိုင်းတွင် ဤသို့ ဖြစ်လာရမည်သာ။ သူများတွေဆိုလျှင် ဆံဖြူသွားကျိုး၊ အိုမင်းရွတ်တွကြီးတွေ ဖြစ်ကုန်ကြပါပြီ။ ဘုရားရှင်မှာကား သက်တော်ရလာသောကြောင့်သာ အိုလာသည် ဆိုရ၏။ အိုလာသော်လည်း ရွှဲရှာ စက်ဆုပ်ဖွယ် လုံးဝမရှိပါ။ ကိုယ်အမူအရာ နှုတ် အမူအရာ လုံးဝ မချွတ်ယွင်းသေးပါ။ အိုသော်လည်း အအိုလှသည်ဟု ဆိုရပါမည်။ အရွယ်တော် အိုမင်းလာလျက် ကပင် ကြည်ညိုဖွယ်ရာ၊ မြတ်နိုးဖွယ်ရာ ဖြစ်နေပါသေးသည်။

ဤသို့ ဖြစ်ရသည်မှာ အကြောင်း နှစ်မျိုးကြောင့် ဖြစ်နိုင်ပါသည်။ ပထမ အကြောင်းမှာ ကိုယ်တော်မြတ်၏ ရုပ်ခန္ဓာ ထူးထူးခြားခြား ကြီးမားကြံ့ခိုင်မှု ဖြစ်၏။ ထို့ကြောင့်ပင် ခြင်္သေ့ကြီးများ၊ နွားလားဥသဘကြီးများနှင့် ပမာပြုကာ နရသီဟ၊ နရပုင်္ဂဝဟု ခေါ်ဝေါ်ခဲ့ကြ၏။ ကျားကျားလျားလျား ထွားကျိုင်း သန်မာမှု

ကို ဂုဏ်ပြုကြခြင်း ဖြစ်၏။ ယောက်ျားမြတ် အာဇာနည် ပီသပုံကို ဖော်ကျူးကြခြင်း ဖြစ်၏။ ဤသာနာတော်ကြီး ဤမျှလောက် ပြန့်ပွားလာရာတွင် ဤသို့သော ရုပ်လက္ခဏာကလည်း အရေးပါသော အကြောင်းတစ်ခု ဖြစ်ပါပေသည်။ ဖူးရမြင်ရ ရုံနှင့် လေးလေးစားစား အားကိုးရမည့် ပုဂ္ဂိုလ်မှန်းသိ၍ လူတန်းစားပေါင်းစုံ ခိုဝင်လာကြခြင်း ဖြစ်ပေသည်။

ဤသို့သော အဲခြေခံတွင် အစားအသောက် အနေအထိုင် သင့်တင့်မျှတမှု၊ ဖလသမာပတ် ဝင်စားမှုများကလည်း အထောက်အကူ ပြုကြပါသေး၏။ ထို့ကြောင့်ပင် ဘုရားရှင်မှာ အနာရောဂါ နည်း၏။ အိပ်ရာထဲ လဲနေလောက်အောင် ဖျားနာခဲ့ဖူးသည်ပင် မရှိ။ တစ်ခါတစ်ခါ လေနာထတတ်ခြင်း၊ အထိုင်များလျှင် ခါးနာတတ်ခြင်းတို့လောက်သာ ရှိ၏။ ဤသို့သော အခြေအနေဖြင့် အသက်တစ်ရာ အနာမရှိ ပကတိ ကျန်းမာစွာဖြင့် ဖူးမြင်ခွင့် ရနိုင်ပါလိမ့်မည်။ ကျွန်ုပ်လည်း ထိုအချိန်အထိ ပြုစုနိုင်စွမ်းရှိပါလိမ့်ဦးမည်။

သို့ရာတွင် နှောင်တော်မြတ်၏ ရုပ်ခန္ဓာသည် ကျွန်ုပ် တောင့်တချက်ကို မဖြည့်ဆည်းတော့ပါ။ မိမိ၏ရာနှုန်းပြည့် လွတ်မြောက်ရေးကို နှောင့်နှေးခံကာ ဤမျှလောက် တွယ်တာနေပါလျက် အတွယ်အတာ မခံတော့ပါ။

အမ္ဗပါလီ၏ သရက်ဥယျာဉ်မှ တစ်ဆင့် ဝေဠုဝရွာသို့ အရောက်တွင် ဝါဆိုရက် ကျရောက်လာ၏။ ဤရွာငယ်ကလေးက တဲကျောင်းကလေးမှာ ဘုရားရှင်နှင့် ကျွန်ုပ် နှစ်ပါးတည်း ဝါဆိုရ၏။ ထိုဝါတွင်းက ထိုကျောင်း ကလေးမှာပင် နှလုံးကြေကွဲ ဝမ်းနည်းစရာကိစ္စကြီးနှင့် ကြုံရပါတော့သည်။

ထွားကျိုင်းသန်မာ၍ အာဇာနည်ပီသလှသော ကိုယ်ခန္ဓာသည် ဝမ်းသက်သော ရောဂါကြောင့် ချုံးချုံးကျ၍ သွား၏။ ရှိရှိသမျှ အသွေးအသားများသည် ဝမ်းအဖြစ်ဖြင့် တရဟောသက်ဆင်းသွားကြ၏။ ကောင်းနိုး ရာရာ ဆက်ကပ်သော အစာအာဟာရတို့သည်လည်းကောင်း၊တတ်သမျှ၊ မှတ်သမျှ ကုသတိုက်ကျွေးသော ဆေးဝါးများသည်လည်းကောင်း ချောင်းရေထဲမှာ သွန်ချလိုက်ရသကဲ့သို့သာ ဖြစ်နေ၏။

ရာဇဂြိုဟ်မှ ထွက်လာစဉ်က အတူလိုက်ပါလာသော ရဟန်းများသည် ဝေသာလီ ပတ်ပတ်လည်ရှိ ကျောင်းများမှာသွား၍ ဝါဆိုကြရ၏။ မိမိနှင့် အသိ အကျွမ်းရှိရာသို့ ချဉ်းကပ်ကြရ၏။ ဤဝေဠုဝရွာကလေး၌ ကျောင်းကန် တိုက်တာ ကြီးကြီးမားမား မရှိပေ။ ရဟန်းအားလုံးအတွက် ဆွမ်းဘောဇဉ် မျှတအောင် မရ နိုင်ပေ။ ထို့ကြောင့် အစစအရာရာ ပြည့်စုံရာသို့ ဘုရားရှင်က စေလွှတ်ထားခဲ့ရခြင်း ဖြစ်၏။ ဤသို့ဆိုလျှင် အခြားသော မြို့ရွာများထိအောင်ကား အဘယ့်ကြောင့်

မလွတ်ပါသနည်း။ မလွတ်ထိုက်သော အကြောင်းရှိ၍သာ ဖြစ်ပါလိမ့်မည်။ သည်တုန်းက ဤဝါသည် နောက်ဆုံးဝါ ဖြစ်လိမ့်မည်ဟု ကျွန်ုပ် သဘောမပေါက်ခဲ့သေးပါ။

ဆွမ်းကိစ္စ ဆေးကိစ္စများရှိနေ၍သာ ကျွန်ုပ်သည် ရွာထဲသို့ သွားနေရ၏။ သင်္ကန်းများ ဖွပ်လျှော်ရန် ရှိနေ၍သာ ကျွန်ုပ်သည် ရေတွင်းရှိရာသို့ သွားခဲ့ရ၏။ ကျွန်ုပ်စိတ်ကတော့ ဘုရားရှင့်ဆီမှာသာ ရှိနေပေသည်။တခြားမှာ သွားစရာမရှိပါက ဘုရားရှင့် ခြေတော်ရင်းနားမှာထိုင်ရင်း သင်္ကန်းများကို ချုပ်နေမိ၏။

ကျွန်ုပ် သင်္ကန်းများကို ချုပ်ရာတွင် တစ်ဖက်အစကို ခြေဖြင့်နင်း၍ တင်းတင်းပါအောင် ဒူးနှင့်တည်းထားကာ မိမိဘာသာ ချုပ်နေကျဖြစ်၏။ ရဟန်းတို့၏ သင်္ကန်းကို မဂဓလယ်ကွင်းများကို နမူနာထား၍ ချုပ်နိုင်ရန် ကျွန်ုပ်ကပင် စီမံပေးခဲ့ရ၏။ သို့ဖြစ်၍ ကျွန်ုပ်သည် အချုပ်အလုပ်ဝါသနာ ပါပါသည်။ လုပ်နေကျမို့ ကျွမ်းကျင်နေပါသည်။ ဘုရားရှင်၏ သင်္ကန်းများကို ချုပ်ကြစို့ဆိုလျှင်ကား ကျွန်ုပ် ဉာဏ်စွမ်းရှိသမျှ လက်စွမ်းရှိသမျှ အလှပဆုံး၊ အသေသပ်ဆုံးဖြစ်အောင် ချုပ်လုပ်ပေးခဲ့ပါသည်။

ဘုရားရှင်၏ သင်္ကန်းများကို ချုပ်ရာတွင် ရိုသေလေးစားသောအားဖြင့် တစ်ဖက်အစကို ခြေထောက်ဖြင့် နင်းထားပြီး မချုပ်ခဲ့ပါ။ ရဟန်းတစ်ပါးပါးသို့မဟုတ် သာမဏေ တစ်ပါးပါးကို အကိုင်ခိုင်း၍ဖြစ်စေ၊ တိုင်တစ်ခုခုမှာ တွယ်ချိတ်၍ ဖြစ်စေ ချုပ်လုပ်ခဲ့ပါသည်။ သို့ရာတွင် ထိုဝါတွင်းမှာတုန်းကမူ တစ်ကြိမ်တစ်ခါမျှ မပြုခဲ့ဖူးသော အမှုကို ပြုခဲ့ရပါသည်။ အဖော်ရဟန်းကလည်း မရှိ။ ရွာထဲက ဒါယကာ၊ ဒါယိကာမများကိုလည်း အကူအညီ မခေါ်လို။ တွယ်စရာချိတ်စရာကလည်း ကာရန်တသင့် မရှိသဖြင့် ဘုရားရှင်၏ မိုးရေခံ သင်္ကန်းကို ချုပ်ရာတွင် တစ်ဖက်အနားကို ခြေထောက်ဖြင့် နင်းဖိထားခဲ့ရပါသည်။

တစ်သက်နှင့်တစ်ကိုယ် ဤတစ်ကြိမ်သာ ပြုခဲ့မိသောအမှုကို ကျွန်ုပ်သည် အမှတ်တမဲ့သာ ပြုမိခဲ့ခြင်း ဖြစ်ပါ၏။ ဘုရားရှင်၏ ဝမ်းကိစ္စ ပေါ်ပေါက်လာလျှင် အရန်သင့် ဖြစ်နေစေရန် စိတ်စောနေမိ၍သာ ဖြစ်၏။ သို့ရာတွင် ဤကိစ္စကို တစ်ဖက်သောအဖို့မှ ရှုမြင်ကြရသော ပုဂ္ဂိုလ်ကြီးများလည်း ရှိနေသဖြင့် ဤကိစ္စနှင့်ပတ်သက်၍ ကျွန်ုပ် အကျပ်အတည်းတွေ့ခဲ့ရပုံကို သက်ဆိုင်ရာ အခန်းကျမှ ဆက်လက်၍ တင်ပြပါဦးမည်။

ခြေတော်ရင်းမှာ ထိုင်ရင်း သက်သာလာနိုး လာနိုးနှင့် မျှော်ကိုးခဲ့ရသော်လည်း မျှော်ရကျိုး မနပ်ပါချေ။ ဖြစ်လာသည့် အချိန်မှစ၍ ရောဂါဝေဒနာများက သက်သာသည်ဟူ၍ မရှိပါ။ တိုးမြဲတိုင်းသာ တိုးနေ၏။ တော်ရုံတန်ရုံ ပုဂ္ဂိုလ်မျိုးဆိုလျှင် ဤရောဂါနှင့် အသက်ပါသွားနိုင်၏။ ဘုရားရှင်ကတော့ ဆိုးရွားလှသော

ဝေဒနာများအတွက် တစ်ချက်လေးမျှ မတွန့်ပါချေ။ ညည်းတွားခြင်းလည်း မရှိပါချေ။ မလွတ်သာ ဖွတ်ခွာ၍ မရနိုင်သော ဝိပါကဝဋ်တရားကြီးကို တည်ကြည်စွာ ငြိမ်သက်စွာ သည်းခံလျက်သာ ရှိပေသည်။

ဤသို့ ပြုစုလုပ်ကျွေးရင်း ရက်ပေါင်းမည်မျှကြာလာသည် မမှတ်မိပါ။ ရက်ကို အသာထား၍ တစ်ခါတစ်ရံ အရပ်မျက်နှာသော်မျှ မခွဲခြားမိပါ။ တရားဒေသနာတော်များကိုလည်း သင်ယူလိုစိတ်၊ ရွတ်ဖတ်လိုစိတ် မရှိတော့ပါ။ ကျွန်ုပ်၏ စိတ် အစဉ်ဝယ် ဘုရားရှင်၏ ရောဂါဝေဒနာများက ဖိစီးလျက်ရှိ၏။ ရောဂါဒဏ်ကို ဘုရားရှင်က ကိုယ်ခန္ဓာဖြင့် ခံစား၍ ကျွန်ုပ်က စိတ်ဖြင့် ခံစားနေသည်ဟု ဆိုရပါတော့မည်။

မသက်သာသောရောဂါဝေဒနာများအတွက် မသက်မသာ ခံစားရစဉ်တွင် သက်သာရာလေး တစ်ကွက်ကား ရှိနေပါ၏။ ထိုတစ်ကွက်ကား အခြားမဟုတ်ပါ။ "ရဟန်းသံဃာများအတွက် နောက်ဆုံးစကား မမှာမကြားရသေးဘဲ ဘုရားရှင် ပရိနိဗ္ဗာန်ပြုတော်မူဦးမည် မဟုတ်" ဟူသည်ပင် ဖြစ်ပါ၏။

ကျွန်ုပ် တွေးမိသည့် အတိုင်းပင် ဘုရားရှင်သည် တစ်စတစ်စနှင့် နာလန် ထတော်မူလာ၏။ ရာဇဂြိုဟ်မှာလို သမားတော် ဇီဝကကလည်း မရှိ။ ထူးထူးခြားခြား အစွမ်းထက်သော ဆေးဝါးများလည်း မရပါဘဲလျက် နာလန်ထလာနိုင်ခြင်းကို ကျွန်ုပ် အံ့ဩမိပါ၏။ ကျွန်ုပ် အတွေ့အကြုံအရ ဤမျှလောက် အခြေအနေဆိုးနေသော လူနာမှန်လျှင် နာလန်မထနိုင်ကြတော့ပါ။ ယခု ထူးထူးခြားခြား ဘုရားရှင် နာလန်ထလာတော်မူခြင်းမှာ ဖလသမာပတ်စွမ်းရည်ကြောင့်ပင် ဖြစ်ပါ လိမ့်မည်။ သည်ခန္ဓာကြီးကို အသုံးချရန်ကိစ္စ ရှိနေသေး၍ ဇီဝိတိန္ဒြေ ပြတ်မသွားစေရန် ဖလသမာပတ် ဝင်စားထား၍သာ ဖြစ်ပါလိမ့်မည်။

ရာသီဥတု မျှတသာယာသော တစ်ညနေတွင် ဘုရားရှင်သည် ကျောင်း အပြင်သို့ ထွက်တော်မူ၏။ ဤရွာမှာ ဝါဆိုပြီးကတည်းက ပထမဦးစွာ ကျောင်းထဲမှ ထွက်တော်မူခြင်းပင် ဖြစ်၏။ အားနည်းနေသေးသော ခြေထောက်များကို တစ်လှမ်း ချင်း၊ တစ်ရွေ့ချင်း လှမ်းလျက် ထွက်တော်မူကာ ခင်းထားသော နေရာတွင် ထိုင်တော်မူ၏။ ကျောင်းရိပ်က ညိုညာသော ကျောက်ဖျာထက်တွင် ဘုရားရှင် ထိုင်ရန် ကျွန်ုပ်က အရန်သင့် ခင်းပေးထားပြီး ဖြစ်ပါသည်။

ထနိုင်၊ ထိုင်နိုင် ဖြစ်လာသော ဘုရားရှင်ကို ဖူးမြင်ရသည့်အတွက် ကျွန်ုပ် ဝမ်းမြောက်လှပါသည်။ ဝမ်းမြောက်မှုကို တိုင်းတာရန်ပင် ခက်လှပါသည်။ ရောဂါ ပြင်းထန်စဉ်က ဝမ်းနည်းရသည်နှင့်အမျှ ဝမ်းသာရသည်ဟုသာ ဆိုရပါတော့ မည်။

"အရှင်ဘုရား၊ တပည့်တော်သည် ကိုယ်တော်မြတ်၏ ချမ်းသာခြင်းကို ဖူးမြင်ရပါပြီ။ ကျန်းမာခြင်းကို ဖူးမြင်ရပါပြီ။ သို့သော် ကိုယ်တော် လေးလံနေသေးသလိုလို ရှိနေပါသေးသည်။ ဘုရားရှင် နာမကျန်း ရှိနေသည့်အတွက် တပည့်တော်မှာ တရားဘာဝနာတို့ကို မရှုမြင်နိုင်တော့ပါ။ အရပ်မျက်နှာတို့ကို သော်မှ မခွဲခြားနိုင်တော့ပါ။ တပည့်တော် စိတ်သက်သာခွင့်ကလေး ရနေသည်မှာ 'ရဟန်းသံဃာများအတွက် နောက်ဆုံးစကား မမှာကြားရသေးဘဲ ဘုရားရှင် ပရိနိဗ္ဗာန်ပြုဦးမည် မဟုတ်' ဟူသော အတွေးပင် ဖြစ်ပါသည်ဘုရား"

ဘုရားရှင်ကို ဉာတတာသောအားဖြင့် စောစောက မလျှောက်ထားခဲ့ရလေသမျှ ယခုမှ အတိုးချ၍ အားပါးတရ လျှောက်ထားရပါတော့သည်။ ကျွန်ုပ်ဘက်က အားပါးတရ ရှိပါသော်လည်း ဘုရားရှင်ကတော့ ပုံမှန်အတိုင်းသာ ရှိပေသည်။

"အာနန္ဒာ၊ ရဟန်းသံဃာသည် အဘယ်ကြောင့် ငါဘုရားကို တောင့်တနေရပါသနည်း။ ငါဘုရားသည် ပုဂ္ဂိုလ်ကိုလည်း အတွင်းအပြင်မထားဘဲ တရားကိုလည်း အတွင်းအပြင်မထားဘဲ သိစရာ တရားဟူသမျှ ဟောပြခဲ့ပြီ။ ငါဘုရားမှာ ဆရာစား ချန်ထားသော တရားဟူ၍ မရှိပေ"

ကျွန်ုပ်နှင့်မှ နှစ်ပါးတည်းရှိသော်လည်း ရဟန်း အားလုံးအတွက် ရည်ညွှန်း၍ မိန့်တော်မူလိုက်ပါ၏။ ရှိရှိသမျှ ရဟန်းအားလုံးကလည်း ဘုရားရှင် အသက်တစ်ရာ အနာမရှိဘဲ တည်တံ့စေချင်သောကြောင့် ဖြစ်ပါ၏။ အပြင်အပက ဂိုဏ်းဆရာကြီးများသည် သူတို့ သတ်မှတ်ထားသော တရားများကို တစ်သက်လုံး ဟောလာကြသော်လည်း အရေးကြီးဆုံး လျှို့ဝှက်ချက်ကိုကား ဆရာစားချန်ထားကြ၏။ သေခါနီးကျခါမှ အရင်းနှီးဆုံး တပည့်အား ပြောပြသွားကြ၏။ ဘုရားရှင်မှာကား ဤကဲ့သို့ လျှို့ဝှက်စွာ ခြွင်းချန်ထားသောတရားဟူ၍ မရှိပါချေ။

"အာနန္ဒာ၊ ငါသာလျှင် ရဟန်း သံဃာကို ဦးဆောင်မည်။ ငါ့ကို သာလျှင် ရဟန်းသံဃာက ထာဝစဉ် အားကိုးနေရမည်ဟု အယူအစွဲ ရှိသောသူသည်သာ ရဟန်းသံဃာအတွက် တစ်စုံတစ်ရာ မှာကြားနေရာ၏။ ငါဘုရားမှာကား ဤကဲ့သို့ အစွဲအလမ်း လုံးဝ မရှိတော့ချေ။ ထို့ကြောင့် ထိုကဲ့သို့သော ငါဘုရားသည် ရဟန်းသံဃာနှင့်ပတ်သက်၍ တစ်စုံတစ်ရာ မှာကြားနေပါဦးတော့မည်လော"

စွဲယူမှုမရှိတော့သော တစ်စုံတစ်ရာ မှာကြားရန်မရှိကြောင်း မိန့်တော်မူရာမှ မိမိကိုယ်တော်တိုင် ချမ်းသာခဲ့ပုံကို ဤသို့ မိန့်ကြားတော်မူပါ၏။

"အာနန္ဒာ၊ ယခုအခါ ငါသည်ကား အိုမင်းမစွမ်း ရှိချေပြီ။ ခနော်ခနဲ့ လှည်းအိုကြီးကို ဟိုမှာသည်မှာ ချည်တုတ်ပြီး အသုံးပြုနေရသည်နှင့် တူချေပြီ။ အသက်ရှစ်ဆယ် အရွယ်သို့ ရောက်ခဲ့ပေပြီ။

"အာနန္ဒာ၊ အကြင်အခါတွင် အလုံးစုံသော အရိပ်နိမိတ်တို့ကို နှလုံးမသွင်းမှု၍ လောကီဝေဒနာတို့ ချုပ်ငြိမ်းခြင်းကြောင့်ဖြစ်သော စိတ်၏ တည်ကြည်ခြင်းသို့ ကပ်ရောက်၏။ ထိုအခါ ငါဘုရား၏ ကိုယ်တော်သည် အလွန်တရာ ချမ်းသာလှ၏။

"အာနန္ဒာ၊ ထို့ကြောင့် မိမိကိုယ်ကို ထောက်တည်ရာ ကျွန်းသဖွယ် ပြုကြကုန်လော့။ ကိုးကွယ်ကြကုန်လော့။ တရားကို ထောက်တည်ရာ ကျွန်းသဖွယ် ပြုကြကုန်လော့၊ ကိုးကွယ်ကြကုန်လော့။ တခြားဘာကိုမျှ မကိုးကွယ်ကြကုန်လင့်"

ပုဂ္ဂိုလ် ကိုးကွယ်မှုထက် တရားရေးရာ ကိုးကွယ်ရေးကို အလေးထားရန် မိန့်ကြားတော်မူလိုက်ခြင်း ဖြစ်ပေသည်။

နှာလန်ထစမို့ တိုးတိုးသက်သာ ဟောကြားခဲ့သော ဤအချက်သည် သာသနာတော်ကြီး တစ်ခုလုံးအတွက် အရေးအပါဆုံးပါပေတည်း။

**(သုတ်မဟာဝဂ်၊ မဟာပရိနိဗ္ဗာနသုတ် ဝေဠုဝရွာမှာ ဝါဆိုစန်း၊ ပါဠိတော်နှင့် အဋ္ဌကထာ)**

**

# သိမ့်သိမ့်တုန်သော ထိုတစ်နေ့

ထိုနေ့ကား မဟာသက္ကရာဇ် ၁၄၇ ခုနှစ်၊ တပို့တွဲလပြည့်နေ့။ ကျွန်ုပ်၏ တစ်သက်တာတွင် စိတ်နှလုံး အတုန်လှုပ်ရဆုံးနေ့၊ အချောက်ချားရဆုံးနေ့။

ထိုနေ့က အကြောင်းခြင်းရာများကို ယခု ကျွန်ုပ်၏ ပရိသတ်များကို တင်ပြရာတွင် အစီအစဉ် ကျကောင်းကျပါလိမ့်မည်။ ပီပီပြင်ပြင် ဖြစ်ကောင်း ဖြစ်ပါလိမ့်မည်။ သို့ရာတွင် တကယ်တမ်းကြုံတွေ့နေတုန်းကတော့ ကျွန်ုပ်၏ စိတ်ထဲမှာ ဘာအစီအစဉ်မှလည်း ပီပီပြင်ပြင် မရှိခဲ့ပါ။ အတွင်းအပြင် စိတ်ခံစားရမှု ဟူသမျှ ရောထွေးလှုပ်ရှား၍သာ နေကြပေသည်။

လှုပ်ရှားနေသော အာရုံ အားလုံးအပေါ် လွှမ်းခြုံနေသည်မှာ ကျွန်ုပ်ချစ်မြတ်နိုးသော နောင်တော်မြတ် ဖြစ်၏။ ကျွန်ုပ်၏ မျက်စိရှေ့မှာ ရှိနေသည် ဖြစ်စေ၊ မျက်ကွယ်မှာ ရှိနေသည်ဖြစ်စေ၊ ကျွန်ုပ်၏ နောင်တော်မြတ်သည် ကျွန်ုပ်နှင့် မကင်းကွာပါ။ ကျွန်ုပ်၏ စိတ်ဘဝင်မှာ အရိပ်ထင်လျက်သာ ရှိပေသည်။

နောင်တော်မြတ်၏ ကိုယ်ခန္ဓာကို ရောဂါဝေဒနာတွေ နှိပ်စက်နေစဉ်တုန်းက ကျွန်ုပ်မှာ ဆောက်တည်ရာ မရနိုင်ခဲ့ပါ။ ရောဂါဝေဒနာများမှ ထမြောက်လာပြန်တော့လည်း နောက်တစ်ခါ ဖြစ်လာဦးမည်လောဟုရင်ထဲမှာ တထိတ်ထိတ်။ သို့သော် ဝေဠုဝရွာ တဲကျောင်းကလေးမှ ပြောင်းလာခဲ့သည့် တိုင်အောင် ထိုရောဂါ ဝေဒနာ မပေါ်လာကြတော့ပါ။ ဖလသမာပတ် ဝင်စားနေ၍ ဖြစ်ပါလိမ့်မည်။

သီတင်းဝါလကျွတ်၍ ခြေခင်းလက်ခင်း သာယာသည်တွင် ကျွန်ုပ်တို့သည် ဝေဠုဝရွာမှ ထွက်ခွာလာခဲ့ကြ၏။ ဝါတွင်းတုန်းက ခွဲခွာနေခဲ့သော ရဟန်းများနှင့် ပြန်လည် ပေါင်းဆုံမိကာ ခါတိုင်းနှစ်များကဲ့သို့ပင် နောင်တော်မြတ်၏ နောက်တော်ပါးမှ တသီတတန်းကြီး လိုက်ပါကြပြန်ပါ၏။ ရောက်လေရာရာ အရပ်တိုင်းမှာပင် အရှင်ကောင်းများနှင့် ဘိက္ခုနီ အရှင်မများ ကွယ်လွန်သောသတင်းကို ဆက်ကာ ဆက်ကာ ကြားခဲ့ရပေသည်။ သိပ်ေဟာင်း ကျွမ်းဟောင်းများနှင့် တစ်ကျော့တစ်ဖန်

ပြန်လည် ဆုံစည်းရ၍ ဝမ်းသာရသည်က တစ်ဖက်၊ သွားလေသူများအတွက် ဝမ်းနည်းရသည်က တစ်ဖုံ။ လူတိုင်းလိုလို တွေ့ကြုံရသော ဤလောကဓံသည် ချစ်ခင်တွယ်တာတတ်လွန်းသော ကျွန်ုပ်အဖို့ ပိုမို၍ အလေးချိန်စီးနေပေသည်။

ဝမ်းနည်းဝမ်းသာ ဝေဒနာနှစ်မျိုးကို တစ်လှည့်စီခံစားရင်း အမြို့မြို့ အရွာရွာသို့ ရောက်ခဲ့ရ၏။ ရက်လများစွာ ကျော်လွန်လာခဲ့၏။ ဤသို့ဖြင့် ကျွန်ုပ်၏ စိတ်နှလုံး အချောက်ချားရဆုံးသောနေ့သို့ ဆိုက်ရောက်လာရခြင်း ဖြစ်ပေသည်။

ထိုနေ့နံနက်က ဘုရားရှင်သည် ဝေသာလီမြို့တော်တွင်းသို့ ဆွမ်းခံကြွတော်မူ၏။ ကျွန်ုပ်တို့တစ်တွေလည်း နောက်တော်ပါးမှ လိုက်ပါကြ၏။ ကျွန်ုပ်တို့အလာကို အရန်သင့် စောင့်ကြိုနေကြသော ဒါယကာ၊ ဒါယိကာမများက မြိန်မြတ်သော ဆွမ်းဘောဇဉ်များ လောင်းလှူကြ၏။ ကျောင်းတော်၌ ဆွမ်းကိစ္စများ ပြီးစီးသောအခါ ဘုရားရှင်က–

"အာနန္ဒာ၊ သားရေနေယ်ကို ယူခဲ့လော့၊ နေ့လယ်ခင်းမှာ အပန်းဖြေနေထိုင်ရန် စာပါလနတ်ကွန်းသို့ သွားကြကုန်အံ့"

"ကောင်းပါပြီ အရှင်ဘုရား"

ချမှတ်လိုက်သော အမိန့်တော်မြတ်နှင့်အညီ ကျွန်ုပ်ကလည်း လိုက်နာဆောင်ရွက်ရပါသည်။

သာသနာတော်မပေါ်ထွန်းခင်က မိရိုးဖလာ ကိုးကွယ်လာခဲ့ကြသော နတ်ကွန်းများသည် ရာဇဂြိုဟ်မြို့တော်ဝန်းကျင်မှာလည်း ရှိကြ၏။ ဤဝေသာလီမြို့တော်ဝန်းကျင်မှာလည်း ရှိကြ၏။ သူတို့ အလေးအမြတ်ပြုကြသော နတ်များဖြစ်သဖြင့် နတ်ကွန်းတည်ဆောက်ရာတွင် နေရာကောင်းကောင်းကိုမှ ရွေးချယ်၍ ဆောက်ထားကြ၏။ နတ်ကွန်းပတ်လည်တွင် ရေတွင်းသော်လည်းကောင်း၊ ရေကန်သော်လည်းကောင်း ရှိနေတတ်၏။ စိမ်းလန်းစိုပြည်သော ဥယျာဉ်များ ခြံရံထားတတ်၏။ သာသနာတော် ပေါ်ထွန်းလာပြီးနောက် နတ်ကိုးကွယ်မှုများ လျော့ပါးသွားသော်လည်း ဆောက်ထားခဲ့သော နတ်ကွန်းများကား အကျိုးမဲ့ မဖြစ်ကြပါ။ စိတ်နှလုံးမွေ့လျော်ဖွယ်ကောင်းလှသော ဤနတ်ကွန်းများသည် ကျွန်ုပ်တို့၏ ကျောင်းသင်္ခမ်းများ ဖြစ်လာကြပေသည်။ ပရိသတ်အမြောက်အမြားနှင့် အစဉ်ထာဝရနေ၍ မဖြစ်သော်လည်း တစ်ပါးကောင်း နှစ်ပါးကောင်းဖြင့် နေခိုရန်အတွက်ကား သင့်မြတ်လှပါပေသည်။

အေးချမ်းသာယာလှသော နတ်ကွန်းထက်တွင် အသင့် ဆောင်ယူလာသော သားရေနေယ်ကို ခင်းပေးပြီးနောက် ကျွန်ုပ်သည် အနီးမှ တစ်နေရာမှာ ထိုင်လိုက်၏။ အချိန်ရှိသမျှ ဖူးမြင်လာခဲ့ရသော ကိုယ်တော်မြတ်ကို အမြတ်တနိုး ဖူးမြော်နေမိ၏။

ထိုစဉ်ခိုက်မှာပင် ရှေ့နှုတ်တော်ကြာကုမုဒ်မှ 'အာနန္ဒာ' ဟု ထုတ်ဟတော်မူလိုက်၏။ ဤသို့ ထုတ်ဟသံကြားလျှင် ကျွန်ုပ်လည်း 'အရှင်ဘုရား' ဟု အလိုက်သင့် ပြန်ထူးနေကျ ဖြစ်ပါသည်။ သို့သော် ထိုနေ့က မည်သို့မည်ပုံ ဖြစ်နေသည် မသိပါ။ နောင်တော်မြတ်၏ခေါ်သံကို နားက ကြားပါလျက် ကျွန်ုပ်က ပြန်လည်၍ မထူးခဲ့မိပါ။ နောင်တော်မြတ်၏ မျက်နှာတော်ကိုသာ တငေးတမော ဖူးမြော်နေမိပါသည်။

ကျွန်ုပ်၏ ထူးသံ ထွက်ပေါ်မလာသော်လည်း နောင်တော်မြတ်ကတော့ ဆက်လက်၍ မိန့်ကြားတော်မူပေသည်။

"အာနန္ဒာ၊ ဝေသာလီမြို့တော်သည် မွေ့လျော်ဖွယ်ကောင်း၏။ ဥဒေန နတ်ကွန်းသည် မွေ့လျော်ဖွယ်ကောင်း၏။ ဂေါတမက နတ်ကွန်းသည် မွေ့လျော်ဖွယ်ကောင်း၏။ သတ္တမ္ဗ နတ်ကွန်းသည် မွေ့လျော်ဖွယ်ကောင်း၏။ ဗဟုပုတ္တ နတ်ကွန်းသည် မွေ့လျော်ဖွယ်ကောင်း၏။ သာရန္ဒဒနတ်ကွန်းသည် မွေ့လျော်ဖွယ်ကောင်း၏။ စာပါလနတ်ကွန်းသည် မွေ့လျော်ဖွယ်ကောင်း၏"

ဝေသာလီမြို့တော်တစ်ဝိုက်မှ အေးချမ်းသာယာလှသော နတ်ကွန်းများဖြင့် စကားပျိုးတော်မူလိုက်ပါသည်။

ထိုနတ်ကွန်းများမှာလည်း အခါအားလျော်စွာ ကျွန်ုပ်တို့ နေခိုခဲ့ဖူးပါသည်။ နေခိုသည့်အခါတိုင်းမှာလည်း ဤသို့စကားပျိုးတော်မူကာ တစ်စုံတစ်ရာ မိန့်ကြားတော်မူခဲ့သည်သာ ဖြစ်ပါ၏။ မိန့်ကြားလေသမျှကို ကျွန်ုပ်၏ နားက ကြားပါ၏။ သို့သော် ကျွန်ုပ်၏ အသိဉာဏ်များက နိုးကြား၍ မလာကြပါ။ ဝေဖန်ပိုင်းခြားနိုင်သော အစွမ်းသတ္တိများ ထွက်ပေါ်မလာကြပါ။ ကျွန်ုပ် ကိုယ်တိုင် မသိနိုင်၊ မမြင်နိုင်သော စွမ်းအားတစ်ခုက ပိတ်ဆို့ထား၍ပင် ဖြစ်ပါလိမ့်မည်။

"အာနန္ဒာ၊ တစ်စုံတစ်ယောက်သော ပုဂ္ဂိုလ်သည် ဣဒ္ဓိပါဒ်လေးပါးကို ကောင်းစွာ ပွားများလာခဲ့၏။ ကြိမ်ဖန်များစွာ အလေ့အလာ ပြုလာခဲ့၏။ အသင့်ပြင်ဆင်ထားသော ယာဉ်ကဲ့သို့ ပြုလာခဲ့၏။ တည်ရာမြေကြီးကဲ့သို့ အားကိုးတစ်ခု ပြုလာခဲ့၏။ ဆောက်တည်လာခဲ့၏။ ထိုသူသည် အလိုရှိသော် သက်တမ်းပြည့်အောင်သော် လည်းကောင်း၊ သက်တမ်းပြည့်ခါနီးအောင်သော် လည်းကောင်း နေနိုင်ပေရာ၏"

ကျွန်ုပ်တို့၏ လက်ရှိသက်တမ်းမှာ နှစ်ပေါင်း တစ်ရာဟု ပညာရှင်များ သတ်မှတ်ထားကြ၏။ ထို့ထက်ပို၍ အသက်ရှည်သူများ၊ ထိုသက်တမ်းကို မမီသူများ ရှိကြသည်သာ။ သို့သော် အသက်ရှည်သူနှင့် အသက်တိုသူတို့ကို ပျမ်းမျှ၍ ကြည့်လိုက်သော် သူတို့၏သက်တမ်းမှာ အနှစ်တစ်ရာပတ်ဝန်းကျင်မှာ ရှိနေကြပေသည်။ ဆန္ဒ၊ စိတ္တ၊ ဝီရိယ၊ ဝီမံသအားဖြင့် လေးပါးသော ဣဒ္ဓိပါဒ်တို့ကို ကောင်းစွာ

ပွားများပြီးသောသူသည် အကယ်၍ ရောဂါဝေဒနာ တစ်စုံတစ်ရာကြောင့် သက်တမ်းပြည့်အောင် နေရကိန်း မရှိတော့သော်လည်း ပွားများလာခဲ့သော ဣဒ္ဓိပါဒ်တန်ခိုးကြောင့် သက်တမ်းပြည့်အောင်နေနိုင်လာကြောင်း မိန့်ကြားတော်မူလိုရင်း ဖြစ်၏။

ဤသို့ သဘောပေါက်လာသည်မှာ နောက်ပိုင်းကျမှဖြစ်ပါသည်။ ကျွန်ုပ်၏ ရင်ထဲမှာ သော်က ပရိဒေဝတွေ ကင်းရှင်းသွားမှ ပြန်လည်စဉ်းစားရင်း အဖြေပေါ်လာခြင်း ဖြစ်ပါသည်။ တကယ်တော့ဖြင့် ဤကမ္ဘာမြေပြင်ဝယ် ဣဒ္ဓိပါဒ်လေးပါးကို အကောင်းဆုံး ပွားများလာခဲ့သူသည် ဘုရားရှင်သာ မဟုတ်ပါလော။ သည်တော့ သက်တမ်းတစ်ရာထိ နေထိုက်သူမှာ ဘုရားရှင်သာ ရှိတော့သည် မဟုတ်ပါလော။ သို့သော် ထိုနေ့တုန်းကတော့ ကျွန်ုပ်မှာ ဉာဏ်မပွင့်လင်းခဲ့ပါ။ ဤသို့ သိမ်သိမ်မွေ့မွေ့တွေး၍ အဓိပ္ပာယ်ဖော်ယူရန် မဆိုထားနှင့် သိသိသာသာ ထင်ထင်ရှားရှားကြီး မိန့်ကြားတော်မူသည်ကိုပင် မရိပ်မိနိုင်ခဲ့ပါ။

"အာနန္ဒာ၊ ငါဘုရားသည် ဣဒ္ဓိပါဒ်လေးပါးကို ကောင်းစွာ ပွားများလာခဲ့၏။ ကြိမ်ဖန်များစွာ အလေ့အလာ ပြုလာခဲ့၏။ အသင့်ပြင်ဆင်ထားသော ယာဉ်ကဲ့သို့ ပြုလာခဲ့၏။ တည်ရာမြေကြီးကဲ့သို့ အားကိုးတစ်ခု ပြုလာခဲ့၏။ ဆောက်တည်လာခဲ့၏။ ငါဘုရားသည် အလိုရှိသော် သက်တမ်းပြည့်အောင်သော်လည်းကောင်း၊ သက်တမ်းပြည့်ခါနီးအောင်သော်လည်းကောင်း နေနိုင်ပေရာ၏"

မည်မျှလောက် သိသာပေါ်လွင်လိုက်ပါသနည်း။ "အာနန္ဒာ၊ ငါဘုရားကို သက်တမ်းတစ်ရာပြည့်အောင်နေဖို့ သင် တိုက်တွန်းပါလော့" ဟု မမိန့်ကြားရုံမျှ ရှိတော့၏။ သို့ပါလျက် ကျွန်ုပ်မှာ နည်းနည်းကလေးမျှ မရိပ်စားမိခဲ့။ ဒေသနာတော် အမြောက်အမြားကို နှုတ်တက်ရွရွ ရွတ်ဖတ်လာခဲ့သော ဝေဖန်ပိုင်းခြား၍ ဟောကြားလာခဲ့သော ကျွန်ုပ်၏ နှုတ်ခမ်းနှစ်လွှာသည် ခွဲခွာ၍ မရနိုင်အောင် ဖြစ်နေကြ၏။ ကျွန်ုပ်၏ စိတ်သန္တာန်မှာ ဘာတစ်ခုကိုမျှ တွေးခေါ်စဉ်းစား၍ မရနိုင်အောင် တစ်စုံတစ်ရာက ပိတ်ဆို့ထားသကဲ့သို့ ခံစားနေ၏။ ကျွန်ုပ်၏ ပတ်ဝန်းကျင် မြင်ကွင်းအားလုံးမှာလည်း နေဝန်းကြီးတစ်ခုလုံးကို ရာဟု ဖမ်းထားသကဲ့သို့သာ ထင်မြင်နေ၏။ ကြည့်လေရာရာတွင် လှုပ်လှုပ်ရှားရှားနှင့် မှုန်တရီ ဝိုးတဝါးသာ ဖြစ်နေရ၏။

"အာနန္ဒာ၊ သင် သွားလိုရာ သွားပေတော့"

ကျွန်ုပ် တွေဝေငေးမောနေဆဲတွင် ဘုရားရှင်က ပြတ်သားစွာ မိန့်တော်မူလိုက်ပါချေပြီ။

ထိုနေ့က ကြားလိုက်ရသော ဤစကားတစ်ခွန်းသည် ကျွန်ုပ်၏ အသည်းဆိုင်ကို ဆွဲကိုင် လှုပ်ယမ်းလိုက်သကဲ့သို့ ဖြစ်ပါ၏။ တစ်သက်နှင့် တစ်ကိုယ် ဤတစ်ကြိမ်သာ ကြားရဖူး၏။ ကိုယ်တော်မြတ်၏ စိတ်အလိုတော်ကို သိ၍

လိုလေသေးမရှိ ပြုစုလုပ်ကျွေးလာရာတွင် ဤသို့ နှင်ထုတ်ခံရသည်အထိ ကျွန်ုပ် မနေခဲ့ဖူးပါ။ လိုအပ်သမျှသော ပြုစုဖွယ်ကိစ္စများပြီးလျှင် ကျွန်ုပ်ဘာသာ အလိုက်တသိ ထွက်လာခဲ့၍ ဖြစ်ပေသည်။ ယခုတော့ ဤလိုသိတတ်မှုမျိုးတွေ သုဉ်းဆိတ်နေသဖြင့် ရွှေနှုတ်တော်မှ ထုတ်ဟ၍ နှင်တော်မူလိုက်ပါချေပြီ။

ဤမိန့်ခွန်းတော်ကို ကျွန်ုပ် မည်သို့မျှ စောဒကမတက်ဝံ့ပါ။ ပြန်လည် လျှောက်ထား၍ အသနားခံရန်လည်း စိတ်မရဲပါ။ ရှင်တော်မြတ်နားမှာ ကျွန်ုပ် ခစားနေစဉ်တွင် စစ်တပ်အင်အား ကြီးမားလှသော မင်းဧကရာဇ်များလည်း ရောက်လာတတ်ကြ၏။ စုပေါင်းအုပ်ချုပ် မင်းလုပ်နေကြသူများလည်း ရောက်လာတတ်ကြ၏။ အရှိန်အဝါကြီးမားလှသော ဗြာဟ္မဏ ပညာရှင်ကြီးများလည်း ရောက်လာတတ်ကြ၏။ ရွှေရောင်ငွေရောင်တောက်ပြောင် ဝင့်ကြွားသော သူဌေးကြီးများလည်း ရောက်လာတတ်ကြပါ၏။ သူတို့ သူတို့တစ်တွေ၏ အင်အားဟူသမျှ ပေါင်းစုထားသော်လည်း ကျွန်ုပ်ကို ထံတော်ပါးမှ ရွေ့လျားအောင် စွမ်းနိုင်ကြမည် မဟုတ်ပါ။ ယခုတော့ ရှင်တော်မြတ်၏စကားတစ်ခွန်းဖြင့်ပင် ကျွန်ုပ်မှာ ထံတော်ပါးမှ ထွက်ခွာလာခဲ့ရပါပြီ။ "ကောင်းပါပြီ အရှင်ဘုရား" ဟု လျှောက်ထားကာ လွတ်ရာကျွတ်ရာ ထွက်လာခဲ့ရပါတော့သည်။

အမိန့်တော်မြတ်ကို မလွန်ဆန်သာ၍ လွတ်ရာကျွတ်ရာ ထွက်လာခဲ့ရသော်လည်း တကယ့် အဝေးအလံသို့ကား မသွားနိုင်ပါ။ နောင်တော်မြတ်အတွက် လိုအပ်ချက်တစ်စုံ ရှိလာလျှင် အရန်သင့်ရှိလောက်သောနေရာကိုသာ ရွေးချယ်ထားရပါသည်။

သည်တုန်းက ကျွန်ုပ်၏ လှုပ်ရှားသွားလာလေသမျှမှာ ယန္တရားစက် တပ်ဆင်ပေးထားသော အရုပ်မျှသာဖြစ်၏။ ကိုယ်ရောနှုတ်ရော လှုပ်ရှားနေရသော်လည်း စိတ်အသိကား မပါခဲ့ပါ။ အရိပ်အာဝါသကောင်းသော သစ်ပင်ရိပ်မှာ ထိုင်မိသည်အထိ တွေဝေငေးမောလျက်သာ ရှိနေမိ၏။

တွေတွေဝေဝေ ငေးငေးမောမောဖြင့် မည်မျှကြာအောင် နေခဲ့မိသည် မသိပါ။ ရုတ်တရက် ထွက်ပေါ်လာသော တော်လဲသံကြီးကြောင့် ကျွန်ုပ် ထိတ်လန့်တကြား ဖြစ်သွားရပါတော့သည်။ တော်လဲသံကြီးနှင့် မရှေးမနှောင်းပင် မဟာပထဝီမြေကြီးကလည်း သိမ့်သိမ့်ခါအောင် တုန်လှုပ်၏။ လျှပ်စီးကြောင်းများကလည်း မျက်စိကျိန်းအောင် တောက်ပလွန်းလှ၏။ လျှပ်စီးကြောင်းများ နောက်မှ ပေါ်ထွက်လာသော မိုးချုန်းသံများကလည်း နားကွဲမတတ် မြည်ဟိန်းလွန်းလှ၏။

ထိတ်လန့်တကြား ခံစားရသည်များနှင့်အတူ ကျွန်ုပ်၏ အသိစိတ်များ နိုးကြားလာပါသည်။ သတိသမ္ပဇဉ်တို့ ပြန်လည် ယှဉ်ကပ်လာကြပါသည်။

သို့ဖြစ်၍ ကျွန်ုပ်သည် ဒါတိုင်းလိုပင် ရှင်တော်မြတ်ထံပါးသို့ ဝင်ရောက်ပြီးလျှင်

"အရှင်ဘုရား၊ အံ့ဩဖွယ် ရှိပေစွ၊ မဖြစ်ဖူးမြဲထူးကဲပေစွ၊ မြေတစ်ပြင်လုံး တုန်လှုပ်ခြင်းသည် ပြင်းထန်လှပါဘိ၏။ အလွန့်အလွန် ပြင်းထန်လှပါဘိ၏။ ကြောက်မက်ဖွယ်ရာ ကောင်းလှပါဘိ၏။ ကြက်သီးမွေးညင်း ထလောက်ပါဘိ၏။ အချိန်အခါမဟုတ်ဘဲ ပေါ်ပေါက်လာသော လျှပ်စီးကြောင်းများကလည်း မျက်စိကျိန်းလောက်အောင် တောက်ပလွန်းလှပါဘိ၏။ လျှပ်စီးကြောင်းနောက်က ပေါ်ထွက်လာသော မိုးချုန်းသံကြီးများကလည်း နားကွဲမတတ် မြည်ဟိန်းလှပါဘိ၏။ ဤသို့ မြေကြီးတုန်လှုပ်ခြင်း အကြောင်းကို မိန့်ကြားတော်မူပါဘုရား"

ကျွန်ုပ် လျှောက်ထားသော စကားများ၌ အပိုအမို ချဲ့ထွင်ခြင်း မရှိပါ။ အဟုတ်တကယ် ကြောက်မက်ဖွယ်ရာ ကောင်းလှ၍ လျှောက်ထားခြင်းသာဖြစ်၏။ တောထဲတောင်ထဲမှာလည်း ဖြစ်နေပြန် ရှင်တော်မြတ်၏ မျက်ကွယ်ရာမှာလည်း ဖြစ်နေပြန်သဖြင့် ကျွန်ုပ်၏ ကြောက်စိတ်များ အလွန့်အလွန် ကြီးမားနေခဲ့၏။ ကျွန်ုပ်၏ တစ်သက်တာတွင် မကြုံစဖူး ထူးကဲစွာ စိတ်နှလုံးချောက်ချားခဲ့ရခြင်း၏ အကြောင်းကို မေးလျှောက်၍ ပြီးချိန်တွင်ကား ထို့ထက်ပို၍ ချောက်ချားရပါတော့သည်။

"အာနန္ဒာ၊ အချိန်များစွာ မကြာမီ ဤနေ့မှ နောက်သုံးလမြောက်လျှင် ငါဘုရား ပရိနိဗ္ဗာန်ပြုတော့မည်။ ဤ စာပါလနတ်ကွန်း၌ နေထိုင်စဉ်မှာပင် ငါဘုရားသည် သတိထင်စွာ ဉာဏ်သမ္ပဇဉ် ကြည်လင်လျက် အာယုသင်္ခါရကို စွန့်လွှတ်လိုက်ပေပြီ"

ဘုရားရှင်က ပြန်လည်မိန့်ကြားတော်မူရာတွင် ကြောင်းခြင်းရာတွေ တော်တော်ကြီး စုံလင်လှ၏။ အကြောင်းခြင်းရာတွေ များပြားနေသဖြင့် တော်တော်ကြီး ရှည်လျားအောင် မိန့်ကြားတော်မူရ၏။ သို့သော် ကျွန်ုပ်၏ စိတ်နှလုံးကို အထိခိုက်ဆုံးကား အထက်ပါစကားစုများသာ ဖြစ်ပေသည်။ ဤစကားစုများကြောင့် ဝေဠုဝရွာမှာတုန်းက ခံစားခဲ့ရသော ဝေဒနာများ တစ်ကျော့တစ်ဖန် ပေါ်လာကြပြန်ပါသည်။ ထိုစဉ်တုန်းက ရဟန်းသံဃာကို မပန်ကြားသေးဘဲ ဘုရားရှင် ပရိနိဗ္ဗာန် ပြုဦးမည် မဟုတ်ဟု ကိုယ့်စိတ်ကို ဖြေခွင့်ရသေး၏။ သက်သာ ခွင့်ကလေး ရှာနိုင်သေး၏။ ယခုတော့ ဤအခွင့်အရေးကလေးပါ ဆုံးရှုံးသွားရပါချေပြီ။ ဘုရားရှင်က ပရိနိဗ္ဗာန်ပြုမည့်ရက်အထိ အတိအကျ မိန့်ကြားလိုက်ပြီ မဟုတ်ပါလား။ အာယုသင်္ခါရကို စွန့်လွှတ်လိုက်ပြီ မဟုတ်ပါလား။

အာယုသင်္ခါရ ဟူသည်မှာ ဖလသမာပတ် ဝင်စားခြင်းကို ဆိုလို၏။ အသက်ဇီဝိန် ပြတ်စဲမသွားစေရန် ပြုပြင်စီရင်နိုင်စွမ်းရှိသော သဘောကြောင့် ဤအမည်ကို

ပေးထားရ၏။ အမှန်အားဖြင့် ဝေဠုဝရွာမှာတုန်းကခံစားရသော ရောဂါဝေဒနာသည် အသက်ပါသွားနိုင်လောက်အောင် ပြင်းထန်လှ၏။ သို့သော် ဘုရားရှင်က တစ်စုံတစ်ခုသော ရည်မှန်းချက်ဖြင့် ထိုရောဂါဝေဒနာကို ဖလသမာပတ် ဝင်စားခြင်းဖြင့် တွန်းလှန်ခဲ့၏။ ထို့နောက်လည်း ဆက်ကာ ဆက်ကာ ဖလသမာပတ် ဝင်စားခြင်းဖြင့် ရောဂါဝေဒနာကို ဟန့်တားထားခဲ့၏။ ဤသို့ရောဂါကို ဟန့်တားနိုင်စွမ်းရှိသော ဖလသမာပတ်ကို ဤနေ့မှ နောက်သုံးလမြောက်အထိသာ ဝင်စားတော့မည်။ သည့်ထက်ပို၍ မဝင်စားတော့ဟု စိတ်ပိုင်းဖြတ်တော်မူလိုက်၏။ ဤသည်ကို အာယုသင်္ခါရ စွန့်လွှတ်ခြင်းဟု ကျွန်ုပ်တို့ နားလည်ကြပေသည်။

ဤသို့သာ မစွန့်လွှတ်သေးပါလျှင် ဘုရားရှင်သည် သက်တမ်း တစ်ရာထိ ပြည့်မီအောင် နေတော်မူသွားနိုင်မည် ဖြစ်၏။ ဣဒ္ဓိပါဒ်လေးပါးကို အကောင်းဆုံး ပွားများတော်မူခဲ့သော ဘုရားရှင်အဖို့ ဖလသမာပတ် ဝင်စားရန်လည်း အခက်အခဲ လုံးဝ မရှိနိုင်ပါ။ ဤအကြောင်းကို စောစော တစ်ခဏကပင် မိန့်ကြားတော်မူခဲ့သေး၏။ သည်တုန်းကသာ ဤသို့သတိရလျှင် ကောင်းလေစွ။ သို့သော် ယခုလည်း အချိန် မနှောင်းသေးပါ။ လျှောက်ထားလျှင် ရနိုင်လောက်ပါသေးသည်။ ထို့ကြောင့်

"အရှင်ဘုရား၊ လူအများစု၏ အစီးအပွားအလို့ငှာ လူများစု၏ ချမ်းသာသုခအလို့ငှာ၊ လောကကို အစဉ်သနားခြင်းငှာ ဘုန်းတော်ကြီးသော ဘုရားရှင်သည် သက်တမ်းပြည့်အောင် တည်နေတော်မူပါလော့။ ကောင်းသော စကားကို ဆိုတော်မူတတ်သော ဘုရားရှင်သည် သက်တမ်းပြည့်အောင် တည်နေတော်မူပါလော့"

"အာနန္ဒာ၊ ယခုမှ ငါဘုရားကို လာ၍ မလျှောက်ထားနှင့်လော့။ ယခု လျှောက်ထားရန် မဟုတ်တော့ပြီ"

မျှော်လင့်ချက်ကြီးမားစွာဖြင့် ကျွန်ုပ် လျှောက်ထားသည်ကို ဘုရားရှင်က ပြတ်ပြတ်တောက်တောက်ပင် ပယ်ချလိုက်ပါတော့သည်။ သို့သော် ကျွန်ုပ်ကလည်း ဤမျှဖြင့် လက်လျှော့တတ်သူ မဟုတ်ပါ။ အင်မတန်မှ ခက်ခဲလှသော ကိစ္စကြီးများကိုပင် မရ ရအောင် လျှောက်ထားခဲ့ဖူးပြီမို့ တစ်ကြိမ်မရလျှင် နှစ်ကြိမ်ထပ်၍ လျှောက်ရပါသည်။ နှစ်ကြိမ်တိုင်အောင် အရေးနိမ့်ပြန်တော့လည်း သုံးကြိမ်ထိအောင် လျှောက်ထားရပြန်ပါသည်။ ဤတစ်ကြိမ်မှာမူ ဘုရားရှင်က ယခင်လို မိန့်ကြားတော်မမူတော့ဘဲ

"အာနန္ဒာ၊ သင်သည် မဂ်လေးတန်ကို ထိုးထွင်းသိမြင်သော ငါ ဘုရား၏ ဗောဓိဉာဏ်ကို ယုံကြည်ပါ၏လော"ဟု မေးခွန်းထုတ်တော်မူရာ

"ယုံကြည်ပါသည် အရှင်ဘုရား"

"အာနန္ဒာ၊ ထိုသို့ ယုံကြည်လျက် သင်သည် အဘယ့်ကြောင့် ငါ ဘုရားကို သုံးကြိမ်တိုင်တိုင် နှိပ်စက်၍ နေရပါသနည်း"

တစ်မျိုးလှည့်၍မေးလာသဖြင့် အားတက်သရော ဖြေကြားလိုက်ရာတွင် ဘုရားရှင်၏ ယတိပြတ် စကားကြောင့် ကျွန်ုပ် အားငယ်၍ သွားပါတော့သည်။

"အရှင်ဘုရား၊ တစ်စုံတစ်ယောက်သောပုဂ္ဂိုလ်သည် ဣဒ္ဓိပါဒ်လေးပါး ကို ကောင်းစွာ ပွားများလာခဲ့၏။ ကြိမ်ဖန်များစွာ အလေ့အလာ ပြုလာခဲ့၏။ အသင့်ပြင်ဆင်ထားပြီးသော ယာဉ်ကဲ့သို့ ပြုလာခဲ့၏။ ရပ်တည်ရာ မြေကြီးကဲ့သို့ အားကိုးတစ်ခု ပြုလာခဲ့၏။ ဆောက်တည်လာခဲ့၏။ ထိုသူသည် အကယ်၍ အလိုရှိခဲ့သော် သက်တမ်းပြည့်အောင်သော်လည်းကောင်း၊ သက်တမ်းပြည့်ခါနီးအောင်သော်လည်းကောင်း နေနိုင်ပေရာ၏။

"ငါဘုရားသည် ဣဒ္ဓိပါဒ်လေးပါးကို ကောင်းစွာ ပွားများလာခဲ့၏။ ကြိမ်ဖန်များစွာ အလေ့အလာ ပြုလာခဲ့၏။ အသင့်ပြင်ဆင်ထားပြီးသော ယာဉ်ကဲ့သို့ ပြုလာခဲ့၏။ ရပ်တည်ရာ မြေကြီးကဲ့သို့ အားကိုးတစ်ခု ပြုလာခဲ့၏။ ဆောက်တည်လာခဲ့၏။ ငါဘုရားသည် အလိုရှိခဲ့သော် သက်တမ်းပြည့်အောင်သော်လည်းကောင်း၊ သက်တမ်းပြည့်ခါနီးအောင်သော် လည်းကောင်း နေနိုင်ပေရာ၏။ ဤသို့ မိန့်ကြားတော်မူသည်ကို တပည့်တော်သည် အရှင်ဘုရား၏ ထံတော်ပါးမှ ကြားနာခဲ့ရပါသည် အရှင်ဘုရား"

အားကိုးရာ မရှိတော့သည့်အဆုံးတွင် စောစောတစ်ခဏက မိန့်ကြားတော်မူခဲ့သော စကားများကို အကိုးအကား ပြုလိုက်ရပါ၏။ ဤတွင် ဘုရားရှင်က

"အာနန္ဒာ၊ ဤသို့ မိန့်ကြားခဲ့သည့်အတိုင်း မလွဲဧကန် ဖြစ်မည်ဟူ၍ သင် ယုံကြည်ပါ၏လော"

"ယုံကြည်ပါသည် အရှင်ဘုရား"

"အာနန္ဒာ၊ ဤမျှလောက် သိသိသာသာ ပေါ်ပေါ်လွင်လွင်ကြီး အရိပ် နိမိတ် ပြပါလျက် သင် မရိပ်မိခဲ့။ ငါဘုရားကို တောင်းပန်စကား မလျှောက်ထားခဲ့။ အကယ်၍ သင်ယုံကြည်သည့်အတိုင်း ထိုအချိန်က လျှောက်ထားခဲ့ပါလျှင် နှစ်ကြိမ်မျှသာ ပယ်လှန်ရာ၏။ သုံးကြိမ်မြောက်လျှင်ကား ငါဘုရား လက်ခံရပေတော့မည်။ ဤသို့ မလျှောက်ထားခဲ့ခြင်းသည်ပင်လျှင် သင့်အပြစ်၊ သင့်ချို့တဲ့ချက် ဖြစ်ပေတော့သည်။

"အာနန္ဒာ၊ ဤသို့သော အရိပ်နိမိတ်ပြစကားကို ဤနေရာ၌သာ ငါဘုရား မိန့်ကြားသည် မဟုတ်ပေ။ ရာဇဂြိုဟ်မြို့တော် ပတ်ဝန်းကျင်မှာလည်းကောင်း၊ ဝေသာလီမြို့တော် ပတ်ဝန်းကျင်မှာလည်းကောင်း၊ ကြိမ်ဖန်များစွာ မိန့်ကြားခဲ့ဖူး၏။

ဤမျှလောက် သိသိသာသာ ပေါ်ပေါ်လွင်လွင်ကြီး အရိပ်နိမိတ် ပြပါလျက် သင် မရိပ်မိခဲ့။ အကယ်၍ သင် ယုံကြည်ထားသည့်အတိုင်း ထိုအချိန်များက လျှောက်ထား ခဲ့ပါလျှင် နှစ်ကြိမ်မျှသာ ပယ်လှန်ရာ၏။ သုံးကြိမ်မြောက်လျှင်ကား ငါဘုရား လက်ခံရပေတော့မည်။ ဤသို့ မလျှောက်ထားခဲ့ခြင်းသည်ပင်လျှင် သင့်အပြစ်၊ သင့်ချို့တဲ့ချက် ဖြစ်ပေတော့သည်"

အားလုံး ကျွန်ုပ် အပြစ်၊ ကျွန်ုပ်၏ ချို့တဲ့ချက်များချည်း ဖြစ်နေပါတော့သည်။

ကျွန်ုပ်အပေါ် မေတ္တာ ကရုဏာ ကြီးမားတော်မူခဲ့သော ဘုရားရှင်က ကျွန်ုပ်၏ အပြစ်များကိုချည်း တစ်သီတစ်တန်းကြီး မိန့်ကြားတော်မူရာတွင် ကျွန်ုပ် အပေါ် ဖိစီးနှိပ်စက်လိုသော စိတ်သဘော လုံးဝ မပါနိုင်ပါ။ ဘုရားရှင် ပရိနိဗ္ဗာန် စံတော်မူတော့မည့်အရေးကြောင့် စိုးရိမ်ပူဆွေးရသော စိတ်ဝေဒနာများမှ သက်သာ ခွင့်ရစေရန် တစ်မျိုးလှည့်၍ ကုစားတော်မူခြင်းသာ ဖြစ်ပါလိမ့်မည်။

"အာနန္ဒာ၊ သင့်ကို ငါဘုရား စောစောကတည်းက ဟောထားခဲ့သည် မဟုတ်ပါလော။ ချစ်ခင်အပ်၊ မြတ်နိုးအပ်သောသူများနှင့် ရှင်ကွဲသော် လည်းကောင်း၊ သေကွဲသော်လည်းကောင်း ကွဲရမည်။ ဖောက်လွဲဖောက်ပြန် ဖြစ်ရတတ်သည်ဟု သတိပေးထားခဲ့သည် မဟုတ်ပါလော။ ဖြစ်သဘောရှိ၍ ပျက်တတ်သော တရား အစုကို မပျက်ပါစေနှင့်ဟု တောင့်တ၍ မရစကောင်းပေ"

ဤသို့ တရားချ၍ ဖျောင်းဖျပုံများကပင် ရှင်တော်မြတ်၏ မြင့်မြတ်သော ကရုဏာကို ဖော်ပြလျက် ရှိပေသည်။ အရှင်မဟာသာရိပုတ္တရာတို့ ပရိနိဗ္ဗာန် ပြုတုန်းကလည်း ဤတရားကို ကြားနာခဲ့ရ၏။ ယခုလည်း ကြားနာရပြန်ချေပြီ။ ချစ်ခင်မြတ်နိုးရသော ပုဂ္ဂိုလ်များနှင့် ခွဲခွာရလေတိုင်း ဤတရားကို သိထားကြရန် ဖြစ်ပါလိမ့်မည်။

"အာနန္ဒာ၊ ငါဘုရားသည် အာယုသင်္ခါရကို စွန့်လွှတ်ထားလိုက်ပြီ။ ဤ နေ့မှ နောက်သုံးလမြောက်သောအခါတွင် ပရိနိဗ္ဗာန်ပြုအံ့ဟု ဧကန်စကားကို မြွက်ကြားထားလိုက်ပြီ။ အသက်ရှင်လိုမှုကို အကြောင်းပြု၍ ငါဘုရားသည် ထို စကားကို ပြန်လည်ပြင်ဆင်မည် မဟုတ်တော့ပြီ။ ထွေးအန်စွန့်လွှတ်ထားပြီးသော အစာကို နောက်ထပ်တစ်ဖန် စားမျိုရန် မဖြစ်နိုင်တော့ပြီ"

ရှောင်လွှဲ၍ မရနိုင်သော သဘောတရားကို အသင့်အတင့် နှလုံးသွင်း ရန် ဟောကြားပြီးနောက် ဧကန် ပရိနိဗ္ဗာန်ပြုတော့မည့် အကြောင်းကို ထပ်လောင်း၍ အတည်ပြုတော်မူပေသည်။ ထိုမှ ဆက်လက်၍

"အာနန္ဒာ၊ ကူဋာဂါရကျောင်းတော်သို့ သွားကြစို့"

"ကောင်းပါပြီ အရှင်ဘုရား"

ကုဋာဂါရ ကျောင်းတော်သို့ ရောက်သောအခါ ဘုရားရှင် အမိန့်တော်ဖြင့် ဝေသာလီမြို့တော် ပတ်ဝန်းကျင်မှ ရဟန်းသံဃာအားလုံးကို ဆင့်ခေါ်လိုက်ရ၏။ ရဟန်းသံဃာအားလုံး စုံလျှင် ဘုရားရှင်သည် ကျွန်ုပ် ခင်းထားသော နေရာထက်၌ ထိုင်တော်မူကာ–

"ရဟန်းတို့၊ သီလ၊ သမာဓိ၊ ပညာ၊ သိက္ခာ သုံးပါး စုပေါင်းထားသော ဤသာသနာတော် အစွန့်ရှည်စွာတည်နိုင်စေရန် ငါဘုရားကိုယ်တော်တိုင် ထိုးထွင်းသိမြင်၍ ဟောကြားသော တရားများကို သင်တို့ ကောင်းမွန်စွာ သင်ကြားနာယူ၍ မှိဝဲကြကုန်လော့။ အကြိမ်များစွာ အလေ့အလာ ပြုကြကုန်လော့။ ဤသို့ပြုသဖြင့် သာသနာတော် အစွန့်ရှည်စွာ တည်နေလျှင် လူအများစု၏ အကျိုးစီးပွားဖြစ်လတ္တံ့။ ချမ်းသာသုခ ဖြစ်လတ္တံ့။ လောက ကို အစဉ်သနားခြင်း ဖြစ်လတ္တံ့။ ထိုတရားတို့သည် အဘယ်နည်းဟူမူကား သတိပဋ္ဌာန်လေးပါး၊ သမ္မပ္ပဓာန်လေးပါး၊ ဣဒ္ဓိပါဒ်လေးပါး၊ ဣန္ဒြေငါးပါး၊ ဗိုလ်ငါးပါး၊ ဗောဇ္ဈင်ခုနစ်ပါး၊ မဂ္ဂင်ရှစ်ပါးအားဖြင့် သုံးဆယ့်ခုနစ်ပါးသော ဗောဓိပက္ခိယတရားတို့ ဖြစ်ပေသည်"

ဤသာသနာတော်ကြီး အစွန့်ရှည်စွာ တည်တံ့နေနိုင်ရေးကို မိန့်ကြားတော်မူပြီးမှ ဆက်လက်၍

"ရဟန်းတို့၊ သတိပြု၍ နားဆင်ကြကုန်လော့။ ယခု သင်တို့အား အရေးကြီးသောစကားကို ငါဘုရား မိန့်ကြားတော်မူမည်။ ပြုပြင်မှုနှင့် မကင်းသော သင်္ခါရတရား ဟူသမျှတို့သည် ပျက်စီးခြင်းသဘော ရှိကုန်၏။ ဤသဘောကို မမေ့မလျော့သော သတိတရားနှင့် သင်တို့ ပြည့်စုံအောင် ဆောင်ရွက်ကြကုန်လော့။ အချိန်များစွာ မကြာမီ ဤနေ့မှ နောက်သုံးလမြောက်လျှင် ငါဘုရား ပရိနိဗ္ဗာန်ပြုတော့မည်"

တောအုပ်ထဲမှာတုန်းက မြေအပြင်လုံး သိမ့်သိမ့်တုန်သွားရသကဲ့သို့ စုဝေးလာကြသော ရဟန်းပရိသတ်ကြီးမှာလည်း သိမ့်သိမ့်ခါအောင် တုန်လှုပ်၍သွားရပေတော့သည်။

**(သုတ်မဟာဝဂ်၊ မဟာပရိနိဗ္ဗာနသုတ်၊ နိမိတ္တောဘာသကထာ၊ အာယုသင်္ခါရ ဩဿဇ္ဇန၊ အာနန္ဒာယာစနကထာ ပါဠိတော်နှင့် အဋ္ဌကထာ)**

**

# ကျွန်ုပ်၏ ချို့တဲ့ချက်များ

ကျွန်ုပ် ခံစားနေရသော သောကဝေဒနာများမှ သက်သာခွင့်ရစေရန် နောင်တော်မြတ်သည် ကျွန်ုပ်၏အပြစ်များကို တသီတတန်းကြီး မိန့်ကြားတော်မူခဲ့၏။ ကျွန်ုပ်၏ ချို့တဲ့ချက်များကို ထောက်ပြတော်မူခဲ့၏။ နောင်တော်မြတ်၏ ရည်မှန်းချက်အတိုင်းပင် မိမိ၏အပြစ်များကို မိမိဘာသာရှုမြင်ခြင်းဖြင့် သောကဝေဒနာတို့မှ အတန်အသင့် သက်သာခွင့်ရလာပါ၏။ နောင်တော်မြတ်အား ပြုစုလုပ်ကျွေးရန် တာဝန်များကို ဖြောင့်ဖြောင့်မှန်မှန် ထမ်းဆောင်လာနိုင်ပါ၏။ ဤသို့ထမ်းဆောင်ရင်း အားလပ်ခွင့်ရသော အချိန်များတွင် ကျွန်ုပ်၏ ချို့တဲ့ချက်များကို ဆက်လက်၍ သုံးသပ်မိပါသည်။

ရှင်တော်မြတ်၏ ဂုဏ်တော်အနန္တတွင် နတ္ထိဒဝါ၊ နတ္ထိရဝါ ဂုဏ်တော်နှစ်ပါးလည်း အပါအဝင် ဖြစ်၏။ ရယ်လို မြူးလို၍ အပြောင်အပြက် ပြောဆိုမှုမရှိခြင်း၊ သတိလက်လွတ်၍ အပြောအဆိုချွတ်ယွင်းမှု မရှိခြင်းဟု အဓိပ္ပာယ်ရ၏။ အပြောအဆိုများယွင်းချွတ်ချော်မှု မကင်းသူများအလယ်တွင် ထိုချွတ်ယွင်းမှုများ ကင်းစင်သော ဘုရားရှင်အား အထူးပြု၍ ဂုဏ်တင်ကြရခြင်း ဖြစ်ပေသည်။

သို့ဖြစ်၍ ဘုရားရှင်မှ လွဲလျှင် အပြောအဆို ချွတ်ယွင်းသည်သာ ဖြစ်၏။ လုပ်ကိုင်ဆောင်ရွက်ရာတွင်လည်း ထို့အတူ အမှားအယွင်းတွေ့နိုင်သည်သာဖြစ်၏။ ထိုပုဂ္ဂိုလ်အများစုတွင် ကျွန်ုပ်လည်း တစ်ပါးအပါအဝင် ဖြစ်ပေသည်။

လူတို့၏ အိမ်ထောင်မှုကိစ္စ ဟူသမျှကို စွန့်ပယ်ပစ်၍ မိမိဘာသာ တရားရှာနေကြသော ပရိဗိုဇ် ရဟန်းများသည် ရှေ့ပဝေသဏီ ကတည်းက ရှိနေကြ၏။ ပရိဗိုဇ် အမျိုးသမီးများလည်း ရှိကြသည်သာ။ ကျွန်ုပ်တို့ သာသနာတော်ကြီး မပေါ်ထွန်းခင်တုန်းကတော့ သူတို့၏ အရှိန်အဝါ ကြီးမားခဲ့ကြပါ၏။ ကျွန်ုပ်တို့ သာသနာတော် ပေါ်ထွန်းလာချိန်မှာကား သူတို့၏ အရှိန်အဝါ လျော့ကျသွားကြ

ရ၏။ စားဝတ်နေရေး ချို့တဲ့သွားကြရ၏။ သို့သော် တစ်ခုခက်သည်မှာ ဤမျှ လောက် ချို့တဲ့နေပါလျက်နှင့် သူတို့၏အယူအစွဲကို မစွန့်နိုင်သေးခြင်းပင်ဖြစ် ပေသည်။

စေ့စေ့တွေးကြည့်လိုက်တော့ သူတို့အဖြစ်က သနားစရာလိုလို၊ ရယ်စရာ လိုလို။ သူတို့သည် အယူဝါဒအားဖြင့် ကျွန်ုပ်တို့ အနတ္တဝါဒီများနှင့် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်လျက် ရှိကြ၏။ အယူဝါဒ မတူညီကြသည်နှင့် အမျှ ကျွန်ုပ်တို့၏ အပြစ် အနာအဆာများကိုမှ ကြံဖန်ပြောဆိုတတ်သူများ ဖြစ်ကြ၏။ သို့ပါလျက် သူတို့၏ ဝမ်းစာရေး အတွက်ကား ကျွန်ုပ်တို့ ကျောင်းတော်ဝသို့ ရောက်လာကြရပေသည်။

ကျွန်ုပ်တို့၏ ကုဋာဂါရ ကျောင်းတော်မှာ ဆွမ်းစားပြီးချိန်၌ စားစရာ တစ်ခုခုတော့ ပိုနေသည်သာဖြစ်၏။ ပိုနေသော စားစရာတို့ကို နောက်တစ်နေ့စာ အတွက် သိုမှီးသိမ်းဆည်းမထားဘဲ အားလုံး စွန့်ပစ်နေကျ ဖြစ်၏။ ထိုစဉ်တုန်းက ပိုလျှံသော စားစရာများ စွန့်ပစ်ရန်မှာ ကျွန်ုပ်တာဝန်ဖြစ်၍ စားသောက်၍ မကုန်သော မုယောမုန့်များကို ကုဋာဂါရကျောင်းတော်ဝသို့ သယ်လာခဲ့၏။ နေ့စဉ်နေ့တိုင်း လာ၍ တန်းစီစောင့်စားနေကြသော ပရိဗိုဇ်များအား မုန့်တစ်ခုစီ ဝေပေးလိုက်၏။ ကျွန်ုပ်ကတော့ ယောကျ်ား၊ မိန်းမ မခွဲခြားပါ။ တန်းစီနေကြ သူများအားလုံး စေ့စေ့ငငရပါစေဟုသာ သဘောထား၏။ သို့သော် မည်သို့မည်ပုံ သတိချွတ်ချော်သွားသည် မသိပါ။ တစ်ယောက် တစ်ခုစီ ဝေပေးနေသည့်ကြားမှ အရွယ်ကောင်းကောင်း သနားကမား ပရိဗိုဇ်မကလေးကိုမှ မုန့်နှစ်ခု ပေးမိလျက်သား ဖြစ်သွားရ၏။ စောစောကမှ နှုတ်သရမ်းလှသော ပရိဗိုဇ်မများသည် ကျွန်ုပ်နှင့် ပရိဗိုဇ်မကလေးကို မသမုတ်ဘဲ နေကြပါမည်လော။ ဤအရေးအခင်းကို အကြောင်း ပြု၍ အဝတ်မဆီးသော တက္ကဒွန်းများအား လည်းကောင်း၊ ပရိဗိုဇ်များအား လည်းကောင်း၊ စားစရာ မပေးရဟူ၍ ဘုရားရှင်က သိက္ခာပုဒ်ကို ပညတ်တော်မူခဲ့ရ ပေသည်။ (ပါစိတ်ပါဠိတော်၊ အစေလကသိက္ခာပုဒ်)

ဆက်လက် တင်ပြရမည့် ချို့တဲ့ချက်များလည်း ဝိနည်းပိဋကမှာ မှတ်တမ်း ဝင်ခဲ့ပြီး ဖြစ်ပါ၏။ တစ်ခါတုန်းက ကျွန်ုပ်သည် သီတင်းသုံးဖော်များနှင့် အတူ ရေချိုးခန်းမှာ ရေချိုးခဲ့၏။ အမြဲတမ်း အလုပ်အကျွေးတာဝန် ရပြီမို့ ကျွန်ုပ်မှာ သူများလို စိတ်ရှိလက်ရှိ ရေမချိုးနိုင်ပါ။ ဥတုသပ္ပါယ မျှတရုံမျှ ရေချိုးပြီးနောက် ကပ္ပာကသီ အပြီးသတ်ကာ တန်းပေါ်ရှိ သင်္ကန်းများထဲမှ သင်္ကန်း တစ်စုံကို ဝတ်၍ ထွက်လာခဲ့၏။ ယူဝတ်စဉ်တုန်းတော့ မိမိသင်္ကန်း အမှတ်နှင့် ဝတ်ခဲ့ခြင်းသာ ဖြစ်၏။ ရေချိုးအိမ်ထဲမှ ထွက်လာခါမှ မိမိသင်္ကန်းမဟုတ်မှန်း သိရ၏။ သိလျှင် သိချင်း ရေချိုးအိမ်သို့ ပြန်လာမည်ပြုစဉ် သင်္ကန်းရှင် ရဟန်းထွက်လာကာ—

"ငါ့ရှင် အာနန္ဒာ၊ အဘယ့်ကြောင့် ငါ့သက်န်းကို ဝတ်သွားပါသနည်း" ဟု မေး၏။

"အရှင်ဘုရား၊ တပည့်တော်၏ သက်န်းမှတ်၍ ဝတ်ခဲ့မိပါသည်"

မိမိထက် သီတင်းကြီးသော ပုဂ္ဂိုလ်ဖြစ်၍ ကျွန်ုပ်က ရိုသေစွာ ပြန်လျှောက်ရပါ၏။

လျှောက်ထားသည့်အတိုင်း မိမိစိတ်မှာ မရိုးသားသော စိတ်သဘော မပါသည်ကို ရဲရဲကြီး အာမခံနိုင်ပါ၏။ သို့သော် သတိတစ်ချက် ချွတ်ယွင်းမိခဲ့သည့်အတွက်ကား အမည်းစက် ထင်သွားချေပြီ။ ကျွန်ုပ် ရရှိထားသော တေဒင်္ဂဉာဏ်ထူးငါးမျိုးတို့တွင် သတိကောင်းခြင်း ဟူ၍ ပါဝင်ခဲ့ရာ ယခု သတိကောင်းသူက မှားယွင်းလိုက်သဖြင့် ပြောစရာဆိုစရာ ဖြစ်လာနိုင်ပေသည်။ အထူးသဖြင့် သက်န်းရှင်ရဟန်း၏ စိတ်ထဲမှာ သံသယရှင်းသွားဖို့ အရေးကြီးပေသည်။

ထို့ကြောင့် သက်န်းရှင်နှင့်တကွ အဖော်ရဟန်းများကိုပါခေါ်ယူကာ ဘုရားရှင့် ရှေ့တော်မှောက် ဝင်ရောက်၍ အကြောင်းစုံကို လျှောက်ထားရ၏။ ဤတွင် ဘုရားရှင်က "ရဟန်းတို့၊ မိမိဥစ္စာဟု ထင်မှတ်သော ရဟန်းအား အာပတ်မသင့်"ဟု အဆုံးအဖြတ် ပေးတော်မူပေသည်။

သတိ ချွတ်ယွင်းမှုကြောင့် နောက်တစ်မှု ပေါ်ခဲ့ရသည်မှာလည်း ဒုတိယ ပါရာဇိက သိက္ခာပုဒ်နှင့် သက်ဆိုင်နေပါ၏။ သည်တစ်ခါမှာတော့ ကျွန်ုပ်မှာ အစွပ်စွဲခံရသူ မဟုတ်တော့ဘဲ စွပ်စွဲသူ ဖြစ်ခဲ့ရပါသည်။ ကျွန်ုပ်၏ စွပ်စွဲမှုကို ခံရသူကား အရှင်အဓ္ဓုကပါတည်း။

ဝေသာလီမြို့တော်၌ အရှင်အဓ္ဓုက၏ ပစ္စည်းလေပါး ဒါယကာ သူဌေးကြီး ကွယ်လွန်ရာတွင် ကျန်ရှိရစ်သော ဥစ္စာအမွေများကို သားတစ်ယောက်လုံး အထင်အရှား ရှိနေပါလျက် လုံးဝ ခံစားခွင့်မရပေ။ သူဌေးကြီး၏ အမွေအားလုံးကို တူဖြစ်သူက ခံစားရ၏။ ရလာသော အမွေပစ္စည်းများကို တူဖြစ်သူကလည်း အလွဲသုံးစားမပြုပါ။ ရရှိထားသော ဥစ္စာစုကို အရင်းပြု၍ အရောင်းအဝယ်လုပ်၏။ အရင်းအနှီးရော၊ အရည်အချင်းပါ ပြည့်စုံသဖြင့် သူ့လုပ်ငန်းများ အောင်မြင်၏။ တရိုန်ရှိန်တရိပ်ရိပ် ပစ္စည်းများတိုးတက်လာ၏။ ပစ္စည်းဘက်က တိုးတက်လာသည်နှင့်အမျှ လှူရေးတန်းရေးဘက်လည်း စေတနာ ထက်သန်လှပါပေသည်။

သူဌေးကြီး၏ သားမှာကား သူနှင့် ဆန့်ကျင်ဘက် ဖြစ်၏။ အမွေဥစ္စာ တစ်ပြားတစ်ချပ်မျှ မရသဖြင့် သူ့ခမျာ ဆင်းရဲလှ၏။ စကတည်းက ရတနာသုံးပါးကို ဆည်းကပ်ခဲ့သူ မဟုတ်သဖြင့် လှူရေးတန်းရေးဘက်ကား ဝေဖန်စရာ မရှိပါချေ။

သို့ရာတွင် ထိုသူဌေးသားသည် ပစ္စည်းရေးအတွက်ကား ကျွန်ုပ်တို့ ကျောင်းတော်သို့ ရောက်လာခဲ့ပါ၏။ အမွေကြောင်းနှင့်စပ်သော စကားများ လျှောက်ထားလာပါ၏။

"အရှင်ဘုရား၊ သားနှင့်တူ နှစ်ယောက်ရှိသည့်အနက် အဘယ်သူသည် ဖခင်၏ အမွေခံ ဖြစ်ထိုက်ပါသနည်း"

အသံကြားရုံနှင့်ပင် တစ်ဖက်လူအပေါ် မကျေနိုင် မချမ်းနိုင် ဖြစ်နေသည်ကို သိနိုင်လောက်ပါသည်။ သို့သော် သူ့စိတ်သဘောက မည်သို့ပင်ရှိနေနေ အမွေခန်းအတွက်ကား ဟုတ်တိုင်းမှန်ရာ ပြောကြားရမည်သာ ဖြစ်၏။ အမွေခန်းနှင့် ပတ်သက်၍ ဘိုးစဉ်ဘောင်ဆက် လက်ခံကျင့်သုံးလာခဲ့သော ဓလေ့ထုံးက ရှိနေသဖြင့်

"ဒါယကာ၊ သားသည် ဖခင်၏ အမွေခံတည်း" ဟု ဖြေလိုက်ရ၏။

"အရှင်ဘုရား၊ အရှင်ဘုရားက လောကဓလေ့ထုံးနှင့်အညီ ဖြောင့်ဖြောင့်မှန်မှန် မိန့်ကြားပါသော်လည်း အရှင်အဇ္ဈကမူကား တပည့်တော် ရသင့် ရထိုက်သော အမွေစုကို တူဖြစ်သူသာ ခံစားစေဟု ဆုံးဖြတ်ခဲ့ပါပြီဘုရား"

ကျွန်ုပ်၏ စကားတစ်စကို အရအမိ ဆုပ်ကိုင်ကာ အရှင်အဇ္ဈကအား အစွမ်းကုန် ထိုးနှက်လိုက်ခြင်း ဖြစ်ပါ၏။ ဤအမွေကိစ္စတွင် အရှင်အဇ္ဈကသည် အချက်အချာ ဖြစ်နေလေရာ အရှင်အဇ္ဈကကို နာလန်မထူနိုင်အောင် ထိုးနှက်လိုက်လျှင် အားလုံးကိစ္စ သူ့အလိုကျ ဖြစ်လာရပေမည်။

ဤနေရာမှာလည်း ကျွန်ုပ်က မျက်နှာကြီးငယ် မလိုက်လိုပါ။ အရင်းအဖျား မရွေးချယ်လိုပါ။ ကြားသိခဲ့ရပြီးသော ကိစ္စများပေါ်မှာ အခြေပြုလျက် ဟုတ်တိုင်းမှန်စွာသာလျှင် ပြောကြားလိုပါသည်။ ထို့ကြောင့်

"ဒါယကာ၊ ဤသို့ဆိုလျှင် အရှင်အဇ္ဈက ရဟန်းမဟုတ်တော့ပြီ"

ဒုတိယ ပါရာဇိကသိက္ခာပုဒ်ဖြင့် အဒိန္နဒါနကံမြောက်ပြီဖြစ်ကြောင်း ပွင့်ပွင့်လင်းလင်း ပြောလိုက်ရ၏။ ပြောပြီးခါမှ ကျွန်ုပ်စိတ်ထဲမှာ သံသယဝင်လာရပေသည်။

ကျွန်ုပ် လေ့လာမိသမျှတွင် အရှင်အဇ္ဈကသည် ပစ္စည်းလာဘ်လာဘ မျက်နှာကို ကြည့်တတ်သူ မဟုတ်ပါ။ လူနိုင်တန်းနိုင်သူ တစ်ယောက်ယောက်ကို အသေကပ်၍ ပေါင်းသင်းတတ်သူ မဟုတ်ပါ။ သို့ပါလျက် ဤအမွေကိစ္စတွင် အဘယ့်ကြောင့် တူဖြစ်သူဘက်က လုံးလုံးလျားလျား လိုက်ပါပေးရပါသနည်း။

ကျွန်ုပ် အတွေးရခက်နေဆဲမှာပင် အရှင်အဇ္ဈက ကျွန်ုပ်ထံ ရောက်လာပါတော့သည်။ သူဌေးသားက အားပါးတရ ပြောသွားသည့်အတွက် ဖြစ်ပါလိမ့်မည်။

"အရှင်အာနန္ဒာ၊ တပည့်တော်၏အမှုကို အရှင်ဘုရား ကိုယ်တော်တိုင် ဆုံးဖြတ်ပေးပါဘုရား"

စိတ်သဘောထား ပြည့်ဝလှသော အရှင်အဇ္ဈုကက သူ၏ သေရေး ရှင်ရေး ကိစ္စကြီးကို ကျွန်ုပ်လက်သို့ အပ်နှံလာပါ၏။ မိမိအား သာသနာ့ဘောင်မှ ရွေ့လျော သွားအောင် ပြောကြားထားသော ပုဂ္ဂိုလ်တစ်ဦးဦးထံ ယုံယုံကြည်ကြည် အပ်နှံရဲသော စိတ်ဓာတ်မျိုးမှာ နှယ်နှယ်ရရ မဟုတ်နိုင်ပါ။

စောစောက ကျွန်ုပ် ရုတ်တရက် ပြောကြားခဲ့သည်မှာ အရှင်အဇ္ဈုက မျက်ကွယ်မှာ ဖြစ်၏။ ကျွန်ုပ်တို့ နှစ်ဦးချင်း ပြောကြားခဲ့ခြင်းဖြစ်၏။ သို့သော် ဤစကားက သံဃာ့ပရိသတ်ကြားသို့ ပြန့်ပွားသွားပြီ ဖြစ်၏။ ဤစကားကို ဝိနည်းတော်နှင့်အညီ ပြန်လည်သုံးသပ်ရပါတော့မည်။ ခြေခြေမြစ်မြစ် စစ်ဆေးရပါ တော့မည်။ အကယ်၍ အရှင်အဇ္ဈုကသည် တူဖြစ်သူဘက်သို့ ဆန္ဒာဂတိ လိုက်ပါ ခဲ့ရိုး မှန်လျှင်ကျွန်ုပ်ပြောခဲ့သည့်အတိုင်း သာသနာတော်မှ ရွေ့လျော့ရပေတော့မည်။ အကယ်၍ အခြားအကြောင်းများ ရှိနေသေးလျှင် ကျွန်ုပ်၏ စကားကို တရားဝင် ရုပ်သိမ်းရပါလိမ့်မည်။

တကယ်တော့ဖြင့် စောဒကပုဂ္ဂိုလ်ဟူသည် ဝိနိစ္ဆယအဆုံးအဖြတ်ပေးသူ မလုပ်ထိုက်ပါ။ သို့သော် ကာယကံရှင်ကိုယ်တိုင်က ထိုးအပ်ထားသဖြင့် ကျွန်ုပ် မငြင်းသာပါ။ ထို့ကြောင့် ဝိနည်းဆုံးဖြတ်ရာ ဓမ္မာသနပလ္လင်ထက်သို့ တက်ရပါ တော့သည်။ ဓမ္မာသန ပလ္လင်ထက်ကို တက်လာခါမှ ကျွန်ုပ်မှာ ဝိနည်းမိုရ်ပုဂ္ဂိုလ် မဟုတ်တော့ဘဲ စုဒိတကပုဂ္ဂိုလ် ဖြစ်သွားရပါတော့သည်။

"ငါ့ရှင် အာနန္ဒာ၊ ဥစ္စာရှင်က ကျန်ရစ်သော အမွေကို မည်သူ ခံစားပါစေဟု မှာထားခဲ့သဖြင့် မှာထားသည့်အတိုင်း သူငယ်ကို အမွေပေး ရာတွင် အမွေပေးသော ထိုရဟန်းအား အဘယ်အာပတ်သင့်ပါသနည်း"

ရဟန်း ပရိသတ်အလယ်မှာ မေးလိုက်ပေပြီ။ မေးသူကား ဝိနည်း ဇောဒဂ်ရ အရှင်ဥပါလိတည်း။ အရှင်အဇ္ဈုက၏ သေရေးရှင်ရေးကိစ္စကြီး ဖြစ်နေသဖြင့် အရှင်ဥပါလိက အကျိုးတော်ဆောင်အဖြစ် ပါဝင်ကူညီခြင်း ဖြစ်ပါသည်။

"အရှင်ဘုရား မည်သည့်အာပတ်မျှ မသင့်ပါဘုရား။ အယုတ်သဖြင့် ဒုက္ကဋ်အာပတ်မျှပင် မသင့်ပါဘုရား"

ဓမ္မာသန ပလ္လင်ထက်မှ ကျွန်ုပ်က ရိုသေစွာ လျှောက်ထားလိုက်ရ၏။ ဤတွင် အရှင်ဥပါလိက ဆက်လက်၍

"ငါ့ရှင်အာနန္ဒာ၊ ဤအရှင်အဇ္ဈုကသည် ဥစ္စာရှင်က အမွေကို မည်သူခံစားရ ပါစေဟု မှာထားခဲ့သဖြင့် မှာထားခဲ့သည့် သူငယ်ကို အမွေပေးခြင်းသာ ဖြစ်ပေသည်"

သွားလေသူ သူဌေးကြီးသည် ရတနာသုံးပါး ဆည်းကပ်ကိုးကွယ်သော ဉပါသကာကြီး တစ်ယောက်ဖြစ်၏။ မြောက်မြားလှစွာသော ဥစ္စာစုများကို အမွေခံ

ရန်မှာ သားနှင့် တူ နှစ်ယောက်သာ ရှိ၏။ သားသည် လူပေါ်ကြော့ဖြစ်၍ တူဖြစ်သူက ရတနာသုံးပါးကို ဆည်းကပ်သူ ဖြစ်၏။ ထို့ကြောင့် ရတနာ သုံးပါး ဆည်းကပ်သူကို အမွေပေးရစ်ဖို့ လျှောက်ထားခဲ့သော စကားအရ တူဖြစ်သူကို အမွေပေးခဲ့ခြင်း ဖြစ်ပေသည်။

အမှုမှန်ပေါ်သွားပြီမို့ ကျွန်ုပ် ဓမ္မာသနပလ္လင် ထက်မှာ ဆက်၍ ထိုင်နေရန် မလိုတော့ပါ။ အလျင်စလို ပြောဆိုခဲ့မိသော စကားတစ်ခွန်းကို ရဟန်း ပရိသတ် အလယ်မှာ ပြန်လည် ရုပ်သိမ်းရုံသာရှိပါတော့သည်။ မည်မျှပင် အမှန်တရားကို လိုလားသော်လည်း တွင်းကျင်းကုန်အောင်လေ့လာသုံးသပ် ခြင်းမပြုဘဲ အလျင်စလို ဆုံးဖြတ်လျှင် မှားယွင်းတတ်သော သာဓကတစ်ရပ် ဖြစ်ပါပေသည်။

**(ဒုတိယ ပါရာဇိက သိက္ခာပုဒ်၏ ဓနိတဝတ္ထုများ)**

ဝိနည်းအရာ မလိမ္မာ၍ အမှားတွေ့ရသကဲ့သို့ပင် ဈာန်သမာပတ် အရာ မှာလည်း ကျွန်ုပ် မကျွမ်းကျင်သဖြင့် အမှားတွေ့ခဲ့ရပါသေးသည်။ သို့သော် သည်တစ်ခါမှာတော့ မှားသူမှာ ကျွန်ုပ်တစ်ပါးတည်း မဟုတ်ပါ။ အရှင်ယသောဇတို့ တစ်သိုက်လုံးလည်း အမှားနှင့် စတင်ခဲ့မိကြပေသည်။ သို့ဖြစ်၍–

"အာနန္ဒာ၊ တံငါသည်များ ငါးလုရာတွင် ဆူညံသကဲ့သို့ ဆူဆူညံညံ အသံပြုသူများကား အဘယ်သူတို့နည်း"

တိတ်ဆိတ်ခြင်း၌ မွေ့လျော်တတ်တော်မူသော ဘုရားရှင်က မေးတော်မူ လိုက်ပြီဆိုလျှင် ဆူညံမိသူတို့ မုချ ဒဏ်ခံကြရပေတော့မည်။ တောရွာဇနပုဒ်မှာ နေခဲ့သူများမို့ ဂန္ဓကုဋီထဲထိအောင် သူတို့အသံများက ဆူညံနေကြပေလိမ့်မည်။

"အရှင်ဘုရား၊ အရှင်ယသောဇနှင့်တကွ နောက်ပါ ရဟန်း ငါးရာတို့သည် ဘုရားရှင်ကို ဖူးမြင်ကန်တော့ရန် ဇေတဝန် ကျောင်းတော်သို့ ရောက်လာကြပါသည်။ အာဂန္တုရဟန်းများနှင့် အပြန်အလှန် နှုတ်ဆက်ရာ နေစရာထိုင်စရာ ခင်းကျင်းရာ သပိတ်ပရိက္ခရာများ နေရာချထားရာမှ ဤအသံများ ထွက်လာခြင်း ဖြစ်ပါသည် ဘုရား"

အမေးတော်ရှိလာသဖြင့် ကျွန်ုပ်ကိုယ်တိုင် တွေ့မြင်ထားခဲ့ရသည်များကို လျှောက်ထားလိုက်ရ၏။ အရှင်ယသောဇတို့ သက်သာခွင့် ရလိုရငြား သူတို့ဘက်က ဖေးဖေးမမလေး လျှောက်ထားလိုက်ရ၏။ သို့သော် ကျွန်ုပ် ဖေးမသော်လည်း အရာ မရောက်တော့ပါ။ ဘုရားရှင်က သူတို့အားလုံးကို ရှေ့တော်မှောက်သို့ ခေါ်တော် မူကာ...

"ရဟန်းတို့၊ သွားကြကုန်လော့။ သင်တို့ကို ငါဘုရား နှင်ထုတ်၏။ သင်တို့ ငါ့ထံပါးမှာ မနေကြကုန်လင့်"

အရှင်ယသောဇတို့ သက်သာရေးအတွက် လျှောက်ထားသောစကားကို လက်မခံဘဲ နှင်ထုတ်တော်မူလိုက်ပေသည်။

"ကောင်းပါပြီ အရှင်ဘုရား"

အရှင်ယသောဇတို့မှာ ဘုရားရှင့် မိန့်ခွန်းတော်ဆုံးသည်နှင့် ရိုသေစွာ ဦးချ၍ ထွက်သွားကြ၏။ ရှေ့တော်မှောက်မှာရော၊ ကွယ်ရာမှာပါ တစ်စုံတစ်ရာ ဆင်ခြေကန်စကား မဆိုကြပါပေ။

ကျွန်ုပ်နှင့်တကွ ကျောင်းနေပုဂ္ဂိုလ်တို့မှာ သူတို့ကို နှုတ်ဆက်ရင်း စိတ်မကောင်းနိုင်အောင် ဖြစ်နေကြရ၏။ သူတို့ကတော့ နှင်ထုတ်လိုက်သော အမိန့်ကြီးကိုပင် အမြတ်တနိုးခံယူကာ ပြုံးရွှင်ကြည်လင်စွာ ထွက်ခွာသွားခဲ့ကြ၏။ ထူးဆန်းလှချေကလားဟု ကျွန်ုပ် စိတ်ထဲက ရေရွတ်မိပါသည်။

ဇေတဝန်ကျောင်းတော်တုန်းက အထူးတဆန်းဖြစ်ခဲ့ရသော ထိုမြင်ကွင်း၏ အဖြေကို ကူဋာဂါရကျောင်းတော်ရောက်မှ ကျွန်ုပ် တွေ့ရှိလာရ၏။ ဘုရားရှင်သည် သာဝတ္ထိမြို့တော်ကြီးမှတစ်ဆင့် ဝေသာလီမြို့တော်သို့ ဒေသစာရီ လှည့်လည်လာခဲ့ရာ ကူဋာဂါရကျောင်းတော်သို့ရောက်လျှင်–

"အာနန္ဒာ၊ ဝဂ္ဂုမုဒါမြစ်ကမ်းပါး၌ ငါ၏ တပည့်ရဟန်းများ နေထိုင်ကြ၏။ သူတို့ရှိရာအရပ်သည် နေပေါင်း လပေါင်း ထောင်ပေါင်းများစွာ ထွန်းလင်းနေသကဲ့သို့ ဖြစ်၏။ သူတို့၏ နေရာဌာနသည် နှစ်သက်ဖွယ်ရာ ဖြစ်၏။ ဝဂ္ဂုမုဒါ မြစ်ကမ်းပါးမှာနေကြသော ထိုရဟန်းများကို တမန်စေလွှတ်၍ ခေါ်လိုက်ပါဘိ"

မိမိကိုယ်တိုင်က နှင်ထုတ်လိုက်သော ရဟန်းများကို ဘုရားရှင်က ပြန်၍ ခေါ်တော်မူလိုက်ပေပြီ။ ဤသို့သော အလားအလာကို တွေးမြင်၍ အရှင်ယသောဇတို့ ပြုံးပန်းဆင်၍ ထွက်သွားကြခြင်းပါတကား။

ဘုရားရှင်၏ အမိန့်တော်ကို ရှာန်အဘိညာဉ် တန်ခိုးရှင် ရဟန်းတစ်ပါးကတစ်ဆင့် ဆောင်ရွက်ပေးသဖြင့် မကြာမီ အရှင်ယသောဇတို့ ရောက်လာကြ၏။ ဇေတဝန်ကျောင်းတော်သို့ လာစဉ်တုန်းက ဆူဆူညံညံ ရှိကြသလောက် ယခုတစ်ခေါက်မှာတော့ တိတ်ဆိတ်လွန်းကြ၏။ သူတို့၏ မျက်နှာအမူအရာတို့ကလည်း အေးဆေးတည်ငြိမ်လွန်းလှ၏။

တည်ကြည်လှသော ရဟန်းငါးရာတို့သည် ဘုရားရှင်၏ ခြေတော်အစုံကို ဦးခိုက်ကာ ငြိမ်သက်စွာ ထိုင်နေကြ၏။ သူတို့ကို တကူးတက အခေါ်ခိုင်းလိုက်သော ဘုရားရှင်ကလည်း နှုတ်ဆက်စကားမျှ မြွက်ကြားတော် မမူ။ ဆရာရော တပည့်ပါ ငြိမ်ငြိမ်သက်သက် ထိုင်နေကြ၏။ သူတို့ နေထိုင်ကြသည်ကလည်း

ခေတ္တခဏမျှ မဟုတ်။ ညနေ နေဝင်ရီတရော အချိန်ကတည်းက ထိုင်လာကြသည်မှာ ညဉ့်ဦးယံ ကုန်ဆုံးသည်အထိဖြစ်၏။

သူတို့တစ်တွေ စကားမပြော။ တုဏှိဘော နေထိုင်ကြသော်လည်း ကျွန်ုပ် မနေနိုင်တော့ပါ။ ခရီးဝေးမှ ရောက်လာသော ရဟန်းများအတွက် အကူအညီမပေးဘဲ မနေနိုင်တော့ပါ။ သို့ဖြင့်...

"အရှင်ဘုရား၊ ညဉ့်အခါသည် သာယာလှပါ၏။ ယခု ပထမယံ ကုန်ဆုံးသွားပါပြီ။ အာဂန္တုရဟန်းများ ထိုင်နေရသည်မှာ ကြာလှပါပြီ။ အာဂန္တုရဟန်းများကို ဘုရားရှင်က နှုတ်ခွန်းဆက်တော်မူပါ ဘုရား"

သက်န်းကို သေသေသပ်သပ် လက်ကတော့ထိုးကာ လက်အုပ်ချီလျက် လျှောက်ထားလိုက်ရ၏။ သို့သော်လည်း ဘုရားရှင်က မည်သို့မျှ မတုံ့ပြန်ပေ။ အာဂန္တုရဟန်းများကလည်း တိတ်ဆိတ်နေဆဲ တည်ငြိမ်နေဆဲ။

သို့နှင့် မဇ္ဈိမယံ ကုန်ဆုံးသွားပြန်၏။ ကျွန်ုပ်က မနေနိုင်လွန်း၍ လျှောက်ပြန်တော့လည်း အကြောင်းမထူးပါ။ ပစ္ဆိမယံ ကုန်ဆုံး၍ အရုဏ်တက်လာ၏။ မည်းမှောင်သော ညဉ့်ကာလမှ အလင်းဘက်သို့ ကူးပြောင်း လာ၏။ ထိုအခိုက်တွင် တတိယအကြိမ် ထပ်မံ၍ လျှောက်ခါမှ...

"အာနန္ဒာ၊ ငါဘုရားနှင့်တကွ ဤရဟန်းအားလုံးသည် စတုတ္ထဈာန်ကို အခြေပြုလျက် အရဟတ္တဖလသမာပတ် ဝင်စားနေကြ၏။ လောကုတ္တရာ တရားကို ပွားများနေသော ရဟန်းများအား ငါဘုရားက လောကုတ္တရာ တရားစကားဖြင့် နှုတ်ခွန်းဆက်နေခြင်း ဖြစ်၏။ ဤအကြောင်းကိုသာ သင်သိပါလျှင် လောက စကားဖြင့် နှုတ်ခွန်းဆက်ရန် သင် လျှောက်ထားမည် မဟုတ်ချေတကား။ သုံးကြိမ် သုံးခါ အပင်ပန်းခံနေမည် မဟုတ်ချေတကား"

တည့်တည့်ကြီး မိန့်တော်မူလိုက်ခါမှ အကြောင်းမှန်ကို သိရပါတော့သည်။

အရှင်ယသောဇတို့သည် ဘုရားရှင်၏ အနှင်ခံရပြီးနောက် ဝဇ္ဇီတိုင်းသို့ ဒေသစာရီ လှည့်လည်ကြကာ ဝဂ္ဂုမုဒါ မြစ်ကမ်းပါးအရောက်တွင် သစ်ခက် ကျောင်းကလေးများဆောက်၍ နေခဲ့ကြသည်ဟူ၏။

ထိုသို့နေကြစဉ်တွင် ခေါင်းဆောင်ဖြစ်သော အရှင်ယသောဇက နောက်ပါ ရဟန်းများအား ဘုရားရှင်ကို အထင်မလွဲရန် ဆုံးမခဲ့၏။

"ငါ့ရှင်တို့၊ ဘုရားရှင်က ငါတို့ကို နှင်ထုတ်သည်မှာ ငါတို့၏ အကျိုးစီးပွားကို လိုလားတော်မူ၍သာ ဖြစ်၏။ ငါတို့ကို အစဉ်သနား၍ နှင်ထုတ်ခြင်း ဖြစ်၏။ ထို့ကြောင့် ဘုရားရှင် ကျေနပ်နှစ်သက်နိုင်မည့် နေနည်းမျိုးဖြင့် ငါတို့ အားလုံး နေကြစို့"

ဤသို့ ဆုံးမသည့်အတိုင်း အဖော်မမှီး တစ်ပါးတည်း၊ တစ်ပါးတည်း နေလျက် အရှိတရားအပေါ်တွင် အသိတရားကပ်၍ နေလိုက်ကြရာ ထိုဝါတွင်းမှာပင် တေဝိဇ္ဇရဟန္တာများ ဖြစ်လာကြတော့ပေသည်။

တံငါမျိုးမှ ပေါက်ဖွားလာသော အရှင်ယသောဇသည် ဘုရားရှင်၏ စကားတော်ကို ဟုတ်တိုင်းမှန်စွာ အဓိပ္ပာယ် ကောက်ယူနိုင်ခဲ့၏။ အဓိပ္ပာယ် အကောက်မှန်သကဲ့သို့ အသိဉာဏ်အရာမှာလည်း ထိပ်ဆုံးထိရောက်ခဲ့၏။

သက်ျမျိုးနွယ်မှာ ထည်ထည်ဝါဝါ နေလာခဲ့ရသော ကျွန်ုပ်မှာကား သိသိသာသာ ထင်ထင်ရှားရှားကြီး ပြတော်မူခဲ့သော အရိပ်နိမိတ်ကိုမျှ မသိနိုင်ခဲ့ပါပေ။ ကျွန်ုပ်ဘက်က ဤတစ်ချက် ချို့တဲ့သွားသဖြင့် ဤကမ္ဘာ လောကကြီးသည် အနှစ်နှစ်ဆယ်စော၍ ဘုရားရှင်ကို လက်လွှတ်ဆုံးရှုံး ရပေတော့မည်တကား။

(ဥဒါန်း၊ ယသောဇသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)

✻✻

# နေရစ်တော့ ဝေသာလီ

ဝေသာလီမြို့တော်၏ နံနက်ခင်းသည် သာတောင့်သာယာ ရှိပါဘိ။ ခမ်းနားလှသော တိုက်ကြီးတာကြီးများ၊ ထည်ဝါလှသော အိမ်ကြီး အိမ်ကောင်းများသည် လမ်းဘေး ဝဲယာမှ တန်းစီလျက် ရှိကြ၏။ တိုက်တိုင်း၊ အိမ်တိုင်းမှာပင် ကိုယ်ပိုင်ဥယျာဉ် ရေကန်များ ရှိကြသဖြင့် ကျက်သရေမင်္ဂလာ ရှိလှပေသည်။

ဤမြို့တော်၏ တိုက်တာဦးရေမှာ ခုနစ်ထောင့် ခုနစ်ရာ့ ခုနစ်ဆယ့် ခုနစ်လုံး ရှိ၍ အိမ်ကြီးအိမ်ကောင်းများမှာလည်း ထိုမျှလောက်ပင်ရှိသည်ဟု ပြောဆိုခဲ့ကြ၏။ ဤအရေအတွက်မှာ စောစောပိုင်းတုန်းက စာရင်းအရဖြစ်၍ ယခုဆိုလျှင် ထို့ထက် နှစ်ဆနီးပါး တိုးပွားနေပေရော့မည်။ လမ်းမကြီးငယ် အသွယ်သွယ်တွင်လည်း အဆင်အသွေး စုံစွာသော လိစ္ဆဝီ မင်းညီမင်းသား တို့သည် ကိုယ်ပိုင်ယာဉ်ရထား တို့ဖြင့် သွားလာလျက်ရှိကြ၏။ တော ကျေးလက်မှ ဈေးသည်များ၊ ဈေးသွား ဈေးပြန်များကို လမ်းတိုင်းမှာ တွေ့ရ၏။

ဟိုတစ်ချိန်တုန်းက ဤမြို့တော်ကြီးတွင် ကပ်ကြီးသုံးပါး ဆိုက်ရောက် ခဲ့ဖူး၏။ သုံးနှစ်တိုင်တိုင် မိုးဆက်၍ခေါင်သဖြင့် ဒုဗ္ဘိက္ခန္တရကပ်ကြီးနှင့် ပထမဦးစွာ တိုးကြရ၏။ အစာရေစာ ဝေးမွတ်လာသောအခါ အူမမတောင့်၍ သီလ မစောင့် နိုင်တော့ဘဲ ခိုးယူလုယက်မှုများ ပေါ်ပေါက်လာ၏။ ထိုမှတစ်ဆင့် သွေးချောင်းစီးမျှ တိုက်ခိုက်သတ်ဖြတ်ကြတော့၏။ အစာအာဟာရ ချို့တဲ့မှု၊ အချင်းချင်း တိုက်ခိုက် မှုများကြောင့် ရောဂါမျိုးစုံလည်း ကျရောက်လာခဲ့၏။ ယခုတော့ ဤဒဏ်ရာ ဒဏ်ချက်များကို လုံးဝ မတွေ့ရတော့ပါ။ အသက်အစိတ်အရွယ် သုံးဆယ်အရွယ် လူငယ်များအဖို့ ဤအကြောင်းများမှာ ရေးစကားမျှသာ ဖြစ်နေပါလိမ့်မည်။

စည်ပင်သာယာသော မြို့တော်ကြီးတွင် ကျွန်ုပ်တို့သည် ခါတိုင်းလိုပင် ဆွမ်းခံ ဝင်ခဲ့ကြ၏။ ဘုရားရှင့် နောက်တော်ပါးမှ များစွာသော သံဃာတော်များနှင့်အတူ ကျွန်ုပ် လိုက်ပါလာခဲ့၏။ ဒါယကာ၊ ဒါယိကာမများကလည်း ခါတိုင်းလိုပင်

ဆွမ်းခံဝင်ကြသည်ဟု ထင်မှတ်ကြ၏။ သို့သော် သည်တစ်ခါ ဆွမ်းခံဝင်ကြရခြင်းမှာ ခါတိုင်းလို ဝင်ရိုးဝင်စဉ် မဟုတ်ပါချေတကား။

ခါတိုင်းဆွမ်းခံဝင်ပြီးလျှင် ကျောင်းတော်သို့ ပြန်လာခဲ့ကြ၏။ ထိုနေ့က တော့ မြို့တော်တွင်းက ဒါယကာ၊ ဒါယိကာမများ အိမ်မှာပင် ရလာသော ဆွမ်းဘောဇဉ်များ စားသောက်ကြရ၏။ ဆွမ်းဒါယကာ၊ ဆွမ်းအစ်မ အပေါင်းအား ဘုရားရှင်က အနုမောဒနာစကား မြွက်ကြားတော်မူပြီးနောက် မြို့တော်ကြီးမှ ထွက်ခွာလာခဲ့ကြ၏။ မြောက်ဘက်တံခါးဝသို့ အရောက်တွင်ကား ဘုရားရှင်၏ ခြေလှမ်းများ ရပ်တန့်သွားကြ၏။ ဆင်ပြောင်ကြီးသည် မိမိ ထွက်ခွာလာခဲ့သော တောအုပ်ကို တစ်ကိုယ်လုံးလှည့်ကာ ကြည့်ရှုသကဲ့သို့ ဝေသာလီမြို့တော်ကြီးကို ပြန်လည်ကြည့်ရှုတော်မူရန် ဖြစ်ပေသည်။

"အာနန္ဒာ၊ ဤတစ်ခါ ငါဘုရား ကြည့်ရှုခြင်းသည် ဝေသာလီမြို့တော် ကြီးကို နောက်ဆုံး ကြည့်ရှုခြင်းပေတည်း"

မြို့တော်ကြီးကို စေ့စေ့စပ်စပ် ကြည့်ရှုတော်မူလျက် အမှတ်တရ မိန့်ကြား တော်မူလိုက်ပေသည်။

မြို့တည်ပြီးသည်မှစ၍ အိမ်ခြေတိုက်တာ စည်ကားလှသဖြင့် တံတိုင်း သုံးထပ် ရံကာပတ်ခဲ့ရသော ဝေသာလီ၊ တာဝတိံသာ နတ်တို့အလား တင်စားခြင်း ခံရသော လိစ္ဆဝီမင်းသားတို့ စုပေါင်းအုပ်ချုပ် မင်းလုပ်ကြရာ ဝေသာလီ၊ ကျောင်း ကန် တိုက်တာတွေ စည်ကားလှသော ဝေသာလီ၊ ဥယျာဉ်ရေကန် နတ်ဗိမာန်တို့ ပေါများလှသော ဝေသာလီ၊ တံတိုင်းသုံးထပ် အကြား၌ ကျွန်ုပ်ကိုယ်တိုင် ရတနသုတ် ပရိတ်တော်မြတ် ရွတ်ဖတ်ခဲ့ရသော ဝေသာလီ၊ ထိုဝေသာလီသည် ကျွန်ုပ်တို့ နောက်ကွယ်မှာ နေရစ်ခဲ့ပေပြီ။ ထိုမြို့တော်ကြီးသို့ ဘုရားရှင်နှင့်အတူ ကျွန်ုပ်တို့ နောက်တစ်ခါ ဝင်နိုင်ခွင့် မရှိတော့ပြီ။

အာယုသင်္ခါရ လွှတ်တော်မူပြီးသည့်နောက်ဝယ် ထွက်ခွာလာခဲ့သမျှသော မြို့ရွာ ဇနပုဒ်များကိုလည်း ဘုရားရှင်သည် နောက်ဆုံးကြည့်ခြင်းဖြင့် ကြည့်တော်မူ ခဲ့ရသည်သာ ဖြစ်၏။ သို့ပါလျက် ဘယ်ဌာနကိုမှ တမင်တကာ ပြန်၍ ကြည့်တော် မမူခဲ့ပေ။ ယခု ဝေသာလီမြို့တော်ကျမှ တမင်တကာ ပြန်၍ ကြည့်တော်မူ၏။ အမှတ်တရစကား မိန့်ကြားတော်မူ၏။ ဘုရားရှင်သည် သတ္တဝါဝေနေယျ ရှိရှိသမျှကို သားတော်ရာဟုလာနှင့်မခြား ထပ်တူထား၍ သနားတော်မူသည်သာ ဖြစ်၏။ မျက်နှာကြီးငယ် ရွေးချယ်ခြင်း၊ အရင်းအဖျား ခွဲခြားခြင်း မရှိပါချေ။ သို့ပါလျက် ဝေသာလီမြို့တော်ကိုမှ အထူးတလည် ကြည့်တော်မူရသည်မှာ အဘယ့်ကြောင့် ပါနည်း။ **(သုတ်မဟာဝဂ်၊ မဟာပရိနိဗ္ဗာနသုတ်၊ နာဂါပလောကိတ)**

နောင်တော်မြတ်နှင့်အတူ ဝေသာလီမြို့တော်ကြီးကို ငေးမောကြည့်ရှုရင်း ဤသို့ အတွေးနယ်ချဲ့ရသည်မှာ အကြောင်းမဲ့ မဟုတ်ပါ။ လိစ္ဆဝီတို့နှင့် ပတ်သက်၍ ဘုရားရှင် ဟောကြားတော်မူခဲ့သော ဒေသနာတော်တစ်ပုဒ်ကို သတိရလာသော ကြောင့် ဖြစ်ပေသည်။ ဝေသာလီမြို့တော်က ကူဋာဂါရ ကျောင်းတော်တွင် ဤ ဒေသနာကို ဟောကြားတော်မူခဲ့ပေသည်။

"ရဟန်းတို့၊ ယခုအခါ၌ လိစ္ဆဝီတို့သည် ရှားနှစ်တုံးကို ခေါင်းအုံး၍ အိပ်ကြကုန်၏။ အတတ်ပညာ သင်ယူခြင်း၊ ဆရာသမားထံ ဆည်းကပ်ခြင်းတို့၌ မမေ့ မလျော့ကြကုန်။ တက်တက်ကြွကြွ ရှိကြကုန်၏။ ထိုကဲ့သို့သော လိစ္ဆဝီတို့အား မဂဓတိုင်းကြီးရှင် ဘုရင်အဇာတသတ်သည် တိုက်ခိုက်ချေမှုန်းရန် အပေါက်အလမ်း ကို မရနိုင်ချေ။ အောင်မြင်ခြင်းကို မရနိုင်ချေ။ နောင်အခါကာလ၌ကား လိစ္ဆဝီ တို့သည် စားရေးလုံ့ရေး မလေ့ကျင့်ကြတော့သဖြင့် ခြေရောလက်ပါ နူးညံ့လာကြ ကုန်လတ္တံ့။ အိစက်ညက်ညောသော မွေ့ရာများ၊ လဲသွတ်ထားသော ခေါင်းအုံးများ၌ နေကြီး ထိန်ထိန်လင်းအောင် အိပ်ကြကုန်လတ္တံ့။ ထိုအခါ၌ မဂဓတိုင်းကြီးရှင် ဘုရင်အဇာတသတ်သည် သူတို့ကို တိုက်ခိုက်ချေမှုန်းရန် အပေါက်အလမ်း ရပေ လိမ့်မည်။ အောင်မြင်ကြောင်းကို ရပေလိမ့်မည်"

ဤဒေသနာတော်ကို စောစောပိုင်းက ဟောကြားတော်မူခဲ့၏။ ဘုရားရှင် ဟောကြားတော်မူခဲ့သည့်အတိုင်း ထိုစဉ်တုန်းက လိစ္ဆဝီတို့သည် အင်မတန်မှဖွဲ့ကောင်း လှ၏။ စားရေး၊ လုံ့ရေး၊ မြားရေးမှစ၍ စစ်ပညာဟူသမျှကို အပတ်တကုတ် သင်ယူ နေကြ၏။ နေ့စဉ်မပြတ် လေ့ကျင့်နေကြ၏။ အရွယ်ရှိသော လိစ္ဆဝီမှန်လျှင် အရုဏ် တက်ချိန်မှာ အိပ်ရာမှ ထကြ၏။ သင်ကြားထားသော စစ်ပညာကို လေ့ကျင့်ကြ၏။ ပညာရပ်ဆိုင်ရာ စာပေလက်ာများကို ရွတ်ဖတ်ကြ၏။ ဤသို့ သွေးပူလေ့ကျင့်ခန်း များလုပ်ပြီးမှ ပလုပ်ကျင်း၍ မျက်နှာသစ်ကာ ယာဂုသောက်ရာဌာနသို့ သွားကြ၏။ ယာဂုသောက်ပြီးနောက် သင်တန်းခန်းမတွင် စာတွေ့လက်တွေ့ သင်ခန်းစာများ ဆည်းပူးကြရ၏။ ထို့နောက် နံနက်စာ စားပြီးချိန်တွင် အိပ်စက်ခွင့်ရကြပေသည်။

အပန်းပြေ အိပ်ကြရသော်လည်း စိတ်ရှိလက်ရှိ အိပ်ကြရသည်ကား မဟုတ် ပါ။ ရှားနှစ်တုံးများပေါ်မှာ ခြေရောခေါင်းပါတင်၍ အိပ်ကြရပေသည်။ မကြာခင် ပြန်နိုးလာကြရန် ဖြစ်ပေသည်။

နေ့လယ်ခင်းမှာလည်း စာတွေ့ လက်တွေ့ သင်ခန်းစာများသင်ယူကာ ညစာ စားပြီးချိန်ထိ ဆက်လက်၍ ရွတ်ဖတ်ကာ တော်တော်ညဉ့်နက်မှ အိပ်ကြရပေ သည်။ ထို့ကြောင့် လိစ္ဆဝီအမျိုးသားမှန်လျှင် ကျားကျားလျားလျားနှင့် ထွားကျိုင်း သန်မာလှသည်သာ ဖြစ်ပေသည်။

စစ်ပညာ ပြည့်ဝ၍ ခပ်ကြမ်းကြမ်းလေးနေခဲ့ကြသော လိစ္ဆဝီတို့သည် ယခု တော့ နုသလိုလို ဖြစ်လာကြချေပြီ။ ကိုယ်ခန္ဓာ ကြံ့ခိုင်ရေးထက် အလှအပဘက်သို့ ညွှတ်လာကြချေပြီ။ တိုက်ရေးခိုက်ရေးထက် အဝတ်အစားများကို စိတ်ဝင်စားလာကြချေပြီ။ ထိုစဉ်က ဟောကြားခဲ့သော ဒေသနာတော်သည် ယနေ့ပြန်လည်ကြည့်ရှုခြင်းနှင့် တစ်စုံတစ်ရာ ပတ်သက်၍များ နေမည်လား။

**(နိဒါနဝဂ်၊ ဩပမ္မသံယုတ်၊ ကလိင်္ဂရသုတ်ပါဠိတော်နှင့် အဋ္ဌကထာ)**

"အာနန္ဒာ၊ သွားကြစို့။ ဘဏ္ဍာရွာရှိရာသို့ ချဉ်းကပ်ကြပါစို့"

"ကောင်းပါပြီ အရှင်ဘုရား"

ဘုရားရှင်၏ မိန့်ကြားသံကြောင့် အတွေးအမျှင်များကို ဖြတ်ကာ အလိုက်သင့် လျှောက်လိုက်ရ၏။ နောင်တော်မြတ်၏ နောက်တော်ပါးမှ ကျွန်ုပ်တို့ တသီ တတန်းကြီး လိုက်ပါခဲ့ကြရ၏။

ဘဏ္ဍာရွာ ရောက်သောအခါမှာလည်း ဘုရားရှင်သည် သစ္စာလေးပါး တရားတော်ကိုပင် ဟောကြားပါ၏။ သီလ၊ သမာဓိ၊ ပညာ သိက္ခာသုံးပါးနှင့်စပ်သော တရားတော်ကို ဆက်လက်၍ ဟောကြားပါ၏။ နောက်ဆုံးအချိန်နှင့် နီးသည်ထက် နီးလာပြီမို့ အရေးအကြီးဆုံးတရားများကို ထပ်ကာထပ်ကာ ဟောကြားတော်မူရခြင်း ဖြစ်ပေသည်။

ဘဏ္ဍာရွာမှာ ရက်အတန်ကြာ နေပြီးနောက် ဟတ္ထိရွာသို့ ကျွန်ုပ်တို့ ရောက်ကြရ၏။ ထို့နောက် အမ္ဗရွာ၊ ဇမ္ဗုရွာများသို့ ခရီးဆက်ကြရ၏။ ထိုမှတစ်ဆင့် ဘောဂမြို့သို့ အရောက်တွင်ကား မဟာပဒေသ တရားလေးပါးကို ဟောကြားတော်မူပေသည်။

မဟာပဒေသတရားလေးပါး ဟူသည်မှာ ဘုရားရှင် အမှူးရှိသော ဂုဏ် အရှိန်အဝါကြီးမားသော ပုဂ္ဂိုလ်များကို ရည်ညွှန်း၍ ပြောဆိုသော အကြောင်း တရားများ ဖြစ်၏။ ဘုရားရှင်ကို ရည်ညွှန်း၍ ပြောဆိုခြင်း၊ သံဃာကိုရည်ညွှန်း၍ ပြောဆိုခြင်း၊ မထေရ်ကြီးများကို ရည်ညွှန်း၍ပြော ဆိုခြင်းတို့ ဖြစ်ကြ၏။ ထိုတွင် ပထမဆုံးမဟာပဒေသတရားကို နမူနာပြရသော်–

"ရဟန်းတို့၊ ရဟန်းတစ်ပါးက 'ဤတရားကို ဘုရားရှင် ထံတော်ပါးမှ ကြားနာခဲ့ရသည်၊ မှတ်သားခဲ့ရသည်' ဟု အကယ်၍ ဆိုလာငြားအံ့။ ထိုရဟန်း၏ စကားကို အဆောတလျင် ထောက်ခံခြင်း၊ ကန့်ကွက်ခြင်း မပြုသေးဘဲ ပြောဆိုသော စကားလုံးများကို သေသေချာချာ မှတ်သားကာ ဘုရားဟော ဒေသနာတော်များနှင့် တိုက်ဆိုင်ကြည့်သင့်၏။ ရာဂ စသည်ကို ပယ်ရာ ပယ်ကြောင်း ဟုတ်မဟုတ် ညှိနှိုင်းကြည့်သင့်၏။ တိုက်ဆိုင်ကြည့်၍ ညှိနှိုင်းကြည့်၍ အကယ်၍ ဘုရားဟော

ဒေသနာတော်များနှင့် ကွဲလွဲနေကြောအံ့။ ရာဂ စသည်ကို ပယ်ရာပယ်ကြောင်း မဟုတ်ကြောအံ့။ 'ထိုတရားသည် ဘုရားဟော တရားမဟုတ်။ ထိုရဟန်း အမှတ်မှားနေခြင်းသာ ဖြစ်သည်' ဟု ယတိပြတ် ဆုံးဖြတ်အပ်၏။ အကယ်၍ ဘုရားဟော ဒေသနာတော်များနှင့် ညီညွတ်နေကြောအံ့။ ရာဂ စသည်ကို ပယ်ရာပယ်ကြောင်း ဖြစ်ကြောအံ့။ 'ထို တရားသည် ဘုရားဟော အစစ်အမှန် ဖြစ်၏။ ထိုရဟန်းသည် ဟုတ်တိုင်း မှန်စွာ မှတ်သားထားခြင်း ဖြစ်၏' ဟု ယတိပြတ် ဆုံးဖြတ်အပ်၏"

သံဃာ စသည်ကို ရည်ညွှန်း ပြောဆိုရာ၌လည်း ဤနည်းအတိုင်းပင် ဟောကြားတော်မူပေသည်။

**(သုတ်မဟာဝဂ်၊ မဟာပရိနိဗ္ဗာနသုတ်၊ နာဂါပလောကိတ၊ စတုမဟာပဒေသကထာ ပါဠိတော်နှင့် အဋ္ဌကထာ)**

❋❋

# နောက်ဆုံးဒါယကာများ

ယနေ့ကား မဟာသက္ကရာဇ် ၁၄၈ ခုနှစ် ကဆုန်လဆန်း ၁၄ ရက်။ နက်ဖြန်ဆိုလျှင် ကျွန်ုပ်တို့ သာသနာ့သမိုင်း၌ အထူးခြားဆုံး မှတ်တမ်းတင်ရမည့်နေ့ကြီးသို့ ရောက်ရပေတော့မည်။ မဟာသက္ကရာဇ် ၆၈ ခုနှစ် ဤ ကဆုန်လပြည့်နေ့တွင် အလောင်းတော် သိဒ္ဓတ္ထမင်းသားကို ဖွားမြင်ခဲ့၏။ မဟာသက္ကရာဇ် ၁၀၃ ခုနှစ်၊ ကဆုန်လပြည့်နေ့မှာပင် သမ္မာသမ္ဗောဓိ ဉာဏ်တော်ကြီး ပွင့်လင်းလာခဲ့၏။

သို့ဖြစ်၍ နက်ဖြန်နံနက် အရုဏ်တက်တွင် နောင်တော်မြတ်၏ သက်တော် ၈၀ တင်းတင်း ပြည့်ပေတော့မည်။ နောင်တော်မြတ်၏ ရဟန်းဝါမှာ အနော်မာ သောင်ပြင်၌ ရဟန်းပြုခဲ့သော နှစ်မှစ၍ ရေတွက်လျှင် ၅၁ ဝါ ရခဲ့ပေပြီ။ သမ္မာသမ္ဗောဓိ ဉာဏ်တော်ကြီး ရသည်မှစ၍ ရေတွက်လျှင် ၄၅ ဝါ ရခဲ့ပေပြီ။ အာယုသင်္ခါရ လွှတ်တော်မူခဲ့သော အချိန်မှာလည်း သုံးလတိတိ ပြည့်ပေတော့မည်။

ကဆုန်လပြည့် ဗုဒ္ဓဟူးနေ့ကား– နောင်လာနောက်သားတို့အတွက် အထူးခြားဆုံး နေ့ထူးနေ့မြတ်ကြီး ဖြစ်ရစ်ပါလိမ့်မည်။ ဤနေ့ဤရက်တွင် ဗုဒ္ဓဂုဏ်တော်များကို အထူးသဖြင့် နှလုံးသွင်းကာ ကုသိုလ်ကောင်းမှုများ ပြုလုပ်ကြပါလိမ့်မည်။

နောင်လာနောက်သားတို့၏ နေ့ထူးနေ့မြတ်ကြီးကို ကျွန်ုပ်ကတော့ ရင်တထိတ်ထိတ်နှင့်သာ စောင့်ကြိုနေရပါ၏။ စောစောကပင် အတည့်အလင်း မိန့်ကြားထားပြီမို့ နက်ဖြန်ဆိုလျှင် နောင်တော်မြတ်၏ ဘဝနိဂုံး အဆုံးသတ်တော့မည်ဟု သိရှိထားပါ၏။ သို့ပါလျက် တကယ်တမ်း ကြုံရတော့မည်ဆိုသောအခါ မှာကား ကျွန်ုပ် မတုန်လှုပ်ဘဲ မနေနိုင်တော့ပါ။

"အာနန္ဒာ၊ သွားကြစို့။ ပါဝါမြို့ဆီ ချဉ်းကပ်ကြစို့"

"ကောင်းပါပြီ အရှင်ဘုရား"

တုန်လှုပ်ခြင်းကင်းသော အမိန့်သံကြောင့် တုန်လှုပ်သော စိတ်နှလုံးကို ထိန်းချုပ်ကာ အလိုက်သင့်လျှောက်ထားလိုက်ရ၏။ ဘုရားရှင်၏ သပိတ် ပရိက္ခရာ

များကို သယ်ပိုးလျက် နောက်တော်ပါးမှ လိုက်ပါရ၏။ နောက်ဆုံး အချိန်ပိုင်း ရောက်လာပြီမို့ ကျွန်ုပ်တို့နောက်ဝယ် ရဟန်းတန်းကြီးက ရှည်လျားလှ၏။ ကြောင့်ကြ မဲ့စွာ ဘာဝနာပွားနေတတ်သော အရှင်အနုရုဒ္ဓါ သည်ပင် ဤရဟန်းတန်းကြီးထဲမှာ ပါဝင်လာ၏။ အရှင်မဟာကဿပ အမှူးရှိသော ရဟန်းများမှာကား အဝေး တစ်နေရာမှ ခရီးပြင်းလာနေဆဲ ဖြစ်ပါလိမ့်မည်။

ပါဝါမြို့တွင်ကား ကျွန်ုပ်တို့အဖို့ ရေကန်အသင့် ကြာအသင့် ဖြစ်၏။ ပါဝါ မြို့မှ ရွှေပန်းထိမ်ဆရာ စုန္ဒသည် ဘုရားရှင်ကို စတင်ဖူးမြင်ရစဉ်က သောတာပန် ဉာဏ်အလင်း ပေါက်ခဲ့သူဖြစ်၍ သူ၏ သရက်ဥယျာဉ်ထဲတွင် ကျောင်းဆောက်၍ လှူဒါန်းထားခဲ့၏။ နေညိုညို ညနေချမ်းတွင် ကျွန်ုပ်တို့ ထိုကျောင်းသို့ ရောက်လာ ကြ၏။ ပါလာသမျှ ရဟန်းအားလုံးအတွက် ကျောင်း၊ အိပ်ရာနေရာ မလုံလောက် သော်လည်း ကိစ္စမရှိ။ ခြေခင်းလက်ခင်း သာယာသော အချိန်မို့ ဥယျာဉ်ထဲက သစ်ပင်များသည်ပင် ရဟန်းများ၏ ကျောင်းသခ်မ်းများ ဖြစ်ကြပေသည်။

ဤကျောင်းသို့ ကျွန်ုပ်တို့ ရောက်၍ မကြာမီတွင် ကျောင်းဒါယကာ စုန္ဒ သည် မိသားစုနှင့်တကွ လာရောက်၍ ရှိခိုးဦးခိုက်၏။ ပါလာသမျှ ရဟန်းအပေါင်း နှင့်တကွ ဘုရားရှင်ကို နက်ဖြန်နံနက် ဆွမ်းကပ်လိုပါကြောင်း လျှောက်ထား၏။ ကျောင်းဒါယကာ စုန္ဒကား ဘုရားရှင်၏ နောက်ဆုံး ဆွမ်းဒါယကာ ဖြစ်ပါလိမ့် မည်။

နောက်နေ့ဖြစ်သော ကဆုန်လပြည့်နေ့နံနက် ကျောင်းဒါယကာ စုန္ဒအိမ်သို့ ကျွန်ုပ်တို့ ရောက်သောအခါ ထူးဆန်းသော အစားအစာတစ်ခုကို တွေ့မြင်ရ၏။ ကပ်ရိုးကပ်စဉ် သာမန်ဆွမ်းဘောဇဉ်များအပြင် အထူးတလည် မြုပြင်စီမံထားသော ဝက်သားဟင်းလျာဖြစ်၏။ အဆင်အသွေးနှင့် အနံ့အသက်ကို ထောက်ဆ၍ ဖွန်းနှင့်တို့ရုံနှင့် ကြေသွားလောက်အောင် ချက်ပြုတ်ထားကြောင်း သိနိုင်ပါသည်။ ဒိဋ္ဌသရဏဂုံတည်ပြီးသော ဒါယကာဖြစ်၍ အစွန်သုံးပါးမှ လွတ်ကင်းသော ပုံသက္ကသားကို ရှာဖွေ၍ ချက်ပြုတ်ထားခြင်း ဖြစ်ပါလိမ့်မည်။

"စုန္ဒ၊ ဝက်သားဟင်းလျာကို ငါဘုရားအား ဆက်ကပ်လော့။ အခြား အခြားသော ခဲဖွယ်ဘောဇဉ်တို့ကို ရဟန်းသံဃာအား ဆက်ကပ်လော့"

ဆွမ်းပွဲသို့ ထိုင်မိသည်နှင့် ဘုရားရှင်က မိန့်ကြားတော်မူလိုက်၏။ ကျောင်း ဒါယကာ စုန္ဒကလည်း မိန့်တော်မူသည့်အတိုင်း ဆက်ကပ်ပါ၏။ သူအထူးတလည် စီမံ ချက်ပြုတ်ထားသော ဝက်သားဟင်းလျာကို ဘုရားရှင်ကိုယ်တော်တိုင် ဘုဉ်းပေး တော်မူသဖြင့် ဝမ်းမြောက်မဆုံး ဖြစ်နေပေသည်၊ သားမယားများပါ ပျော်တပြုံးပြုံး ဖြစ်နေကြပေသည်။

မနုလွန်း မရင့်လွန်းသော ဝက်တစ်ကောင်လုံးကို ချက်ပြုတ်စီမံထားသဖြင့် ဝက်သားဟင်းလျာများကို ဘုရားရှင် တစ်ပါးတည်း ဘုဉ်းပေး၍ မကုန်နိုင်ပါ။ ယခင်အခါများတုန်းကတော့ ဤလို ထူးခြားသော အစားအစာများ ဆက်ကပ်လျှင် အကြွင်းအကျန်ကို ရဟန်းများထံ ပေးစွန့်တတ်ပါ၏။ ယခုအကြိမ်မှာတော့ မည်သူ့ကိုမျှ မစွန့်တော့ပါ။

"စုန္ဒ၊ ကြွင်းကျန်သော ဝက်သားဟင်းလျာကို တွင်းနက်နက်တူး၍ မြှုပ်ပစ်ချေလော့။ ဤဟင်းလျာကို စားလျှင် ငါဘုရားမှတစ်ပါး အခြား မည်သူမျှ အစာကြေညက်မည် မဟုတ်ချေ"

ဆွမ်းဒါယကာ စုန္ဒအား မိန့်ကြားရင်း မြေမြှုပ်ခိုင်းရခြင်း၏အကြောင်းကိုပါ တစ်ပါတည်း ဖော်ပြတော်မူရ၏။ ဤပါဝါမြို့တွင် နိဂဏ္ဌနာဋပုတ္တ ဆရာကြီး ကွယ်လွန်ခဲ့သည်ဖြစ်ရာ သူ့ကို အသည်းစွဲကြည်ညိုသူများလည်း ရှိကြသည်သာ။ နိဂဏ္ဌတပည့် သာဝကများသည် ကျွန်ုပ်တို့၏ သာသနာတော်ကြီးကို မလိုတမာစိတ် မွေးမြူတတ်ကြသဖြင့် 'အရှင်ဂေါတမသည် မိမိ စား၍ မကုန်နိုင်သော ခဲဖွယ်ဘောဇဉ်ကိုပင် တပည့်များကို မသဒ္ဓါလေစွ' ဟု သူတို့တစ်တွေ ပြောဆိုခွင့် မကျန်လေအောင် မိန့်တော်မူရခြင်း ဖြစ်ပေသည်။

ဆွမ်းဒါယကာ စုန္ဒသည် ကြွင်းကျန်သော ဝက်သားဟင်းကို မြေမြှုပ်ပြီးလျှင် ဘုရားရှင့်ခြေတော်ရင်းမှာ ရိုသေစွာ လာထိုင်၏။ ဘုရားရှင်က ဆွမ်းအနုမောဒနာတရား ဟောကြားတော်မူ၏။ ထို့နောက် ကျွန်ုပ်တို့အားလုံး ကျောင်းဒါယကာ၊ ဆွမ်းဒါယကာ စုန္ဒတို့အိမ်မှ ထွက်ခဲ့ကြ၏။ ပါဝါမြို့ပြင်ရှိ သရက်တောကျောင်းသို့ ပြန်လာခဲ့၏။ ကျောင်းသို့ရောက်၍ မကြာမီမှာပင် ဘုရားရှင်၏ ရောဂါလက္ခဏာ ရုတ်တရက် ပေါ်လာပါတော့သည်။ သည်တစ်ခါတော့ ဝမ်းသွားရုံမကတော့ဘဲ သွေးများပါ ယိုစီးလာကြပါသည်။

ဤအကြိမ်မှာတော့ ကျွန်ုပ် တစ်ပါးတည်း မဟုတ်သဖြင့် ပြုစုရန် တာဝန်ကို နိုင်နိုင်နင်းနင်း ရှိပါ၏။ အရှင်အနုရုဒ္ဓါ၊ အရှင်ဉပဝါဏ စသော ရဟန်းတို့ကလည်း ဝိုင်းဝန်းကူညီကြပါ၏။ ကူညီသူများဘက်က တက်ညီလက်ညီ ရှိကြသော်လည်း ဝမ်းသွေးသွန်သော ရောဂါကား သက်သာသည် မရှိပါ။ ယခုချက်ချင်း အသက်ဇီဝိန်ကို နုတ်ယူသွားတော့မလားဟု ထင်မိ၏။

ဤနေရာတွင် နောင်လာနောက်သားတို့ နားမထွေးစေရန် ကျွန်ုပ် အမှာစကားကြားညှပ်လိုသေး၏။ ရွှေပန်းတိမ်ဆရာ စုန္ဒ၏ ဝက်သားဟင်းလျာကို ဘုဉ်းပေးတော်မူပြီးနောက် ဘုရားရှင်မှာ ဝမ်းသွေးသွန်ရောဂါ ပြန်ပေါ်လာကြောင်း ကျွန်ုပ် တင်ပြခဲ့၏။ ဤသို့ တင်ပြခြင်းမှာ ကြုံလာရလေသမျှကို ကျွန်ုပ်၏ ပရိသတ်များ

ပြည့်ပြည့်စုံစုံ ကြားနာနိုင်ပါစေဟု မှတ်တမ်းတင်ပေးခြင်းသာ ဖြစ်၏။ အချိန်ကာလအားဖြင့် အဆက်အကပ် ရှိသမျှကို ပြောပြခြင်းသာဖြစ်၏။ စုန္ဒ၏ ဝက်သားဟင်းလျာကို ဘုဥ်းပေးမိသောကြောင့် ဝမ်းသွေးသွန်ရောဂါ ပြန်ထလာသည်ဟု မဆိုလိုပါ။ အမှန်မှာမူ ဤရောဂါသည် ယနေ့မှ ပေါ်လာသည်မဟုတ်ပါ။ ဝေဠုဝရွာမှာ ဝါဆိုစဉ်ကတည်းက ရရှိခဲ့၏။ ပရိနိဗ္ဗာန်ပြုသင့်သည့်အချိန် မဟုတ်သေးသဖြင့် ထိုရောဂါကို ဖလသမာပတ် စွမ်းအားဖြင့် ဟန့်တားတော်မူခဲ့၏။ သို့သော် လွန်ခဲ့သော တပို့တွဲလပြည့်နေ့တွင်ကား ဤနေ့မှ နောက် သုံးလမြောက်လျှင် ဖလသမာပတ် မဝင်စားတော့ပြီဟု အာယုသင်္ခါရ လွှတ်တော်မူခဲ့သည့်အတိုင်း ယနေ့ ဖလသမာပတ် မဝင်စားတော့ဘဲ နေလိုက်သဖြင့် ဟန့်တားထားခဲ့သော ရောဂါများ အရှိန်ပြင်းစွာ ပေါ်ပေါက်လာကြတော့၏။ တာတမံ ဆည်ဖို့၍ တားဆီးထားသော ရေများ ဆည်ကျိုးကာ တရဟောစီးလာကြသကဲ့သို့ ဖြစ်ပါသည်။

ထို့ကြောင့် ဝက်သားဟင်းလျာကြောင့် ဝမ်းသွေးသွန်ရောဂါ ရခြင်း မဟုတ်ပေ။ အမှန်အားဖြင့် ဝက်သားဟင်းလျာသည် ရောဂါကို အားမပေးသော အားဆေးတစ်မျိုးသာ ဖြစ်၏။ အရိယာသာဝက တစ်ယောက်ဖြစ်သော စုန္ဒသည် ဘုရားရှင် ပရိနိဗ္ဗာန်စံတော့မည့် အကြောင်းကို ရဟန်းများထံမှ ကြားသိပြီးဖြစ်၏။ ဤတွင် ပရိနိဗ္ဗာန်စံခြင်းကို တားဆီး၍ ရလိုရငြား ရသာယနကျမ်းများထဲက အဆိုအမိန့်များအတိုင်း ဆေးဝါးပစ္စည်း အပြည့်အစုံဖြင့် ချက်ပြုတ် စီမံထားခြင်း ဖြစ်ပေသည်။

အကယ်၍ ဤအစားအစာကိုသာ မဘုဥ်းပေးရပါလျှင် ဤနေရာမှ ထနိုင်တော့မည် မဟုတ်ပါချေ။ ယခုတော့ ဆေးဖက်ဝင်သော အစားအစာကို ဘုဥ်းပေးလိုက်ရသဖြင့် ဤမျှဖြင့် ရောဂါဝေဒနာ အစွမ်းကုန်သွားခြင်း ဖြစ်၏။ ထို့ကြောင့် ပါဝါမြို့မှ ခရီးတာ သုံးဂါဝုတ်မျှ ဝေးကွာသော ကုသိနာရုံသို့ ခြေကျင်ခရီးဖြင့် ကြွချီတော်မူနိုင်ခြင်း ဖြစ်ပေသည်။

ဝမ်းသွေးသွန်ရောဂါမှ သက်သာခွင့်ရခိုက် ကြွတော်မူခဲ့ရသဖြင့် နေပူရှိန် ပြင်းထန်လှသေး၏။ သို့ရာတွင် ဘုရားရှင် ကိုယ်တော်တိုင်က "ကုသိနာရုံရှိရာ ချဉ်းကပ်ကြစို့" မိန့်ကြားကာ ကြွချီတော်မူခဲ့သဖြင့် ကျွန်ုပ်တို့လည်း မည်သို့မျှ မတားရဲပါ။ ရှင်တော်မြတ်၏ နောက်တော်ပါးမှသာ ခါတိုင်းလို လိုက်ပါလာရ၏။ နောက်ဆုံး ပန်းတိုင်အဖြစ် သတ်မှတ်ထား၍သာ ဘုရားရှင် လှမ်းကြွတော်မူနေရ၏။ ရောဂါ၏ဒဏ်၊ နေပူဒဏ်ကြောင့် ပင်ပန်းနွမ်းနယ်လှပါပြီ။ လှမ်းကြွနေသော ခြေလှမ်းများ နှေးကွေးလှပါပြီ။ တောလမ်းတစ်နေရာမှ အရိပ်ကောင်းသော သစ်ပင်ကြီးအောက် ရောက်သည်တွင်ကား ထိုခြေလှမ်းများ ရပ်တန့်သွားကြပါတော့သည်။

"အာနန္ဒာ၊ ဤသစ်ပင်ရိပ်တွင် နှစ်ထပ်သင်္ကန်းကြီးကို လေးခေါက် ခေါက်၍ ခင်းလော့။ ငါဘုရား ပင်ပန်းလှသည်။ ခေတ္တခဏ အပန်းဖြေ ထိုင်ဦးမည်"

သူမတူသော ခွန်အားဗလနှင့် ပြည့်ခဲ့ပါလျက် ယခုတော့ ပင်ပန်းကြောင်းကို ဖွင့်အန်တော်မူရပေပြီ။

"အာနန္ဒာ၊ ငါဘုရားအတွက် သောက်ရေခပ်ခဲ့လော့။ ငါဘုရား ရေဆာ လှ၏။ ရေသောက်လို၏"

သစ်ရွက်ခြောက်များကို စုပုံပြီးမှ ခင်းပေးထားသော နှစ်ထပ်သင်္ကန်း ပေါ်မှာ ထိုင်တော်မူပြီးသည်နှင့် ထပ်ဆင့်၍ မိန့်တော်မူပြန်၏။ ခါတိုင်း မိန့်တော် မူလေသမျှကို "ကောင်းပါပြီ အရှင်ဘုရား" ဟု ဆို၍ ကျွန်ုပ် ဆောင်ရွက်ပေးနိုင် ခဲ့ပါ၏။ ယခုတစ်ကြိမ်မှာကား ဆောင်ရွက်ရန် မလွယ်ကူပါ။

"အရှင်ဘုရား၊ တပည့်တော်တို့ ဖြတ်လာခဲ့ကြသော ချောင်းကလေးမှာ ရေနည်းလှပါသည်။ ယခု လောလောဆယ်မှာပင် လှည်းငါးရာတို့ ဖြတ်သန်း ထားကြသဖြင့် ရေနောက်လှပါသည်။ လှည်းဘီးဖြင့် မွှေနောက်ထားခဲ့ကြသော ကြောင့် ဖြစ်ပါသည်။ ရှေ့နားမှာကား ကကုဓာမြစ်ရှိနေပါသည်။ ထိုမြစ်ရေသည် ကြည်လင်ချိုမြ၍ အေးလှပါသည်။ ထိုမြစ်ရောက်မှ ရေ သောက်တော်မူပါဘုရား။ ကိုယ်ခန္ဓာအစိတ်အပိုင်းများကို အေးမြအောင် ရေဖျန်းတော်မူပါဘုရား"

နောင်တော်မြတ်၏ ပြင်းပြလှသော ဝေဒနာများကို စာနာမိပါသော်လည်း ရွံ့နှစ်ရေများကို မဆက်ကပ်လို၍ မငြင်းစဖူး ငြင်းဆန်လိုက်ရ၏။ ကျွန်ုပ်၏ လျှောက်ထားချက်ကို ဘုရားရှင်က လက်မခံပါ။ ရေသောက်လိုကြောင်း ဆက်လက် ၍သာ မိန့်ကြားတော်မူ၏။

နှစ်ကြိမ်မှ သုံးကြိမ်ထိ တောင်းဆိုလာပြီမို့ ကျွန်ုပ် မနေသာတော့ပါ။ သပိတ်ကို ပိုက်လျက် ချောင်းငယ်ကလေးသို့ လာခဲ့ရ၏။ အံ့ဩဖွယ် ရှိ ပေစွ။ မဖြစ်စဖူး ထူးကဲပေစွ။ ဘုရားရှင်၏ ဘုန်းတန်ခိုး အာနုဘော် ကြီးမားပေစွ။ စောစောက ရွံ့နှစ်ထ၍ နောက်ကျုနေခဲ့သော ရေသည် ယခု အနည်အမှုန်မရှိ။ ပကတိ ကြည်လင်၍ နေပါပြီကော။

ကြည်လင်အေးမြသော ရေများကို ဝမ်းသာအားရ သပိတ်နှင့် ခပ်ယူပြီးလျှင် ဘုရားရှင်ထံ ဆက်ကပ်ရ၏။ ခန္ဓာကိုယ်တစ်ခုလုံးမှ ရေ ဓာတ်များ ဆုတ်ယုတ်နေပြီမို့ ကိုယ်တော်မြတ်ကလည်း ကျွန်ုပ် ဆက်ကပ်သောရေကို အားပါးတရ သောက်တော် မူပေသည်။

ဤသစ်ပင်ရင်း၌ အနားယူတော်မူနေစဉ်မှာပင် နောက်ဆုံး သင်္ကန်းဒါယကာ ရောက်လာ၏။ နောက်ဆုံး သင်္ကန်းဒါယကာ ပုက္ကုသသည် မလ္လမင်းမျိုးထဲက

ဖြစ်၏။ ကုသိနာရုံမြို့က မလ္လအမျိုးသားတို့မှာလည်း ကျွန်ုပ်တို့၏ သကျအမျိုးသားများကဲ့သို့ အလှည့်ကျ မင်းလုပ်ကြသူများ ဖြစ်၏။ မင်းလုပ်ရန် တာဝန်ကျသူများက ရာဇာအမည်ခံယူကာ လွှတ်တော်မှာ အမြဲတစေ နေရ၏။ နိုင်ငံအုပ်ချုပ်ရန် တာဝန်မကျသေးသူများကား ကိုယ်ပိုင်လုပ်ငန်းများ လုပ်ကိုင်နေကြ၏။ ယခု ပုက္ကုသမှာလည်း တိုင်းပြည်အုပ်ချုပ်ရန် တာဝန်မကျသေး၍ ကုသိနာရုံမှ ကုန်စည်များကို လှည်းငါးရာနှင့် တင်ကာ ပါဝါမြို့သို့ ထွက်လာခဲ့ပေသည်။

ပုက္ကုသသည် မူလက ဘုရားရှင်နှင့် နီးစပ်သူမဟုတ်ပေ။ အာဠာရကာလာမဟူသော ပရိဗိုဇ်ရဟန်းတစ်ပါးကို ကိုးကွယ်သူဖြစ်၏။ အာဠာရ ကာလာမမှာလည်း သာမညပုဂ္ဂိုလ်တော့ မဟုတ်ပါ။ လောကီဈာန်များ ရထားသူ ဖြစ်၏။ ရရှိထားသော ဈာန်သမာပတ်ကို ဝင်စားကာ ငြိမ်သက်စွာ နေတတ်သူ ဖြစ်၏။ ထို့ကြောင့် ပုက္ကုသသည် သစ်ပင်ရိပ်က ဘုရားရှင်ကို မြင်လျှင်မြင်ချင်း သူ့ဆရာကို သတိရကာ–

"အရှင်ဘုရား၊ အံ့သြဖွယ် ရှိပေစွ။ မဖြစ်စဖူး ထူးကဲပေစွ။ ရဟန်းတို့သည် ငြိမ်သက်သော ဈာန်သမာပတ်ဖြင့် နေတတ်ကြပေစွ။ တစ်ခါတုန်းက အာဠာရကာလာမသည် ခရီးသွားရင်း လမ်းဘေးက သစ်ပင်ရိပ်မှာ နေခိုရင်း ထိုင်နေခဲ့ဖူးပါ၏။ မကြာမီ ခရီးသွားယောကျ်ားတစ်ယောက် သူ့ထံပါးသို့ ရောက်လာကာ 'အရှင်ဘုရား၊ ဤအနားမှာ လှည်းငါးရာ ဖြတ်သွားသည်ကို မြင်မိပါသလား' ဟု လျှောက်ပါသည်။ အာဠာရကာလာမက 'မမြင်လိုက်ပါ' ဟု ပြန်ပြောပါသည်။ 'အသံကို ကြားပါသလား' ဟု လျှောက်ပြန်တော့လည်း 'မကြားလိုက်ပါ' ဟုသာ ပြန်ပြောပါသည်။ ဤတွင် ခရီးသွားယောကျ်ားက– 'အရှင်ဘုရား၊ အိပ်ပျော်နေပါသလား' ဟု လျှောက်ရာ အာဠာရကာလာမက အိပ်ပျော်၍ မနေပါ။ သင်္ကန်းကြီးပေါ်ဝယ် ဖုန်မှုန့်များ တင်နေ၍သာ ဤအနားမှာ လှည်းများစွာ ဖြတ်သွားကြောင်း သိရပါသတဲ့ ဘုရား"

သူ့ဆရာ၏ လောကီဈာန် သမာပတ်ကိုပင် အဟုတ်ကြီးထင်ကာ အားပါးတရ လျှောက်ထားလိုက်ပါတော့သည်။

ဘုရားရှင်သည် အာဠာရကာလာမ၏ လောကီဈာန်ကို ကဲ့ရဲ့ရှုတ်ချမှု ပြုတော်မမူပါ။ မဂ်ဉာဏ်ဖိုလ်ဉာဏ်၏ အခြေခံဖြစ်နိုင်ကြောင်း ကြိမ်ဖန်များစွာ ဟောကြားတော်မူခဲ့ဖူးပါသည်။ သို့သော် ယခု ပင်ပန်းနွမ်းနယ်နေချိန်မှာကား အခြေခံ ဈာန်သမာပတ်များကို ချီးမွမ်းခန်း မဖွင့်နိုင်တော့ပါ။ ထို့ကြောင့် သမာပတ်ဟူသမျှ၏ အထွတ်အထိပ် နိရောဓသမာပတ်ကို ဟောကြားတော် မူလိုက်ရ၏။ အာတုမာမြို့အနီး ကောက်နယ်တလင်း၌ နိရောဓသမာပတ် ဝင်စားနေစဉ် မိုးကြီး

သည်းထန်စွာ ရွာသွန်း၍ လျှပ်တွေပြက်၊ မိုးကြိုးများထစ်သော်လည်း လုံးဝ မကြား ခဲ့ရပုံများကို ဟောကြား၏။ ဤတွင် ပုက္ကုသသည် ယောကီဈာန်သမာပတ်နှင့် အထက်တန်း အရိယာများသာ ဝင်စားနိုင်သော နိရောဓသမာပတ်တို့ အကွာကြီး ကွာခြားပုံကို သဘောပေါက်လာ၏။ ဘုရားရှင့် ရှေ့တော်မှောက်ဝယ် သရဏဂုံ သုံးပါး ဆောက်တည်၏။ ထို့နောက် သူ့အလုပ်သမားအား–

"အချင်း၊ ပွဲကြီးလမ်းကြီးရှိခါမှ တစ်ခါတစ်ခါ ငါဝတ်သော ရွှေရောင် ပိုးဝတ်စုံကို ယူချေစမ်း" ဟု ခိုင်းလိုက်၍ ပိုးဝတ်စုံ ရောက်လာသောအခါ–

"အရှင်ဘုရား၊ တပည့်တော်အား သနားသောအားဖြင့် ရွှေရောင် အဆင်းဖြင့် ဝါဝင်းသော ပိုးဝတ်စုံကို အလှူခံတော်မူပါဘုရား"ဟု ဆက်ကပ်၏။

ဘုရားရှင်က အလှူခံတော်မမူသေးဘဲ–

"ပုက္ကုသ၊ တစ်ထည်ကို ငါဘုရားအား လှူဒါန်း၍ တစ်ထည်ကို အာနန္ဒာအား လှူလော့" ဟု မိန့်တော်မူ၏။

ဘုရားရှင်၏ အမိန့်တော်ကြောင့် ကျွန်ုပ် ရတ်တရက်အားဖြင့် ကြောင် တက်တက် ဖြစ်သွားရ၏။ အမြဲတမ်း အလုပ်အကျွေး တာဝန်ယူစဉ်က ဤသို့ ပေးကမ်းခြင်းမပြုရန် ဆုပန်ထားခဲ့၏။ ဤသည်ကို ဘုရားရှင်ကလည်း မေ့လျော့ သွားမည် မဟုတ်ပါ။ သို့ပါလျက် မိမိအား လှူဒါန်းသော ရွှေရောင်ပိုးဝတ်ထည် တစ်ထည်ကို ကျွန်ုပ်အား အဘယ်ကြောင့် ပေးတော်မူရပါသနည်း။

နောက်ဆုံး အချိန်ပိုင်းတွင် ပုက္ကုသအား ချီးမြှောက်လို၍ ဖြစ်ပါလိမ့် မည်။ တစ်ထည်ကို ဘုရားရှင်ထံ လှူပြီးလျှင် တစ်ထည်ကို ကျွန်ုပ်အား လှူဒါန်းရ သဖြင့် သံဃာကို လှူပြီး ဖြစ်သွားပါသည်။ ထို့ကြောင့် တစ်ထိုင်တည်းနှင့် ရတနာနှစ်ပါးကို လှူပြီးဖြစ်ကာ ပုက္ကုသအတွက် အကျိုးကျေးဇူး များနိုင်ပါသည်။ ထို့ပြင်လည်း ကျွန်ုပ် ပြုစုလုပ်ကျွေးလာသော တာဝန်သည် ယနေ့ နောက်ဆုံး ပိတ်ဖြစ်၍ တာဝန်ကျေသော အထိမ်းအမှတ်ဖြင့် ပေးတော်မူခြင်းလည်း ဖြစ်နိုင် ပါသည်။ ထို့ကြောင့် အမိန့်တော်အရ လှူဒါန်းလာသော ပိုးထည်ကို ကျွန်ုပ် အလှူခံ လိုက်ရပါသည်။

ပုက္ကုသရှိခိုးဝပ်ချ၍ ပြန်သွားလျှင် ပိုးထည်နှစ်ခုလုံးကို ကျွန်ုပ်က ကိုယ်တော် မြတ်အပေါ် လွှမ်းခြုံလိုက်၏။ ပိုးဝတ်စုံကလည်း ရွှေရောင်တဝင်းဝင်း။ ကိုယ်တော် မြတ်ကလည်း ရွှေရောင်တဝင်းဝင်း။ ရွှေလျှင်ရွှေချင်း အရောင်ချင်းရောယှက်ကာ ပြိုးပြိုးပြက်၍ သွားပါတော့သည်။ မီးညွန့် မီးတောက်မရှိသော မီးကျီးခဲသည် အပြင်မှာ အရောင်မထွက်ဘဲ အတွင်းမှာ ဝင်းပနေသကဲ့သို့ ဖြစ်ဘိ၏။ သပ္ပာယ်လှ ပါဘိ၏။

ဤအကြောင်းကို ကျွန်ုပ်၏ စိတ်ထဲမှာ မျိုသိပ်မထားနိုင်တော့သဖြင့် နှုတ်မှ ဖွင့်ထုတ်၍ လျှောက်လိုက်ရာ–

"ဟုတ်ပေသည် အာနန္ဒာ။ ဟုတ်ပေသည် အာနန္ဒာ။ အတုမရှိသော သမ္မာသမ္ဗောဓိ ဉာဏ်တော်ကြီးကို ရခဲ့သောည၊ ခန္ဓာ အကြွင်းအကျန်မရှိဘဲ ပရိနိဗ္ဗာန်ပြုရမည့်ည၊ ဤအချိန်အခါ နှစ်မျိုးတို့တွင် ငါဘုရား၏ ကိုယ်ကာယသည် ဖြူစင်ဝင်းပ၏။ ပြိုးပြိုးပြက်ပြက် ရှိဘိ၏။ အခြားအခြားသော အချိန်မျိုးများထက် ပိုမို၍ ထူးကဲလှ၏"

ဘုရားရှင်ကလည်း ကျွန်ုပ်၏ လျှောက်ထားချက်ကို ထောက်ခံတော်မူလိုက်ပါ၏။ သမ္မာသမ္ဗောဓိ ဉာဏ်တော်ကြီးရစဉ်တုန်းက ကျွန်ုပ်၏ မျက်ကွယ်မှာဖြစ်၍ ကျွန်ုပ် မဖူးလိုက်ရပါ။ ယခု နောက်ဆုံးအချိန်မှာမှ ဖူးခွင့် ကြုံပါတော့သည်။ ယခုတစ်ကြိမ်မျှ ဖူးမြင်ခွင့် ရခြင်းကိုပင် နှစ်ကြိမ် နှစ်ခါလုံး ဖူးမြင်ရဘိသကဲ့သို့ ကြည်နူး၍ မဆုံးနိုင်အောင် ဖြစ်ရပါသည်။ ရရှိထားသော နိဗ္ဗာန်တရားတော်ကြီးကို အာရုံပြုကာ စိတ်နှလုံးတော်သန့်ရှင်း ကြည်လင်မှုကြောင့် ဤသို့ ကိုယ်တော်မြတ်ပါ အထူးသဖြင့် တင့်တယ် စမ္ပာယ်နေခြင်း ဖြစ်ပါလိမ့်မည်။

ဤအကြောင်းများကို မိန့်ကြားတော်မူပြီးလျှင် ဘုရားရှင်သည် ကကုဓာမြစ်သို့ ကြွတော်မူ၏။ ကြည်လင်ချိုမြ၍ အေးချမ်းလှသော ကကုဓာမြစ်ရေများကို ချိုးလည်း ချိုးတော်မူ၏။ သောက်လည်း သောက်တော်မူ၏။ ရေချိုးပြီး၍ ကမ်းပေါ်တက်သွား ချိန်မှာကား ဘုရားရှင့် နောက်တော်ပါးဝယ် အရှင်မဟာသာရိပုတ္တရာ၏ ညီတော်စုန္ဒ လိုက်ပါသွားပေသည်။

ဖြစ်များ ဖြစ်နိုင်မည် ဆိုပါက ကျွန်ုပ်သာလျှင် နောက်တော်ပါးမှ ထက်ကြပ်မကွာ လိုက်ပါသွားလိုလှ၏။ ကမ်းနဖူးက သရက်တောထဲမှာ နှစ်ထပ်သင်္ကန်းကြီးကို ခင်းပေးလိုလှ၏။ သို့သော် ကျွန်ုပ် တစ်ကိုယ်တည်းဖြင့် နှစ်ကိစ္စကို တစ်ပြိုင်နက် မဆောင်ရွက်နိုင်ပါ။ ဘုရားရှင် ကမ်းပါးပေါ် တက်သွားချိန်တွင် ဘုရားရှင်၏ ရေသနပ်တော်ကို ရေညှစ်ရင်း ကျန်ရစ်ခဲ့ရပါသည်။

ကျွန်ုပ် ကတိုက်ကရိုက် တက်သွားသောအခါ ဘုရားရှင် ကျိန်းစက်၍ နေတော်မူပါပြီ။ ကျွန်ုပ်ကိုယ်စား စုန္ဒက နှစ်ထပ်သင်္ကန်းကြီးကို ခင်းပေးထားပါသည်။ ဘုရားရှင်သည် ခြင်္သေ့မင်း၏ အိပ်စက်ခြင်းကဲ့သို့ လက်ယာနံတောင်းဖြင့် တစောင်းကျိန်းလျက် ရှိပါသည်။ အောက်ဒူးကို ခပ်ကွေးကွေးထားကာ အပေါ်ခြေထောက်ကို ခပ်ဆန့်ဆန့်ပြုလျက် ထားပါသည်။ အောက်ခြေဖဝါးထက် အပေါ်ခြေဖဝါးက ကျော်လွန်နေပါသည်။ ဒူးဆစ်ချင်း၊ ခြေမျက်စိချင်း မထပ်မိအောင် ထားတော်မူခြင်း ဖြစ်ပေသည်။

လမ်းမှာတုန်းက ပင်ပန်းလွန်း၍ ထိုင်၍ နားတော်မူခဲ့ရပြီ။ ယခုတော့ ကျိန်းလျက် အနားယူတော်မူရချေပြီ။ သို့သော် ဤနေရာမှာ တောက်လျှောက် ကျိန်းစက်သွားရန်ကား မဟုတ်သေးပါ။ ခရီးဆက်ရပါလိမ့်ဦးမည်။ ကုသိနာရုံ ရဂုံသာမော အင်ကြင်းတောသို့အရောက် လှမ်းရလိမ့်ဦးမည်။ သို့ဖြစ်၍ ခဏ အကြာတွင် မျက်လုံးတော်များ ပွင့်လာကာ–

"အာနန္ဒာ၊ ရွှေပန်းထိမ်သည်စုန္ဒသည် သူ့ဆွမ်းကို စားကာ ငါ ဘုရား ပရိနိဗ္ဗာန် ပြုရလေခြင်းဟု နှလုံးမသာ ဖြစ်ခဲ့ပါသော် သင်က ဤသို့ ဖျောင်းဖျပါလေ။ 'ဒါယကာ စုန္ဒ၊ သင့်မှာ အရတော်လေစွ။ ကုသိုလ်ကံကောင်းပေစွ။ သင့်ဆွမ်းကို ဘုဉ်းပေးတော်မူကာ ဘုရားရှင် ပရိနိဗ္ဗာန်ပြုတော်မူ၏။ အတုမရှိသော သမ္မာသမ္ဗောဓိ ဉာဏ်တော်ကြီးကို ရတော်မူသောနေ့၊ ခန္ဓာအကြွင်းအကျန် မရှိသောအားဖြင့် ပရိနိဗ္ဗာန် ပြုတော်မူသောနေ့၊ ဤနှစ်နေ့၌ ဆက်ကပ်လှူဒါန်းရသော ဆွမ်းအလှူ တို့သည် အကျိုးအာနိသင် တူမျှကြ၏။ အခြားအခြားသော ဆွမ်းအလှူတို့ထက် အကျိုးအာနိသင် ကြီးမားလှ၏။ ဒါယကာ စုန္ဒသည် အသက်ရှည်ခြင်း၊ အဆင်း လှခြင်း၊ ချမ်းသာကြီးခြင်း၊ အခြွေအရံများခြင်း၊ နတ်ရွာသုဂတိလားရခြင်း၊ အကြီးအမှူးအဖြစ်ရခြင်း၏ အကြောင်းဖြစ်သော ကောင်းမှုကုသိုလ်ကို ပြု ရပေပြီ။ ဤသို့ ဟောကြားသော ဒေသနာတော်ကို ဘုရားရှင့် မျက်မှောက်တော်မှ ငါကိုယ်တိုင် ကြားနာခဲ့ရသည် ဤသို့ ပြောပြ၍ စုန္ဒကို ဖျောင်းဖျပေးပါလေ"

မိမိ၏ ရောဂါဝေဒနာထက် နောက်ဆုံး ဆွမ်းဒါယကာ စိတ်သက်သာ ရေးကိုသာ ရှေးရှုတော်မူသော မဟာကရုဏာရှင်ပါပေတကား။

(သုတ်မဟာဝဂ်၊ မဟာပရိနိဗ္ဗာနသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)

**

# ကုသိနာရုံ အင်ကြင်းစုံ၌

ကျွန်ုပ်၏ စိတ်နှလုံးကို ရွှင်ပြုံးစေတတ်၊ ပွားစေတတ်သော အို သူတော်သူမြတ် အပေါင်းတို့၊ လာခြင်းကောင်းသော ရှင်တော်မြတ်၏ ကောင်းသောလာခြင်း၊ ကောင်းသတင်းအဖုံဖုံကို ဇာတ်စုံခင်း၍ လာခဲ့ရာတွင် ယခု နိဂုံးပိုင်းသို့ ရောက်လာပါပြီ။ ကျွန်ုပ်နှင့်တကွ ပရိသတ်အားလုံးက နိဂုံးမချုပ်စေချင်ကြသေးသော်လည်း မလွန်ဆန်နိုင်သော ဓမ္မသဘာဝကြီးက နိဂုံးချုပ်ရန် ညွှန်ကြားနေပါပြီ။

ကကုဓာမြစ်ကမ်းရှိ သရက်ဥယျာဉ်တွင် ခေတ္တခဏ အပန်းဖြေ ကျိန်းစက်ပြီးနောက် ဘုရားရှင် ခရီးဆက်တော်မူပြန်ပါသည်။ ဟိရညဝတီမြစ်ကို ကူးပြီးနောက် ကွေ့ကောက်သော လမ်းကြောင်းအတိုင်း လျှောက်ခဲ့ရာ ကုသိနာရုံ ရဂုံသာမော အင်ကြင်းတောသို့ ရောက်လာပါပြီ။

ကျွန်ုပ်တို့၏ ဆရာသခင် ကျေးဇူးရှင်ကြီးသည် မိမိကိုယ်တိုင် ထိုးထွင်း သိမြင်ထားသော သစ္စာလေးပါး မြတ်တရားကို ဆင့်ကူးဆင့်ကမ်း ဉာဏ်လက် လှမ်းကာ ပေးနိုင်ရေးအတွက် ဒေသစာရီကြွချီတော်မူခဲ့၏။ မဇ္ဈိမဒေသ တစ်ခွင်ကို ခြေကျင်ခရီးဆန့်တော်မူခဲ့၏။ ခရီးဆန့်ရင်း ဆန့်ရင်းဖြင့်ပင် ကြံ့ခိုင်သန်မာလှသော ကိုယ်တော်သည် တစ်စတစ်စ ယိုယွင်း၍ လာပေပြီ။ ဟိုမှာသည်မှာ ချည်တုပ် ကွပ်နှောင်ထားပါမှ သွား၍ရသော လှည်းအိုကြီးကဲ့သို့ ဖြစ်လာချေပြီ။ ယခု ဤလှည်းအိုကြီးသည် နောက်ဆုံးစခန်းသို့ တရွေ့ရွေ့ တအိအိ ချဉ်းကပ်နေပေပြီ။ လုမ္ဗိနီသာမော အင်ကြင်းတောမှ စတင်၍ လှမ်းလာခဲ့သော ခရီးရှည်ကြီးသည် ကုသိနာရုံ အင်ကြင်းတော၌ အဆုံးသတ်ရပါတော့မည်။ လူသားတို့အတွက် မနေမနား ခရီးသွားခဲ့ပြီးပြီမို့ ယခုတော့ မိမိမွေ့လျော်ရာ တောရိပ်သာမှာ အနား ယူရပါတော့မည်။

အနောက်ဘက် တောင်စွယ်မှာ နေလုံးကွယ်သည့်အချိန်တွင် ကျွန်ုပ်တို့သည် အင်ကြင်းတောသို့ ဝင်မိကြ၏။ တောအုပ်၏ အလယ်ခေါင်တွင် ကွက်လပ်တစ်ခု

ဖြစ်နေ၏။ ထိုကွက်လပ်ထဲမှာ အင်ကြင်းပင်နှစ်ပင်က တောင်ဘက် မြောက်ဘက် ယှဉ်လျက် ရှိကြ၏။ ပတ်ဝန်းကျင် အပင်ကြီးများကြားဝယ် ပျို့မျစ်သော အသွင်ဖြင့် ကြီးထွားရန် အားယူနေကြဆဲ ဖြစ်၏။ တစ်ပင်နှင့် တစ်ပင် အကိုင်းချင်း ယှက်ကာ အဖူး အကင်း အငုံ များပါ ပေါင်းစပ်၍ နေကြပေသည်။ ဤနေရာ ဤဌာနသို့ ရောက်နိုင်ရေးအတွက် ကျွန်ုပ်နှင့် စုန္ဒတို့က ကိုယ်တော်မြတ်ကို တစ်ဖက်တစ်ချက်က ဖေးမကူတွဲ၍ လာခဲ့ရ၏။ ရန့်သင်းသည့် အင်ကြင်းအစုံသို့ ရောက်သည်တွင်ကား တစ်လှမ်းချင်း တစ်လှမ်းချင်း လှမ်းလာခဲ့သော ခြေလှမ်းများ ရပ်တန့်သွားကြပါတော့သည်။

"အာနန္ဒာ၊ အင်ကြင်းပင်အစုံတို့၏ အလယ်၌ မြောက်အရပ်သို့ ဦးခေါင်း ပြုလျက် ညောင်စောင်းငယ်ကို ခင်းပါလော့။ ငါဘုရား ပင်ပန်းလှသည်။ ကျိန်းစက် ဦးမည်"

"ကောင်းပါပြီ အရှင်ဘုရား"

မလ္လမင်းညီမင်းသားများ အပန်းဖြေလာရင်း ထိုင်နေကျညောင်စောင်း ငယ်ကို ဘုရားရှင်အတွက် ခင်းပေးလိုက်ရ၏။ ရွှေငွေ ကျောက်သံ ပတ္တမြားတွေမပါ။ လေပူနေပူထဲမှာ ထာဝစဉ်နေခဲ့သော သာမန် သစ်သား ညောင်စောင်းငယ်ကလေး သည် အတုမရှိသော ဘုရားရှင်၏ နောက်ဆုံး ကျိန်းစက်ရာ ဖြစ်နေပေသည်တကား။ ဤညောင်စောင်းကလေးကို ခင်းပေးရခြင်းပင် ဘုရားရှင်အား ကျွန်ုပ် နောက်ဆုံး ပြုစုလိုက်ရခြင်းပါတည်း။

အဖိုးမတန်သော သစ်သားညောင်စောင်းကလေးပေါ်တွင် အတုမရှိသော ဘုရားရှင်သည် လက်ယာနံတောင်းဖြင့် ကျိန်းစက်တော်မူနေပါပြီ။ ကျိန်းစက်ရာတွင် သတိသမ္ပဇဉ် အစဉ်ကပ်လျက် ရှိသော်လည်း အချိန်တန် လျှင် ပြန်ထဦးမည်ဟူသော နှလုံးသွင်းမှုကား ရှိမည် မဟုတ်ပါ။ ဤတစ်ကြိမ် ကျိန်းစက်ခြင်းသည် မထသော ကျိန်းစက်ခြင်းပါတည်း။

နောင်တော်မြတ်၏ မျက်လွှာနှစ်ခု မြေးယှက်သွားခါမှ ကျွန်ုပ်သည် ပတ်ဝန်းကျင်ကို သတိပြုမိတော့၏။ အရှေ့လောကဓာတ်က လပြည့်ဝန်းကြီး သည် အင်ကြင်းပင်များပေါ်မှာ ကျော်လွန်လာခဲ့၏။ နေမင်း၏ ရောင်ခြည်ကြွင်း များနှင့် လရောင်တို့သည် အင်ကြင်းတောကို လွှမ်းမောဖွယ်ဖြစ်အောင် တန်ဆာ ဆင်ပေးနေကြ၏။ ရှိရှိသမျှအင်ကြင်းပင်များကလည်း ပင်လုံးကျွတ်မျှ ဖူးပွင့်ဝေဆာ နေကြ၏။ အကင်း အငုံ အဖူး အပွင့်တို့က မြေတစ်ပြင်လုံး ဖြန့်ကြဲ၍ နေကြ၏။

နွေကာလတို့၏ အထွတ်အခေါင်ဖြစ်သော ဤကဆုန်လပြည့်နေ့တွင် အင်ကြင်းပန်းတို့ ဖူးပွင့်ရန် မဟုတ်ပါ။ စံကားဝါပန်းတို့၏ ဖူးပွင့်ချိန်သာဖြစ်၏။

သို့ပါလျက် ပင်အင်ကြင်းတို့သည် စကားဝါပန်းများကို အားမနာပါးမနာ တစ်ကျော့ တစ်ဖန် ပွင့်လာကြပြန်ပေပြီ။ သူတို့တစ်တွေသည် သည်နှစ်အဖို့ ပျော်ပြီးရင်း ပျော်ရင်းဖြင့် ပျော်ခင်းပြု၍ပင် အားမရကြလေ ရောသလား။ အမှန်မှာတော့ ထိုသို့ မဟုတ်နိုင်ပါချေ။ သူတို့တစ်တွေ ယခု ဆင်နွဲနေသော ပွဲတော်ကြီးသည် ပျော်ပွဲရွှင်ပွဲ မဟုတ်နိုင်ပါချေ။ မကြာမီ ပရိနိဗ္ဗာန်စံတော်မူမည့် ဘုရားရှင်အား နောက်ဆုံးအကြိမ် ပူဇော်ခြင်းဖြင့် ပူဇော်နေကြခြင်းသာ ဖြစ်နိုင်ပါသည်။ မချိတင်ကဲ ငိုပွဲကြီး ဆင်နေကြခြင်းသာ ဖြစ်နိုင်ပါသည်။

ရနံ့သင်းသော အင်ကြင်းပန်းတို့နှင့်တကွ မန္ဒာရဝ နတ်ပန်းတို့ကလည်း ထက်ကောင်းကင်မှ တဖွဲဖွဲတသဲသဲ ကြဲဖြန့်လျက်ရှိပါ၏။ နတ်တို့၏ ပန်းနံ့သာတို့ ကလည်း တောတစ်ခွင်လုံး ထုံသင်းမွှေးပျံ့နေကြပါ၏။ နတ်စည် နတ်ညင်း နတ်တေးချင်းတို့ကလည်း ထက်ကောင်းကင်မှာ ညင်ညင်သာသာ တီးခတ် သီကျူး လျက် ရှိကြ၏။ ကျွန်ုပ်၏ တစ်သက်တာတွင် စိတ်ဘဝင် အထိခိုက်ရဆုံးသော ပူဇော်ပွဲကြီးပါပေတည်း။ မကြုံစဖူး ထူးကဲလှသော ပူဇော်ပွဲကြီးပါပေတည်း။

"အာနန္ဒာ၊ ဤလောက် ထူးထူးခြားခြား ခမ်းခမ်းနားနား ပူဇော်ကြသော် လည်း ငါဘုရားကို အဟုတ်တကယ် အလေးအမြတ်ပြုရာ မရောက်သေးပေ။ ပူဇော်ရာ မရောက်သေးပေ။ ကိုးကွယ်ဆည်းကပ်ရာ မရောက်သေးပေ"

မြွေးယုက်ထားသော မျက်လွှာများနှင့်အတူ နှုတ်တော်ကပါ ဖွင့်ဟ၍လာ ပေသည်။

ကျွန်ုပ်၏ အမည်တပ်၍ ဟောကြားသော်လည်း ဤဒေသနာတော်သည် ရှိရှိသမျှ သာဝကအားလုံးတို့အတွက် ဖြစ်၏။ ထို့ကြောင့်လည်း ဘုရားရှင်၏ မိန့်ခွန်းတော်ကို ရဟန်းအားလုံးက လေးစားစွာ ကြားနာလျက် ရှိကြပေသည်။

ယခင့်ယခင် အချိန်များတုန်းကတော့ အလှူဒါန၏ ဂုဏ်ကျေးဇူးကို ဘုရား ရှင်သည် အထူးတလည် ချီးမွမ်းတော်မူခဲ့၏။ စေတနာထက်သန်စွာ လှူဒါန်းသော ပန်းတစ်ပွင့်၏ အကျိုးတရားကိုပင် အတိုင်းမသိ အနန္တ အကျိုးစီးပွား ရနိုင်ကြောင်း မိန့်ကြားတော်မူခဲ့၏။ သို့ပါလျက် ယခု နောက်ဆုံးအချိန်တွင်ကား ဥစ္စာပစ္စည်းနှင့် ပူဇော်ခြင်းကို ပစ်ပယ်တော် မူလိုက်ချေပြီ။ အကြောင်းမည်သို့ ရှိပါမည်နည်း။

ကျွန်ုပ်တို့ ရဟန်းတော်များ သာသနာ့တာဝန် ထမ်းဆောင်ရာတွင် အပ်စပ် သော ပစ္စည်းများ ပြည့်စုံရန် လိုအပ်ပါ၏။ လိုအပ်သည့်အတိုင်း ဒါယကာ ဒါယိကာမများကလည်း တတ်စွမ်းသမျှ လှူဒါန်းကြပါ၏။ သို့သော် လှူရေး တန်းရေး ကိုချည်း အသားပေးနေလျှင်ကား သီလ၊ သမာဓိ၊ ပညာတို့ဘက်က ယုတ်လျော့ သွားကြတော့မည် ဖြစ်၏။ ဒါယိကာများတွင်မက သာသနာ့ ဝန်ထမ်းများ

ဘက်ကလည်း ဉာဏ်ပညာထက် သဒ္ဓါတရားကိုသာ အသားပေးလာကြပေတော့မည်။ သက်ဆိုင်ရာ တပည့် ဒါယိကာများကို စုရုံးကာ ပူဇော်ပွဲကြီးတွေကိုသာ ဆက်ကာဆက်ကာ ကျင်းပနေကြပေတော့မည်။ ပညာမဖက် သဒ္ဓါသက်သက်ဖြင့် ပစ္စည်းလေးပါး ပူဇော်ခြင်းကိုချည်း အမွှမ်းတင်နေကြပါလျှင် သာသနာတော်သည် တစ်ရက်တာမျှ ယာဂုတစ်ခါသောက်ကလေးမျှ တည်တံ့နိုင်တော့မည် မဟုတ်ပါချေ။ ဇေတဝန်ကျောင်းတော်ကြီးကဲ့သို့ ကျောင်းတော်ကြီးပေါင်း တစ်ထောင်မျှ ဆောက်လုပ်လှူဒါန်းသော် ကုသိုလ်ကံဘက်က အသားတက်သည် မှန်ပါ၏။ သို့သော် တရားအားလျော်သော ကျင့်သုံးမှုမပါလျှင် သာသနာတော် တည်တံ့အောင်ကား မစွမ်းနိုင်ချေ။ ထို့ကြောင့် ဝတ္ထုပစ္စည်းတို့ဖြင့် ကြီးကျယ်ခမ်းနားစွာ ပူဇော်ခြင်းကို ဘုရားရှင်က ပစ်ပယ်တော်မူကာ အကောင်းဆုံးနည်းကို ညွှန်ကြားတော်မူပေသည်။

"အာနန္ဒာ၊ ရဟန်းရှင်လူ မည်သူမဆို လောကုတ္တရာတရား ကိုးပါးအား လျော်သော အကျင့်ကို ကျင့်ငြားအံ့။ ကိလေသာဟူသမျှ ငြိမ်းအေးသော နိဗ္ဗာန်အားလျော်စွာ ငြိမ်းအေးသော စိတ်နှလုံးဖြင့် ရှင်ပြုံးစွာ ကျင့်သုံးငြားအံ့။ ထိုသူသည် ငါဘုရားအား အလေးအမြတ်ပြုသည် ဖြစ်၏။ ထို့ကြောင့် သင်ရဟန်းတို့သည် ဤသို့သာ ကျင့်သုံးကြကုန်လော့"

နောက်ဆုံးအချိန် ရောက်လာပြီမို့ သာသနာတော်တည်စေကြောင်း အကောင်းဆုံးသော ပူဇော်နည်းကို ညွှန်ပြတော်မူလိုက်ပေသည်။

ဤတရားတော်များ ဟောကြားစဉ်တွင် အရှင်ဥပဝါဏသည် ဘုရားရှင်၏ ရှေ့တည့်တည့်က ဖူးမြင်လျက်ရှိ၏။ ဝါတော်နှစ်ဆယ် မပြည့်ခင်တုန်းက ဤအရှင်မြတ်ကြီးသည်လည်း ဘုရားရှင်ကို ပြုစုလုပ်ကျွေးခဲ့သူ ဖြစ်၏။ ဘုရားရှင်၏ လေနာရောဂါ သက်သာပျောက်ကင်းစေရန် ရေနွေး အလှူခံထွက်ခဲ့ရပုံကို ကျွန်ုပ်၏ ပရိသတ်များ မှတ်မိကောင်း မှတ်မိပါလိမ့်ဦးမည်။ ပင်ကိုကပင် ဤအရှင်မြတ်ကြီးသည် ကိုယ်ခန္ဓာ ထွားကျိုင်းလှ၏။ အရပ်မြင့်သည်နှင့်အမျှ ကိုယ်လုံးကိုယ်ထည်ကလည်း ကြီးမားလှ၏။ ထို့ကြောင့်ပင် သူနှင့် ကျွမ်းဝင်ရင်းနှီးသော သီတင်းသုံးဖော်များက သူ့ကို ဆင်ပေါက်ကြီးဟု ချစ်စနိုး ခေါ်ဝေါ်ခဲ့ကြပေသည်။

ဆင်ပေါက်ငယ်တမျှ တင်စားရလောက်အောင် ကြီးမားထွားကျိုင်းလှသော အရှင်ဥပဝါဏသည် သင်္ကန်းဝတ်ပြန်တော့လည်း ပံ့သကူသင်္ကန်းကိုမှ ဝတ်ရုံ၏။ တစ်ထွာစ တစ်ညှိုစ ရတတ်သမျှ အဝတ်စများကို စပ်ဟပ်ကာ ချုပ်ထားသဖြင့် သူ့သင်္ကန်းသည် ထူထူပွပွကြီး ဖြစ်နေ၏။ ကြီးမားထွားကျိုင်းသော ကိုယ်ခန္ဓာတွင် ထူထူပွပွ သင်္ကန်းကြီးများ ဝတ်ရုံထားသဖြင့် ပရိသတ်အားလုံး၏ မြင်ကွင်းကို

ပိတ်ဆို့ထားမတတ် ဖြစ်နေပေသည်။ ထို့ကြောင့်ပင် ဘုရားရှင်က သူ့ကို ရှေ့တည့်တည့်မှ ဖယ်ရှားနေရန် မိန့်ကြားတော်မူရပေသည်။

အရှင်ဥပဝါဏ တိမ်းရှောင်ပေးလိုက်သဖြင့် ပရိသတ်အားလုံး၏ မြင်ကွင်းမှာ ရှင်းလင်းသွားပါလိမ့်မည်။ သို့ရာတွင် ကျွန်ုပ်၏ ရင်တွင်းမှာတော့ မရှင်းသေးပါ။ ရှေ့ရေးနောက်ရေး အတွေ့အကြုံတို့ဖြင့် ရှုပ်ထွေးလျက် ရှိပါ၏။ ယခင့်ယခင် အချိန်များတုန်းက အနယ်နယ်အရပ်ရပ်မှ ရဟန်း သံဃာတော်များသည် တစ်နှစ်လျှင် နှစ်ကြိမ်ကျ ဘုရားရှင်ထံ ရောက်လာကြ၏။ ဝါဆိုခါနီးမှာ တစ်ကြိမ်၊ ဝါကျွတ်တော့ တစ်ကြိမ် အဖူးအမြော် လာကြ၏။ ဝါဆိုခါနီးမှာ ကမ္မဋ္ဌာန်းတောင်းရန် လာကြ၍ ဝါကျွတ်သောအခါမှာကား ပေးလိုက်သော ကမ္မဋ္ဌာန်းကို ပွားများသဖြင့် ရရှိလာသော တရားထူးကို လျှောက်ထားရန် ဖြစ်ပေသည်။

ရောက်လာသော ရဟန်းသံဃာအားလုံးသည် ကျွန်ုပ်၏ နှလုံးအင်အား တိုးပွားစေသော အရှင်မြတ်များချည်း ဖြစ်ပါ၏။ အာဂန္တုရဟန်းများရောက် လာပြီဆိုလျှင် ကြီးလျှင်လည်း ကြီးသည့်အလျောက် ငယ်ပြန်တော့လည်း ငယ်သည့်အလျောက် ကျွန်ုပ်က မေတ္တာရှေ့ထား၍ ကြိုဆိုခဲ့ပါသည်။ အာဂန္တု ရဟန်းများ၏ လက်ထဲမှ သပိတ်၊ သင်္ကန်းနှင့်ထီးများကို ဆီး၍ ယူခဲ့ပါသည်။ ထိုင်စရာ အရန်သင့် ခင်းပေးခဲ့ပါသည်။ သူတို့အတွက် လိုအပ်သမျှကို ပြည့်ဝအောင် ဆောင်ရွက်၍ ပေးခဲ့ပါသည်။

ကျွန်ုပ်၏ မေတ္တာစာတ်သည် အာဂန္တုရဟန်းများထံသို့ ကူးစက်သွားဟန် ရှိပါသည်။ အနယ်နယ်အရပ်ရပ်မှ ရောက်လာသော ရဟန်းများသည်လည်း ကျွန်ုပ် အပေါ် မေတ္တာစေတနာ တုံ့ပြန်လာခဲ့ကြပါသည်။ နို့ရည်နှင့် ရေကို ရောစပ်သောအခါ အခြားမထင်သကဲ့သို့ ကိုယ်ရောစိတ်ပါ ပူးပေါင်းမိကြပါတော့သည်။ ထိုရဟန်းများ နှင့် ပတ်သက်၍ ကျွန်ုပ် ရင်ထဲမှာ ဝမ်းနည်းစရာများ ပေါ်ပေါက်လာသဖြင့်

"အရှင်ဘုရား၊ ရှေးယခင်တုန်းက အနယ်နယ် အရပ်ရပ်မှာ သီတင်းသုံး ကြသော ရဟန်းများသည် တစ်နှစ်လျှင် နှစ်ကြိမ်ကျ ဘုရားရှင်ထံတော် မှောက်သို့ ရောက်ခဲ့ကြပါသည်။ တပည့်တော်၏ နှလုံးအင်အား တိုးပွားစေတတ်သော ထိုအရှင်မြတ်များကို တပည့်တော် ဖူးမြင်ခွင့်ရခဲ့ပါသည်။ ဝတ်ကြီးဝတ်ငယ် ပြုစုခွင့်ရခဲ့ပါသည်။ ဘုရားရှင် ကွယ်လွန်သွားသည့် နောက်မှာကား ထိုအခွင့် အရေးများ ရနိုင်တော့မည် မဟုတ်ပါဘုရား"

ကျွန်ုပ်ခံစားမိသည့်အတိုင်း ဖွင့်ဟလျှောက်ထားလိုက်ရပါတော့သည်။

ကျွန်ုပ်၏ လျှောက်ထားချက်ကို ဘုရားရှင်က ကရုဏာသက်စွာ နားဆင် တော်မူပြီးလျှင်

"အာနန္ဒာ၊ သဒ္ဓါ တရားနှင့် ပြည့်စုံသော အမျိုးကောင်းသားတို့ အရောက် သွား၍ ကြည့်ရှုထိုက်သော သံဝေဂဉာဏ် ပွားများထိုက်သော ဌာနလေးမျိုး ရှိ၏။ ထိုဌာနလေးမျိုးကား ငါဘုရားရှင် ဖွားမြင်ခဲ့ရာ လုမ္ဗနီသာမော အင်ကြင်းတော။ အတုမရှိသော သမ္မာသမ္ဗောဓိ ဉာဏ်တော်ကြီးကို ဆရာမရှိ မိမိအလိုလို ရရှိခဲ့ရာ မဟာဗောဓိပင်။ ဓမ္မစကြာတရား ဟောကြားခဲ့ရာ ဣသိပတန မိဂဒါဝုန်တော။ ယခု နောက်ဆုံး ပရိနိဗ္ဗာန်ပြုရမည့် ကုသိနာရုံ အင်ကြင်းစုံတို့ ဖြစ်သည်။

"အာနန္ဒာ၊ နောက်နောင်အခါတွင် သဒ္ဓါတရားနှင့် ပြည့်စုံသော ရဟန်းများ၊ ရဟန်းမများ၊ ဒါယကာ၊ ဒါယိကာမများသည် ဤလေးဌာနတို့ကို ကြည့်ရှုရန်၊ သံဝေဂဉာဏ် ပွားများရန် လာရောက်ကြပါလိမ့်မည်။ ဤဌာနများတွင် တည်ထားသော စေတီများကို လှည့်လည် ဖူးမြော်ခြင်း၊ စေတီယင်္ဂဏဝတ်များကို ပြုစုခြင်းဖြင့် အကျိုးစီးပွား များပြားပေလိမ့်မည်။ ရောက်လာသော ပုဂ္ဂိုလ်များကို ဌာနတစ်ခုခုတွင် ဆီးကြို၍ သင်တွေ့ဆုံခွင့် ရှိနေပေသည်"

ဝမ်းနည်းစရာများထဲက ဝမ်းသာစရာ အချက်များကို ထုတ်ဖော်၍ ပြတော်မူလိုက်ပါသည်။ ဤသို့သော ကရုဏာတော်ဖြင့် ကျွန်ုပ်အပေါ် နေ့ရက်များစွာ ဆက်လက်၍ စောင့်ရှောက်တော်မူပါလျှင် မည်မျှလောက် ကောင်းပါလိမ့်မည်နည်း။

(သုမဟာဝဂ်၊ မဟာပရိနိဗ္ဗာနသုတ်၊ ယမကသာလာ၊ ဥပဝါဏထွေရ၊ စတုသံဝေဇနိယဋ္ဌာနပါဠိတော်နှင့် အဋ္ဌကထာ)

**

# ရွှေတောင်ကြီး ပြိုတော့မည်

နေမင်း၏ ရောင်ခြည်ကြွင်းများသည် တစ်စချင်း တစ်စချင်း ပျောက်ကွယ်သွားကြ၏။ သူတို့နေရာတွင် ငွေရောင်ခြည်များက အစားထိုးလျက် ဖြန့်ကြဲလာကြ၏။ ရိုးတံနီနီ အင်ကြင်းပွင့်များသည်ပင် ငွေမင်ရည်ဆမ်းထားကြရ၏။ သို့သော် ထိုငွေရောင်ခြည်တို့သည် ညောင်စောင်းပေါ်က ရွှေတောင်ကြီးကိုကား အရောင်ပြောင်းသွားအောင် မတတ်နိုင်ကြပါ။ ဖြူဖြူဖွေးသော လရောင်အောက်တွင် ကိုယ်တော်ရော သင်္ကန်းတော်ပါ ရွှေအဆင်းကဲ့သို့ ဝါဝင်းလျက်သာ ရှိနေပေသည်။

ငွေလရောင်ကြောင့် အရောင်မပြောင်းသော ရွှေတောင်ကြီးသည် အနိစ္စသဘောကိုကား မလွန်ဆန်နိုင်ပါ။ မကြာမီကာလ ဤတစ်ညတာအတွင်းမှာပင် ပြိုကွဲရပါတော့မည်။ ကျွန်ုပ်အား အစဉ် ကြည့်ရှုစောင့်ရှောက်ခဲ့သော ကရုဏာမျက်လုံးတော်များ မှိတ်သွားကြပါတော့မည်။ ကျွန်ုပ်အား သွန်သင် ဆုံးမခဲ့သော မေတ္တာနှုတ်ခမ်းလွှာများ စေ့သွားကြပါတော့မည်။ မျက်လုံးတော်များ မမှိတ်သေးမီ၊ မေတ္တာနှုတ်ခမ်းလွှာများ မစေ့သေးမီ ကျွန်ုပ်အတွက် အရေးကြီးသော ကိစ္စတစ်ခု လျှောက်ထားရန် ရှိလာပါသည်။ ထိုကိစ္စကား အခြားမဟုတ်ပါ။ အမျိုးသမီးများနှင့် ပတ်သက်သော ကိစ္စဖြစ်ပါသည်။

ကျွန်ုပ်၏ ပရိသတ်များ သိကြသည့်အတိုင်း ကျွန်ုပ်မှာ အမျိုးသမီးများနှင့် အများဆုံး ဆက်ဆံရသူ ဖြစ်၏။ ရောက်လေရာရာအရပ်တွင် အမျိုးသမီးများနှင့် အကျွမ်းတဝင် ခင်မင်ခဲ့ရ၏။ ဤသည်မှာ ကျွန်ုပ်၏ ဘာဝအကျိုးပေးဟုလည်း ဆိုနိုင်ပါ၏။ ကျွန်ုပ်၏ စိတ်ဓာတ်ကိုက အမျိုးသမီးများနှင့် နီးစပ်သောကြောင့်လည်း ဖြစ်နိုင်ပါ၏။ လူ့သမိုင်း အစဉ်အဆက်က အနှိမ်ခံလာခဲ့ရသော အမျိုးသမီးများကို အလေးတမူ အရေးယူကာ ကျွန်ုပ်တို့နှင့် တန်းတူဖြစ်အောင် စွမ်းဆောင်ခဲ့သောကြောင့်လည်း ဖြစ်ပါလိမ့်မည်။

ကျွန်ုပ်၏ သီတင်းသုံးဖော်များထဲတွင် ဤကိစ္စကို ခွင့်လွှတ်နိုင်သူများရှိသလို ခွင့်မလွှတ်နိုင်သူများလည်း ရှိနိုင်ပါသည်။ နောင်တော်မြတ် ရှိတော်မူစဉ်မှာတော့ ကွဲကွဲပြားပြား ပေါ်ထွက်လာကြဦးမည် မဟုတ်ပါ။ ကျွန်ုပ်ရှေ့က မားမား မတ်မတ် ရပ်ပေးသူ မရှိတော့လျှင်ကား သူတို့၏ သဘောထားကို ပြသကြပါလိမ့်မည်။ ထို့ကြောင့် ဤကိစ္စနှင့် ပတ်သက်၍ ယခုကတည်းက အဖြေရှာထားရပါလိမ့်မည်။

"အရှင်ဘုရား၊ အမျိုးသမီးများနှင့် ပတ်သက်၍ တပည့်တော်တို့ မည်သို့ လိုက်နာကြရပါမည်နည်း"

ကျွန်ုပ်၏ ကိစ္စသည် ရဟန်းအားလုံးနှင့်လည်း သက်ဆိုင်သည်မို့ ဗဟုဝုစ် စကားဖြင့် လျှောက်ထားလိုက်ပါသည်။ ဤတွင် ကရုဏာမျက်လုံးတော်များနှင့် မေတ္တာနှုတ်ခမ်းလွှာများ ပွင့်ဟလာကာ–

"အာနန္ဒာ၊ မကြည့်မရှုဘဲ နေကြရမည်"

သာသနာ့ဝန်ထမ်း ရဟန်းများအတွက် စိတ်အချရဆုံးသော ကျင့်သုံးနည်းကို ညွှန်ကြားတော်မူလိုက်၏။ သို့သော် ဤညွှန်ကြားချက်ကို အစဉ်ထာဝရ လိုက်နာရန်ကား ခက်ပါလိမ့်မည်။ ဘုရားဖူးရင်း ကျောင်းကန်တိုက်တာကြည့်ရှုရင်း လာကြသော အမျိုးသမီးများကို မျက်နှာလွှဲနေ၍ ရသော်လည်း ဆွမ်းခံမထွက်ဘဲကား မနေနိုင်ပါ။ ကျွန်ုပ်အတွက် ဆွမ်းဝတ်ပြုစုသူ အားလုံး လိုလိုမှာ အမျိုးသမီးများချည်း ဖြစ်နေပါသည်။ ထို့ကြောင့်

"အရှင်ဘုရား၊ မတတ်သာ၍ တွေ့ကြရ မြင်ကြရသောအခါ မည်သို့ လိုက်နာရပါမည်နည်း"

"အာနန္ဒ၊ စကားမပြောဘဲ နေကြရမည်"

စကားပြောရင်းပြောရင်းက စကားထဲက ဓာတ်ပြလာတတ်ကြသဖြင့် စကား မပြောဘဲ နေခြင်းသည် အကောင်းဆုံးသော ကာကွယ်နည်း ဖြစ်ပါ၏။ သို့သော် သည်နည်းကိုလည်း အစဉ်ထာဝရ ကျင့်သုံး၍ မဖြစ်နိုင်သေးပါ။ တချို့ အမျိုးသမီး များမှာ ဆွမ်းလောင်းရုံနှင့် မကျေနပ်ကြပါ။ နေ့ရက်ကိုမေးတတ်ကြ၏။ ဆွမ်းလောင်း ရင်း သီလဆောက်တည်လိုသူများလည်း ရှိ၏။ တရားဟောရန် တောင်းပန်သူလည်း ရှိ၏။ အမေးပုစ္ဆာ လျှောက်ထားလိုသူ များလည်း ရှိ၏။ ရဟန်းများနှင့် အပ်စပ်သော အခြားကိစ္စများကိုလည်း ပြောဆိုတတ်ကြ၏။ ထိုအခါများ၌ကား ကျွန်ုပ်တို့ စကားမပြော တုဏှီဘော နေ၍ မရတော့ပါ။ မိမိ၏ ဆွမ်းအစ်မများအတွက် စွမ်းနိုင် သလောက် အကျိုးဆောင်ကြရပါတော့မည်။ သို့ဖြစ်၍

"အရှင်ဘုရား၊ မလွှဲသာ မရှောင်သာ၍ ပြောခွင့် ကြုံလာရသောအခါ မည်သို့ ကျင့်သုံးရပါမည်နည်း"

"အာနန္ဒာ၊ အမိအရွယ်ကို အမိကဲ့သို့၊ နှမအရွယ်ကို နှမကဲ့သို့၊ သမီးအရွယ်ကို သမီးကဲ့သို့ သဘောထား၍ သတိကြီးစွာ ဆက်ဆံပြောဆိုကြရမည်"

အစွန်းနှစ်ဘက်လွတ်သော ဆက်ဆံနည်းကို ခွင့်ပြုတော်မူလိုက်ခြင်း ဖြစ်ပေသည်။

ခွင့်ပြုချက်ကို သေချာစွာ မှတ်သားထားပြီးနောက် ကြွင်းကျန်ရစ်မည့် ကိုယ်တော်မြတ်အတွက်လည်း ကြောင့်ကြရန် ရှိနေသေးသဖြင့်

"အရှင်ဘုရား၊ ဘုရားရှင်၏ ကြွင်းကျန်ရစ်သော ကိုယ်တော်မြတ်ကိုမည်သို့ သင်္ဂြိုဟ်ရပါမည်နည်း"

"အာနန္ဒာ၊ ငါဘုရား၏ ကိုယ်တော်ကို အန္တိမပူဇော်ပွဲ ကျင်းပရေးအတွက် သင်တို့ ကြောင့်ကြစိုက် မနေကြနှင့်။ အရဟတ္တဖိုလ်အထိ ခရီး ပေါက်နိုင်ရေးကိုသာ ကြိုးစားအားထုတ်ကြ။ ငါဘုရားကို ကြည်ညိုသော မင်းပညာရှိများ၊ ပုဏ္ဏားပညာရှိများ၊ သူကြွယ် ပညာရှိများ ပေါလှ၏။ သူတို့တစ်တွေက ငါဘုရား၏ကိုယ်တော်ကို သင်္ဂြိုဟ်ကြပါလိမ့်မည်။ အန္တိမ ပူဇော်ပွဲကြီး ကျင်းပကြပါလိမ့်မည်"

ထို့နောက် ကိုယ်တော်မြတ်ကို သင်္ဂြိုဟ်ရန် အစီအစဉ်များနှင့်တကွ ကြွင်းကျန်သော ဓာတ်တော်များကို စေတီတည်ထားရေးအထိ ဆက်လက်၍ ဟောကြားတော်မူပေသည်။

ဤတွင် ကျွန်ုပ် မေးလျှောက်စရာ ကုန်သွားပါပြီ။ မေးလျှောက်ခြင်း၊ ကြားနာမှတ်သားခြင်းတို့ဖြင့် ကျွန်ုပ်ဘာသာ ထိန်းထားရသော တာတမံများ အားကုန်သွားကြပါပြီ။ အရှိန်အဟုန်နှင့် လိမ့်ဆင်းလာကြသော မျက်ရည်ပေါက်များကို ထိန်းနိုင်စွမ်း မရှိတော့ပါ။ ထို့ကြောင့် ရှေ့တော်မှောက်မှ အသာအယာ ထွက်လာခဲ့ရပါတော့သည်။ ရှေ့တော်မှောက်တွင် မငိုရက်သောကြောင့် ဖြစ်ပါသည်။

ဘုရားရှင်၏ ကျောဘက် မလှမ်းမကမ်းအရပ်တွင် ဇရပ်ဝိုင်းတစ်ခု ရှိ၏။ မလ္လမင်းညီမင်းသားများ အပန်းဖြေ အနားယူရာလည်း ဖြစ်၏။ ပရိသတ်အားလုံး ဘုရားရှင့်အနားမှာ စုပြုံနေကြသဖြင့် ထိုနေရာမှာ လူသူကင်းဆိတ်၏။ ထို့ကြောင့် ဇရပ်ဝိုင်း၏ တံခါးဘောင် အစွန်းမှာ ရှိနေ၍ တံခါးကျည်သဖွယ် ဖြစ်နေသော သစ်ပင်တစ်ပင်ကို အားပြုမှီတွဲကာ ကျွန်ုပ် ငိုကြွေးမိပါတော့သည်။ တားမနိုင် ဆီးမရတော့သော မျက်ရည်များကို တရဟော သွန်ချလိုက်ရပါတော့သည်။

"ငါ့မှာတော့ သေက္ခပုဂ္ဂိုလ်မျှသာ ရှိသေးသည်။ အထက် မဂ်ဖိုလ်များအတွက် ပြုဖွယ်ကိစ္စ ရှိနေသေးသည်။ သို့ရာတွင် ငါ့ကို အစဉ်သနားတော်မူခဲ့သော ငါ့ကို ဆိုဆုံးမတော်မူခဲ့သော ဘုရားရှင်ကတော့ မကြာမီ ပရိနိဗ္ဗာန် ပြုတော့မှာပါတကား။ နက်ဖြန်မှစ၍ ငါသည် မည်သူ့အား မျက်နှာသစ်ရေ ဆက်ကပ်ရပါမည်နည်း။

မည်သူ့ခြေကို ဆေးကြောပေးရပါမည်နည်း။ မည်သူ့အိပ်ရာနေရာကို သိမ်းဆည်းပေးရပါမည်နည်း။ မည်သူ၏ သင်္ကန်း သပိတ် ပရိက္ခရာကို သယ်ပိုးရပါမည်နည်း"

ကျွန်ုပ်စိတ်ထဲမှာ ရှိသမျှ ဖွင့်ဟ၍ ငိုကြွေးလိုက်ပါသည်။ အကယ်၍ ကျွန်ုပ်ကို လွတ်လပ်ခွင့် ပေးထားပါက ကျွန်ုပ် ငိုကြွေး၍ ပြီးဦးမည် မဟုတ်ပါ။ ငိုချင်စိတ်နှင့် တွေးယူနေသမျှ ငိုချင်စရာတွေက ကုန်နိုင်တော့မည် မဟုတ်ပါ။ ငိုရင်းငိုရင်းနှင့်ပင် ငိုချင်စရာတွေက ထပ်၍ ထပ်၍ ပေါ်လာကြမည် ဖြစ်ပါသည်။ သို့ရာတွင် ကျွန်ုပ် စိတ်ရှိလက်ရှိ ငိုကြွေးနေရာသို့ ရဟန်းတစ်ပါး ရောက်ရှိလာပါပြီ။ ဘုရားရှင်က အခေါ်လွှတ်လိုက်သည် ဆိုတော့လည်း မျက်ရည်ကို အနိုင်နိုင်သုတ်ကာ လိုက်ပါသွားရပါတော့သည်။

"အာနန္ဒာ၊ တော်ပါတော့။ မဆွေးပါနှင့်တော့။ မငိုပါနဲ့တော့။ သင့်ကို ငါဘုရား စောစောကတည်းက ဟောကြားခဲ့သည် မဟုတ်ပါလော။ ချစ်ခင်အပ်၊ မြတ်နိုးအပ်သော သူများနှင့် ရှင်ကွဲသော်လည်းကောင်း၊ သေကွဲသော်လည်းကောင်း ကွဲရမည်။ ဖောက်လွဲဖောက်ပြန် ဖြစ်ရတတ်သည်ဟု သတိပေးခဲ့သည် မဟုတ်ပါလော။ ဖြစ်သဘောရှိ၍ ပျက်တတ်သောတရားအစုကို မပျက်ပါစေနှင့်ဟု တောင့်တ၍ မရစကောင်းပေ။

"အာနန္ဒာ၊ သင်သည် ငါဘုရားကို နေ့ရက်ရှည်စွာ မေတ္တာရှေ့ထား၍ ပြုစုခဲ့၏။ ကာယကံ၊ ဝစီကံ၊ မနောကံ ကံသုံးပါးလုံးကို မေတ္တာရှေ့ရှု ပြုမူခဲ့၏။ ပြုလေသမျှ ကိစ္စတိုင်းကို အကျိုးတရား လိုလားသောစိတ်ဖြင့် ပြုစုခဲ့၏။ စိတ်ပါ လက်ပါ လိုလိုချင်ချင်ပြုစုခဲ့၏။ ရှေ့ရောနောက်ပါ တူညီစွာ ပြုစုခဲ့၏။ သူတကာတွေနှင့် နှိုင်းယှဉ်၍မရအောင် မေတ္တာအင်အား ကြီးမားခဲ့၏။

"အာနန္ဒာ၊ သင်သည် ကောင်းမှုကုသိုလ်ပြုခဲ့ပြီးသူ ဖြစ်၏။ တရားအလုပ်အားထုတ်ပါလျှင် မကြာမီ အာသဝကင်းစင်သော ရဟန္တာအရှင်မြတ် ဖြစ်လာပါလိမ့်မည်"

အတုမရှိသော မေတ္တာဖြင့် ကျွန်ုပ်ကို ဖျောင်းဖျပေးတော်မူခြင်း ဖြစ်ပါသည်။

ထို့နောက်မှ ရဟန်းအားလုံးကို သိမ်းကျုံး၍ သုံးသပ်တော်မူကာ

"ရဟန်းတို့၊ ရှေးရှေးက ပွင့်တော်မူခဲ့ကြသော ဘုရားရှင်တို့မှာ လည်းကောင်း၊ နောက်နောင်မှာ ပွင့်တော်မူကြမည့် ဘုရားရှင်တို့မှာလည်းကောင်း ယခု ငါဘုရား၏ အလုပ်အကျွေး အာနန္ဒာကဲ့သို့သော အလုပ်အကျွေးသာ ရှိကြလတ္တံ့။ အာနန္ဒာထက် သာလွန်သော အလုပ်အကျွေးဟူ၍ မရှိပါချေ။

"ရဟန်းတို့၊ အာနန္ဒာသည် ကိစ္စအဝဝကို လုပ်ကိုင်ဆောင်ရွက်နိုင်စွမ်းရှိ၏။ ခန္ဓာ အာယတန စသောတရားသဘောတို့၌လည်း ကျွမ်းကျင်လိမ္မာ၏။ ဤအချိန်

ကား ရဟန်းတို့ ဆည်းကပ်သင့်သော အချိန်တည်း။ ဤအချိန်ကား ဒါယကာ ဒါယိကာမတို့ ဆည်းကပ်သင့်သော အချိန်တည်း။ ဤအချိန်ကား မင်းနှင့် အမတ်တို့ ဆည်းကပ်သင့်သော အချိန်တည်း။ ဤအချိန်ကား တိတ္ထိများ၊ တိတ္ထိတို့၏ သာဝကများ ဆည်းကပ်သင့်သော အချိန်တည်း။ ဤသို့လည်း ဝေဖန်ပိုင်းခြားတတ်ပေသည်။

"ရဟန်းတို့၊ အာနန္ဒာသည် အံ့ဖွယ်လေးဖြာ ဂုဏ်အင်္ဂါလေးပါးနှင့် ပြည့်စုံ၏။ အဘယ်ဂုဏ်အင်္ဂါ လေးပါးတို့နည်း ဟူမူကား။ အကယ်၍ ရဟန်းပရိသတ်သည် အာနန္ဒာကို ဖူးမြင်ရန် ချဉ်းကပ်လာငြားအံ့။ ဖူးမြင်ရရုံနှင့်ပင် ဝမ်းမြောက်သွား၏။ အကယ်၍ အာနန္ဒာက တရားဟောငြားအံ့။ တရားနာရသောကြောင့်လည်း ဝမ်းမြောက်သွား၏။ အာနန္ဒာကို ဖူးမြင်နေရသမျှ အာနန္ဒာ၏ တရားကို နာနေရသမျှ အားရတင်းတိမ်သွားသည် ဟူ၍ မရှိပေ။ ထို့အတူ ရဟန်းမများ၊ ဒါယကာ၊ ဒါယိကာမများသည်လည်း အာနန္ဒာကို ဖူးမြင်နေရသမျှ အာနန္ဒာ၏ တရားကို နာနေရသမျှ အားရ တင်းတိမ်သွားပြီဟူ၍ မရှိပေ။ ဤသို့ ပရိသတ်လေးပါးလုံးက မေတ္တာပွားကြသဖြင့် အာနန္ဒာသည် လေးပါးသော ဂုဏ်အင်္ဂါနှင့် ပြည့်စုံပါပေသည်"

ကျွန်ုပ်က မေတ္တာထားသည်နှင့်အမျှ ကျွန်ုပ်အပေါ် မေတ္တာတုံ့ပြန်ကြသော ဖြစ်ရပ်များကို ထုတ်ဖော်ချီးကျူးတော်မူခြင်း ဖြစ်ပါသည်။ ကျွန်ုပ်၏ သောက ဝေဒနာကို သက်သာအောင် ကုစားတော်မူခြင်းလည်း ဖြစ်ပါသည်။

အတုမရှိသော မေတ္တာစွမ်းအားဖြင့် ကုစားပေးသဖြင့် ကျွန်ုပ်ဝေဒနာ သက်သာခွင့်ကား ရပါ၏။ သို့သော် ကျွန်ုပ် ချစ်မြတ်နိုးလှသော နောင်တော်မြတ်ကိုကား ချက်ချင်းလက်ငင်း မခွဲချင် မခွာချင်သေးပါ။ ရက်လများစွာ ဆွဲထား၍ မရသော်ရှိစေ၊ တစ်ရက်တန်သည် နှစ်ရက်တန်သည် ဆွဲ၍ ထားချင်ပါသေးသည်။ ထို့ကြောင့်

"အရှင်ဘုရား၊ ကုန်းတွေ၊ ကျင်းတွေ ပေါများလှသော ဤမြို့သိမ် မြို့ငယ်ကလေးတွင် ပရိနိဗ္ဗာန် ပြုတော်မမူပါလင့်။ စမ္ပာ၊ ရာဇဂြိုဟ်၊ သာဝတ္ထိ၊ သာကေတ၊ ကောသမ္ဗီ၊ ဗာရာဏသီ ဟူသော မြို့တော်ကြီးများမှာ ပရိနိဗ္ဗာန် ပြုတော်မူပါလော့။ ထိုမြို့တော်ကြီး၌ ပစ္စည်းဥစ္စာ ငွေးကြွယ်လှသော မင်းများ၊ ပုဏ္ဏားများ၊ သူဌေးကြီးများ ရှိကြပါသည်။ ဘုရားရှင်ကို ထူးထူးခြားခြား ကြည်ညိုကြသော ထိုဒါယကာများက ဘုရားရှင်၏ ရုပ်ခန္ဓာကို နောက်ဆုံး ပူဇော်ပွဲကြီး ဆင်နွှဲကြပါလိမ့်မည် ဘုရား"

"အာနန္ဒာ၊ ဤသို့ မဆိုလင့်။ အာနန္ဒာ၊ ဤသို့ မဆိုလင့်။ ရှေးသရောအခါ မဟာသုဒဿန ဟူသော စကြာမင်းကြီး ရှိခဲ့ဖူး၏။ တရားစောင့်၏။ တရားသဖြင့် မင်းပြု၏။ လေးကျွန်းလုံးကို အစိုးရ၏။ တိုင်းပြည် မြို့ရွာ အေးချမ်းသာယာအောင်

ထိန်းသိမ်း၏။ ဤကုသိနာရုံ မြို့ ကလေးသည် ထိုမဟာသုဒဿန စကြာမင်း၏ ကုသာဝတီ အမည်ရှိသော မြို့တော်ရာ ဖြစ်ပေသည်”

ဤသို့ စသည်ဖြင့် ကုသာဝတီမြို့တော်ကြီး ကြီးကျယ်ခမ်းနားပုံ၊ ကြွယ်ဝချမ်းသာပုံများကို မိန့်ကြားတော်မူပါသည်။

အဘိညာဉ် တန်ခိုးရှင်တို့၏ ဉာဏ်အပေါ်မှာ ထင်ရုံကာမျှ ထင်လာသော မြို့တော်ကြီးသည် အတိတ်တရားဖြစ်၍ ယခု ပစ္စုပ္ပန်မှာ မျက်မြင်ထင်ရှား မရှိတော့ပါပြီ။ ကိုင်စမ်းဖမ်းချုပ်၍ မရနိုင်တော့ပါပြီ။ ဟိုမှာသည်မှာ လက်ညှိုးညွှန်စရာ မရတော့ပါပြီ။ သို့သော် အတိတ်က ထိုမြို့တော်ကြီးကြောင့်ပင် ကျွန်ုပ်၏ အနာဂတ် မျှော်လင့်ချက်ကလေး ထွက်ပြေးသွားရပါတော့သည်။

“အာနန္ဒာ၊ သွားချေစမ်း။ ကုသိနာရုံ မြို့တွင်းသို့ဝင်၍ မလ္လအမျိုးသားတို့အား ဤသို့ ပြောကြားလော့။ ‘အို ဝသိဋ္ဌအမျိုးသားတို့၊ ယနေ့ည ပစ္ဆိမယံတွင် ဘုရားရှင် ပရိနိဗ္ဗာန် ပြုတော်မူလိမ့်မည်။ ဝသိဋ္ဌအမျိုးသားတို့၊ လာခဲ့ကြကုန်လော့။ ငါတို့၏ နယ်ထဲမှာ ဘုရားရှင် ပရိနိဗ္ဗာန် ပြုတော်ပါလျက် နောက်ဆုံးအချိန်တွင် ဘုရားရှင်ကို ငါတို့များ မဖူးလိုက်ရဟု နောင်တတစ်ဖန် ပူပန်မနေကြရစေနှင့်။ နှလုံးမသာ ဖြစ်မနေကြရစေနှင့်’ ဤသို့ ပြောကြားပါချေလော့”

“ကောင်းပါပြီ အရှင်ဘုရား”

မျှော်လင့်ချက်ကလေး ပြေးထွက်သွားချိန်တွင် အမိန့်တော်အရ ကျွန်ုပ်သည် ကုသိနာရုံမြို့တွင်းသို့ ဝင်လာခဲ့ရ၏။ မလ္လမင်းညီမင်းသားတို့မှာ လွှတ်တော်ထဲတွင် အစည်းအဝေး ထိုင်နေကြဆဲမို့ တစ်နေရာတည်းနှင့် လာရင်းကိစ္စ ပြီးသွားပေပြီ။ ကျွန်ုပ်ဘက်က ကိစ္စပြီးသွားချိန်တွင် မလ္လတို့ဘက်မှာ သောသောညံသွားပါတော့သည်။ မချိတင်ကဲ ငိုပွဲကြီး ဆင်ကြပါတော့သည်။ ငိုယိုတမ်းတရင်းနှင့်ပင် အင်ကြင်းတောသို့ လိုက်ပါလာကြတော့သည်။ ကျွန်ုပ်၏ သူငယ်ချင်း ရောဇသာ ရှိနေသေးပါလျှင် သူတို့ ရှေ့ဆုံးက လိုက်ပါလာပေမည်ဟု ကျွန်ုပ် အောက်မေ့မိပါသည်။

တစ်ဆင့်စကားဖြင့် သတင်းကြား၍ လိုက်ပါလာကြသူများလည်းပါလာသဖြင့် မလ္လပရိသတ်ကြီးမှာ ကွင်းနှင့်အပြည့် ဖြစ်နေ၏။ သူတို့သာ တစ်ဦးချင်း တစ်ဦးချင်း ကန်တော့နေပါလျှင် သည်တစ်ညနှင့် ပြီးဆုံးမည် မထင်။ သို့ဖြစ်၍ ဆွေမျိုးစုအလိုက်၊ ဆွေမျိုးစုအလိုက် ထိုက်သင့်ရာ ပူးပေါင်းပြီး ပူဇော်ကန်တော့ရန် စီစဉ်ရပါတော့သည်။

ဤနေရာတွင်လည်း ကျွန်ုပ်၏ စာနာစိတ်က ဝင်လာပါသေးသည်။ ဆွေမျိုးစုအလိုက် ဦးခိုက်ကြရာတွင် အမျိုးသမီးများကို ဦးစားပေးမိပါသေးသည်။ ညရေးညတာ လာကြရသဖြင့် သူတို့အတွက် အန္တရာယ်ရှင်း၍ ဘေးကင်းပါစေဟု

စေတနာထားလိုက်မိ၍ ဖြစ်ပါသည်။ ဤစေတနာသည်ပင် နောင်တစ်ချိန်၌ ဝေဒနာဖြစ်လာပုံကို ကျွန်ုပ်၏ ပရိသတ်များ ကြားနာကြရပါဦးမည်။ မည်သို့ပင်ဖြစ်စေ ကျွန်ုပ်၏ အစီအစဉ်ဖြင့် မလ္လတို့၏ ပူဇော်ကန်တော့ပွဲကြီးကား ပြီးစီးသွားပါပြီ။ ထက်ကောင်းကင်မှာ ကြည့်လိုက်ပြန်တော့ လမင်းကြီးက မွန်းလတ်လောက်ကို ရောက်နေပါပြီ။ ညဉ့်ဦးယံ ကုန်ဆုံး၍ ညဉ့်လယ်ပိုင်းသို့ ဝင်ရောက်စ ပြုနေပါပြီ။

ဖြစ်များဖြစ်နိုင်မည် ဆိုပါလျှင် လမင်းကြီးကို သည်နေရာက ရွေ့မသွားအောင် တားထားလိုက်ချင်လှပါ၏။

**(သုတ်မဟာဝဂ်၊ မဟာပရိနိဗ္ဗာနသုတ်၊ အာနန္ဒပုစ္ဆာကထာ၊ အာနန္ဒအစ္ဆရိယဓမ္မ၊ မဟာသုဒဿနသုတ္တ ဒေသနာ၊ မလ္လာနံဝန္ဒနာပါဠိတော်နှင့် အဋ္ဌကထာ)**

❋❋

# နောက်ဆုံးမျက်မှောက်တပည့်

ဤသာသနာတော်၌ အမြိုက်အရသာကို ပထမဦးဆုံး စားသုံးရသူမှာ အရှင် အညာသိကောဏ္ဍည ဖြစ်၏။ ပထမဦးစွာ တရားကို ထိုးထွင်းသိမြင်သဖြင့် ဘွဲ့မည်ရင်းရှေ့မှာ အညာသိဟူသော ဂုဏ်ပြုစကားလုံး ထပ်ဖြည့်ထားရ၏။ သို့ရာတွင် ထိုအရှင်မြတ်ကြီးသည် လေးလနီးပါးမျှ ဘုရားရှင်ကို ရှောင်ခွာ၍ ပြေးနေခဲ့ဖူးပေသည်။

ပထမဆုံးသော တပည့်ကြီးနည်းတူပင် နောက်ဆုံးတပည့်ကလည်း ဆရာသခင်ကို ရှောင်ခွာခဲ့သည်သာ ဖြစ်ပါ၏။ သို့သော် သူရှောင်ခွာနေသည်မှာ လေးလမျှတော့ မကပါ။ နှစ်ပေါင်းလေးဆယ်လောက်ပင် ရှိပါလိမ့်မည်။

ကျွန်ုပ်၏ သူငယ်ချင်းရောဇကို အကြောင်းပြု၍ ဘုရားရှင်သည် ကုသိနာရုံမြို့သို့ ရောက်တော်မူခဲ့၏။ သူငယ်ချင်း မရှိတော့သည့်နောက်မှာလည်း ကျွန်ုပ်တို့ ကြိမ်ဖန်များစွာ ရောက်ခဲ့ကြရပါပြီ။ တပည့်ဒါယကာ တွေကလည်း ပေါများလှပါပြီ။ သုဘဒ္ဒကိုယ်တိုင်ကလည်း ကုသိနာရုံမြို့မှာ အစဉ်နေခဲ့သူ ဖြစ်ပါသည်။ သို့ပါလျက် သုဘဒ္ဒကား ကျွန်ုပ်တို့နှင့် ကင်းကွာနေခဲ့၏။ သူကလည်း သူများကို တရားဟောနေသော ပရိဗိုဇ်ရဟန်း တစ်ပါးဖြစ်၍ မာန်မူနေသလား မသိနိုင်ပါ။

နှစ်ပေါင်းလေးဆယ်မျှ လွတ်ရာကျွတ်ရာ ခွာရှောင်နေခဲ့သော သုဘဒ္ဒသည် ယနေ့ညမှာတော့ အင်ကြင်းတောသို့ ရောက်လာရပါပြီ။ တိတ်ဆိတ်စွာ ထိုင်နေကြသော ရဟန်းများထံသို့ မဝံ့မရဲ ချဉ်းကပ်လာပါပြီ။ သုဘဒ္ဒပရိဗိုဇ် လာနေသည်ကို အခြားသူများထက် ကျွန်ုပ်က ပထမဦးစွာ မြင်လိုက်မိသဖြင့် နေရာမှ ကပျာကယာ ထသွားရပါတော့သည်။ ရှေ့တော်မှောက်သို့ ဝင်မလာခင် အချိန်မီ တားဆီးရန် ဖြစ်ပါသည်။ ကျွန်ုပ် တားဆီးထားသည့် ကြားကပင် သုဘဒ္ဒက တောင်းပန်စကား ဆိုနေပါသေးသည်။

"အို၊ အရှင်ဘုရားအာနန္ဒာ၊ သမ္မာသမ္ဗုဒ္ဓ ဘုရားရှင်တို့သည် ဤ ကမ္ဘာမြေပြင်ဝယ် တစ်ခါတစ်ရံမှသာ ပွင့်တော်မူကြ၏။ ဆရာ့ ဆရာ ပရိဗိုဇ်ကြီးများထံမှ

တပည့်တော် ဤသို့ ကြားနာဖူးပါ၏။ တစ်ခါတစ်ရံမှသာ ပွင့်တော်မူလာသော ထိုဘုရားရှင်သည် ယနေ့ည ပစ္ဆိမယံမှာပင် ပရိနိဗ္ဗာန်ပြုပါတော့မည်။ တပည့်တော်မှာလည်း တွေးတောယုံမှားမှု ဖြစ်ပေါ်နေပါသည်။ ဤသို့သော ယုံမှားမှုကို ပပျောက်သွားစေရန် ရဟန်းဂေါတမသည် တရားပြနိုင်မည်ဟုလည်း တပည့်တော် ယုံကြည်ထားပါသည်။ ထို့ကြောင့် အရှင်အာနန္ဒာ၊ တပည့်တော် တောင်းပန်ပါ၏။ ဘုရားရှင်ထံ အဖူးအမြင် ဝင်ရောက်ပါရစေ"

သူ့အရေးနှင့်သူ လျှောက်ထားသည်ကား ဟုတ်ပါ၏။ သို့သော် သည်လိုအချိန်မျိုးမှာတော့ မည်သို့သော အကြောင်းပြချက်ကိုမျှ အလေးဂရု မပြုနိုင်ပါ။ မည်သူ့ကိုမျှ ဖူးမြင်ခွင့် မပေးနိုင်ပါ။ ဘုရားရှင်မှာ ဝေဒနာခံစားရင်းက သုံးဂါဝုတ်ခရီးကို ကြွလာတော်မူခဲ့ရ၏။ ပထမယံတစ်ခုလုံး မလ္လတို့ အကန်တော့ခံခြင်းဖြင့် ကုန်ဆုံးခဲ့ရ၏။ ဤမျှလောက် ပင်ပန်းနေသော ဘုရားရှင်ကို ကျွန်ုပ်တို့က စောင့်ရှောက်ကြရပါမည်။ အထူးသဖြင့် သူတို့လိုပရိဗိုဇ်များကလည်း ကတ်သီးကတ်သတ်ပြောတတ်လွန်းသည် မဟုတ်ပါလော။

**(သုတ်မဟာဝဂ်၊ မဟာပရိနိဗ္ဗာနသုတ်၊ သုဘဒ္ဒပရိဗ္ဗာဇကဝတ္ထု၊ ပါဠိတော်နှင့် အဋ္ဌကထာ)**

စမ္ပာမြို့ ဂဂ္ဂရာရေကန်ကြီး နံဘေးမှာ ရှိစဉ်တုန်းက စကားကတ်လွန်းသော ပရိဗိုဇ်တစ်ယောက်နှင့် ကျွန်ုပ်တို့ တွေ့ခဲ့ဖူး၏။ သူ့အမည်မှာ ဥတ္တိယဖြစ်၏။ ဥတ္တိယ စိတ်ဝင်စားသော ပြဿနာမှာလည်း လောကကြီး မြဲသလော၊ မမြဲသလော စသော လောဆယ်ချက် ဖြစ်၏။ ထိုပြဿနာများကို ဘုရားရှင်ထံလာ၍ မေးလျှောက်ရာ ဘုရားရှင်က...

"ဤပြဿနာကို ငါဘုရား မဖြေကြားလိုပေ"

ဟူ၍ချည်း မိန့်ကြားတော်မူခဲ့၏။ ဤသို့ မေးလျှင် ဤသို့ဖြေမည် ဖြစ်ကြောင်း ဥတ္တိယကလည်း ရိပ်မိထားသည် ဖြစ်၍...

"ဤသို့ဖြစ်လျှင် အရှင်ဂေါတမ ဖြေကြားနိုင်သော ပြဿနာကော ရှိပါသေးသလော"

"ဥတ္တိယ၊ သတ္တဝါတို့၏ ညစ်နွမ်းသောစိတ်သဘောများ စင်ကြယ်သွားစေရန် စိုးရိမ်ပူဆွေးခြင်းတို့ကို ကျော်လွန်နိုင်ကြစေရန် ကိုယ်စိတ်နှစ်ဖြာ ဆင်းရဲခြင်းတို့ ချုပ်ငြိမ်းကြစေရန် လောကုတ္တရာမဂ်ဉာဏ်ကိုရစေရန် နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်စေရန် ငါဘုရား တရားဟော၏။ သစ္စာလေးပါး မြတ်တရားကို ငါဘုရားကိုယ်တိုင် သိထားသည့်အတိုင်း ဟောကြားပေသည်"

ဥတ္တိယ မခိုးမခန့်မေးမှန်း သိပါလျက် ဘုရားရှင်က ဖြောင့်ဖြောင့်မှန်မှန် ဖြေဆိုတော်မူပါ၏။ အဖြေရှာ၍ မရနိုင်သော ပြဿနာများကို စကားဆိုနေမည့်အစား လက်ငင်း လက်တွေ့ အကျိုးရှိနိုင်သော တရားကိုသာ ဟောကြားနေကြောင်း

အသိပေးတော်မူပါ၏။ သို့သော် ဥတ္တိယလိုပုဂ္ဂိုလ်မျိုးက စေတနာကို တန်ဖိုးထား တတ်သည် မဟုတ်ပေ။ တစ်ဖက်သား၏ စကားတစ်စကို အရဆွဲကာ ကတ်သီး ကတ်သတ် လုပ်နိုင်ရေးကိုသာ ရှေးရှုနေပေသည်။

"အရှင်ဂေါတမ၊ သတ္တဝါတို့၏ ညစ်နွမ်းသော စိတ်သဘောများ စင်ကြယ် သွားစေရန် တရားဟောသည်ဟု ဆိုပါလျှင် အရှင်ဂေါတမ တရားဟောလိုက်သည့် အတွက် လူတွေ အကုန်လုံး ကျွတ်တမ်းဝင်သွားပါသလော။ သို့မဟုတ် တစ်ဝက် ကျွတ်တမ်းဝင်သွားပါသလော။ ထိုသို့ မဟုတ်သေးလျှင် သုံးပုံတစ်ပုံ ကျွတ်တမ်းဝင် သွားပါသလော"

သူ့အသံထွက်က သူ့စိတ်နေ သဘောထားကို ဖော်ပြနေပေသည်။ သည် ဘက်က ကောင်းကောင်းမွန်မွန် ဖြေကြားလေသမျှ ဥတ္တိယကတော့ စကားကတ် နိုင်ရေးကိုသာ အလေးထားနေ၏။ စကားကတ်ရုံသက်သက်ဆိုလျှင် ကိစ္စ မရှိပါ။ သူ့ထက် အဆအရာအထောင်မက ကတ်နိုင်သောသူများကိုပင် ဘုရားရှင် ချေချွတ် တော်မူခဲ့ဖူးပါသည်။ သို့ရာတွင် ယခု ဥတ္တိယ၏ စကားကိုတော့ ဘုရားရှင်က ဖြေတော်မမူတော့ပါ။ ပုဂ္ဂိုလ်သတ္တဝါကို အရှိထားပြီး မေးလာသဖြင့် ဖြေကြား၍လည်း မဖြစ်တော့ပါ။ ထို့ကြောင့် ဆိတ်ဆိတ်သာ နေတော်မူလိုက်ပါ တော့သည်။

ဘုရားရှင်ကို နှုတ်ပိတ်သွားအောင် လုပ်နိုင်သဖြင့် ဥတ္တိယတစ်ယောက် ကိုယ့်ကိုယ်ကို အားရသွားဟန်ရှိပါသည်။ "အဆင့်အမြင့်ဆုံးသော ပြဿနာကို ငါမေးရာတွင် ရဟန်းဂေါတမ မဖြေကြားနိုင်တော့။ ဖြေကြားနိုင်စွမ်းမရှိ တော့"ဟု သဘောပိုက်သွားဟန် ရှိပါသည်။ သို့ရာတွင် ကျွန်ုပ် သူ့ကို မုန်းစိတ်မပွားမိပါ။ ဤသို့သော အယူလွဲ၊ အမှတ်လွဲကြီးကြောင့် သူ့မှာ အကျိုးမဲ့ ဖြစ်နိုင်ပေသည်။ ဆင်းရဲဒုက္ခ ပွားစီးနိုင်ပေသည်။ ထို့ကြောင့် သူ့ကို သနားသောအားဖြင့် ကျွန်ုပ်က ကြားဝင်ရပေသည်။

"ငါ့ရှင်ဥတ္တိယ၊ ဤနေရာတွင် ဥပမာတစ်ခုဖြင့် သင့်ကိုငါပြောကြားအံ့။ ဤလောက၌ ပညာအခြေခံ ရှိသူအချို့သည် ဥပမာပေး၍ပြောလျှင် ဆိုလိုသော သဘောအဓိပ္ပာယ်ကို နားလည်ကြ၏။ ဥပမာမှာ ဤသို့ဖြစ်၏။ ပြည့်ရှင်မင်း တစ်ပါးမှာ နယ်ခြားမြို့တစ်မြို့ရှိ၏။ ထိုမြို့၏ တံတိုင်းခြေသည် ခိုင်မာတောင့်တင်း ၏။ တံတိုင်းနှင့်တံခါးတိုင်းတို့လည်း ခိုင်မာတောင့်တင်း၏၊ တံခါးတစ်ပေါက်သာ ထားရှိ၏။ ထိုမြို့၏ တံခါးမှူးသည် ပညာရှိ၏။ ကျွမ်းကျင်လိမ္မာ၏။ မျက်နှာသိများ ကိုသာ ဝင်စေ၍ မျက်နှာသိ မဟုတ်သူများကို အဝင်မခံပေ။ ထိုတံခါးမှူးသည် ထိုနယ်ခြားမြို့ကို မြို့ပတ်လမ်းမှ လှည့်လည်ကြည့်ရှုသောအခါ ကြောင်တစ်ကောင် ထွက်လောက်ရုံ အပေါက်ကိုမျှ မတွေ့ရချေ။ ဤတွင် တံခါးမှူးမှာ ဤမြို့ထဲသို့ သတ္တဝါတွေ ဤရွေ့ဤမျှ ဝင်သွားကြပြီ ထွက်သွားကြပြီဟု အသိဉာဏ် ပေါ်မလာပါ။

'ကိုယ်ခန္ဓာ သိသာထင်ရှားသော သတ္တဝါများ ဤမြို့တွင်းသို့ ဝင်ကြ ထွက်ကြလျှင် ဤတံခါးပေါက်မှသာ ဝင်ကြထွက်ကြလိမ့်မည်' ဟူသော အသိဉာဏ်ပေါ်လာပေသည်။

"ငါ့ရှင် ဥတ္တိယ၊ ထိုဥပမာအတိုင်းပင် ဘုရားရှင်မှာလည်း သတ္တဝါအားလုံး ကျွတ်တမ်းဝင်သွားပြီ ဟူ၍လည်းကောင်း၊ တစ်ဝက်ကျွတ်တမ်းဝင်သွားပြီ ဟူ၍ လည်းကောင်း သုံးပုံတစ်ပုံ ကျွတ်တမ်းဝင်သွားပြီဟူ၍လည်းကောင်း ကြောင့်ကြ စိုက်ကာ ရေတွက်မှတ်သားနေခြင်း မရှိပါ။ သံသရာလောကကြီးမှ ရှေးက ကျွတ်တမ်းဝင်ခဲ့သူများသည်လည်းကောင်း၊ ယခု ကျွတ်တမ်းဝင်နေကြသူများသည် လည်းကောင်း၊ နောင်ကျွတ်တမ်းဝင်ကြမည့် သူများသည်လည်းကောင်း ထိုပုဂ္ဂိုလ် အားလုံးသည် စိတ်ကို ညစ်နွမ်းစေတတ်သော ဉာဏ်ပညာကို အားသေးညှိုးမှိန်စေ တတ်သော နီဝရဏ တရားငါးပါးကို ပယ်စွန့်ကာ သတိပဋ္ဌာန်လေးပါး၌ စိတ်ကို ကောင်းစွာ ထားကြလျက် ဗောဇ္ဈင်တရားခုနစ်ပါးကို နည်းမှန်လမ်းကျ ပွားများကြ ခြင်းဖြင့်သာလျှင် ကျွတ်တမ်းဝင်ကြကုန်၏။ ဤသို့သာလျှင် ဘုရားရှင် သိရှိထား သည့်အတိုင်း ဟောကြားတော်မူပေသည်။

"ငါ့ရှင်ဥတ္တိယ သင် စတင်၍မေးကတည်းက ပုဂ္ဂိုလ်အရှိ၊ သတ္တဝါ အရှိ ဟူသော အယူအစွဲဖြင့် မေးလျှောက်ခဲ့၏။ ထို့နောက်မှာလည်း ထိုပြဿနာကိုပင် တစ်မျိုးလှည့်၍ မေးလျှောက်ခဲ့၏။ ထို့ကြောင့်ပင် ဘုရားရှင်က သင့်ကို ဖြေကြားတော် မမူခြင်း ဖြစ်ပေသည်"

**(အင်္ဂုတ္တရ၊ ဒသကနိပါတ်၊ ဒုတိယပဏ္ဏာသက၊ ဥတ္တိယသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)**

ယခုလည်း တကယ့်အချိန်ကြီးကျခါမှ ဥတ္တိယတို့ အနွယ်ဝင် တစ်ယောက် က ရောက်လာပြန်ချေပြီ။ ဘုရားရှင်၏ တရားကို ကြားနာလို သည်ဆိုသော်လည်း သူ၏ အယူအစွဲကို တော်တော်နှင့် စွန့်လွှတ်ကြမည် မဟုတ်ပါ။ ထိုအခါ ထိုအယူ အစွဲတွေ လွတ်ထွက်သွားအောင် တရားစကား မြောက်မြားစွာ ဟောကြားရပေ တော့မည်။ ဤသို့ဆိုလျှင် နဂိုကမှ ပင်ပန်း နေသော ဘုရားရှင်သည် ပို၍ ပင်ပန်း နွမ်းနယ်သွားပေလိမ့်မည်။ ထို့ကြောင့် ...

"ငါ့ရှင် သုဘဒ္ဒ၊ မဝင်ပါနှင့်။ မလာပါနှင့်။ ဘုရားရှင်ကို မနှိပ်စက်ပါနှင့်။ ဘုရားရှင် ပင်ပန်းတော်မူနေပါသည်"

အရေးတကြီး တောင်းပန်နေသော သုဘဒ္ဒပရိဗိုဇ်အိုကြီးကို အား မနာနိုင်ဘဲ ကျွန်ုပ်က တားမြစ်လိုက်ရ၏။ ပရိဗိုဇ်အိုကြီးကလည်း တော်တော် ဖွဲကောင်းလှ၏။ ကျွန်ုပ်က ယတိပြတ် ငြင်းပယ်လိုက်ပါလျက် ပြန်လှည့် မသွားသေးပေ။ နောက် တစ်ကြိမ်ထပ်၍ တောင်းပန်နေသေး၏။ ကျွန်ုပ် ကလည်း ထပ်၍သာ ငြင်းပယ်ရ၏။ သုံးကြိမ်မြောက် ငြင်းပယ်၍ပြီးချိန် တွင်ကား ပရိဗိုဇ်ကြီး၏ဖွဲက အောင်ပွဲခံသွား ပါတော့သည်။

"အာနန္ဒာ၊ သုဘဒ္ဒကို မတားပါနှင့်။ ငါဘုရားရှေ့မှောက်သို့ သုဘဒ္ဒ ဝင်ရောက်ခွင့်ရပါစေ။ သုဘဒ္ဒ မေးလေသမျှသည် ငါဘုရားကို ညှဉ်းဆဲလို၍ မဟုတ်ပါ။ သိလိုရေးနှင့် ရိုးသားစွာ မေးလျှောက်ခြင်းသာ ဖြစ်ပေသည်။ သူ့အမေးကို ငါဘုရား ဖြေကြားလိုက်လျှင် လျင်မြန်စွာ သိသွားပါလိမ့်မည်"

ကန့်လန့်ကာ ကာထားသည့်အထဲမှ ဘုရားရှင်က လှမ်း၍ မိန့်ကြားတော်မူလိုက်ပါပြီ။

"ငါ့ရှင်သုဘဒ္ဒ၊ သွားပေတော့။ ဘုရားရှင် ကိုယ်တော်တိုင်က သင့်ကို ဝင်ခွင့်ပြုတော်မူလိုက်ပေပြီ"

သုဘဒ္ဒအတွက် လမ်းဖွင့်ပေးရင်း ကျွန်ုပ်ပါ လိုက်ပါလာခဲ့ရ၏။ ခွဲဆောင်၍ အောင်ပန်းဆင်ခဲ့သော သုဘဒ္ဒသည် ရှေ့တော်မှောက်ရောက်၍ ရိုသေစွာ ရှိခိုးကန်တော့ပြီးလျှင် သူ့အရေးတကြီး သိလိုနေသော ပြဿနာကို မေးလျှောက်လိုက်ပါတော့သည်။

"အရှင်ဘုရား၊ ပူရဏကဿပစသော ဘုရားကြီးခြောက်ဆူတို့ ထင်ရှားစွာ ရှိခဲ့ကြပါသည်။ သူတို့မှာ တပည့်သာဝကတွေ များလှပါသည်။ ထင်ရှားကျော်ကြားလှပါသည်။ ကိုယ်ပိုင်အယူဝါဒကို တီထွင်ဟောကြားကြပါသည်။ လူအပေါင်းက သူတော်ကောင်းဟု သမုတ်ကြပါသည်။ ထိုဘုရားကြီး ခြောက်ဆူတို့အနက် မည်သူ၏ တရားသည် သံသရာမှ ထွက်မြောက်ကြောင်းဖြစ်၍ မည်သူ၏ တရားသည် သံသရာမှ ထွက်မြောက်ကြောင်း မဟုတ်ပါသနည်း"

တကယ့်အချိန်ကျခါမှ တကယ့်ပြဿနာကို မေးလိုက်ချေပြီ။ သူ့ အမေးမှာလည်း ဥတ္တိယ၏ မေးခွန်းကဲ့သို့ ဖြေကြား၍ မဖြစ်နိုင်သော အမျိုးအစားထဲက ဖြစ်သည်။

ဥတ္တိယ၏ မေးခွန်းမှာ ပုဂ္ဂိုလ်အရှိ၊ သတ္တဝါအရှိဟူသော အယူအစွဲ ပါဝင်ခဲ့၏။ ယခု မေးခွန်းမှာလည်း ပုဂ္ဂိုလ်ရေးရာ၊ ဂိုဏ်းဂဏသဘော ပါဝင်နေ၏။ သူ့အမေးကို ဟုတ်တိုင်းမှန်စွာ ဖြေရပါလျှင် "မည်သူ၏ တရားမျှ သံသရာ ထွက်မြောက်မည် မဟုတ်"ဟူ၍သာ ဖြစ်ပါ လိမ့်မည်။ သို့သော် ဤသို့ ဖြေ၍လည်း အကျိုးမများနိုင်ပါ။ ထို့ကြောင့် ဘုရားရှင်က "သုဘဒ္ဒ၊ တော်ပါတော့။ သင့် မေးခွန်းများကို ထားလိုက်ပါတော့" ဟု သူ့မေးခွန်းကို တားမြစ်တော်မူကာ...

"သုဘဒ္ဒ၊ မဂ္ဂင်ရှစ်ပါး ထင်ရှားမရှိသော သာသနာတွင် သောတာပန်ဟူသော ပထမရဟန်းလည်း မရှိပေ။ သကဒါဂါမ်ဟူသော ဒုတိယရဟန်းလည်း မရှိပေ။ အနာဂါမ်ဟူသော တတိယရဟန်းလည်း မရှိပေ။ ရဟန္တာဟူသော စတုတ္ထရဟန်းလည်း မရှိပေ။ မဂ္ဂင်ရှစ်ပါး ထင်ရှားရှိသော သာသနာမှာသာလျှင် ထိုရဟန်းလေးပါးလုံး ရနိုင်ပေသည်။ ငါဘုရား၏ ဤသာသနာတော်တွင်ကား မဂ္ဂင်ရှစ်ပါး

ထင်ရှားစွာရှိနေ၏။ ထို့ကြောင့် ရဟန်းလေးပါးလုံး ထင်ရှားရှိနေကြ၏။ အခြားသော အယူဝါဒများတွင် မဂ်လေးပါးကို ရခြင်းငှာ ဝိပဿနာရှုဆဲ ပုဂ္ဂိုလ်လေးပါး၊ မဂ္ဂဋ္ဌာန် ပုဂ္ဂိုလ်လေးပါး၊ ဖလဋ္ဌာန်ပုဂ္ဂိုလ် လေးပါးအားဖြင့် တစ်ဆယ့်နှစ်ပါးသော ရဟန်းတို့ ကင်းဆိတ်နေကြ၏။ ငါဘုရား၏သာသနာမှာ ထင်ရှားရှိနေသော ရဟန်း တစ်ဆယ့် နှစ်ပါးတို့သည် မိမိတို့ရရှိထားသော တရားကို အခြားသူများထံ ဆင့်ကူးဆင့်ကမ်း ဉာဏ်လက်လှမ်းကာ ပေးသောအားဖြင့် ကောင်းမွန်စွာ နေကြပါလျှင် ဤကမ္ဘာတွင် ဘယ်တော့မှ ရဟန္တာ ဆိတ်သုဉ်းမည် မဟုတ်ချေ"

ထိုမှဆက်လက်၍ အသက်နှစ်ဆယ့်ကိုးနှစ် အရွယ်မှစ၍ ရဟန်းပြုလာခဲ့ပုံ၊ ထိုမှစ၍ ရေတွက်လျှင် ရဟန်းအဖြစ်နှင့် အနှစ်ငါးဆယ်ကျော် လာခဲ့ပုံတို့ကို ဟောကြားတော်မူပေသည်။

အလာနှောင်းသော သုဘဒ္ဒအတွက် အရောက်ကား ကောင်းလှပါ၏။ ဘုရားရှင် ဟောကြားသော တရားတော်သည် သူ၏ ရာသက်ပန် သံသယ ဝန်ထုပ် ဝန်ပိုးကြီးကို ယူပစ်လိုက်ပါ၏။ ဤတွင် သုဘဒ္ဒသည် သာသနာ့ဝန်ထမ်း ရဟန်း ပြုလိုပါကြောင်း လျှောက်ထားရာ ဘုရားရှင်က–

"သုဘဒ္ဒ၊ အယူတစ်ပါး ခြားခဲ့ဖူးသော သူသည် ဤသာသနာတော်၌ ရဟန်း ပြုလိုပါက လေးလတာမျှ ပရိဝသ် ဆောက်တည်ရ၏။ အမူအကျင့်ဟောင်းများကို ပယ်စွန့်၍ သာသနာတော်၏ စည်းကမ်းနှင့်အညီ နေတတ်ထိုင်တတ်အောင် လေ့ကျင့်နေရ၏။ သို့သော် ပုဂ္ဂိုလ်ရေးရာ ကွဲပြားမှုကိုလိုက်၍ ထိုက်သည့်အားလျော်စွာ သက်ညှာမှုကားရှိပေသည်"

"အရှင်ဘုရား၊ လေးလတာမျှ ပရိဝသ် ဆောက်တည်ရမည် ဆိုလျှင်လည်း ဆောက်တည်ပါမည်ဘုရား။ လေးလပြည့်သောအခါ စိတ်ထက်သန်သော ရဟန်း များက ရဟန်းပြုပေးကြပါလိမ့်မည် ဘုရား"

ဘုရားရှင်၏ အမိန့်တော်ကို သုဘဒ္ဒက အားတက်သရော လျှောက်ထား လိုက်၏။ သို့သော် သုဘဒ္ဒမှာ လေးလကြာအောင် စောင့်ဆိုင်းနေရန် မလိုတော့ပါ။

"အာနန္ဒာ၊ သူ့စိတ်ထဲမှာ ထက်သန်လွန်းနေသည့်အတိုင်း သုဘဒ္ဒကို ယခုပင် ရဟန်းပြုပေးလိုက်ပါ"

ဤသို့သော အမိန့်တော်အရ ကျွန်ုပ်သည် ရဟန်းလောင်း ပရိဗိုဇ်ကြီးအား တစ်နေရာသို့ခေါ်ထုတ်ကာ သူ့ခေါင်းကို ရေဆွတ်ပေးရ၏။ တစပဉ္စက ကမ္မဋ္ဌာန်းကို ပြောကြားရင်း သူ့ခေါင်းက ဆံပင်ဖွေးဖွေးကို ရိတ်ပေးရ၏။ တွန့်လိမ် ရှုပ်ထွေး နေသော မုတ်ဆိတ်ကျင်စွယ်ကြီးများကိုလည်း ရိတ်ပေးရ၏။ အပိုပါသော ရဟန်း ထံမှ သင်္ကန်းတစ်စုံတောင်း၍ သူ့ကိုဝတ်ပေးကာ သရဏဂုံသုံးပါးကို ချပေးရ၏။ ဤသို့ ကိစ္စအဝဝကို ပြီးစီးမှ ဘုရားရှင့် ရှေ့တော်မှောက်သို့ ခေါ်ဆောင်ရ၏။

ရှေ့တော်မှောက်မှာပင် အသင့်ရှိနေပြီးသော ရဟန်းများက ဘုရားရှင့်အမိန့်တော်အရ သူ့ကို ရဟန်းပြုပေးလိုက်ကြ၏။

"အို အရှင်အာနန္ဒာ၊ အရှင်တို့ အရတော်လေစွာ့။ ဘုရားရှင့် ရှေ့တော်မှောက်၌ တပည့်တစ်ပါးအဖြစ်ဖြင့် အဘိသိက်သွန်းခံရခြင်းသည် ကောင်းမြတ်သော ဆုလာဘ် ဖြစ်ပါပေသည်တကား"

ရဟန်းသစ် သုဘဒ္ဒက ကျွန်ုပ်ကို တိုင်တည်ကာ အားပါးတရ လျှောက်ထားနေပါ၏။ သူတို့ ပရိဗိုဇ်များ၏ အစဉ်အလာအရ ဆရာဖြစ်သူက အနီးရှိ တပည့်များထံသို့ အသစ်ရောက်လာသော တပည့်ကို အပ်နှံလိုက်သောအခါ အပ်နှံခြင်းကို ခံရသော တပည့်ကြီးသည် အလိုလို ဂုဏ်သိက္ခာ ကြီးမြင့်သွား၏။ ဆရာနှင့် တန်းတူဖြစ်သွား၏။ ယခုလည်း သူ့ကိုကျွန်ုပ်ထံ ဘုရားရှင်က အပ်နှံလိုက်သဖြင့် ကျွန်ုပ်ကို ပိုမို၍ အထင်ကြီးလာဟန် ရှိပါသည်။

ဤနေရာသို့အရောက် ဘုရားရှင်ကိုယ်တော်မြတ် ပင်ပန်းကြီးစွာ လှမ်းလာခဲ့ရခြင်းတွင် ဤသာဝကတစ်ပါးနှင့် တွေ့ဆုံရေးသည်လည်း အကြောင်းတစ်ပါး အဖြစ်ဖြင့် ပါဝင်နေပေသည်တကား။

(သုတ်မဟာဝဂ်၊ မဟာပရိနိဗ္ဗာနသုတ်၊ သုဘဒ္ဒပရိဗ္ဗာဇကဝတ္ထု ပါဠိတော်နှင့် အဋ္ဌကထာ)

**

# နောက်ဆုံး မိန့်ခွန်းတော်

နောက်ဆုံးတပည့် သုဘဒ္ဒအား တရားဟောလိုက်ရသဖြင့် ကျန်ကောင်းကျန်ရာ အားအင်ကလေးများ ကုန်ခမ်းသွားပါတော့သည်။ ဝမ်းသွေးသွန်သော ရောဂါကြောင့် နဂိုကမှ အသွေးအသား လျော့ပါးနေသော ကိုယ်တော်သည် ပိုမို၍ လျော့ပါးသွားသည် ထင်ရ၏။ မည်မျှပင် အသွေးအသား လျော့ပါးသွားသော်လည်း အသားအရောင် ကတော့ မပြောင်းပါချေ။ ထိန်ထိန်သာသော လရောင်အောက်ဝယ် ရွှေအဆင်းဖြင့် ဝါဝင်းလျက်သာ ရှိပါ၏။ ထူးထူးခြားခြားကြီးပင် သပ္ပာယ်နေပါ၏။ မျက်တောင်များ၊ မြေးယှက်ထားသော မျက်နှာတော်မှာလည်း တည်ငြိမ်အေးမြလှပါဘိ၏။ ကျွန်ုပ်တို့ အားလုံး တစ်သက်စာ မမေ့သာသော မြင်ကွင်းတစ်ရပ်ပါပေတည်း။

ထက်ကောင်းကင်မှာ ထိန်ထိန်သာနေသော ငွေလမင်းကြီးသည် အနောက် ဘက်ဆီသို့ တရွေ့ရွေ့ လျှောဆင်းသွား၏။ ဘုရားရှင်၏ နောက်ကျော လက်ဝဲ နံတောင်းမှ ပူဇော်၍ အားမရသေးသဖြင့် မျက်နှာတော်ကို ပူဇော်လိုသေးဟန် ရှိပါသည်။ အနောက်ဘက်သို့ လဝန်းကြီး နိမ့်ဆင်းသွားလေ ပို၍ သာလာလေ ထင်ရ၏။ ထက်ကောင်းကင်မှ လဝန်းကြီးကပင် တကယ် တိုး၍ သာလာလေ သလား။ ညောင်စောင်းပေါ်မှ လမင်းကြီးကပင်တိုး၍တိုး၍ သာလာလေသလား မသိနိုင်ပါ။

ဤအချိန်အခါကို လောကီနက္ခတ် ဗေဒင်ဆရာများအနေနှင့် ကဆုန်လပြည့် ကျော်တစ်ရက် ရောက်ပြီဟု ဆိုကြပါလိမ့်မည်။ သို့သော် ကျွန်ုပ်တို့ သာသနာ့ ထုံးတမ်းစဉ်လာမှာကား တစ်ရက်တာ၏ အကူးအပြောင်းကို ညဥ့်သန်းခေါင်ဖြင့် သတ်မှတ်မထားပါ။ အရုဏ်တက်ဖြင့်သာ သတ်မှတ်ထားပါ၏။ ထို့ကြောင့် အရှေ့လောကဓာတ်မှ ရောင်နီဦးမလာမချင်း ကဆုန်လဆန်း တစ်ဆယ့်ငါးရက် သာလျှင် ဖြစ်နေပေသည်။

"အာနန္ဒာ"

ဖူးမြော်၍ မဝနိုင်သောမျက်နှာတော် လှပ်ရှားလာရာမှ ကျွန်ုပ်ကို ခေါ်တော်မူလိုက်၏။ မြေးယှက်ထားသော မျက်လွှာများသည် ပွင့်ဟလာကြ၏။

"အရှင်ဘုရား"

အပါးတော်ဝယ် အစဉ်သဖြင့် အသင့်ရှိနေပါကြောင်း ကျွန်ုပ်က အသိပေးလိုက်ရ၏။

"အာနန္ဒာ၊ ငါဘုရား ပရိနိဗ္ဗာန်ပြုသောအားဖြင့် ငါဘုရားဟောကြားထားခဲ့လေသမျှ တရားများသည် ဆရာအရှင် မရှိတော့ပြီ။ ငါတို့မှာ ဆရာ မရှိတော့ပြီဟု အကယ်၍ သင်တို့မှတ်ထင်ငြားအံ့။ ဤသို့ မထင်မှတ်ကြရန် ငါဘုရား ဟောကြားအံ့။ ငါဘုရားသည် ဓမ္မနှင့် ဝိနယကို သင်တို့အတွက် ကိုယ်တော်စား ထားရစ်ခဲ့ပြီ။ ငါဘုရားသည် သင်တို့အား တရားသဘောကိုလည်း ဟောကြားထားခဲ့ပြီ။ ဝိနည်းစည်းကမ်းကိုလည်း သတ်မှတ်ပေးထားပြီ။ ထိုဓမ္မနှင့် ဝိနိယတို့သည်ပင်လျှင် သင်တို့၏ဆရာ ဖြစ်ရစ်ကြပေလိမ့်မည်"

သက်တော်ထင်ရှားရှိတော်မူစဉ်က ဟောကြားခဲ့သော တရားများနှင့် သတ်မှတ်ထားခဲ့သော ဝိနည်းများသည် ကျွန်ုပ်တို့နှင့်တကွ နောင်လာနောက်သား အားလုံးအတွက် လမ်းညွှန်ချက်များ ဖြစ်လိမ့်မည်ဟု မိန့်ကြားတော်မူခြင်းဖြစ်ပါသည်။

ဝိနည်းစည်းကမ်းနှင့်ပတ်သက်၍ ဘုရားရှင်သည် တိတိကျကျ၊ ပြည့်ပြည့်ဝဝကြီး သတ်မှတ်တော် မူခဲ့၏။ ဤကား ပေါ့သောအာပတ်၊ ဤကား လေးသောအာပတ် ဟူ၍လည်းကောင်း၊ ဤကား ကုစား၍ရစကောင်းသော အာပတ်၊ ဤကား ကုစား၍ မရစကောင်းသော အာပတ် ဟူ၍လည်းကောင်း။ ဤကား လူ့လောက တရားဥပဒေအရ အပြစ်ဖြစ်နိုင်သော အာပတ်၊ ဤကား ပညတ်တော်အရ အပြစ်ဖြစ်သော အာပတ်ဟူ၍ လည်းကောင်း၊ ဤအာပတ်ကား ပုဂ္ဂိုလ်တစ်ပါးထံမှာ ဖြေဖျောက်နိုင်၏၊ ဤအာပတ်ကား ရဟန်းနှစ်ပါးသုံးပါးထံမှာ ဖြေဖျောက်နိုင်၏၊ ဤအာပတ်ကား သံဃာ့ထံမှာမှ ဖြေဖျောက်နိုင်၏ ဟူ၍လည်းကောင်း သက်တော်ထင်ရှား ရှိစဉ်ကတည်းက ပိုင်းပိုင်းခြားခြား သတ်မှတ်တော်မူခဲ့ပေပြီ။ အာပတ်ခုနစ်ပုံကို ဝေဖန်ကာ ဖြစ်ပေါ်လာသော ဝတ္ထုကြောင်းအားလျော်စွာ ဝိနည်းဆိုင်ရာ အဆုံးအဖြတ်များ၊ လုပ်ထုံးလုပ်နည်းများကို ထုတ်ပြန်တော်မူခဲ့ပြီးပေပြီ။

တရားသဘောနှင့် ပတ်သက်၍လည်း သတိပဋ္ဌာန်၊ သမ္မပ္ပဓာန် စသော ဗောဓိပက္ခိယတရားများကို သုတ္တန်ဒေသနာတော်များဖြင့် အမျိုးမျိုးအဖုံဖုံ ဝေဖန်၍ ဟောကြားတော်မူခဲ့ပေပြီ။ ခန္ဓာ၊ အာယတန၊ ဓာတ်စသော အဘိဓမ္မာ တရားများကိုလည်း ဟောကြားတော်မူခဲ့ပြီးပေပြီ။ ဤရွေ့ဤမျှ များပြားလှသော ဆရာသမားများရှိနေပြီမို့ ကျွန်ုပ်တို့ အားငယ်ရန် မရှိကြောင်း မိန့်ကြားတော်မူလိုရင်း ဖြစ်ပေသည်။

ထိုမှဆက်လက်၍ ရဟန်းအချင်းချင်း ဆက်ဆံခေါ်ဝေါ်ကြရာတွင် ပြင်ဆင်စရာကလေးများ ရှိနေသဖြင့်–

"အာနန္ဒာ၊ ယနေ့အချိန်တွင် ရဟန်းတို့သည် အချင်းချင်း ငါ့ရှင် ဟူ၍သာ ခေါ်ဝေါ်ကြ၏။ ကြီးသူငယ်သူ ခွဲခြားခြင်း မရှိကြပေ။ ငါဘုရား ကွယ်လွန်သောအခါတွင်ကား ဤသို့ မခေါ်ရစ်ကြလေနှင့်။ သီတင်းကြီးသော ရဟန်းက သီတင်းငယ်သော ရဟန်းကို ဘွဲ့အမည်အားဖြင့်လည်းကောင်း၊ မျိုးရိုးအားဖြင့်လည်းကောင်း၊ ငါ့ရှင်ဟူ၍လည်းကောင်း ခေါ်ဝေါ်နိုင်၏။ သီတင်းငယ်သော ရဟန်းက သီတင်းကြီးသော ရဟန်းကို အရှင်ဘုရားဟူ၍ ခေါ်ဝေါ်ရမည်"

ဤသို့ မိန့်တော်မမူမိကပင် ကျွန်ုပ်သည် သီတင်းကြီးသော ပုဂ္ဂိုလ်များကို အရှင်ဘုရားဟူ၍ ရိုရိုသေသေ ခေါ်ဝေါ်ခဲ့ပါ၏။ သို့ရာတွင် ကြီးသူငယ်သူ မခွဲခြားဘဲ တစ်သားတည်းခေါ်သူက များလှသဖြင့် ဤသို့ မှာတော်မူခဲ့ရပေသည်။ သို့မှသာ သီတင်းငယ်တွေက သီတင်းကြီးသော ပုဂ္ဂိုလ်များကို ရိုရိုသေသေ ခေါ်ဝေါ်ဆက်ဆံကြပါလိမ့်မည်။

ထို့နောက် အကြောင်းအားလျော်စွာ ပညတ်တော်မူခဲ့သော သိက္ခာပုဒ်များကိုလည်း သံဃာ၏ သဘောအတိုင်း ဆောင်ရွက်နိုင်စေရန် လွှဲအပ်တော်မူပါ၏။

"အာနန္ဒာ၊ သံဃာသည် အကယ်၍ အလိုရှိခဲ့သော် ခုဒ္ဒါနုခုဒ္ဒက သိက္ခာပုဒ်များကို ပယ်နုတ်ရာ၏"

ဤသို့မိန့်ကြားတော်မူစဉ်က ကျွန်ုပ်သာ သတိကောင်းကောင်းနှင့် ကြားဖြတ်လျှောက်ထားခဲ့မိပါလျှင် ကျွန်ုပ် ချစ်မြတ်နိုးသော အရှင်မြတ်ကြီးများက ကျွန်ုပ်အပေါ် အပြစ်တင်စရာ တစ်ခုတော့ လျော့သွားပါလိမ့်မည်။ အနာဂတ် သာသနာတော်မှာလည်း တစ်မျိုးတစ်ဖုံ ပြောင်းလဲကောင်း ပြောင်းလဲသွားပါလိမ့်မည်။ သို့ရာတွင် ဝမ်းနည်းကြေကွဲသော စိတ်များက ဆို့ပိတ်ထားသဖြင့် ကျွန်ုပ်မှာ ပေးလာသော အခွင့်အရေးကို အရမယူနိုင်ခဲ့ပါ။ ထို့ကြောင့်ပင် ကျွန်ုပ် ချစ်မြတ်နိုးသော အရှင်မြတ်ကြီးများ၏ အပြစ်တင်ခြင်းကို ခံခဲ့ရပါသည်။ သင်္ဂါယနာ ကိစ္စကြီးကျခါမှ ဤအကြောင်းကို ဆက်လက်၍ တင်ပြပါဦးမည်။

အနာဂတ် သာသနာရေးအတွက် မိန့်မှာတော်မူပြီးနောက် သွားလေရာရာ အရာနှင့်အကြောင်းကြောင်း ဖြစ်နေသော ရဟန်းတစ်ပါးအတွက်လည်း မှာကြားတော်မူရပါသေးသည်။

"အာနန္ဒာ၊ ငါဘုရား ကွယ်လွန်သောအခါ ဆန္နရဟန်းအား ဗြဟ္မဒဏ် ပေးရစ်ကြလော့"

ဤမိန့်ကြားချက်မှာပါဝင်သော ဆန္နရဟန်းမှာ အခြားသူ မဟုတ်ပါ။ သူသည် ဟိုယခင် သိဒ္ဓတ္ထမင်းသားဘဝမှာ ရှိစဉ်ကတည်းက ငယ်ကျွန်တော်ရင်း ဖြစ်ခဲ့၏။

သူသည်ပင်လျှင် ညကြီးသန်းခေါင်မှာ ကဏ္ဍကမြင်းနှင့်တကွ အလောင်းတော်ကို နန်းမြို့တော်မှ ထုတ်ဆောင်ပေးခဲ့ရ၏။ အနော်မာသောင်ခုံထက်သို့ အရောက်ပို့ပေးခဲ့ရ၏။ သူ့ထက်ပို၍ ရင်းနှီးသူဟူ၍ ရှိပါဦးမည်လော။ ထို့ကြောင့်လည်း ဆိုနိုင်ခက်သော ရဟန်းတစ်ပါးဖြစ်လာခဲ့၏။ "ငါတို့၏ အရှင့်သားသည် တရားကို ထိုးထွင်း၍ သိတော်မူခဲ့၏။ ထို့ကြောင့် ဘုရားဟူသည်မှာ ငါတို့ ဘုရားတည်း။ တရားဟူသည်မှာ ငါတို့တရားတည်း" ဤသို့ စိတ်ကြီးဝင်ကာ သံဃာက ပြောဆိုဆုံးမသည်ကို လုံးဝ လက်မခံခဲ့ပေ။ တစ်လုံးပြောလျှင် တစ်လုံးပြန်၍ ကော်ခဲ့ပက်ခဲ့သည်သာ ဖြစ်၏။ သူ့အတွက် ချမှတ်တော်မူခဲ့သော ဗြဟ္မဒဏ်ကိုကား အဓိပ္ပာယ်ရှင်းအောင် ကျွန်ုပ် မေးဖြစ်ခဲ့ပါ၏။

"အရှင်ဘုရား၊ ဗြဟ္မဒဏ်ကို မည်သို့ ပေးရပါမည်နည်း"

"အာနန္ဒာ၊ ဆန္နရဟန်းသည် ပြောချင်ရာ ပြောပါစေ။ သူ့ကို သံဃာက ပြောဆိုခြင်း၊ ဆုံးမကံမြစ်ခြင်း လုံးဝမပြုဘဲ ဝိုင်းပယ်ထားလိုက်ရမည်"

ဆန္န၏ မာန်မာနရောဂါကို ကုစားရန် ဆေးခါးကြီးတစ်လက်ကို သံဃာ့လက်ထဲ ပေးအပ်တော်မူခဲ့ရ၏။ အနေအထိုင် အပြောအဆိုမတတ်၍သူ့ကို မျက်နှာသာ မပေးခဲ့သော်လည်း ဘုရားရှင်၏ မေတ္တာတော်က သူ့အပေါ် ဖြန့်ကြက်လျက်သာရှိပါပေသည်။ ထို့ကြောင့်ပင် သူ့အတွက် တကူးတကမှာကြားတော်မူခဲ့ရခြင်းဖြစ်ပေသည်။

ဤအမိန့်တော် ချမှတ်စဉ်က ဆန္နသည် ပရိသတ်ထဲမှာ မရှိပါ။ ငါ့အရှင် ငါ့သခင်ဟူသော အစွဲအလမ်းဖြင့် သူ့ဘက်က ဘယ်လောက်ပင် မာန်ဝင့်ခဲ့သော်လည်း သူ့သခင်၊ သူ့အရှင်ကတော့ သူ့ကို မျက်နှာသာမပေးခဲ့ပါ။ သံဃာများက ဆုံးမလေတိုင်း ကက်ကက်လန်အောင် ရန်ထောင်လွန်းသဖြင့် ဒုဗ္ဗစဟူသော သံဃာဒိသိသ်သိက္ခာပုဒ် တစ်ခုကို ထုတ်ပြန်တော် မူခဲ့ရ၏။ မိမိနှင့် မည်မျှ ရင်းချာပါစေ၊ မိမိအပေါ် မည်မျှ အကျိုးဆောင်ခဲ့ပါစေ၊ သံဃာ့အဖွဲ့အစည်းကြီး တည်တံ့ခိုင်မြဲရေးကို ထိပါးနှောင့်ယှက်လျှင် နှိပ်ကွပ်တော်မူရမည်သာ ဖြစ်ပေသည်။

ထို့ကြောင့် ဆန္နသည် ယခု ကောသမ္ဗီမြို့က ဃောသိတာရုံကျောင်းမှာ ရှိနေပေသည်။ အခြားအခြားသော ရဟန်းများသည် အဆင့်ဆင့်သတင်းကြား၍ ဘုရားရှင်ရှိရာ လိုက်ပါလာကြ၏။ ဆန္နကား ရှေ့တော်မှောက်သို့ မလာရဲပါ။ သူ့နည်းတူ နှုတ်စွာစွာ အာကြမ်းကြမ်း ရဟန်းအချို့နှင့် အတူနေရင်း ကျောင်းမှာ စွဲမြဲ နေရစ်ခဲ့ရ၏။ မိမိ ခင်မင်တွယ်တာလွန်းလှသော အရှင်သခင်၏ မျက်နှာကို နောက်ဆုံးအချိန်တွင် ဖူးမြင်ခွင့် မရနိုင်လောက်အောင် သူ့အပြစ်က ကြီးမားလှပါတကား။

"ရဟန်းတို့၊ ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးတို့၌သော်လည်းကောင်း၊ မဂ်လေးပါး၌ သော်လည်းကောင်း၊ ဝိပဿနာကျင့်စဉ်၌သော်လည်းကောင်း၊ တစ်စုံတစ်ဦးသော ရဟန်းအား နှလုံးနှစ်ခွ ဖြစ်ခဲ့ကြသော်။ ဟုတ်မှ ဟုတ်ပါမည်လောဟု

သံသယဝင်ခဲ့ကြသော။ ရဟန်းတို့၊ ထိုသို့ဖြစ်လျှင် ငါဘုရားအား သင်တို့ မေးလျှောက်ကြကုန်လော့။ ဘုရားရှင် ရှေ့တော်မှောက်မှာ ရှိခဲ့ကြပါလျက် ငါတို့ မမေးမိလေစွာတကားဟု နောင်တပူပန် မဖြစ်ကြလေနှင့်"

ဘုရားရှင်က ရဟန်းအားလုံးကို ဖိတ်ခေါ်လိုက်သော်လည်း တစ်ပါးမှ ထ မလာခဲ့ပါ။ အားလုံး နှုတ်ဆိတ်၍သာနေကြ၏။ နှစ်ကြိမ်မြောက် ထပ်၍ဖိတ်ကြားရာတွင်လည်း ထို့အတူသာ ဖြစ်၏။ သုံးကြိမ်မြောက် ဖိတ်ကြားရာတွင်ကား–

"ရဟန်းတို့၊ ငါဘုရားကို လေးစားသောအားဖြင့် မမေးဝံ့ဘဲ ရှိကြသော။ မိမိတို့ ခင်မင်ရင်းနှီးရာ ရဟန်းအချင်းချင်း ပြောကြကုန်လော့" ဟု တစ်မျိုးပြင်၍ မိန့်ကြားတော်မူ၏။

ဤသို့ မိန့်ကြားတော်မူသော်လည်း ရဟန်းများဘက်က ဘာသံမျှ ထွက်မလာခဲ့ပါ။ နှုတ်ဆိတ်မြဲ ဆိတ်လျက်သာ ရှိ၏။ ဤတွင် ကျွန်ုပ်က–

"အရှင်ဘုရား၊ ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါး တို့၌သော်လည်းကောင်း၊ မဂ်လေးပါး၌သော်လည်းကောင်း၊ ဝိပဿနာကျင့်စဉ်၌ သော်လည်းကောင်း တစ်စုံတစ်ဦးသော ရဟန်းမှာပင် နှလုံးနှစ်ခွ မဖြစ်ပါ။ ဟုတ်မှ ဟုတ်ပါမည်လောဟု သံသယဝင်ခြင်း မရှိဟု ယုံကြည်ပါသည်ဘုရား"

"အာနန္ဒာ သင်သည် ယုံကြည်ချက်ကိုသာ လျှောက်ထားနိုင်၏။ ဤအရာ၌ ငါဘုရားအား ဉာဏ်နှင့်ပိုင်ပိုင် သိပြီးဖြစ်၏။ ငါဘုရားထံပါးမှာ ရှိနေသော ရဟန်းသံဃာတွင် နှလုံးနှစ်ခွဖြစ်သူ၊ ယုံမှားသံသယဖြစ်သူ ဟူ၍ လုံးဝမရှိပေ။ ဤရဟန်းများတွင် အောက်ထစ်ဆုံးသော ရဟန်းသည် သောတာပန်ပေတည်း"

ရဟန္တာပုဂ္ဂိုလ်ကြီးတွေ ပေါများလှသော ဤပရိသတ်ထဲက အောက်ထစ်ဆုံးသောတာပန်ဟူသော ပုဂ္ဂိုလ်များထဲတွင် ကျွန်ုပ် ပါဝင်နေပေသည်။ ကျွန်ုပ်ကားဘုရားရှင်နှင့်လည်း အနီးဆုံးဖြစ်ပါ၏။ ဂုဏ်အားဖြင့်လည်း အငယ်ဆုံးဖြစ်နေပါ၏။ မည်သို့ပင်ဖြစ်စေ၊ ရှင်တော်မြတ်အတွက်ကြောင့်ကြကြီးစွာ စိုက်နေခဲ့ရ၍ သူများထက်နောက်ကျနေရသည်ကို ကျွန်ုပ် ကျေနပ်နိုင်ပါသည်။

ပစ္ဆိမ နောက်ဆုံးယံသည် ကုန်ဆုံးရန် နီးကပ်လာပါပြီ။ ငွေဝန်းစန္ဒာသည် အနောက်ဘက် အင်ကြင်းပင်များကြားမှ ဘုရားရှင့် မျက်နှာတော်ကို နံ့သာရောင်ခြည်တို့ဖြင့် ပက်ဖျန်းပူဇော်နေပါသည်။ များမကြာမီ အရှေ့ လောကဓာတ်မှ အာဒိစ္စ နွယ်ဖွား နေနတ်သားသည် ဘုရားရှင်ကို သက်တော်ထင်ရှား ဖူးခွင့်ကြုံမည်လားဟု ထွန်းတက်၍ လာပေတော့မည်။

"ရဟန်းတို့၊ သင်တို့ကို ယခု နောက်ဆုံး ငါဘုရား မှာကြားတော်မူခဲ့မည်။ သင်္ခါရတို့သည် ပျက်စီးတတ်သော သဘောရှိကြကုန်၏။ မမေ့မလျော့သော သတိတရားဖြင့် အစစအရာရာ ပြည့်စုံအောင် ဆောင်ရွက်ကြစေကုန်သတည်း"

ဤကား ဘုရားရှင်၏ နောက်ဆုံးစကားတော်ပါပေတည်း။

လေးဆယ့်ငါးဝါကာလပတ်လုံး ဟောကြားထားလေသမျှ ဓမ္မက္ခန္ဓာ အပေါင်းကို ဤစကားဝါကျတို့ဖြင့် အကျဉ်းချုံး၍ ဟောကြားတော်မူလိုက်ခြင်းပါတည်း။

ပထမဝါကျသည် မိန့်ဆိုမည့်စကားကို နားစိုက်ကြစေရန် နှိုးဆော်လိုက်ခြင်းဖြစ်၏၊ ဒုတိယဝါကျသည် ခြွင်းချက်မရှိ မှန်ကန်သော သဘောတရားကို ညွှန်ပြထား၏။ ပြုပြင်ဖန်တီးမှုကြောင့် ဖြစ်ပေါ်လာသော သင်္ခါရတရားဟူသမျှ မုချပျက်စီးရ၏။ ဤလောက၌ မပျက်စီးသော အမြဲတစေ တည်နေသော သင်္ခါရတရား ဟူ၍ လုံးဝမရှိပေ။ အလွန်တိုတောင်းသော အချိန်ကလေးကို အစွဲပြု၍ ဖြစ်ဆဲတည်ဆဲဟု ဆိုကြရသော်လည်း ထိုအခိုက်အတန့်လေးသည်ပင် ပျက်စီးရန် ရှေးရှုနေခြင်းဖြစ်၏။ ဖြစ်ပြီးသည့်နောက် ချက်ချင်းဆိုသလို ပျက်စီးရသည်ချည်းဖြစ်၏။ ပျက်စီးသွားသော တရားသည် အကြွင်းမဲ့ ပျက်စီးသွားသည်သာ ဖြစ်၏။ တစ်ကျော့တစ်ဖန် ပြန်လည်လာခြင်း မရှိပေ။ သူတို့နေရာတွင် ဖြစ်ပေါ်လာသော တရားများကား အသစ်အသစ်တို့သာလျှင် ဖြစ်ကြ၏။ အကြောင်းတရားတို့ ပေါင်းဆုံမှုအလျောက် ပေါ်ပေါက်လာသော တရားများသာ ဖြစ်ကြ၏။ ဤသည်ပင်လျှင် သံသရာတည်း။

ဤသံသရာဝဋ်မှ ထွက်မြောက်ရန်ကား ပြုပြင်ခြင်းကင်းဝေးသော ပြုပြင်ခြင်းကင်းသဖြင့် ပျက်စီးခြင်းမရှိသော နိဗ္ဗာန်တရားကို ကိုယ်တိုင်ကိုယ်ကြပ် မျက်မှောက်ပြုနိုင်ရေးအတွက် နိဗ္ဗာန်နှင့်လျော်သော အကျင့်ကို ကျင့်သုံးကြရပါလိမ့်မည်။ အေးသော သဘောရှိသော နိဗ္ဗာန်နှင့်လျော်ညီစွာ အေးဆေးသော စိတ်သဘောကို ပွားများကြရပါလိမ့်မည်။ ငြိမ်းချမ်းသောသဘောရှိသော နိဗ္ဗာန်နှင့် လျော်ညီစွာ ငြိမ်းချမ်းသော စိတ်သဘောကို မွေးမြူကြရပါလိမ့်မည်။ ဤသို့သော ကျင့်ဝတ်များကို မမေ့မလျော့ ကျင့်သုံးနိုင်ကြရန် တတိယဝါကျက ညွှန်ပြ၍ထားပေသည်။

ဘုရားရှင်၏ နောက်ဆုံး မိန့်ခွန်းတော်ကို အဓိပ္ပာယ် ဖော်ကြည့်နေဆဲမှာပင် ဘုရားရှင်၏ ထွက်သက်ဝင်သက်များ ချုပ်ငြိမ်းသွားကြပါပြီတည်း။

**(သုတ်မဟာဝဂ်၊ မဟာပရိနိဗ္ဗာနသုတ်၊ တထာဂတပစ္ဆိမဝါစာ ပါဠိတော်နှင့် အဋ္ဌကထာ)**

**

# ချမ်းမြေ့နိဗ္ဗူ စံတော်မူသည်

"အရှင်အနုရုဒ္ဓါ၊ ဘုရားရှင် ပရိနိဗ္ဗာန်စံတော်မူပြီလော"

ထွက်သက်ဝင်သက် ချုပ်ငြိမ်းနေသော ကိုယ်တော်မြတ်ကိုကြည့်ကာ ကျွန်ုပ်က ထိတ်လန့်တကြား မေးလိုက်ရ၏။ သကျမင်းသားခြောက်ပါး ရဟန်းပြုကြရာတွင် အရှင်အနုရုဒ္ဓါက ကျွန်ုပ်ထက် ရှေ့ကျ၏။ ထို့ပြင် ဈာန်အဘိညာဉ်ကို အချိန်ရသမျှ ပွားများနေသဖြင့် သူ၏ ဣန္ဒြေများကလည်း တည်ကြည်လှ၏။ ကျွန်ုပ်နှင့် ရှေ့ဆင့်နောက်ဆင့် ရဟန်းပြုခဲ့ကြသော်လည်း တစ်ပါးနှင့် တစ်ပါး ဝါနှစ်ဆယ် လောက်ကွာခြားနေသကဲ့သို့ ဖြစ်၏။ ထို့ကြောင့် ကျွန်ုပ်က သူ့ကို ရိုရိုသေသေ ဆက်ဆံ ခေါ်ဝေါ်ရပါသည်။

"ငါ့ရှင် အာနန္ဒာ၊ ဘုရားရှင် ပရိနိဗ္ဗာန် မစံသေးပါ။ နိရောဓသမာပတ် ဝင်စားတော်မူနေဆဲဖြစ်၏။ ငါသည် ဘုရားရှင်နှင့်အတူ ဈာန်သမာပတ်များ ဝင်စား ခဲ့၏။ ပထမဈာန်မှစ၍ အစဉ်အတိုင်း ဝင်စားကာ နေဝသညာ နာသညာယတနဈာန် အထိ ရောက်ခဲ့၏။ ထိုဈာန်ကို ဝင်စားပြီးနောက် ငါသည် ဈာန်မှ ထလာခဲ့၏။ ဘုရားရှင်ကား ထိုဈာန်မှ ထပြီးနောက် နိရောဓသမာပတ် ဝင်စားတော်မူနေ၏"

အရှင်အနုရုဒ္ဓါက သူ့နောင်တော်မြတ်၏ အဖြစ်မှန်ကို ရှင်းပြပါ၏။ ဈာန် အဘိညာဉ်ကို ကြိမ်ဖန်များစွာ အလေ့အလာပြုပြီးသော ပုဂ္ဂိုလ်ဖြစ်၍လည်း ဤသို့ ရှင်းပြနိုင်ပေသည်။ နိရောဓသမာပတ် ဝင်စားနေလျှင် ထွက်သက်ဝင်သက် ချုပ်ငြိမ်း နေ၏။ အသိတရားဟူသမျှ၊ ခံစားမှုဟူသမျှ ချုပ်ငြိမ်းနေကြ၏။ သို့သော် ခေတ္တခဏ သေနေသည်လည်း မဟုတ်ပါ။ နာမ်တရားများ ချုပ်ငြိမ်းနေသော်လည်း ရုပ်ခန္ဓာ ကတော့ အသက်ရှင်လျက်ပင် ရှိနေ၏။ နိရောဓသမာပတ် မဝင်စားမီက အဓိဋ္ဌာန် ထားခဲ့သော အချိန်စေ့လျှင် ထွက်သက်ဝင်သက်များ ပြန်ပေါ်လာကြသည်သာဖြစ်၏။ အသိတရားနှင့် ခံစားမှုများ ပြန်ပေါ်လာကြသည်သာ ဖြစ်၏။

အရှင်အနုရုဒ္ဓါ၏ ပြောပြချက်အရ ဘုရားရှင်မှာလည်း နိရောဓသမာပတ်မှ ထတော်မူလာကြောင်း သိရပါ၏။ ထို့ကြောင့်ပင် ထွက်သက်ဝင်သက်များ ပြန်၍

ပေါ်လာခြင်း ဖြစ်၏။ သို့သော် မှိတ်ထားပြီးသော မျက်လွှာများကား ပြန်၍ ပွင့်မလာတော့ပါ။ နိရောဓသမာပတ်မှ အထတွင်လည်း ဈာန်သမာပတ်များကိုသာ အထက်မှ အောက်၊ အောက်မှအထက် အပြန်ပြန်အလှန်လှန် ဝင်စားနေတော်မူသည် ဆိုပါ၏။ မန္တိုင်းကောင်း နှိုင်းကောင်း နှိုင်းရပါသော် တစ်ရပ်တစ်ကျေးသို့ ခရီးဝေးသွားမည့် ဖခင်သည် သွားမည့်ဆဲဆဲတွင် သားငယ် သမီးငယ်လေးများကို မြတ်မြတ်နိုးနိုး ပွေ့ပိုက်၍ နှုတ်ဆက်နေသကဲ့သို့ ဖြစ်ပါ၏။

ထွက်သက်ဝင်သက်ဖြင့် လှုပ်ရှားနေသော ကိုယ်တော်ကို တဒေးတမော ဖူးမြင်နေဆဲမှာပင် ရုတ်တရက်ထွက်ပေါ်လာသော တော်လည်းသံကြီးကြောင့် ကျွန်ုပ် ထိတ်လန့်တကြား ဖြစ်သွားရပါတော့သည်။ တော်လည်းသံကြီးနှင့် မရှေးမနှောင်းပင် မဟာပထဝီ မြေကြီးကလည်း သိမ့်သိမ့်ခါအောင် တုန်လှုပ်လာ၏။ မိုးရိပ်မိုးသား မမြင်ရဘဲ ပေါ်ပေါက်လာသော လျှပ်စီးကြောင်းများကလည်း မျက်စိကျိန်းအောင် တောက်ပ လွန်းလှ၏။ လျှပ်စီးကြောင်းနောက်မှ ပေါ်ထွက်လာသော မိုးချုန်းသံများကလည်း နားကွဲမတတ် ပြည်ဟိန်းလွန်းလှ၏။ ထိုအဆင်း၊ ထိုအသံ၊ ထိုအာရုံများကြားမှ ဘုရားရှင်ထံ မော့၍ဖူးလိုက်သောအခါ ထွက်သက်ဝင်သက်များ ချုပ်ငြိမ်းနေကြပါပြီတည်း။

အပြင်အပမှ ခံစားရသော အာရုံအပေါင်းသည် ကျွန်ုပ်၏စိတ်တွင်း ခံစားမှုကို မှီလိမ့်မည် မထင်ပါ။

"အာနန္ဒာ၊ ယခု သင်တို့ ဘာများတတ်နိုင်ကြသေးနည်း။ သင်တို့ မည်မျှ လောက် ငိုငို၊ ဘယ်လိုပင် တားတား၊ သဘာဝတရားကြီးက အတားခံပါသေး၏လော။ သင်တို့၏ မျက်ရည်များကို ငဲ့ပါသေးသလော။ ဇာတိနှင့် စ လာသည် အားလျော်စွာ မရဏဖြင့် အဆုံးသတ်သွားသည်သာ မဟုတ်ပါလော။

"အာနန္ဒာ၊ သင်တို့တစ်တွေမှာ ဆက်လက်၍ တည်ရှိစေလိုသော အလို အာသဝကြောင့် စိုးရိမ်ပူဆွေး ငိုကြွေးကြရ၏။ ရှိုက်ကြီးတငင် ပင်ပန်းကြရ၏။ ဘုရားရှင်မှာကား အာသဝဟူသမျှ ချုပ်ငြိမ်းနေကြပြီဖြစ်၍ မည်သို့သော စိတ် ဒုက္ခမျှ မဖြစ်ပါချေ။ ဖြစ်လျှင် ပျက်ရသော သဘာဝကို မည်သို့သော အာသဝ နှင့်မျှ တားဆီး၍ မရပေ။ ဤသဘောကို အသိကြီးသိထားတော်မူပြီမို့ စိတ်နှလုံး အေးချမ်းစွာဖြင့် ဝဋ်ခန္ဓာကြီးကို စွန့်လွှတ်တော်မူလိုက်ပေပြီ။ ယခု ရရှိထားသော ဝဋ်ခန္ဓာကြီး အပေါ်မှာ အလိုအာသဝ ကင်းစင်တော်မူသကဲ့သို့ အနာဂတ် ဝဋ်ခန္ဓာ များကိုလည်း တောင့်တ မျှော်ကိုးခြင်း မရှိချေ။ ဤသို့ တောင့်တ မျှော်ကိုးခြင်း ကင်းလျက် ဘဝနိဂုံး အဆုံးသတ်ခြင်းကိုပင် ပရိနိဗ္ဗာန်ပြုသည်ဟု ခေါ်ရပေသည်"

အတုမရှိသော နောင်တော်မြတ်၏ကိုယ်စား နောင်တော်လတ် အရှင် အနုရုဒ္ဓါ က ကျွန်ုပ်တို့ကို တရားပြသ၍ ဖျောင်းဖျပါပေသည်။ အရှိန်အဟုန်နှင့် ကျဆင်း

လာသော မျက်ရည်များကို ရုတ်တရက် မဆည်မတန့်နိုင်သေးသော်လည်း လေးစားလောက်သောတရားသံများကြောင့် အတန်အသင့် သက်သာခွင့် ရလာပါ၏။ အရှင်အနုရုဒ္ဓါနှင့်အတူ စကားစမြည် ပြောနိုင်လာပါ၏။ ဤသို့ ပြောဆိုရင်းနှင့်ပင် အရှေ့လောကဓာတ်မှာ ရောင်နီသန်းလာပါတော့သည်။

(သုတ်မဟာဝဂ်၊ မဟာပရိနိဗ္ဗာနသုတ်၊
ပရိနိဗ္ဗုတကထာပါဠိတော်နှင့် အဋ္ဌကထာ)

❊❊

# ဖဝါးတော်တွင် နမ္မူးတင်

နံနက်မိုးသောက် အလင်းရောက်လျှင် ကျွန်ုပ်သည် ကုသိနာရုံမြို့တွင်းသို့ တစ်ခါ ဝင်ခဲ့ရပြန်ပါ၏။ ဘုရားရှင်ပရိနိဗ္ဗာန်ပြုတော်မူသည်ကို အကြောင်းကြားရန်ဖြစ် ပါ၏။ ဤပရိသတ်ထဲတွင် အရှင်မဟာကဿပ ရှိနေပါလျှင် ဤတာဝန်ကို သူကိုယ်တိုင်က ပေးအပ်ရမည် ဖြစ်၏။ အရှင်မဟာသာရိပုတ္တရာနှင့် အရှင်မဟာ မောဂ္ဂလာန်တို့ မရှိတော့သည့်နောက်ဝယ် ဤအရှင် မြတ်ကြီးသာလျှင် ထီးထီးမားမား ရှိတော့သည် မဟုတ်ပါလော။ သို့ရာတွင် အကြီးမားဆုံးသော ထိုသာဝကကြီးသည် သက်တော် မီအောင် ရောက်မလာနိုင်ခဲ့ပါ။ ထို့ကြောင့် သူ့ကိုယ်စား အရှင်အနုရုဒ္ဓါ က ကျွန်ုပ်ကို စေလွှတ်ခဲ့ခြင်း ဖြစ်ပါသည်။

ညတုန်းကအတိုင်းပင် ကုသိနာရုံရှိ တပည့် ဒါယကာ၊ ဒါယိကာမ အပေါင်း တို့ သောသောရုတ်ရုတ် ငိုကြွေးကြပြန်ပါပေသည်။ ထို့နောက် အလောင်းတော်ရှိရာသို့ တသီတတန်းကြီး လိုက်ပါလာကြ၏။ အသင့်ပါလာသော ပန်းနံ့သာတို့ဖြင့် အလောင်းတော်ကို ပူဇော်ကြ၏။ သံဝေဂ တေးချင်းများကို တူရိယာမျိုးစုံဖြင့် သီဆိုတီးမှုတ်ကာ ပူဇော်ကြ၏။ တချို့က နေပူရှိန် မပြင်းသေးခင် အဝတ်မဏ္ဍပ်များ ထိုးကြ၏။ တချို့က ရဟန်းသံဃာများ ခေတ္တခဏတည်းခိုရန် ယာယီကျောင်းများ ဆောက်လုပ်ကြ၏။ စောစောကပင် ဤကိစ္စများကို လွှတ်တော်ထဲမှာ စီစဉ် ညှိနှိုင်းထားခဲ့ကြပြီမို့ လိုအပ်သမျှကိစ္စများ ချောမောစွာ ပြီးစီးကြပေသည်။

ပြုဖွယ်ကိစ္စများ ဆောင်ရွက်ရင်း အလောင်းတော်ကို ပူဇော်ရင်း တစ်နေ့တာ ကုန်လွန်လာခဲ့၏။ ဤသို့ဖြင့် အလောင်းတော် သဂြိုဟ်ရန်ကိစ္စကို နောက်တစ်နေ့သို့ ရွှေ့ဆိုင်းခဲ့၏။ နောက်နေ့မှာလည်း ပူဇော်ပသရင်း အချိန်ကုန်သွားပြန်သဖြင့် တစ်ဖန်ထပ်၍ ရွှေ့ရပြန်၏။ ဤသို့ဖြင့် ခုနစ်ရက်မြောက် ရောက်လာခဲ့ပေပြီ။

ထိုနေ့မှာတော့ မလ္လအကြီးအကဲများက သဂြိုဟ်ဖြစ်အောင် ကြိုးစားမည်ဟု ဆုံးဖြတ်ထားကြ၏။ ထို့ကြောင့် အားကောင်းမောင်းသန် လူလတ်တန်းစား မလ္လ

မင်းသားရှစ်ဦးတို့သည် ခေါင်းလျှော်ခြင်း၊ ရေချိုးခြင်း၊ အဝတ်သစ်များ ဝတ်ဆင်ခြင်း ကိစ္စများကို စောစောစီးစီး ဆောင်ရွက်ကာ အလောင်းတော်သို့ ချဉ်းကပ်လာကြ၏။ အလောင်းတော်ကို သင်္ဂြိုဟ်ရန်ဌာနသို့ ပို့ဆောင်ရန် ညောင်စောင်းနှင့်တကွ မ,ချီကြ၏။ သူတို့သဘောအတိုင်းသာဆိုပါက အလောင်းတော်ကို မြို့၏ တောင်ဘက်သို့ပို့ဆောင်ကာ ထိုနေရာမှာပင် သင်္ဂြိုဟ်ကြမည် ဖြစ်၏။ သို့ရာတွင် အရှင်အနုရုဒ္ဓါ၏ ညွှန်ကြားချက်အရ ထိုအစီအစဉ်များကို ဖျက်သိမ်းကာ အလောင်းတော်ကို မြောက်တံခါးမှ မြို့တွင်းသို့ သွင်းယူကြရ၏။ မြို့လယ်ကောင်မှတစ်ဆင့် အရှေ့တံခါးမှ ထွက်ကြ၏။ မြို့ဦးထိပ်ရှိ မလ္လမင်းသားတို့ တန်ဆာဆင်မင်္ဂလာ ပြုရာ မကုဋဗန္ဓန အမည်ရသော အဆောက်အအုံသို့ ပို့ဆောင်ကြရ၏။ လမ်းတစ်လျှောက်လုံးတွင် ပန်းနံ့သာ ပူဇော်သူများ၊ သံဝေဂတေးသီချင်း သီဆိုသူများ၊ တူရိယာမျိုးစုံတီးမှုတ်ပူဇော်သူများဖြင့် ကြိတ်ကြိတ်တိုးမျှ စည်ကားလှပေသည်။

မလ္လမင်းသား အကြီးအကဲများသည် အလောင်းတော်ကို မင်္ဂလာအဆောက်အအုံမှာ ခေတ္တချထားကာ ညက်အိနေအောင် ဖတ်ထားသော ဝါဂွမ်းနုများနှင့် အဝတ်သစ်များကို တစ်ထပ်စီ ရစ်ပတ်ကြ၏။ ဤသို့ အပတ်ပေါင်းများစွာ ရစ်ပတ်ကြပြီးမှ ဆီထည့်ထားသော ရွှေတလားထဲမှာ ထည့်ကြ၏။ ထိုအပေါ်မှာ ရွှေတလားတစ်ခုဖြင့် ဖုံးအုပ်ကာ နံ့သာထင်းပုံပေါ်သို့ တင်လိုက်ကြပေသည်။

ဤမျှဆိုလျှင် အလောင်းတော်ကို မီးပူဇော်ရန်ကိစ္စ အရန်သင့် ဖြစ်နေပြီ။ သို့သော် ပူဇော်၍ မဖြစ်သေးပါ။ ဖွတ်အတင်း ပူဇော်လျှင်လည်း ရနိုင်လိမ့်မည် မထင်ပါ။ အရှင်မဟာကဿပကို စောင့်ကြည့်ရပါဦးမည်။ အကြီးဆုံး သာဝကကြီး ဦးတိုက်ပူဇော်ပြီးခါမှ သင်္ဂြိုဟ်ကြရပါလိမ့်မည်။

ဘုရားရှင် ပရိနိဗ္ဗာန်ပြုသည်မှာ ခုနစ်ရက်တိုင်တိုင် ရှိခဲ့ပါပြီ။ ပရိနိဗ္ဗာန်စံစဉ်က ထူးခြားလှသော အဖြစ်အပျက်များ ပေါ်ပေါက်ခဲ့ပါပြီ။ အရှင်မြတ်ကြီး ကိုယ်တိုင်ကလည်း ဈာန်အဘိညာဉ်ရထားသူ ဖြစ်ပါသည်။ သို့ဖြစ်၍ ဤ အရှင်မြတ်ကြီးသည် ဤအရပ်သို့ မလာဘဲနေမည် မဟုတ်ပါ။ သက်တော်ထင်ရှား ဘုရားရှင်ကို မဖူးလိုက်ရသော်လည်း အလောင်းတော်ကို ပူဇော်ရန်ကား အရောက်ကြွလာပါလိမ့်မည်။

ကျွန်ုပ်တို့ မျှော်လင့်ထားသည့်အတိုင်း အရှင်မဟာကဿပသည် ပါဝါမြို့မှ တစ်ဆင့် ဆိုက်ရောက်လာခဲ့၏။ ရဟန်းငါးရာလည်း သူ့နောက်ပါးမှာ ပါလာခဲ့၏။ အချို့ ရဟန်းများမှာ မျက်စိမျက်နှာ နီမြန်းလျက်။ တချို့ကတော့ မျက်ရည်ကလေးတွေ တစမ်းစမ်းနှင့်။ တချို့သင်္ကန်းများမှာ ဖုန်စ ဖုန်နတွေနှင့်။ ကေန္တ လမ်းမှာကတည်းက သူတို့ သတင်းကြားပြီးကြပါရောမည်။ သတင်းကြားပြီးပြီးချင်း လူးကာလှိမ့်ကာ ငိုယိုခဲ့ကြပါလိမ့်မည်။

အရှင်မဟာကဿပ သာသနာ့ဘောင်ဝင်ရောက်ရန် လာစဥ်တုန်းက ဘုရားရှင်သည် သုံးဂါဝုတ်ခရီးကို တစ်ပါးတည်း လာ၍စောင့်ကြိုတော်မူခဲ့၏။ ချဉ်းကပ်လာသော တပည့်ကြီးအား တရားရသာ မြိုက်ဩဇာကို ဆီးကြို၍ ကျွေးမွေးတော်မူခဲ့၏။ ယခုလည်း သူ့တပည့်ကြီးကို နံ့သာထင်းပုံထက်မှ ဆီးကြိုနေတော်မူပါပြီ။ တပည့်ကြီး၏ ဦးခိုက်ပူဇော်မှုကို ခံယူရန် အသင့်ရှိနေတော်မူပါပြီ။

အရှင်မဟာကဿပသည် ရဟန်းငါးရာကို ဦးဆောင်ကာ နံ့သာထင်းပုံရှိရာသို့ တန်းတန်းမတ်မတ် ဝင်လာ၏။ လက်အုပ်ကိုယ်စီချီမိုးလျက် နံ့သာထင်းပုံကို သုံးကြိမ်သုံးခါ လှည့်လည်၏။ ထို့နောက် ဘုရားရှင်၏ ခြေတော်ရှိရာဘက်မှ နဖူးတင်ကာ နောက်ဆုံးပူဇော်ခြင်းဖြင့် ပူဇော်လိုက် ပါသည်။ နောက်ပါရဟန်းများအားလုံး ပူဇော်ပြီးချိန်တွင်ကား နံ့သာ ထင်းပုံတစ်ခုလုံး မီးဟုန်းဟုန်းတောက်လာပါတော့၏။

အလောင်းတော်ကို တေဇောဓာတ် လောင်ကျွမ်းပြီးချိန်တွင် ရွှေတလားကို ဖွင့်ကြည့်ကြရာ ဓာတ်တော်များကိုချည်း တွေ့ရ၏။ မလ္လအကြီးအမှူးများက ခြင်တွယ်ကြည့်ရာ ရှစ်စိတ်မျှ ရှိကြောင်း သိရပေသည်။ ပြာနှင့် မီးသွေးများ မပါရှိပေ။ ကုသိနာရုံမြို့မှ မလ္လ မင်းညီမင်းသားတို့သည် ဓာတ်တော်များကို မြို့တွင်းသို့ သယ်ဆောင်ကာ လွှတ်တော်မှာ ထားကြပြီးလျှင် ခုနစ်ရက်တိုင်တိုင် ပူဇော်ပွဲကြီးကျင်းပကြ၏။ အခြားတစ်ပါးက မင်းများ အနိုင့်အထက် လုယက်မသွားကြစေရန် လွှတ်တော်တစ်ခုလုံးကို လှံဖြင့် ဝိုင်းဝန်းခြံရံထားကြ၏။ သည်ဓာတ်တော်တွေကို သူတို့ချည်း ပူဇော်ရတော့မည်ဟု ထင်မှတ်နေကြဟန် တူပါသည်။ ကိုယ်တော်မြတ်ကို သဂြိုဟ်ရန်ကိစ္စ၌ ကြောင့်ကြစိုက်မနေကြရန် ဟောကြားတော်မူခဲ့သဖြင့် ကျွန်ုပ်တို့အားလုံးက ဤကိစ္စများတွင် မပါဝင်ဘဲ နေခဲ့ကြပေသည်။

မကြာပါချေ။ တစ်ဆင့်စကား တစ်ဆင့်နား ကြားသဖြင့် အဇာတသတ်မင်းကိုယ်တိုင် စစ်တပ်ကြီးစွာဖြင့် ချီတက်လာပါပြီ။ စည်းလုံးညီညွတ်သော လိစ္ဆဝီတို့ကလည်း ရှေ့ဆင့်နောက်ဆင့် ရောက်လာကြပြန်၏။ သူတို့နောက်မှာ ကျွန်ုပ်တို့ ဆွေတော်မျိုးတော် သကျမင်းညီမင်းသားများ၊ ထို့နောက်မှာ အလ္လကပ္ပမြို့က ဗုလိမင်းသားများ၊ ထို့နောက် ရာမဂ္ဂါသား ကောဠိယမင်းသားများ စစ်ချီလာကြ၏။ ဝေဋ္ဌဒီပ ကျွန်းသား ပုဏ္ဏားတစ်ယောက်ကလည်း သူ့အသင်းအပင်းများနှင့် တကွ ဓာတ်တော်တောင်း ရောက်လာပြန်၏။ အနီးကပ်ဆုံး ပါဝါမြို့သား မလ္လမင်းတို့ကား နောက်ဆုံးမှ ချီတက်လာကြပေသည်။

ကုသိနာရုံမြို့ကလေးကို စစ်တပ်များဖြင့် ဆို့ပိတ် ထားကြသော်လည်း ကုသိနာရုံမြို့သား မလ္လမင်းသားများက အလျှော့မပေးကြပါ။ "ငါတို့မြို့မှာ ငါတို့နှင့်ထိုက်၍ ဖြစ်ပေါ်လာသော ရတနာကို မည်သူ့ကိုမျှ ဝေငှမပေးနိုင်"ဟု တင်းခံ

နေကြ၏။ ပြင်ဘက်ကလည်း ဓာတ်တော်မှမရလျှင် စစ်ဖက်ရလိမ့်မည်ဟု ရာဇသံ ပေးနေကြ၏။

ဤတွင် ဒေါဏပုဏ္ဏားကြီးက ရန်စောင်နေသူ အားလုံးကို သူ့အသံသြဇာဖြင့် ထိန်းသိမ်းဖျောင်းဖျကာ ဓာတ်တော်ကို ရှစ်ပုံပုံကာ အညီအမျှ ဝေပေးလိုက်၏။ မင်းညီမင်းသားမှန်လျှင် သူ့လက်အောက်မှာ ပညာသင်ကြား ဖူးကြသဖြင့် သူ၏ သြဇာကို အားလုံးက နာခံကြခြင်းဖြစ်ပေသည်။ ဓာတ်တော်များ အကုန်အစင် ဝေငှပြီးနောက် ဓာတ်တော်ထည့်သော ရွှေခွက်ကိုကား သူ ကိုးကွယ်ပူဇော်ရန် တောင်းယူသွား၏။ နောက်ကျမှ ရောက်လာသော မောရိယမင်းသားများကား ဓာတ်တော်များ မကျန်တော့သဖြင့် နံ့သာထင်းပုံမှ မီးသွေးစများကို ကောက်ယူသွားကြရပေသည်။

(သုတ်မဟာဝဂ်၊ မဟာပရိနိဗ္ဗာနသုတ် ပါဠိတော်၊ မဟာကဿပ ထေရဝတ္ထု၊ သရီရဓာတု ဝိဘာဇနဲ)

✻✻

# သင်္ဂါယနာနိဒါန်း

ဓမ္မနှင့် ဝိနယကို ကိုယ်စားထားခဲ့၍ ဘုရားရှင်ကတော့ ကျွန်ုပ်တို့ အားလုံးကို မျက်နှာလွှဲ၍ ကြွသွားခဲ့ပါချေပြီ။ ဘုရားရှင်ကိုယ်တော်မြတ်ကြီးကို ယခု မည်သူမျှ ဖူးမြင်ခွင့် မရတော့ပြီ။ ဤကမ္ဘာမြေပြင်၌ ဤအချိန်၊ ဤကာလတုန်းက သမ္မာသမ္ဗုဒ္ဓ ဘုရားရှင်ကိုယ်တော်မြတ်ပွင့်တော်မူခဲ့ဖူးသည်ဟု ပြောရုံမျှသာ စွမ်းနိုင်ကြတော့သည်။

အားကိုးစရာ ကိုယ်တော်စားများ ထားခဲ့သဖြင့် အားငယ်ရန်မရှိကြောင်း အဖန်ဖန်အထပ်ထပ် ဟောကြားတော်မူခဲ့၏။ မိမိကိုယ်ကိုသာ အားကိုးရစ်ကြရန် သတိပေးတော်မူခဲ့၏။ သို့သော် ကျွန်ုပ်မှာ အားမငယ်ဘဲ မနေနိုင်ပါ။ တကယ်တော့ဖြင့် ကျွန်ုပ်သည် နောင်တော်မြတ်၏ အရိပ် မဟုတ်ပါလော။ အရပ်တော် သွားလေရာနောက်သို့ တကောက်ကောက် ပါနေခဲ့ရသော ဤအရိပ်သည် ယခုတော့ မည်သူ့နောက် လိုက်ရပါတော့မည်နည်း။

ဓမ္မနှင့် ဝိနယကို အားကိုးရစ်ကြရန် ဘုရားရှင် မိန့်မှာတော်မူခဲ့၏။ ထို မိန့်မှာချက်သည် မှုအားဖြင့်ဟုတ်မှန်ပါ၏။ မှုကောင်းသော်လည်း ထိုမှုကို အပြည့်အဝ အကောင်အထည်ဖော်ဖို့က လိုပါသေးသည်။ တရားဒေသနာတော်များ အားလုံးကို ကျွန်ုပ် နှုတ်တက်ရွရွ ဆောင်ထားနိုင်ပါ၏။ ဘုရားရှင့် ရှေ့တော်မှောက်တွင်လည်းကောင်း၊ အရှင်မဟာသာရိပုတ္တရာထံမှ တစ်ဆင့်လည်းကောင်း ကျွန်ုပ် သင်ယူမှတ်သားနိုင်သည် မှန်ပါ၏။ သို့သော်ဤသို့ သင်ယူမှတ်သားထားသူမှာ ကျွန်ုပ် တစ်ပါးတည်း မဟုတ်ပါ။ ရဟန်းတိုင်းလိုလို၊ ရဟန်းမတိုင်း လိုလို သင်ယူခဲ့ကြ၏။ ကျွန်ုပ်ကဲ့သို့ အပြည့်အစုံ မစုဆောင်းနိုင်ကြသော်လည်း တစ်ပုဒ်ကောင်း နှစ်ပုဒ်ကောင်းတော့ ကြားနာ မှတ်သားထားခဲ့ကြ၏။ ဤသို့ တစ်ပုဒ်ကောင်း နှစ်ပုဒ်ကောင်း ကြားနာရ၍ပင် စေတနာ သဒ္ဓါတရားများ ထက်သန်ကာ သာသနာတော်တွင်း ဝင်ရောက်လာခဲ့ကြသည် မဟုတ်ပါလော။

သာသနာတော်ကြီး တစ်ရပ်လုံး၏ လိုရင်းကိစ္စကား ဝိမုတ္တိဟူသော နိဗ္ဗာန်ကို မျက်မှောက်ပြုရေး တစ်ခုတည်းသာ ဖြစ်၏။ တစ်ခုတည်းသော အရေးကိစ္စကြီး အောင်မြင်ရေးကိုကား ဘုရားရှင်က နည်းအသွယ်သွယ် ခြယ်လှယ်၍ ဟောကြားတော်မူရ၏။

ခန္ဓာနှင့်ဟောလျှင် ကျွတ်တမ်းဝင်နိုင်သူတို့ကို ခန္ဓာငါးပါးကို အခြေခံ၍ ဝေဖန်ကာ ဟောကြားတော်မူခဲ့၏။ အာယတနနှင့်မှ ကျွတ်လောက်သူတို့ကိုကား အာယတန တစ်ဆယ့်နှစ်ပါးကို ခွဲခြား၍ ဟောတော်မူရ၏။ တရားနာသော ပုဂ္ဂိုလ်တို့၏ စိတ်ဓာတ်အခြေအနေကိုကြည့်ကာ ထိုက်သင့်သလို ဟောတော်မူရခြင်း ဖြစ်ပါ၏။ တစ်ခါတစ်ရံမှာလည်း ပုဂ္ဂိုလ်၏ ဉာဏ်ရည်ဉာဏ်သွေးကိုကြည့်ကာ တရားအနုအရင့်ကို ချင့်ချိန်၍ ဟောရသည်လည်း ရှိပါသည်။ တရားတစ်မျိုးတည်းကိုပင် အခြေအနေအရ နည်းအမျိုးမျိုးနှင့် ဟောရသည်လည်းရှိပါသည်။

နည်းအမျိုးမျိုးနှင့် ဟောကြားထားသဖြင့် ပုဂ္ဂိုလ်အမျိုးမျိုး ကျွတ်တမ်းဝင်ကြသည်လည်း မှန်ပါ၏။ သို့သော် ထိုအမျိုးမျိုးသော ဒေသနာများကို ကိုင်စွဲကာ တစ်ခါတစ်ရံ ငြင်းစရာခုံစရာ ဖြစ်လာတတ်ပါသေးသည်။

အရှင်ဥဒါယီဟူ၍ ဘွဲ့မည်တူ သုံးပါးရှိသည့်အနက် လျှပ်ပေါ်လော်လီသဖြင့် လာဠုဒါယီအမည်တွင်ခဲ့သော ရဟန်းတစ်ပါးအကြောင်းကို ကျွန်ုပ်၏ ပရိသတ်များ ကြားဖူးကြပါပြီ။ ထိုလာဠုဒါယီသည်ပင် လက်သမားဆရာကြီး တစ်ဦးနှင့် အကျောက်အကန် ငြင်းခုံခဲ့ပါ၏။ သူတို့ ငြင်းခုံသည်မှာဝေဒနာနှင့် ပတ်သက်၍ ဖြစ်၏။ လက်သမားဆရာကြီးက မေးလျှောက်သဖြင့် လာဠုဒါယီက သုခ၊ ဒုက္ခနှင့် ဥပေက္ခာဟူ၍ ဝေဒနာသုံးပါးရှိကြောင်း ဖြေဆို၏။ ဤတွင် လက်သမားဆရာကြီးက ဤအဖြေကို လက်မခံဘဲ သုခနှင့် ဒုက္ခ ဟူ၍ ဝေဒနာနှစ်ပါးသာရှိကြောင်း လျှောက်ထား၏။ ဥပေက္ခာဝေဒနာမှာ ငြိမ်သက်သော သဘောရှိသဖြင့် သုခဝေဒနာထဲမှာ အကျုံးဝင်ပြီးဖြစ်သည်ဟု အကြောင်းပြ၏။

ဝေဒနာ နှစ်ပါးနှင့် သုံးပါး ငြင်းခုံကြရာတွင် မည်သူကမျှ အရှုံးမပေးကြ။ နှစ်ဘက်စလုံးသည် ဘုရားရှင်ကိုယ်တော်တိုင်က ဤသို့ ဟောကြားခဲ့သည်ဟု ဆိုကာ ဇွတ်ပေ၍ နေကြ၏။ ဤအကြောင်းကို ကျွန်ုပ်ကလျှောက် ထားရာတွင် ဘုရားရှင်က . . .

"အာနန္ဒာ၊ လက်သမားဆရာနှင့် ဥဒါယီတို့သည် အပြန်အလှန် ထောက်ခံသင့်သော အကြောင်းရှိပါလျက် မထောက်ခံဘဲ ငြင်းခုံကြဘိ၏။ ငါဘုရားသည် အကြောင်းအားလျော်စွာ ဝေဒနာ နှစ်ပါးကိုလည်း ဟောကြား၏။ ဝေဒနာ သုံးပါးကိုလည်း ဟောကြား၏။ ဝေဒနာလေးပါးကိုလည်း ဟောကြား၏။ ဝေဒနာငါးပါးကိုလည်း ဟောကြား၏။ ဝေဒနာခြောက်ပါးကိုလည်း ဟောကြား၏။ ဝေဒနာ

တစ်ဆယ့်ရှစ်ပါးကိုလည်း ဟောကြား၏။ ဝေဒနာ သုံးဆယ့်ခြောက်ပါးကိုလည်း ဟောကြား၏။ ဝေဒနာ တစ်ရာ့ရှစ်ပါးကိုလည်း ဟောကြား၏"

အကြောင်းအားလျော်စွာ ဟောကြားခဲ့သော ဝေဒနာများကို ထုတ်ဆောင်တော်မူခဲ့ခြင်း ဖြစ်ပေသည်။ ထိုဝေဒနာတို့တွင် ဝေဒနာငါးပါးဟူသည် မှာ သုခ၊ ဒုက္ခ၊ သောမနဿ၊ ဒေါမနဿ၊ ဥပေက္ခာဟူသော ဣန္ဒြေငါးမျိုးအရ ခွဲခြားထားခြင်း ဖြစ်ပါသည်။ စက္ခု သောတ စသော ဒွါရခြောက်ပါးမှာ ဖြစ်သောအားဖြင့် ဝေဒနာခြောက်ပါး၊ ထိုခြောက်ပါးကိုပင် ဝမ်းသာစရာ အာရုံ၊ ဝမ်းနည်းစရာ အာရုံ၊ အလယ်အလတ်အာရုံဟူ၍ အာရုံသုံးမျိုးနှင့် မြှောက်ပွား၍ ဝေဒနာတစ်ဆယ့်ရှစ်ပါး။ သောမနဿဝေဒနာခြောက်ပါး၊ ဒေါမနဿဝေဒနာခြောက်ပါး၊ ဥပေက္ခာဝေဒနာ ခြောက်ပါးတို့ကို ဂေဟသိတ၊ နေက္ခမ္မသိတ ခွဲခြားသောအားဖြင့် ဝေဒနာ သုံးဆယ့်ခြောက်ပါး ဖြစ်၏။ ထိုသုံးဆယ့်ခြောက်ပါးကိုပင် အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန် ကာလ သုံးတန်နှင့် မြှောက်သဖြင့် ဝေဒနာတစ်ရာ့ရှစ်ပါး ဖြစ်လာပေသည်။

ဤသို့ ဝေဒနာအမျိုးမျိုးကို ဟောကြားတော်မူပြီးလျှင် ထိုဒေသနာတော် အမျိုးမျိုးနှင့်ပတ်သက်၍ ဖြစ်တတ်၊ ပျက်တတ်ပုံကို ဆက်လက်ဟောကြားတော်မူခဲ့ပါသည်။

"အာနန္ဒာ၊ ဤသို့ အကြောင်းအားလျော်စွာ ဟောကြားထားသော တရားတို့ကို ဆွေးနွေးကြရာတွင် တစ်ဦး၏စကားကို တစ်ဦးက လက်မခံနိုင်ကြလျှင် မထောက်ခံနိုင်ကြလျှင် ညှိနှိုင်း၍ မရကြလျှင် ခိုက်ရန်ဖြစ်ပွားကြပေလိမ့်မည်။ တစ်ဦးနှင့်တစ်ဦး နှုတ်လှံထိုး၍ နေကြပေလိမ့်မည်။ အကယ်၍ တစ်ဦး၏စကားကို တစ်ဦးက လက်ခံနိုင်ကြလျှင် ထောက်ခံနိုင်ကြလျှင်၊ ညှိနှိုင်း၍ရကြလျှင် သင့်သင့်မြတ်မြတ် နေနိုင်ကြပေလိမ့်မည်။ နွားနို့နှင့်ရေ တစ်သားတည်း နေသကဲ့သို့ နေနိုင်ကြပေလိမ့်မည်"

**(သဠာယတနဝဂ်၊ ဝေဒနာသံယုတ်၊ ပဉ္စကင်္ဂသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)**

ဘုရားရှင် သက်တော်ထင်ရှားရှိစဉ်ကပင် ဤသို့ အငြင်းအခုံ ဖြစ်ခဲ့သေးရာ နောက်နောင်ဆိုလျှင် သည့်ထက်ဆိုးဖို့သာ ရှိတော့၏။ ဘုရားရှင့် ရွှေနှုတ်တော်မှ ကိုယ်တိုင်ကိုယ်ကြပ် ကြားနာခဲ့ရသည် ဆိုသော်လည်း ကြားနာသူက တိတိကျကျ မှတ်သားထားလျှင် တော်ပါ၏။ ဟောကြားသော တရားတော်၏ သဘောအဓိပ္ပာယ်ကို ဟုတ်တိုင်းမှန်စွာ သဘောပေါက်လျှင် တော်ပါ၏။ ကြားနာသူက အမှတ်အသား မှားခဲ့ပါလျှင် အဓိပ္ပာယ် အကောက်လွဲခဲ့ပါလျှင်ကား အယူအဆချင်း ကွဲကုန်ပါတော့မည်။ ဘုရားရှင့် တပည့်သားချင်းတူပါလျက် ဂိုဏ်းဂဏတွေ ကွဲကုန်ကြရပါတော့မည်။

သောဂမြို့မှာတုန်းက မဟာပဒေသ တရားလေးပါးကို ဘုရားရှင် ဟောကြားတော်မူခဲ့ပါ၏။ တစ်စုံတစ်ယောက်က ဘုရားရှင် စသောပုဂ္ဂိုလ်များထံမှ ဤသို့ကြားနာခဲ့ရပါသည်ဟု ဆိုလာသော် ထိုတရားကို ဘုရားရှင် ဟောကြားထားသောတရားတော်များနှင့် ညှိနှိုင်းရန်၊ ရာဂ စသော ကိလေသာ ငြိမ်းရာငြိမ်းကြောင်း ဟုတ်မဟုတ် စိစစ်ကြည့်ရန် မှာကြားတော်မူခဲ့၏။ သို့သော် မည်သည်ကား ဘုရားဟောတရားတော်ဟူ၍ အများသဘောတူ တိတိကျကျ မှတ်သားမထားလျှင် တစ်ကျောင်းတစ်ဂါထာ၊ တစ်ရွာတစ်ပုဒ်ဆန်း ဟူသကဲ့သို့ ဖြစ်လာနိုင်ပေသည်။ ဘုရားတရားတော်မဟုတ်ပါဘဲလျက် ဟုတ်သယောင်ယောင် လုပ်ဆောင်လာနိုင် ပေသည်။ ထို့ကြောင့်ကျွန်ုပ်တို့ သာသနာဝင်အားလုံးအတွက် စံပြုစရာ ခိုင်မာ သော တရားဒေသနာတွေလိုအပ်နေပေသည်။ ဝိနည်း ပညတ်တော်များကိုလည်း တိတိကျကျ မှတ်သားထားရန်လိုအပ်နေပေသည်။ သို့မှသာ အနာဂတ် သာသနာ တော်ကြီး ဖရိုဖရဲ ပြိုကွဲမည့်ဘေးမှတားဆီးနိုင်ပါလိမ့်မည်။

အနာဂတ် ဘေးအန္တရာယ်ကြီးကို ကာကွယ်လိုသည်ကား ဟုတ်ပါ၏။ သို့သော် ကျွန်ုပ်တစ်ပါးတည်းအားနှင့် မည်သို့ တားဆီးရပါမည်နည်း။ ဤကိစ္စမှာသာသနာတော်ကြီးတစ်ခုလုံးနှင့် သက်ဆိုင်နေသည်ဖြစ်ရာ ဘုရားရှင် မရှိတော့သည့်နောက်ဝယ် ရဟန်းပရိသတ် အားလုံးအပေါ် လွှမ်းခြုံ အုပ်စီးနိုင်သောက်အောင်ဂုဏ်သိက္ခာကြီးမားသော မထေရ်ကြီးတစ်ပါးပါးက ဦးဆောင်ပါမှ ဤကိစ္စ အထမြောက်နိုင်ပါလိမ့်မည်။

"အရှင်အာနန္ဒာ၊ အရှင်မဟာကဿပက ယနေ့ညနေမှာ အစည်းအဝေးတက်ရန် ဖိတ်ကြားလိုက်ပါသည်ဘုရား"

ကျွန်ုပ်ဘာသာ အားကိုးရာ ရှာနေဆဲတွင် အားကိုးရမည့် ပုဂ္ဂိုလ်ကြီးကဖိတ်ကြားလာသဖြင့် ဝမ်းသာအားရ လိုက်သွားပါ၏။ စည်းဝေးရာ မဏ္ဍပ်ကြီးနှင့်အပြည့် ရဟန်းတွေ စုမိနေကြပါပြီ။ နောက်ထပ်လည်း တဖွဲဖွဲ ရောက်လာနေဆဲဖြစ်၏။ ကုသိနာရုံမြို့ကလေးသို့ သူတို့ ရောက်လာကြသည်မှာ တော်တော်ကြာသွားပေပြီ။ ကျွန်ုပ်တို့နှင့် အတူပါလာသော ရဟန်းတို့မှာ တစ်ဆယ့်ငါးရက်မျှကြာခဲ့ပေပြီ။ အလောင်းတော်ကိုပူဇော်နေကြသည်က ခုနစ်ရက်၊ နောက် ဓာတ်တော်ကို ပူဇော်နေကြသည်က ခုနစ်ရက်၊ ယနေ့ပါနှင့်ဆိုသော် တစ်ဆယ့်ငါးရက်တိုင်တိုင်ရှိခဲ့ပေပြီ။ နောက်ဆုံးပူဇော်ပွဲကြီးကို ဆင်နွှဲရန် အနယ်နယ်အရပ်ရပ်မှ ရဟန်းအားလုံးလိုလို ရောက်နေကြပေသည်။

မြောက်မြားလှသော ရဟန်းတို့အား ဤမျှကြာအောင် ဆွမ်းဝတ်ပြုစုလာရခြင်းမှာ ဤမြို့ကလေးနှင့်စာလျှင် တာဝန် ကြီးလေးလှပါသည်။ ဒါယကာ၊ ဒါယိကာများက စေတနာ ထက်သန်ကြလွန်း၍သာ တော်တော့သည်။ သို့ဖြစ်၍

နက်ဖြန်ဆိုလျှင် ဤနေရာမှ ထွက်ခွာကြရပါတော့မည်။ မိမိတို့ မွေ့လျော်ရာဌာနသို့ ပြန်ကြရပါတော့မည်။ မပြန်သေးမီ အားလုံး စုံစုံညီညီ ဖူးတွေ့ရသဖြင့် ကျွန်ုပ် ဝမ်းသာကြည်နူးမိပါ၏။

"ငါ့ရှင်တို့"

ရဟန်းအားလုံး စုံညီသောအခါ အရှင်မဟာကဿပက စည်းဝေးပွဲကို စတင်လိုက်၏။ ယခင်က ဤလို အစည်းအဝေးမျိုးရှိလျှင် အထွတ်အမြတ်ဆုံး နေရာ၌ ဘုရားရှင်ကို ဖူးတွေ့ကြရ၏။ ယခု ဘုရားရှင့်ကိုယ်စား အရှင်မြတ်ကြီးကို ဖူးတွေ့ရပါပြီ။ ပရိသတ်အားလုံးကို လွှမ်းခြုံသွားနိုင်လောက်အောင် သူ့အသံကလည်း သြဇာပြည့်ဝပါပေသည်။

"ငါ့ရှင်တို့၊ ဘုရားရှင့် အလောင်းတော်ကို နောက်ဆုံး ပူဇော်ကန်တော့ရန် ငါသည် ပါဝါမြို့မှ ကုသိနာရုံသို့ ခရီးထွက်လာခဲ့၏။ ငါ့နောက်ပါး၌ ဝယ် ရဟန်း ငါးရာတို့ လိုက်ပါလာကြ၏။ နေ့လယ်ခင်းမှာ နေပူဒဏ် ပြင်းထန်လွန်းသဖြင့် အရိပ်ကောင်းသော သစ်ပင်အောက်မှာ ငါတို့ အနားယူခဲ့ကြရ၏။ ထိုစဉ်တွင် အာဇီဝက တစ်ယောက်သည် မန္ဒာရဝ နတ်ပန်းကို အရိုးငှားတပ်လျက် ထီးသဖွယ် ဆောင်းကာ ကုသိနာရုံဘက်မှ လျှောက်လာ၏။ ဘုရားရှင် ပရိနိဗ္ဗာန်စံတော်မူကြောင်းကိုကား ငါ သိပြီးဖြစ်၏။ သို့သော် နောက်ပါရဟန်းများမှာ မသိကြသေးပါ။ ငါကလည်း အသိမပေးခဲ့သေးပါ။ ယခုတော့ အသိပေးမှ ဖြစ်တော့မည်ဟု စကားစရစေရန် အာဇီဝကကို အကျိုးအကြောင်း မေးလိုက်ပါသည်။ အာဇီဝကကလည်း ကုသိနာရုံတွင် ဘုရားရှင် ပရိနိဗ္ဗာန်ပြုရာအရပ်မှ ဤနတ်ပန်းကို ကောက်ယူလာကြောင်းပြန်ကြားပါသည်။

"ငါ့ရှင်တို့၊ နောက်ပါရဟန်းများတွင် အချို့မှာ ဘုရားရှင်ကို မဖူးကြရသေးပေ။ တချို့မှာ ဖူးဖူးကြပါသည်။ မဖူးရသေးသူများလည်း ဖူးချင်ကြ၏။ ဖူးပြီးသူများလည်း ထပ်ကာထပ်ကာ ဖူးချင်ကြ၏။ ထို့ကြောင့်လည်း ဤမျှ ပင်ပန်းသော ခရီးကို မညည်းမညူ လိုက်ပါလာကြခြင်းဖြစ်၏။ မျှော်တော်ဇောနှင့် မောရကောင်းမှန်း မသိသော ရဟန်းများသည် အာဇီဝကထံမှ သတင်းစကားကို ကြားရသောအခါ သွက်သွက်ခါမျှ တုန်လှုပ်သွားကြပါတော့သည်။ ရှိုက်ကြီးတငင် ငိုကြွေးကြပါတော့သည်။

"ငါ့ရှင်တို့၊ ဤသို့မေးလိုက်လျှင် ဤသို့ ကြုံရမည်ဖြစ်ကြောင်း စောစောကတည်းက ကောင်းကောင်းကြီး ငါသိထားပါသည်။ သို့သော် အလောင်းတော်ရှေ့ကျမှ ငိုနေကြရလျှင် ပရိသတ်ဗိုလ်ပုံအလယ်မှာ မတင့်မတယ် ဖြစ်နေကြရပါလိမ့်မည်။ 'သူတစ်ပါးကို စိတ်သက်သာအောင် တရားဟောနေကြသော အရှင်များသည် ယခုတော့သူတို့စိတ်ကိုမှ သက်သာအောင် မတတ်နိုင်ကြချေ။ မိန်းမသားများ

ကဲ့သို့ ရှိက်ကြီးတငင် ငိုကြွေးကြဘိ၏' ဤသို့ လူအများက ကဲ့ရဲ့ကြပါလိမ့်မည်။ ဤတောအရပ်မှာကား မည်သူမျှ မမြင်နိုင်ပါ။ ထို့ကြောင့် လူသူလေးပါးမမြင်ရာတွင် စိတ်ရှိလက်ရှိ ငိုထား နှင့်ကြရန် ငါက မေးလိုက်ရပါသည်။ သတင်းဆိုးတစ်ခုကို ပထမဆုံးကြားရာ တွင် ထိတ်လန့်တကြား ဖြစ်ကြသော်လည်း နောက်တစ်ခါ ကြားရာတွင်မူ ခံနိုင်ရည် ရှိလာတတ်ပါသည်။

"ငါ့ရှင်တို့၊ ဘုရားရှင် ပရိနိဗ္ဗာန်ပြုပြီဟု ကြားရသည်တွင် အချို့ရဟန်းများကား တရားနှင့် ဖြေနိုင်ကြပါသည်။ ဖြစ်လာသမျှ ပျက်ရမည်သာဟု တရားချနိုင်ကြပါသည်။ ဤသို့ ငိုသူက ငို၊ တရားချသူက ချနေဆဲတွင် အာတုမာမြို့သားတောထွက်ရဟန်းကြီး သုဘဒ္ဒက တစ်စခန်း ထလာပါတော့သည်။

"ငါ့ရှင်တို့၊ တော်ကြတော့။ မပူဆွေးကြနှင့်၊ မငိုကြွေးကြနှင့်။ ယခု ရဟန်းကြီးဂေါတမ လက်တွင်းမှ ငါတို့ ကောင်းကောင်းကြီး လွတ်ကြပြီ။ ရဟန်းကြီးဂေါတမသည် ငါတို့ကို အမျိုးမျိုး ချုပ်ချယ်လွန်းလှ၏။ ဤသည်ကား သင်တို့အတွက် အပ်စပ်၏။ ဤသည်ကား သင်တို့အတွက် မအပ်စပ်။ ဤသို့လည်း ဓိဇာကြောင်လွန်းလှ၏။ ယခုတော့ ငါတို့ကြိုက်ရာ ငါတို့ လုပ်နိုင်ကြတော့မည်။ ငါတို့ မလုပ်ချင်တာကို မလုပ်ဘဲနေနိုင်ကြတော့မည်' ဤသို့ သုဘဒ္ဒရဟန်းကြီးက ဝမ်းသာအားရ ပြောကြားလိုက်ပါသည်"

အရှင်မဟာကဿပ၏ တောလားခရီးကို စိတ်ဝင်တစား နားထောင်နေသော ရဟန်းပရိသတ်အားလုံးမှာ ဤနေရာအရောက်တွင် 'ဟယ်' ခနဲ ဖြစ်သွားကြပါတော့သည်။ ဘုရားရှင်က မိမိအား အလုပ်အကျွေး ရဟန်းများက ပစ်ခွာသွားကြပုံကို မိန့်ကြားတော်မူစဉ်ကအတိုင်း ဖြစ်ပါသည်။ နီးစပ်ရာ ရဟန်းများက ရဟန်းကြီး သုဘဒ္ဒကို ဝိုင်းအုံကြည့်နေကြရာ ရဟန်းကြီးခမျာ ခေါင်းငုံ့၍ နေရပါတော့သည်။ သူ့စကားကြောင့် အရှင်မဟာကဿပ စိတ်ထဲမှာ မည်မျှလောက် ထိခိုက်သွားမည်နည်း။

သူများတကာ ရှိုက်ကြီးတငင် ငိုပွဲဆင်နေတုန်းမှာ သူကတော့ ပျော်တပြုံးပြုံး ဖြစ်နေခဲ့၏။ လွတ်ပြီ ကျွတ်ပြီဟူ၍ အားပါးတရ ကြွေးကြော်ခဲ့၏။ အနှစ်နှစ်အလလက မျိုသိပ်ထားခဲ့သမျှ ထိုနေ့ကျမှ အန်ထုတ်လိုက်ရခြင်း ဖြစ်ပါလိမ့်မည်။ ဘုရားရှင် ကွယ်လွန်သွားသော်လည်း ကိုယ်တော်စားများ ရှိနေသေးပုံကို သူ သဘောမပေါက်သေး၍ ဖြစ်ပါလိမ့်မည်။

ကြာတော့လည်း ကြာပါပြီ။ သူ့စိတ်ကသာ စွဲမြဲစွာ မှတ်မထားလျှင် ဤခံစားချက်မှာ ပြေသွားလောက်ပါပြီ။ ဘုရားရှင်ကလည်း လိုအပ်သည်ထက် သူ့အပေါ် ပိုမို၍ မဖိနှိပ်ခဲ့ပါ။ ကျူးလွန်ခဲ့သော ပြစ်မှုနှင့်လျော်ရုံသာ ဖိနှိပ်ခဲ့ရခြင်း ဖြစ်ပါသည်။ နောက်နောင် ဤကဲ့သို့ မပြုကြရန်သာ တားမြစ်တော်မူခဲ့ရပါသည်။

ကြားနေရသူ ရဟန်းအားလုံး ကြိမ်မီးအုံးတမျှ ခံစားရသော ဤအဖြစ်အပျက်သည် စတင်တုန်းကတော့ ကုသိုလ်ရေးသာဖြစ်ပါ၏။ ထိုစဉ်က ဘုရားရှင်သည် နောက်ပါရဟန်းပေါင်း နှစ်ထောင့်ငါးရာနှင့်အတူ ကုသိနာရုံမြို့မှ အာတုမာမြို့သို့ ကြွချီတော်မူခဲ့၏။ ဤတွင် အာတုမာမြို့၌ ကျောင်းထိုင်နေပြီဖြစ်သော သုဘဒ္ဒရဟန်းကြီးသည် မိမိတို့မြို့သို့ ဘုရားရှင်ရောက်ခိုက် ယနာယာဂု ဆက်ကပ်ရန် ကြိုးစားခဲ့၏။ သို့သော် သူလို ကြီးမှဖြစ်လာသော တောထွက်ရဟန်းကြီးအဖို့ မိမိဘုန်းကံကို အားကိုးရန် မဖြစ်နိုင်ပါ။ ထို့ကြောင့် မိမိ လူ့ဘဝတုန်းက အသုံးပြုခဲ့သော ဆတ္တာသည် လုပ်ငန်းကိုသာ အားကိုးရပါတော့သည်။

သာသနာတော်ထမ်း ရဟန်းတစ်ပါးအဖြစ်ဖြင့် လူတို့၏ ဆံမုတ်ဆိတ်ကို အခစားသဘောမျိုးဖြင့် ရိတ်ပယ် သန့်ရှင်းပေးခွင့် မရှိပါ။ သို့သော် သူ့ကိုယ်စား သူ့သားနှစ်ယောက်ကို အားကိုးနိုင်ပါပြီ။ ဖခင်၏အမွေကို သူတို့ ကောင်းကောင်းရကြပါပြီ။ ရှင်သာမဏေ ဝတ်ထားကြသော်လည်း ယခုကိစ္စမှာတော့ သူတို့တတ်ထားသော ပညာကို အသုံးချရပါတော့မည်။ သားကိုရင် နှစ်ပါးကို အကျိုးအကြောင်းပြောပြ၍ မြို့ထဲသို့ လွှတ်လိုက်ရပါတော့သည်။

သား ကိုရင်ကလေးများသည် လိမ္မာကြ၏။ သာယာချေင်စွာ ပြောဆိုဆက်ဆံတတ်ကြ၏။ လူမှုရေးရာ တတ်သိလိမ္မာကြ၏။ ဆတ္တာသည် လုပ်ငန်းတွင်ကျွမ်းကျင်ကြ၏။ ထို့ကြောင့် အိမ်ပေါက်စေ့ပင် သူတို့ကို အလုပ်ပေးကြ၏။ ဆံမုတ်ဆိတ် ရိတ်လိုသူရော မရိတ်လိုသူပါ သူတို့ကိုခေါ်၍ ခိုင်းကြ၏။ သူတို့၏လုပ်အားခအဖြစ်ဖြင့် ဆန်၊ ဆီ၊ ဆား စသော စားကုန်ပစ္စည်းများကို ပေးကြ၏။ သူတို့မှာ ပါလာသမျှ အိတ်တွေ တောင်းတွေနှင့် မဆံ့တော့သဖြင့် မြို့ထဲက လိုက်ပို့ကြရ၏။ ဤသို့ဖြင့် ရက်အတန်ကြာလျှင် သုဘဒ္ဒရဟန်းကြီး၏ ကျောင်းအောက်မှာ၊ ကျောင်းပေါ်မှာ စားသောက်ကုန်တွေ တောင်ပုံယာပုံ ဖြစ်လာကြပေတော့သည်။

ထိုအချိန်မှာပင် ဘုရားရှင်ကလည်း အာတုမာမြို့သို့ ရောက်တော်မူခဲ့၏။ အာတုမာမြို့အနီးက ကောက်နယ်တလင်းရှိ ကောက်ရိုးတဲအိမ်များမှာ ခေတ္တ စခန်းချတော်မူ၏။ ဘုရားရှင် ကြွတော်မူလာပြီဟု ကြားသည်နှင့် ရဟန်းကြီးသုဘဒ္ဒမှာ ရွာထဲသို့ ပြေးရတော့၏။ သင်္ကန်းကြီး ဖိုသီဖတ်သီဖြင့် တစ်အိမ်တက်ဆင်း လူစုရ၏။ ဒယ်အိုး၊ ယောက်မ၊ ယောက်ချို၊ ငရုတ်ဆုံ စသော ပစ္စည်းများ စုံစေ့အောင်လည်း ဂရုစိုက်ရ၏။ ဤသို့ဖြင့် ရဟန်းကြီး သုဘဒ္ဒ၏ကျောင်းတွင် ထိုညက မီးထိန်ထိန် လင်းနေပေသည်။ ယနာယာဂု အိုးကြီးများလည်း သန်းခေါင်ယံမတိုင်ခင်ကတည်းက ပွက်ပွက်ဆူဝေနေကြပေပြီ။ ထောပတ်၊ ပျား၊ တင်လဲ၊ အမဲ၊ ငါးမှစ၍ အသီးအပွင့်မျိုးစုံ စားကောင်းသည် မှန်သမျှ ယာဂုထဲမှာ ထည့်ထား၏။

ထို့ကြောင့်သူ့ကျောင်းက အနံ့သည် ကျွန်ုပ်တို့ ကောက်နယ်တလင်းထိအောင် သင်းပျံ့လာပေသည်။

နံနက်မိုးသောက်တွင် ဘုရားရှင်သည် အာတုမာမြို့တွင်းသို့ ဆွမ်းခံဝင်ရန် ပြင်ဆင်တော်မူခဲ့၏။ နောက်ပါရဟန်းများက သပိတ်သင်္ကန်းများ ပြင်ဆင်လျက် ရှိကြကုန်၏။ ထိုစဉ်ခိုက်တွင် ရဟန်းကြီးသုဘဒ္ဒသည်သင်္ကန်း ကြီး ဖိုသီဖတ်သီနှင့် ရောက်လာကာ ဘုရားရှင့်ရှေ့တော်မှာ ဒူးတစ်ဖက်ထောက်လျက်

"အရှင်ဘုရား၊ တပည့်တော်၏ ယာဂုကို အလှူခံတော်မူပါဘုရား"

ဤသို့လျှောက်ထားစဉ် သူများတွေလို လက်အုပ်မချီနိုင်ရှာပါ။ ယောက်မနှင့် ယောက်ချိုကို တစ်ဖက်တစ်ချက် ကိုင်လာရသောကြောင့် ဖြစ်ပါ၏။ စိတ်စောစောနှင့် လက်ထဲရှိရာ မချမိဘဲ ကိုင်လာမိဟန် ရှိပါသည်။ ဤသည်ကိုထောက်ကာ သူ ကိုယ်တိုင် အိုးသူကြီးလုပ်၍ ချက်ပြုတ် ကြော်လှော်လာခဲ့ကြောင်းကို သိနိုင်ပါသည်။ သို့သော် တရားတစ်ပုဒ် ဟောထုတ်စရာရှိလာလျှင်၊ ဝိနည်းပညတ်တော်တစ်ခု ထုတ်ပြန်စရာရှိလာလျှင် မေးတော်မူနေကျဖြစ်၍ "ရဟန်း၊ ဤယာဂုကို အဘယ်မှ ရပါသနည်း"ဟု ဘုရားရှင်က မေးတော်မူပါ၏။ သုဘဒ္ဒရဟန်းကြီးကလည်း အကြောင်းမှန်ကို လျှောက်ထားရ၏။ ဤတွင် ဘုရားရှင်က အမျိုးမျိုး ရှုတ်ချတော်မူကာ...

"ရဟန်းတို့၊ ရဟန်းတို့နှင့် မအပ်စပ်သော ချက်ပြုတ်ခြင်း လုပ်ငန်းကို မလုပ်အပ်ပေ။ လုပ်လျှင် ဒုက္ကဋ်ပတ်သင့်စေ။ ဆတ္တာသည်ဖြစ်ခဲ့ဖူးသော ရဟန်းသည် သင်တုန်းဓားအိတ်ကို မဆောင်အပ်။ ဆောင်လျှင် ဒုက္ကဋ် အာပတ်သင့်စေ"ဟု သိက္ခာပုဒ် ပညတ်တော်မူခဲ့ရ၏။ ထို့နောက် သုဘဒ္ဒ၏ ယာဂုကို မည်သူ့ကိုမျှ အလှူခံခွင့်မပြုဘဲ အာတုမာမြို့တွင်းသို့ ဆွမ်းခံကြွတော်မူခဲ့၏။

ထိုအချိန်မှစ၍ သုဘဒ္ဒရဟန်းကြီး အခဲမကျေ ဖြစ်ခဲ့ဟန်ရှိပါသည်။ သူ့ဘက်က ကြည့်မည်ဆိုတော့လည်း ဟုတ်ရှာပါလိမ့်မည်။ "စုဆောင်းထားလေသမျှ ပစ္စည်းများကို မိမိတို့သားအဖချည့် စားသုံးရပါလျှင် တစ်သက်တာ ဖူလုံလောက်ပေသည်။ အားလုံး ချက်ပြုတ် ကြော်လှော်ပြီးပြီမို့ အများဆုံး ခံလှမှ ခုနစ်ရက်မျှသာ ကြာပါလိမ့်မည်။ ရဟန်းကြီးဂေါတမသည် အစစအရာရာ ကြိုကြိုတင်တင် မြော်မြင်နိုင်သည်ဟု ဆိုထားပါလျက် မိမိအတွက်တော့ဖြင့် မငဲ့ညှာပါချေ။ အကယ်၍ ဤသို့ အလှူမခံလိုဘူးဆိုပါလျှင် စောစောက အကြောင်းကြားထားလျှင် မသင့်ပါလော။ ယခုတော့ အားလုံးပျက်စီးပြီ။ ရဟန်းကြီးဂေါတမသည် ငါ့ကို မေတ္တာရိ နှိပ်စက်ခဲ့ပြီ" ဤသို့ ရန်ငြိုးသိုခဲ့ပါလိမ့်မည်။

သို့သော် ဘုရားရှင် သက်တော်ထင်ရှား ရှိစဉ်တုန်းကတော့ ဤအကြောင်းကို လေသံမျှ မဟခဲ့ပါ။ ဘုရားရှင်၏ အရှိန်အဝါကြောင့် ရေငုံ နှုတ်ပိတ်၍ နေခဲ့၏။

ရက်ပေါင်းများစွာ လပေါင်းများစွာ နှစ်ပေါင်းများစွာ ပိတ်ထားခဲ့သော သည်နှုတ်ကို ယနေ့တော့ ဖွင့်ထုတ်လိုက်ပါပြီ။ စောစောက မျိုသိပ်ထားခဲ့လေသမျှ အားပါးတရ ကြွေးကြော်နိုင်ပါပြီ။ ထို့ကြောင့်ပင် ယခု အစည်းအဝေးကြီး ကျင်းပနေရခြင်း ဖြစ်ပေသည်။

(သုတ်မဟာဝဂ်၊ မဟာရပရိနိဗ္ဗာနသုတ်၊ မဟာကဿပထေရဝတ္ထု ပါဠိတော်နှင့် အဋ္ဌကထာ)

**

# အချိန်မီကာကွယ်ကြစို့

သံဃမဟာနာယက အရှင်မဟာကဿပသည် ဓမ္မသံဝေဂ ရရှိခဲ့ပုံကို ဆက်လက်၍ ဟောကြားနေပါ၏။ ရဟန်းအပေါင်းကလည်း အရေးကြီးလှသော ကိစ္စဖြစ်၍ ငြိမ်သက်စွာ နားစိုက်လျက် ရှိကြပါ၏။

"ငါ့ရှင်တို့၊ သုဘဒ္ဒရဟန်းကြီး၏ စကားကို ကြားလိုက်ရသဖြင့် ငါ့မှာ ဓမ္မသံဝေဂ ကြီးမားစွာ ဖြစ်ပေါ်ခဲ့ရပါသည်။ ဩော် ရွှေအဆင်းသို့ ဝါဝင်းသော ကိုယ်တော်သည် ယနေ့တိုင်အောင် ထင်ရှားရှိနေသေးသည် တကား။ သို့ပါလျက် သာသနာ့ဆူးငြောင့်ခလုတ်သည် ယခုကပင် ပေါ်လာနှင့်ချေပြီတကား။ ဘုရားရှင် ကိုယ်တော်တိုင် ပင်ပန်းကြီးစွာ တည်ထောင်ထားခဲ့ရသော ဤသာသနာတော်ဝယ် သာသနာ့ ဆူးငြောင့်ခလုတ်က ဤမျှ လျင်မြန်စွာပေါ်လာရသည်မှာ အံ့သြဖွယ် ရှိပေစွ။ ဤမကောင်းမှုသည် တစ်စတစ်စ တိုးပွားလာခဲ့သော် သူ့လို အသင်းအပင်းတွေ ပေါ်လာကြပေတော့မည်။ မကြာမီ သာသနာတော်ကြီး ဆုတ်ယုတ် ပျက်စီးသွားရပေတော့မည်။

"ငါ့ရှင်တို့၊ သည်တုန်းက ငါသည် ဤသို့ ကြံစည်ခဲ့၏။ အကယ်၍ ဤရဟန်းအိုကြီးအား သက်န်းချွတ်ကာ ပုဆိုးပိုင်းပေး၍ တော်ရာလျော်ရာ မောင်းထုတ်လိုက်လျှင် အများတကာ ပြောစရာ ဆိုစရာ ဖြစ်လာပေလိမ့်မည်။ ဘုရားရှင်၏ ကိုယ်တော်ထင်ရှားရှိစဉ်မှာပင် သူ့တပည့်တွေ မသင့်မမြတ် ဖြစ်ကုန်ကြပြီဟု မလိုသူတို့ ကဲ့ရဲ့စရာ ဖြစ်လာပေလိမ့်မည်။ ထို့ကြောင့် ယခု လောလောဆယ်မှာ ငါ သည်းခံရပေဦးမည်။

"ဘုရားရှင် ဟောကြားထားခဲ့သော တရားများသည် ကြိုးမသီရသေးသော ပန်းပွင့်များနှင့် တူ၏။ ကြိုးမသီရသေးသော ပန်းများသည် လေတစ်ချက်တိုက်ရုံမျှဖြင့် ဖရိုဖရဲ ပြန့်ကြဲကုန်ကြရဘိသကဲ့သို့ သူယုတ်မာများကို အမှီပြု၍ကာ အချိန်ကာလ ကြာသည်ထက် ကြာသွားလတ်သော် သိက္ခာပုဒ် တစ်ခုစ နှစ်ခုစ ပျောက်

သွားပေလိမ့်မည်။ သုတ္တန်တရားတော်၌ ပဥ္စဝါရ တစ်ခုစ နှစ်ခုစ ပျောက်ဆုံးသွားပေလိမ့်မည်။ ဤသို့ ပျောက်ဆုံးဖန်များလတ်သော် ဆေးမြစ်၏တန်ခိုးဖြင့် ကိုယ်ရောင် ဖျောက်နေကြရသော ပြိတ္တာများသည် ဆေးမြစ်ပျောက်သော် ပျက်စီးကြရသကဲ့သို့ ငါတို့ အဆက်အနွယ်များ အားလုံး ပျက်စီးကြရတော့အံ့။ ထို့ကြောင့် ဘုရားဟော ဒေသနာတော်များကို အများသဘောတူ စုပေါင်းရွတ်ဆိုကာ အတည်ပြုထားကြကုန်အံ့။ သို့မှသာ ကြိုးသီထားသော ပန်းများသဖွယ် ဤသာသနာတော်ကြီး ခိုင်မြဲပေလိမ့်မည်"

"ကောင်းပါပြီ အရှင်ဘုရား"

အရှင်မဟာကဿပ၏ တင်ပြချက်ကို ရဟန်းအားလုံးက တစ်ခဲနက်ထောက်ခံလိုက်ကြ၏။ မှားတုန်းက မှားခဲ့သော သုဘဒ္ဒရဟန်းကြီးမှာလည်း ယခုတော့ အမှန်ကို မြင်ပြီမို့ မျက်ရည်စမ်းစမ်းဖြင့် ထောက်ခံရှာပါ၏။

ကျွန်ုပ်ကိုယ်တိုင် တွေးတောနေခဲ့သောကိစ္စကို အရှင်မဟာကဿပ ဦးဆောင်ဦးရွက်ပြုကာ ဆော်ဩလိုက်သဖြင့် ကျွန်ုပ် ဝမ်းမြောက်မိပါ၏။ တကယ်တော့ဖြင့် ဤတာဝန်မှာ သူနှင့် အထိုက်တန်ဆုံး ဖြစ်ပါ၏။ ဤကဲ့သို့သော တာဝန်များကို ဤအချိန် ဤအခါမှာ ထမ်းဆောင်ရန် ဘုရားရှင် ကိုယ်တော်တိုင်က တာဝန်ပေးထားသကဲ့သို့လည်း ဖြစ်နေပါ၏။

မည်သူ့ကိုမျှ ခရီးဦးကြိုမပြုခဲ့သော ဘုရားရှင်သည် အရှင်မဟာကဿပအား သုံးဂါဝုတ်ခရီးအထိ ကိုယ်တော်တိုင်ကြွ၍ ဆီးကြိုတော်မူခဲ့၏။ ကိုယ်တော်မြတ်၏သင်္ကန်းကို သူ့သင်္ကန်းနှင့်လဲ၍ ဝတ်တော်မူခဲ့၏။ လက်တော်ကို ကောင်းကင်မှာ လှုပ်ရမ်းပြကာ လမင်းကြီးနှင့် ဥပမာပြုတော်မူခဲ့၏။ မိမိနှင့် ထပ်တူထား၍ မြှောက်စားတော်မူခဲ့၏။ "ကဿပ၊ ရဟန်းတို့ကို ငါဆုံးမသကဲ့သို့ သင်လည်း ဆုံးမလော့၊ ရဟန်းတို့ကို ငါဘုရားဟောသကဲ့သို့ သင်လည်း ဟောကြားလော့" ဟု မိန့်တော်မူကာ သာသနာတော်ကြီး တစ်ရပ်လုံးကို သုံးကြိမ်တိုင်တိုင် အပ်နှင်းတော်မူခဲ့၏။ ထိုစဉ်က ချီးမြှောက်ခဲ့ပုံများနှင့် ယခုအခြေအနေကို ဆက်စပ်ကြည့်လိုက်သောအခါ ဘုရားရှင်၏ ရည်ရွယ်ချက်ကို ကျွန်ုပ် ရိပ်မိလာပါတော့သည်။

"ငါ့ရှင်တို့၊ ငါကဲ့သို့သော ဘုရားတပည့်သား ရဟန်းတစ်ပါးလုံး ရှိနေပါလျက် ဤမကောင်းမှုသည် သာသနာတော်တွင်းမှာ ကြီးထွားမလာစေရပါ။ မသူတော်တရား မထွန်းကားမီ၊ သူတော်ကောင်းတရား မမှေးမှိန်သေးမီ၊ အကျင့်ပျက်များ မထွန်းကားမီ၊ အကျင့်ကောင်းများ မမှေးမှိန်မီ၊ အဓမ္မဘက်သားများအားမကောင်းသေးမီ၊ ဓမ္မဘက်သားများ အားမယုတ်သေးမီ၊ အကျင့်ပျက်သမားများအားမကောင်းသေးမီ၊ အကျင့်ကောင်းသမားများ၊ အားမယုတ်သေးမီ ဤသို့အချိန်မီ နေခိုက်မှာ ဓမ္မနှင့် ဝိနယကို ငါတို့များ သင်္ဂါယနာတင်ကြကုန်စို့"

"ကောင်းပါပြီ အရှင်ဘုရား"

အရှင်မဟာကဿပ၏ မိန့်ခွန်းကို ရဟန်းအားလုံးက ထပ်မံ၍ ထောက်ခံကြပြန်ပေသည်။ (သုတ်မဟာဝဂ်၊ မဟာပရိနိဗ္ဗာနသုတ်၊ မဟာကဿပထေရဝတ္ထု ပါဠိတော်နှင့် အဋ္ဌကထာ)

သင်္ဂါယနာတင်ရန် ကိစ္စကို ရဟန်းအားလုံးက သဘောတူ ဆန္ဒပေးပြီးနောက် သံဂီတိကာရကပုဂ္ဂိုလ်များ ရွေးချယ်ရန်တာဝန်ကိုလည်း အရှင်မြတ်ကြီးအား အပ်နှင်းကြပြန်၏။ ထို့ကြောင့် အရှင်မြတ်ကြီးက အရေးအကြီးဆုံး ကိစ္စအတွက် အရေးအပါဆုံး ပုဂ္ဂိုလ်များကိုချည်းရွေးချယ်၏။ ပုထုဇဉ်၊ သောတာပန်၊ သကဒါဂါမိ၊ အနာဂါမိ ရဟန်းများကို အသာထား။ ရဟန္တာပုဂ္ဂိုလ်များကိုပင် အားလုံး မရွေးချယ်ပေ။ ပိဋကတ်သုံးပုံမှာ နှံ့နှံ့စပ်စပ် တတ်ကျွမ်းဦးပါမှ၊ ပဋိသမ္ဘိဒါလေးပါးလည်း ရပါမှ၊ အရှိန်အဝါလည်း ကြီးပါမှ အရွေးချယ်ခံကြရ၏။ ဤသို့ဖြင့် သင်္ဂါယနာပွဲမှာ ကိုယ်တိုင် ပါဝင်ဆင်နွှဲရမည့် ရဟန္တာပုဂ္ဂိုလ် ၄၉၉ ပါး ရရှိလာပေသည်။

သင်္ဂါယနာပွဲကြီးတွင် သံဂီတိကာရကပုဂ္ဂိုလ်ငါးရာက တစ်ပြိုင်နက် စုပေါင်းရွတ်ဆိုရန် စီစဉ်ထား၏။ သို့ပါလျက် အရှင်မဟာကဿပသည် ထိုအထဲမှ တစ်ပါး လျှော့၍ထား၏။ ဤသို့ လျှော့ထားသည်မှာ ရွေးချယ်စရာ မရှိတော့၍ မဟုတ်ပါ။ ထိုက်ထိုက်တန်တန် အရွေးခံနိုင်မည့်ပုဂ္ဂိုလ်တွေ အမြောက်အမြား ရှိနေပါသေးသည်။ သို့ပါလျက် ငါးရာပြည့်အောင် မရွေးချယ်ဘဲ တစ်ပါးချန်၍ ထားသည်မှာ ကျွန်ုပ်အတွက်ပင်ဖြစ်ပါလိမ့်မည်။ ကျွန်ုပ်အား အခွင့်အရေးပေးထားခြင်းသာဖြစ်ပါလိမ့်မည်။

မှန်ပါသည်။ သင်္ဂါယနာဆိုသည်မှာ ဘုရားရှင်၏ ဓမ္မနှင့် ဝိနယ ရှိရှိသမျှကို စုပေါင်းရွတ်ဆိုသော ပွဲကြီးပင် ဖြစ်၏။ ဤသို့ စုပေါင်းရွတ်ဆိုပွဲ မကျင်းပမီ ဓမ္မနှင့် ဝိနယတို့ကို သေသေချာချာ စိစစ်ရပါဦးမည်။ အကြားမှား အမှတ်မှားထားသည်တို့ကို ပြုပြင်ရပါဦးမည်။ အချိန်ကာလ၊ နေရာဌာနနှင့်တကွ ကြားနာမှတ်သားခဲ့ရသော ပုဂ္ဂိုလ်အထိ အတိအကျ မှတ်တမ်းတင်ရ ပါဦးမည်။ ထိုကိစ္စများဆောင်ရွက်ရာတွင် ကျွန်ုပ် မပါဝင်ဘဲ မဖြစ်နိုင်ပါ။ ဤကိစ္စမျိုးကို ဘုရားရှင့်နောက်တော်ပါးမှာ အရိပ်ပမာ လိုက်ပါနေခဲ့သူကမှ ပြည့်ပြည့်ဝဝ ဆောင်ရွက်နိုင်ပါလိမ့်မည်။ သို့ရာတွင် ကျွန်ုပ်မှာ သေက္ခပုဂ္ဂိုလ်မျှသာ ရှိပါသေးသည်။ ထို့ကြောင့်လည်း အရှင်မြတ်ကြီးဘက်ကရွေးချယ်ရ ခက်နေခြင်း ဖြစ်ပါလိမ့်မည်။

သို့ရာတွင် တစ်ဖက်ကကြည့်ပြန်တော့လည်း သင်္ဂါယနာပွဲကြီးအတွက် အချက်အချာအကျဆုံး နေရာမှာ ဆောင်ရွက်နိုင်မည်ဖြစ်၍ ကျွန်ုပ်ကို ရွေးချယ်မည်ဆိုလျှင်ကောမဖြစ်နိုင်ပါလော။ ဖြစ်တော့ဖြစ်နိုင်ပါ၏။ သို့သော် ဤအကြောင်းကြောင့်လည်း အရှင်မြတ်ကြီးက ရွေးချယ်ဦးမည် မဟုတ်ပါ။ အရှင်မြတ်ကြီးသည် ကျွန်ုပ်နှင့် ရင်းနှီးခင်မင်လှသဖြင့် သူတစ်ပါးတို့ စွပ်စွဲမည့်ကိစ္စကို ရှောင်ရှားရပါ

လိမ့်မည်။ ထို့ကြောင့် အရှင်မြတ်ကြီးက ကျွန်ုပ်အတွက် နေရာလပ်တစ်ခုသာ ချန်ပေးထားပါသည်။ ထိုနေရာလပ်ကို ကျွန်ုပ်တို့၏ သီတင်းသုံးဖော်များက ပြည့်သွားအောင် တိုက်တွန်းကြပါတော့သည်။

"အရှင်ဘုရား၊ ဤအရှင်အာနန္ဒာသည် ကျင့်စရာ လမ်းမဆုံးသေးသော သေက္ခပုဂ္ဂိုလ် ဖြစ်သော်လည်း အဂတိလိုက်စားရန် အကြောင်းမရှိပါ။ ချစ်ခြင်း၊ မုန်းခြင်း၊ မိုက်မဲခြင်း၊ ကြောက်ရွံ့ခြင်းတို့ကြောင့် မပြုသင့်သော အမှုများကို ပြုမည် မဟုတ်ပါ၊ ဤအရှင်သည် ဘုရားရှင့်ထံတော်ပါးမှ တရားဒေသနာတော် အမြောက်အမြားကို သင်ယူထားပါသည်။ ထို့ကြောင့် အရှင်အာနန္ဒာကိုလည်း ရွေးချယ်တော်မူပါဘုရား"

ဤသို့ ရဟာန်းအပေါင်းက အဆိုတင်သွင်းလာသဖြင့် ကျွန်ုပ်လည်း သံဂါယနာတိကာရက ငါးရာထဲမှာ အပါအဝင် ဖြစ်လာပါတော့သည်။

**(စူဠဝဂ်၊ ပဉ္စသတိကက္ခန္ဓက ပါဠိတော်၊ ပါရာဇိကကဏ္ဍ အဋ္ဌကထာ ဗာဟိရနိဒါန်း၊ ပထမ မဟာသံဂါယနာ)**

✳✳

# ပြည်တော်ပြန်မလှသော ခရီး

သင်္ဂါယနာ ကာရက ငါးရာကို ရွေးချယ်ကြပြီးနောက် သံဃနာယက မထေရ်ကြီးများသည် သင်္ဂါယနာတင်ရမည့် နေရာကို စဉ်းစားကြ၏။ မဇ္ဈိမဒေသတစ်ခွင်လုံးရှိ တိုင်းပြည် မြို့ရွာတိုင်းလိုလို ဗုဒ္ဓသာသနာတော် ထွန်းကားနေသည်ဖြစ်ရာ ထိုနေရာတိုင်းက ကျွန်ုပ်တို့ လုပ်ငန်းကို ကြိုဆိုလက်ခံကြမည် ဖြစ်ပါ၏။ သို့သော် ကျွန်ုပ်တို့ဘက်က ဝန်နှင့်အား၊ မြားနှင့်လေး သဘောထား၍ ချင့်ချိန်ရပါလိမ့်မည်။ ဒါယကာများ ဘက်မှာလည်း ဝန်တာမပိ၊ မိမိတို့ကိစ္စလည်း ချောချောမောမော ပြီးစီးနိုင်မည့်နေရာကို စဉ်စားကြရပါသည်။

ဘုရားရှင်၏ နောက်ပိုင်းအချိန်များတွင် အစဉ်အမြဲ ဝါဆိုတော်မူခဲ့သည့် သာဝတ္ထိမြို့တော်ကို ပထမဆုံး စဉ်းစားကြပါသေးသည်။ သို့သော် ထိုမြို့မှာလည်း မဖြစ်နိုင်သေးပါ။ ဒါယကာ၊ ဒါယိကာမများဘက်က အင်အား တောင့်တင်းလှသော် လည်း အုပ်ချုပ်သူ မင်းဟူ၍ ခိုင်ခိုင်မာမာ မရှိသေးပါ။ ကောသလမင်းကြီးနှင့် ဗန္ဓုလ စစ်သူကြီးတို့ မရှိကတည်းက နိုင်ငံကြီးတစ်ခုလုံး မငြိမ်မသက် ဖြစ်နေ၏။ မင်းပြောင်း မင်းလွဲကာလတွင် ဤသို့ကြုံရစမြဲဖြစ်၏။ ထို့ကြောင့်လည်း ဘုရားရှင်၏ ဓာတ်တော် အတောင်းလာသော အဖွဲ့များတွင် ကောသလတိုင်းမှ မပါဝင်ခဲ့ခြင်း ဖြစ်ပေသည်။

သာဝတ္ထိမြို့တော်ပြီးလျှင် သာသနာတော် အထွန်းကားဆုံးကား ရာဇဂြိုဟ် မြို့တော်ဖြစ်၏။ ရာဇဂြိုဟ်မြို့တော်မှာလည်း မင်းပြောင်းမင်းလွဲ ဖြစ်ထားသည်သာ။ သို့သော် မာဂဓတိုင်းက အပြောင်းအလွဲမှာ အချိန်တော်တော်ရခဲ့ပြီမို့ အသားသေသွားခဲ့ ပေပြီ။ ဆက်ခံသူက မင်းပျိုမင်းလွင်ဖြစ်သော်လည်း သမ္မာရင့်ပြီးသော အမတ်ကြီးများ ရှိနေကြ၏။ သုနိဓနှင့်ဝဿကာရအမတ်ကြီး နှစ်ယောက်၏ အထောက်အကူဖြင့် အဇာတသတ်မင်းသည် မဂဓတိုင်းကြီးကို နိုင်နိုင်နင်းနင်း အုပ်ချုပ်နိုင်ခဲ့၏။ ထို့ကြောင့် ကျွန်ုပ်တို့၏ ဓမ္မစက်ကိုအာဏာစက်ဖြင့် အထောက်အကူ ပြုနိုင်မည်ဟုမျှော်လင့်ရ၏။

ထို့ပြင် ရာဇဂြိုဟ်မြို့တော်ဝန်းကျင်၌ ကျောင်းပေါင်း တစ်ဆယ့်ရှစ်ကျောင်းမျှ ရှိနေ၏။ ဆွမ်းခံအိမ်တွေကလည်း ပေါများလှ၏။ မြို့တော်ထဲမှာလည်းကောင်း၊

မြို့တော်ဝန်းကျင်မှာလည်းကောင်း ကျွန်ုပ်တို့ ဆွမ်းဒါယကာ ဆွမ်းအစ်မတွေ အစီအရီ ရှိနေကြ၏။ ဤသို့ အဘက်ဘက်က ပြည့်စုံနေသဖြင့် ရာဇဂြိုဟ်မြို့တော်ကို ရွေးချယ်ကြပါသည်။ ထို့နောက် ရာဇဂြိုဟ်မြို့တော်တွင် သံဂါယနာရက သံဃာ ငါးရာမှ တစ်ပါး အခြားပုဂ္ဂိုလ်များ ဝါမဆိုရဟု ဆုံးဖြတ်ကာ ကမ္မဝါစာဖြင့် အများသဘောတူ အတည်ပြုကြရ၏။

ဤသို့ ပြုရခြင်းမှာ ဆွမ်းအခက်အခဲ ပေါ်မည်စိုး၍ မဟုတ်ပါ။ သင်္ဂါယနာ ကိစ္စကြီး ချောချောမောမောနှင့် အောင်မြင်စွာ ပြီးစီးရေးအတွက်သာ ဖြစ်ပါသည်။ လုပ်ရမည့် ကိစ္စကြီးက လပေါင်းများစွာ အချိန်ယူရမည်ဖြစ်၏။ သင်္ဂါယနာတင်နေဆဲတွင် အကယ်၍ အယူအဆမတူမျှသော ပုဂ္ဂိုလ်များ ဝင်ရောက်လာပါက တစ်ပိုင်းတန်းလန်းနှင့် ပျက်စီးရတော့မည် ဖြစ်၏။ ထို့ကြောင့် ထိုအန္တရာယ်ကို တားဆီးနိုင်ရန် ကြိုတင်ကာကွယ်ထားရခြင်း ဖြစ်ပေသည်။

ကြိုတင်စီစဉ်မှုများ ပြုလုပ်ကြပြီးနောက် ကျွန်ုပ်တို့သည် ကုသိနာရုံမှ အသီးသီး ထွက်ခွာလာခဲ့ကြ၏။ အရှင်မဟာကဿပနှင့် အရှင်အနုရုဒ္ဓါတို့သည် သံဃာ တစ်ဝက်စီကို ဦးဆောင်ကာ ရာဇဂြိုဟ်သို့ ကြွနှင့်ကြ၏။ ကျွန်ုပ်ကား ကျန်သေးသော တစ်လခွဲအချိန်တွင် သာဝတ္ထိသို့ ရောက်ချင်ပါသေးသည်။ ဇေတဝန်ကျောင်းတော်သို့ အလွမ်းပြေ ရောက်ချင်ပါသေးသည်။ ထို့ကြောင့် တပည့်ရဟန်း များစွာနှင့်အတူ သာဝတ္ထိမြို့တော်သို့ ရှေးရှုလာခဲ့ပါသည်။

ယခင်ယခင် အချိန်များတုန်းကတော့ ယခုလို ခရီးထွက်လျှင် ကျွန်ုပ်တို့ရှေ့မှာ ကိုယ်တော်မြတ်က မားမားမတ်မတ် ရှိနေတော်မူခဲ့၏။ ယခုတော့ ကျွန်ုပ်တို့ရှေ့မှာ ဟာလာဟင်းလင်း ဖြစ်နေပေပြီ။ ကျွန်ုပ်ရှေ့မှာ ခေါင်းဆောင်မည့်သူ မရှိတော့သဖြင့် ကျွန်ုပ်က ခေါင်းဆောင်ရပါတော့မည်။ မတတ်သာ၍ ခေါင်းဆောင်နေရာကို ယူရသော်လည်း သည်အတိုင်းကား မသွားနိုင်သေးပါ။ ခါတိုင်း သယ်ပိုးနေကျအတိုင်း ဘုရားရှင်၏ သပိတ်၊ သင်္ကန်းများကို သယ်ခဲ့ရပါသေးသည်။ သို့မှသာ ကျွန်ုပ်မှာ နေသာထိုင်သာ ရှိလာပေသည်။

ဤခရီးကို စတင်တုန်းက စိတ်ပြေလက်ပျောက် ဖြစ်စေရန်ဟု ရည်ရွယ်ခဲ့၏။ သို့သော် တကယ်တမ်း သွားကြည့်သည့်အခါတွင်ကား ရည်ရွယ်ချက်အတိုင်း မဖြစ်ခဲ့ပါ။ ကျွန်ုပ်ရောက်လေရာရာတွင် ငိုပွဲကြီးနှင့်သာတိုးတိုးနေရ၏။ ယခင်က ကျွန်ုပ်ရှေ့မှာမားမားမတ်မတ်ပါလာနေကျ ဘုရားရှင်အစား ဘုရားရှင်၏ သပိတ်၊ သင်္ကန်းများကိုသာ ဖူးကြရသောကြောင့်ဖြစ်ပေသည်။ ပရိနိဗ္ဗာန် မပြုမီက မျက်ရည်ကျပြီးရင်း ကျခဲ့ရသော ကျွန်ုပ်သည် ယခုတော့ မိမိထက် စိတ်နုသူများကို တရားပြ၍ ဖျောင်းဖျနေရပါချေပြီ။

ဆက်ကာဆက်ကာ တွေ့လာရသော ငိုပွဲများတွင် သာဝတ္ထိမြို့တော်မှ ငိုပွဲကား အကြီးဆုံးဖြစ်ပါ၏။ သာဝတ္ထိမြို့တော်တွင်းမှ ဒါယကာ၊ ဒါယိကာမများသည် ဇေတဝန်ကျောင်းတော်ထိအောင် ငိုယိုတမ်းတရင်း လိုက်ပါလာကြ၏။ ဇေတဝန် ကျောင်းတော် ရောက်ပြန်တော့လည်း ကျန်ရစ်သော ရဟန်းအို ကြီးများက ဆီး၍ ငိုကြပြန်ပေသည်။

ဇေတဝန်ကျောင်းတော်သည် ကျွန်ုပ်တို့ ရောက်လာသည်နှင့် ပြန်လည်၍ အသက်ဝင်လာသည်ဟု ဆိုကြ၏။ ဟုတ်လည်း ဟုတ်ပါပေသည်။ ဘုရားရှင်နှင့်အတူ ကျွန်ုပ်တို့ နောက်ဆုံးအခေါက် ထွက်သွားကတည်းက ပိတ်ထားခဲ့သော ဂန္ဓကုဋိ တိုက်ကို ကျွန်ုပ်လာမှ ဖွင့်ဖြစ်တော့၏။ ဂန္ဓကုဋိတိုက်ထဲမှ ပိုးမျှင်ဟောင်းများနှင့် အမှိုက်သရိုက်များကို ကျွန်ုပ်ကိုယ်တိုင် တံမြက်လှည်းကျင်း၏။ ဘုရားရှင် သီတင်း သုံးတော်မူခဲ့သော ညောင်စောင်းကို တိုက်ပြင်သို့ထုတ်ကာ ဖုန်ခါပြီး ပုတ်ပြီးမှ နေသားတကျ ပြန်ခင်းလိုက်၏။ ညှိုးခြောက်နေသော ပန်းများကို လွှတ်ရာကျွတ်ရာ သွား၍ပစ်ရ၏။ ထို့နောက် ဘုရားရှင်၏ သပိတ် သင်္ကန်းတို့ကို ထားနေကျနေရာမှာ တရိုတသေ ထားလိုက်ရ၏။ သည်ကြားထဲမှာ တဖွဲဖွဲရောက်လာသော ပရိသတ်များ ကိုလည်း ကျွန်ုပ်က တရားပြရပါသေးသည်။

လမ်းတစ်လျှောက်လုံးမှာလည်း ကျွန်ုပ်သည် ခေါင်းဆောင်စိတ်ဓာတ်ဖြင့် အားတင်းလာနိုင်ခဲ့ပါ၏။ ဇေတဝန်ကျောင်းတော် ရောက်ပြန်တော့လည်း ဒါယကာ ဒါယိကာမများရှေ့တွင် မပူရပ်ကို ဟန်လုပ်၍ ပြနိုင်ခဲ့ပါ၏။ ဂန္ဓကုဋိတိုက်ထဲဝယ် ဝေယျာဝစ္စအမှုများ ပြုနေရစဉ်မှာလည်း နေသာထိုင်သာ ရှိပါသေး၏။ ညနေစောင်း၍ ဘုရားရှင် တစ်ပါးတည်း ကျိန်းစက်ရာမှ ထလာတတ်သောအချိန်၊ သောက်ရေအေး အေး တစ်ခွက်ကို ဆက်ကပ်နေကျအချိန်၊ ထိုအချိန်ရောက်လျှင်ကား ကျွန်ုပ်မှာ ဟန်လုပ်၍မရတော့ပါ။ ဘုရားရှင် သီတင်းသုံးခဲ့သော ညောင်စောင်းပေါ် ခေါင်းစိုက်၍ စိတ်ရှိလက်ရှိ ငိုလိုက်မိပါတော့သည်။

**(ပါရာဇိကကဏ္ဍ အဋ္ဌကထာ၊ ဗာဟိရနိဒါန်း၊**

**ပဌမ မဟာသင်္ဂီတိကထာ)**

ဘုရားရှင် ပရိနိဗ္ဗာန်ပြုသောအချိန်မှစ၍ ကျွန်ုပ်မှာ နှစ်နှစ်ခြိုက်ခြိုက် အိပ် မပျော်ခဲ့ပါ။ မတတ်သာလွန်း၍ အိပ်ငိုက်သွားလျှင်လည်း ခဏနှင့် ပြန်နိုးလာ၏။ ပြန်နိုးလာပြန်တော့လည်း အဖြစ်ဟောင်းများကို ပြန်ပြောင်းအောက်မေ့ကာ ရင်ထဲမှာ ဆို့၍ တစ်၍ လာ၏။ လွမ်းရသော ဝေဒနာများထဲတွင် အိပ်ရာထ တစ်ရေးနိုးမှ လွမ်းရသော ဝေဒနာသည် အလှိုက်လှဲဆုံး ဖြစ်ပါ၏။ သို့ဖြစ်၍ ထိုဝေဒနာများမှ သက်သာခွင့်ရစေရန် ညကြီးသန်းခေါင်မှာ စင်္ကြံလျှောက်ရ၏။ စင်္ကြံလျှောက်၍ ညောင်းညောင်းရှိပြန်တော့လည်း ဟိုနားသည်နား မိုးတိုးမတ်တတ်နှင့် မိုးလင်းလာ

ခဲ့၏။ နေ့ခင်းရောက်လာပြန်တော့လည်း လာလာသမျှ ပရိသတ်များအား နေကုန်နေခန်း ဧည့်ခံနေရပြန်ပေသည်။

ဤသို့ အအိပ်မမှန် အစားမမှန်ခဲ့သော ဒဏ်များကို ကျွန်ုပ်၏ ကိုယ်ခန္ဓာက ခံနိုင်ရည်မရှိတော့ပါ။ သည့်ထက် တိုးလိုက်လျှင် ဗုန်းဗုန်းလဲရုံသာ ရှိတော့၏။ ထို့ကြောင့် အအိပ်မမှန်၊ အစားမမှန်၍ ဝမ်းရောလေပါ ချုပ်နေခြင်းကို ပျောက်ကင်းသွားစေရန် ဝမ်းနုတ်ဆေး စားထားရ၏။ ဤသို့ဆေးစား ထားခါမှ ဆွမ်းဒါယကာတစ်ယောက်က ဆွမ်းစားအပင့် ရောက်လာပေသည်။

"အရှင်ဘုရား၊ တုဒိရွာစား၏သား သုဘလုလင်က အရှင်ဘုရား၏ မာကြောင်းသာကြောင်းကို မေးမြန်းလိုက်ပါသည်။ သူ့အိမ်သို့ကြွ၍ ဆွမ်း ဘုဉ်းပေးတော်မူပါဟုလည်း လျှောက်ထားလိုက်ပါသည် ဘုရား"

ဆွမ်းဒါယကာ၏ ကိုယ်စား သာဝတ္ထိမြို့တော်သား လုလင်တစ်ယောက်က လာလျှောက်ပါ၏။ ဇေတဝန်ကျောင်းတော်မှာဆိုလျှင် လူဝင်လူထွက် များလှသဖြင့် စကားစမြည် ပြောဆိုရန် မလွယ်။ တရားတစ်ပုဒ် ပြည့်ပြည့်စုံစုံ ကြားနာရန် မလွယ်။ ထို့ကြောင့် သူ့အိမ်သို့ပင့်ခြင်း ဖြစ်ပါလိမ့်မည်။ မေးစရာ လျှောက်စရာ တစ်ခုခုလည်း ရှိပါလိမ့်မည်။

ဆွမ်းဒါယကာက အရေးတကြီးပင့်လာခါမှ ကျွန်ုပ်မှာ ဝမ်းနုတ်ဆေးစားထားမိချေပြီ။ လက်ခံဖို့ကလည်း ခပ်ခက်ခက်။ ငြင်းလည်း မငြင်းပယ်ရက်ပါ။ ထို့ကြောင့် . . .

"လုလင်၊ ယနေ့ကား အချိန်မဟုတ်တော့ပြီ။ ယနေ့ ဝမ်းနုတ်ဆေးအနည်းငယ် သောက်ထားခဲ့၏။ အခါအခွင့် သင့်များ သင့်မည်ဆိုလျှင် နက်ဖြန်ခါတွင် ကြွနိုင်ကောင်း ကြွနိုင်ပါလိမ့်မည်"

ကိုယ့်ကိုယ်ကို အစိုးမရသော သဘောကြောင့် ဆုတ်သာတက်သာ ပြောလိုက်ရပါသည်။

အဆင်ပြေချင်တော့ စားထားသော ဝမ်းနုတ်ဆေးကြောင့် နံနက် မလင်းမီမှာပင် စမြင်းဒေါသ အားလုံး ပြီဆင်းသွားကြကာ ဝမ်းတစ်ခုလုံး ဟာသွားတော့၏။ နံနက်လင်းချိန်တွင် ဆွမ်းဒါယကာအိမ်မှ အထောက်ရောက်လာသဖြင့် စေတတိုင်းသား ရဟန်းတစ်ပါးကို နောက်ပါခေါ်ကာ လိုက်ပါသွားခဲ့၏။ သုဘလုလင်သည် သူတည်းခိုရာ မိတ်ဆွေအိမ်တွင် ကျွန်ုပ်တို့ နှစ်ပါးကို မွန်မြတ်သော ဆွမ်းခဲဖွယ်များ ဆက်ကပ်ပါ၏။ ထို့နောက် ကျွန်ုပ် မျှော်လင့်ထားသည့်အတိုင်း သူသိလိုရာကို မေးလျှောက်ပါ၏။

"အရှင်အာနန္ဒာဘုရား၊ အရှင်ဘုရားသည် ဘုရားရှင်၏ အလုပ်အကျွေးဖြစ်ပါသည်။ ထံတော်ပါးမှာ နေခွင့်ရသူ ဖြစ်ပါသည်။ သို့ဖြစ်၍ ဘုရားရှင် ကိုယ်တော်တိုင်က

ချီးမွမ်းတော်မူခဲ့သော၊ တပည့်သာဝကများကို ဆောက်တည်စေခဲ့သော တရားများကို အရှင်ဘုရား သိပါလိမ့်မည်။ ထိုတရားများကို ဟောကြားတော်မူပါဘုရား"

သုဘလုလင်၏ မေးလျှောက်ချက်မှာ သူသိလိုရာကို မေးမြန်းခြင်းလည်း ဖြစ်နိုင်ပါသည်။ ဘုရားရှင် ပရိနိဗ္ဗာန်စံတော်မူပြီးမှ ဟောကြားထားခဲ့သော တရားများ ပျောက်ပျက်ကုန်သည် မကုန်သည်ကို စူးစမ်းလို၍လည်း ဖြစ်နိုင်ပါသည်။

ထို့ကြောင့် သာသနာတော်ကြီးတစ်ခုလုံး၏ လိုရင်းအကျဆုံးဖြစ်သော သီလ၊ သမာဓိ၊ ပညာ ဂုဏ်ကျေးဇူး သုံးရပ်ကို အကျယ်တဝင့် ဟောလိုက်ရပါသည်။ ဘုရားရှင်၏ ဟောစဉ်အတိုင်း တစ်သဝေမတိမ်း ဟောလိုက်ရပါသည်။

တရားပွဲအဆုံးတွင် သုဘလုလင်၏ စေတနာသဒ္ဓါတရားများ ပိုမို၍ ထက်သန်ခိုင်မြဲလာကြောင်း တွေ့လိုက်ရပါ၏။ (သီလက္ခန္ဓဝဂ်၊ သုဘသုတ်ပါဠိတော်နှင့် အဋ္ဌကထာ)

ဤမျှအထိ ကျွန်ုပ်၏ ခရီးစဉ်သည် အောင်မြင်မှုများ ရရှိနေပါ၏။ သာသနာတော်ကြီး၏ ဂုဏ်ကျေးဇူးကို ဖြန့်ဖြူးနိုင်ခဲ့ပါ၏။ သို့သော် အောင်မြင်မှုသည်လည်း သင်္ခါရပင်ဖြစ်၍ အစဉ်ထာဝရ မရှိနိုင်ပါ။ အောင်မြင်မှုနောက်တွင် ဆုံးရှုံးမှု ရောက်လာရပါတော့သည်။

ကျွန်ုပ်၏ ဆုံးရှုံးမှုကား သီလသိက္ခာ ဆုံးရှုံးသွားရခြင်း မဟုတ်ပါ။ ဆွေမျိုးညာတကာတို့၏ ပျက်စီးခြင်းကိုကား ဆုံးရှုံးခြင်းဟု ခေါ်ရန်မလိုတော့ပါ။ ကျွန်ုပ်၏ နောက်ပါရဟန်းများထဲမှ ရဟန်းငယ်ကလေးများနှင့် ရဟန်းလောင်းများ လူထွက်သွားကြခြင်းသာ ဖြစ်ပါ၏။

ကောသလတိုင်း၊ သာဝတ္ထိမြို့တော်မှတစ်ဆင့် မဂဓတိုင်း ဒက္ခိဏာဂီရိရွာကြီးသို့ အရောက်တွင် ဤကိစ္စ ပေါ်ပေါက်လာခဲ့၏။ ဝါဆိုရန် ရက်အနည်းငယ် လိုသေးသဖြင့် ရာဇဂြိုဟ်မြို့တော်သို့ တိုက်ရိုက်မဝင်သေးဘဲ တပည့်ဟောင်း ဒါယကာဟောင်းများထံ ခေတ္တဝင်ရောက်စဉ် ဤကိစ္စနှင့် ကြုံခဲ့ရ၏။

ဤရဟန်းငယ်ကလေးများ အခြေမခိုင်သည်ကို မြင်တော်မူသဖြင့် ဘုရားရှင်ကိုယ်တော်တိုင်က ကျွန်ုပ်ကို သတိပေးတော်မူခဲ့၏။ မဂဓတိုင်းမှ နောက်ဆုံးအကြိမ် မထွက်ခွာမီ အန္ဓကဝိန္ဒတောအုပ်မှာ ရောက်စဉ်တုန်းက ဖြစ်၏။

"အာနန္ဒာ၊ မကြာခင်ကမှ ဤသာသနာတော်သို့ ဝင်ရောက်လာသော ရဟန်းသစ်ကလေးများကို တရားငါးပါးတို့၌ ဆောက်တည်စေရန်၊ မှီဝဲစေရန် သင်တို့ဟောကြားသင့်၏။ အဘယ် တရားငါးပါးတို့နည်းဟူမူကား သီလစင်ကြယ်ခြင်း၊ စက္ခု စသော ဣန္ဒြေများကို စောင့်စည်းခြင်း၊ စကားမများခြင်း၊ တောရဆောက်တည်ခြင်း၊ အသိမှန် အမြင်မှန် ရရှိခြင်းဟူ၍ ဤတရားငါးပါးတို့ ဖြစ်သတည်း"

ဤသို့ ကြိုကြိုတင်တင် သတိပေးတော်မူခဲ့သဖြင့် ကျွန်ုပ်ကလည်း တတ်နိုင်သလောက် ဟောကြားခဲ့ပါ၏။ သူတို့ နားဝင်လောက်အောင် နည်းအမျိုးမျိုးဖြင့်

နားချခဲ့ပါ၏။ သို့သော် အိုးတော်လုပ် ဖုတ်ရင်းက မနပ်ဆိုဘိသို့ ဝင်လာစဉ်တုန်းကတည်းက သူတို့ရည်ရွယ်ချက်က တစ်မျိုးတစ်ဖုံ ရှိခဲ့ချေပြီတကား။

ဤအကြောင်းတွေကို သူတို့ ထွက်သွားပြီးမှ သူတို့မိဘများထံမှ ကြားသိရခြင်းဖြစ်၏။ တကယ်တော့ဖြင့် ဤရဟန်းငယ်များ၊ ရဟန်းလောင်းများ သာသနာတော်တွင်းသို့ ရောက်လာရခြင်းမှာ သူတို့သဘောသက်သက်ဖြင့် မဟုတ်ပါ၊ လူကြီးမိဘများ၏ အစီအစဉ်သာဖြစ်၏။ သူတို့ရည်ရွယ်ချက်ကား ဘုရားရှင်ကို မကြာခဏ ဖူးမြင်ခွင့်ရစေရန် ဖြစ်၏။ "ကျွန်ုပ်သည် ဘုရားရှင်၏ အလုပ်အကျွေး၊ လိုအပ်ရာရာသို့ ဘုရားရှင်ကို ပင့်ဆောင်နိုင်သူဖြစ်ရာ သူတို့၏သားများကို ကျွန်ုပ်ဆီ အပ်နှံထားခြင်းဖြင့် သူတို့နှင့်လည်း ရင်းနှီးလာမည်။ သူတို့ဆီသို့လည်း ဘုရားရှင်ကို မကြာမကြာ ပင့်လာလိမ့်မည်"ဟု မျှော်လင့်ခဲ့ကြ၏။

သူတို့ မျှော်လင့်ခဲ့သည့်အတိုင်း ကျွန်ုပ်သည် ဘုရားရှင်ကို ဒက္ခိဏာဂိရိသို့ မကြာမကြာ ပင့်ဆောင်ပေးခဲ့ပါ၏။ ယခုတော့ သူတို့ ကိုးကွယ်အားထားသော ဘုရားရှင်က ပရိနိဗ္ဗာန်ပြုတော် မူသွားချေပြီ။ ဤတွင် ရဟန်းငယ်နှင့် ရဟန်းလောင်း သုံးဆယ်တို့၏ လူထွက်ပွဲကြီး ဖြစ်လာပါတော့သည်။

သူတို့ကတော့ ခေါင်းတုံးပြောင်ပြောင် ပြုံးယောင်ယောင် မျက်နှာများဖြင့် ဇာတိရပ်ရွာမှာ ကျန်ရစ်ခဲ့ကြပေပြီ။ စကတည်းက အခြေမခိုင်သဖြင့် ခွေယိုင်ကာ လဲနေရစ်ခဲ့ကြချေပြီ။ ကျွန်ုပ်၏ ပြည်တော်ပြန်ခရီးမှာ မလှပတော့ပြီ။ အရှင်မဟာကဿပကြီးများ ဤအဖြစ်ကိုသိလျှင် မည်သို့သဘောထားပေလိမ့်မည်နည်း။

**(နိဒါနဝဂ်၊ ကဿပသံယုတ်၊ စီဝရသုတ် ပါဠိတော်နှင့် အဋ္ဌကထာ၊ အင်္ဂုတ္တရ၊ ပဉ္စကနိပါတ် အန္ဓကဝိန္ဒသုတ်)**

✻✻

# ခေါင်းမွေးဖြူသည့် သူငယ်လေး

ရှေ့တစ်ခန်းခြားတုန်းက ကျွန်ုပ်နှင့် ရင်းနှီးခင်မင်လှသဖြင့် အရှင် မဟာကဿပက ကျွန်ုပ်ကို သူကိုယ်တိုင် မရွေးချယ်ဘဲ နေခဲ့ကြောင်း ဖော်ပြခဲ့ပါ၏။ မှန်ပါသည်၊ အရှင်မြတ်ကြီးနှင့် ကျွန်ုပ်တို့ကြားဝယ် ပြောစမှတ်ရလောက်အောင် ရင်းနှီးခင်မင်မှု ရှိခဲ့ပါသည်။ ကျွန်ုပ်၏ တစ်ခေါင်းလုံး ဖွေးဖွေးဖြူလာသည့်တိုင်အောင်ပင် အရှင်မြတ်ကြီးက သူ့စိတ်နှင့်မတွေ့သည့် အခါတိုင်း 'သည်သူငယ်ကလေးသည်' အစချီလျက် ကြိမ်းမောင်းလေ့ရှိသည် မဟုတ်ပါလော။

ကုသိနာရုံ အင်ကြင်းစုံရာ၌ ဘုရားရှင် မိန့်တော်မူခဲ့သည့်အတိုင်း ကျွန်ုပ်သည် ရဟန်း၊ ရဟန်းမ၊ ဒါယကာ၊ ဒါယိကာမများ၏ ချစ်ခင် ကြည်ညိုမှုကို ခံယူရပါ ဘိ၏။ ဤသို့ ခံယူရခြင်းမှာ ဘုရားရှင်၏ ထာဝစဉ် အလုပ်အကျွေး ဖြစ်သော ကြောင့်ဟုလည်း ဆိုနိုင်၏။ ကျွန်ုပ်၏ ပင်ကိုယ်ဝါသနာကြောင့်ဟုလည်း ဆိုနိုင်ပါ၏။ ကျွန်ုပ်၏ ဝါသနာအရ ကျွန်ုပ်နှင့် ပတ်သက်လာသူ ဟူသမျှကို အစွမ်းနိုင်ဆုံး ကူညီလိုလှ၏။ ကျောင်းတော်သို့ ရောက်လာသူတိုင်း စိတ်ချမ်းသာ ကိုယ်ချမ်းသာ ရှိစေလိုလှ၏။ ပြန်သွားသော အခါမှာလည်း ကျေကျေနပ်နပ် ရှိစေချင်လှ၏။ ထို့ကြောင့် ရောက်လာသော ပုဂ္ဂိုလ်များနှင့် ထိုက်တန်ရာ တာဝန်ဝတ္တရားများကို ကျွန်ုပ်က ကျေပွန်အောင် ဆောင်ရွက်ခဲ့ပါသည်။ ထို့ကြောင့်လည်း ကျွန်ုပ်ရှိရာသို့ ပရိသတ်များ ဝင်လာမစဲ တသဲသဲ ဖြစ်နေပါသည်။ ထို့ကြောင့်လည်း အရှင်မြတ် ကြီး၏ အကြိမ်းအမောင်းကို မကြာခဏ ခံခဲ့ရပါသည်။

ပရိသတ်အလယ်မှာ ကြိမ်းမောင်းခံရသဖြင့် တစ်ခါတစ်ခါ ရှက်မိသည်ကား မှန်ပါ၏။ သို့သော် ကြိတ်မနိုင်ခဲမရ အဖြစ်မျိုးသို့ကား မရောက်ခဲ့ဖူးပါ။ အရှင်မြတ် ကြီး၏ စေတနာကို ကျွန်ုပ် ကောင်းကောင်းကြီး နားလည်ထားသောကြောင့် ဖြစ်ပါ သည်။ အရှင်မြတ်ကြီးသည် သူကဲ့သို့ လွတ်ရာ ကျွတ်ရာမှာ နေ၍ သမဏစည်းစိမ်ကို မြိန်မြိန်ကြီး ခံစားစေလိုလှ၏။ သို့သော် ကျွန်ုပ် အာနန္ဒာသည် အရှင်မဟာကဿပ မဟုတ်နိုင်ပါချေတကား။

အရှင်မဟာကဿပ မထေရ်ကြီးကား တကယ့် သာသနာ့အာဇာနည် ပီသပါပေ၏။ သာသနာတော်ကြီး တစ်ရပ်လုံးအတွက် စံပြပုဂ္ဂိုလ်ကြီးလည်း ဖြစ်ပါ၏။ ဒါယကာ၊ ဒါယိကာမများနှင့် ပတ်သက်လာလျှင် အင်မတန် သံယောဇဉ် ကင်းရှင်းလှ၏။ တွေ့လာ ကြုံလာလေသမျှ ဒါယကာ ဒါယိကာမများကို မှတ်မှတ်သားသား မပြုခဲ့သဖြင့် သူ့အဖို့ အသစ်အသစ်တွေချည်း ဖြစ်နေသည်ဟု ပြောစမှတ် ပြုကြရ၏။ ထို့ကြောင့်လည်း ဘုရားရှင်ကိုယ်တော်တိုင်က ကောင်းကင်ခရီးမှာ လွတ်လပ်စွာ သွားလာနေသော လမင်းကြီးနှင့် ဥပမာပြုတော်မူခဲ့ရပေသည်။

အရှင်မြတ်ကြီးသည် ရဟန်းဖြစ်သည်မှစ၍ ဓုတင်မျိုးစုံ ဆောက်တည်လာခဲ့၏။ ဤသို့ ကျင့်သုံးလာသည်မှာ ဘုရားရှင်၏ အဆုံးအမကြောင့် ဖြစ်၏။ အသွေးအသားကောင်းတုန်း၊ အရွယ်ကောင်းတုန်းက အားပေးအားမြှောက် ပြုထားခဲ့ခြင်းဖြစ်၏။ သို့သော် အသက်အရွယ် ကြီးရင့်လာသည့်အခါတွင်ကား ဘုရားရှင်ကိုယ်တော်တိုင်က သူ့တပည့်ကြီးကို ဝေဠုဝန်ကျောင်းတော်သို့ ခေါ်ယူကာ ဤသို့ မိန့်တော်မူခဲ့ရ၏။

"ကဿပ၊ ယခု သင့်အသက်အရွယ် ကြီးရင့်လာပေပြီ။ အိုမင်းမစွမ်း ဖြစ်လာပေပြီ။ ပိုက်ဆံလျှော်ဖြင့် ရက်လုပ်ထားသော သင့်ပံ့သကူသင်္ကန်းတို့လည်း ဟောင်းလည်း ဟောင်းနွမ်းလှ၏။ လေးလည်း လေးလွန်းလှ၏။ ထို့ကြောင့် ဒါယကာ၊ ဒါယိကာမများ လှူဒါန်းသော သင်္ကန်းကောင်းများကို ဝတ်ရုံပါလော့။ ဒါယကာ၊ ဒါယိကာမများ ပင့်ဖိတ်၍ကပ်လှူသော ဆွမ်းကိုလည်း စားပါလော့။ ငါ၏ ထံပါးမှာလည်း နေလာပါလော့"

ဘုရားရှင်ကိုယ်တော်တိုင်က မိန့်တော်မူလောက်အောင် သူ့သင်္ကန်းကြီးတွေက လေးလှပါ၏။ ရဟန်းဖြစ်ခါစက ဘုရားရှင်နှင့် သင်္ကန်းချင်း လဲလာခဲ့သည်မို့ ဟောင်းနွမ်းသည်ကို အထူးဆိုဖွယ်မရှိပါ။ လေးလံခြင်းကား မဖွပ်မလျှော်သောကြောင့် ကြေးပေကာ လေးလံခြင်း မဟုတ်ပါ။ ဘုရားရှင် ကိုယ်တော်တိုင်က ပေးသနားထားသော သင်္ကန်းဖြစ်၍ သူ အင်မတန်မှ ရိုသေလှပါသည်။ အပေါက်အပြဲ ပေါ်လာတိုင်း အပ်ချည်မျိုးစုံဖြင့် ချုပ်စပ်ခဲ့ရ၏။ ချုပ်ရုံနဲ့ မလုံလောက်သော အပေါက်အပြဲများကို ပံ့သကူအဝတ်စ မျိုးစုံဖြင့် ဖာထေးခဲ့ရ၏။ ရက်ချည်ထက် ချုပ်ချည်က ပိုများသည်ဟု ဆိုနိုင်ပါလိမ့်မည်။

ရုတ်တရက် စဉ်းစားလိုက်လျှင် ဓုတင်အကျင့်များကို စွန့်စေလို၍ ဤသို့ မိန့်တော်မူသည်ဟု ထင်စရာ ရှိပါ၏။ သို့သော် ဤသို့ မဟုတ်နိုင်ပါ။ အကယ်၍ ဟုတ်ခဲ့သော် အရှင်မဟာကဿပ ငြင်းဆန်ဝံ့မည် မဟုတ်ပါ။ ဘုရားရှင်၏ အလိုတော်ကို သိပြီးဖြစ်၍ တစ်ခွန်းပြောရုံနှင့် လိုက်နာပါလိမ့်မည်။ သို့ဖြစ်၍ ဤသို့ မိန့်ကြားတော်မူရာတွင် အရှင်မြတ်ကြီး၏ ဂုဏ်ကျေးဇူးကို ပရိသတ်မိုလ်ပုံ

အလယ်မှာ ထုတ်ဖော်တော်မူလို၍ ဖြစ်ပါလိမ့်မည်။ မတီးဘဲထားစဉ်က အသံတိတ်ဆိတ်နေသော စည်တော်ကြီးမှ မြည်သံဟိန်း၍ ထွက်လာစေရန် တီးပြတော်မူလိုက်ခြင်းသာ ဖြစ်ပါလိမ့်မည်။

ဘုရားရှင် တီးပြတော်မူသည့်အတိုင်း စည်သံကြီးကလည်း ဟိန်းခနဲ ထွက်လာပါတော့သည်။

"အရှင်ဘုရား၊ တပည့်တော်သည် နေ့ရက်ရှည်စွာ တောရဆောက်တည်ခဲ့ပါသည်။ ဆွမ်းခံ၍ စားသောက်ခဲ့ပါသည်။ ပံ့သကူ သင်္ကန်းကို ဝတ်ရုံခဲ့ပါသည်။ တိစီဝရိတ်အဓိဋ္ဌာန် ဆောက်တည်ခဲ့ပါသည်။အလိုနည်းခြင်း၊ ရောင့်ရဲလွယ်ခြင်း၊ လူသူလေးပါး ကင်းဆိတ်ရာမှာနေခြင်း၊ လူသူလေးပါးနှင့် မရောနှောခြင်းဟူသော ဂုဏ်ကျေးဇူးများနှင့်လည်း ပြည့်စုံပါသည်။ ထိုဂုဏ် ကျေးဇူးများကိုလည်း အခြားသူများပါ ပြည့်စုံလာကြစေရန် ချီးမွမ်းစကား ပြောကြားလေ့ရှိပါသည်ဘုရား"

ဘုရားရှင် မိန့်တော်မူသည်ကို တိုက်ရိုက်ကြီး မငြင်းပယ်ဘဲ ရိုသေစွာ ပြန်၍ လျှောက်ကြားပုံမှာ နည်းယူဖွယ် ကောင်းလှပါ၏။ ဘုရားရှင်ကလည်း တပည့်ကြီး၏ လျှောက်ထားချက်ကို လက်ခံတော်မူကာ...

"ကဿပ၊ ဤသို့သော ဂုဏ်ကျေးဇူးများအတွက် မည်သို့သော အကျိုးတရားကို သင် သိမြင်ထားပါသနည်း"

"အရှင်ဘုရား၊ အကျိုးတရား နှစ်ပါးကို သိမြင်ထားပါသည်။ မိမိကိုယ်တိုင် လက်ငင်းလက်တွေ့ ချမ်းချမ်းသာသာ နေရခြင်းလည်းကောင်း၊ နောင်လာနောက်သားတို့အား အစဉ်သနားရာ ရောက်ခြင်းလည်းကောင်း ဤသို့သော အကျိုးတရား နှစ်ပါးကို သိမြင်၍ ထာဝစဉ် ကျင့်သုံးလာခြင်း ဖြစ်ပါသည်ဘုရား"

အတွယ်အတာမရှိ ပကတိ ကင်းလွတ်သော စိတ်နှလုံးဖြင့် ကျင့်သုံးနေထိုင်ခြင်းသည် ရဟန်းတို့၏ ချမ်းသာသုခဖြစ်၏။ အရှင်မဟာကဿပသည် ရှေ့တော်မှောက်မှာ နေရခြင်းထက် ထိုချမ်းသာသုခကို ပိုမို၍ မြတ်နိုးပါပေသည်တကား။

**(နိဒါနဝဂ်၊ ကဿပသံယုတ်၊ ဇိဏ္ဏသုတ်ပါဠိတော်နှင့် အဋ္ဌကထာ)**

အရှင်မဟာကဿပနှင့် ကျွန်ုပ်တို့ကြားဝယ် ဤသို့ပင် ခြားနားခဲ့ပါသည်။ အရှင်မြတ်ကြီးသည် ရှေ့တော်မှောက်မှာ နေရခြင်းထက် လွတ်ရာ ကျွတ်ရာမှာ သမဏစည်းစိမ် ခံစားနေရခြင်းကို ပို၍မြတ်နိုး၏။ ကျွန်ုပ်ကတော့ သမဏစည်းစိမ်ကို မခံစားရလျှင် နေပါစေ၊ ရှေ့တော်မှောက်မှာ နေရလျှင် ဂကျေနပ်၏။ အရှင်မဟာကဿပသည် လူသူလေးပါးနှင့် လွတ်လွတ်ကင်းကင်း နေခဲ့၏။ ကျွန်ုပ်ဆီမှာတော့ ဝင်လာမစဲ တသဲသဲမျှ။ ဘုရားရှင်အား ပြုစုလုပ်ကျွေးရန် တာဝန်အရ ချဉ်းကပ်နေရခြင်းကို ဖယ်ထား၍ ဒါယကာ၊ ဒါယိကာမများနှင့် အရောတဝင် နေတတ်သဖြင့် ဘာဝနာအလုပ် လစ်ဟင်းရခြင်းကား ကျွန်ုပ်၏ ချို့တဲ့ချက်ဟု ဆိုရပါတော့မည်။

မိမိချို့တဲ့ချက်ကို မိမိဘာသာ သိထားသဖြင့် အရှင်မြတ်ကြီး ကြိမ်းလေသမျှ မောင်းလေသမျှကို ခေါင်းငုံ့၍ ခံခဲ့ရသည်ချည်း ဖြစ်ပါ၏။ အရှင်မြတ်ကြီး၏ စေတနာမေတ္တာကို အတွင်းသိ အစင်းသိပေမို့ ကျွန်ုပ်စိတ်ထဲမှာ လုံးဝ မကွက်မိခဲ့ပါ။ သို့ရာတွင် ရုတ်တရက် နှုတ်ထွက်မှားမိသော ရဟန်းမတစ်ပါးကြောင့် ကျွန်ုပ်အတွက် မျက်နှာပူစရာ ဖြစ်လာရပါတော့သည်။

ဤနေရာတွင် ကျွန်ုပ်ဘက်က အနည်းငယ်မျှ စဉ်းစားကြည့်စေချင်ပါသည်။ အစွပ်စွဲခံရသူက ကျော်ကြားတွင် အလေးပြုအပ်သော ဆရာတစ်ဆူ။ စွပ်စွဲသူက ကျွန်ုပ်၏ တပည့်မ။ သည်ဆရာနှင့် သည်တပည့်မ အကြားတွင် ကျွန်ုပ် မည်မျှ မျက်နှာပူခဲ့ရသည်ကို စိတ်မှန်းနှင့် ကြည့်စေချင်ပါသည်။ ကျွန်ုပ်၏ တစ်သက်တာတွင် နောက်တစ်ခါ ပြန်ပြောရန် ဝန်လေးလှသော ကိစ္စကြီးတစ်ခုပါပေတည်း။

မျက်နှာပူစရာ အပြောရအဆိုရ ခက်လှသော ကိစ္စကြီးကို ကျွန်ုပ်နှင့်အတူ မကွယ်လွန်စေလိုပါ။ မကြာမီရက်အတွင်း၌ ကျွန်ုပ်၏ ကိုယ်ခန္ဓာသာ ကွယ်ပျောက်သွားပါစေ။ အရှင်မြတ်ကြီး၏ ဘဝတစ်ကွေ့မှ ဖြစ်ရပ်မှန် တစ်ကွက်ကိုကား မပျောက်မကွယ်စေလိုပါ။ ထို့ကြောင့် ထိုစဉ်က အဖြစ်အပျက်ကို မထိမ်ဝှက်ဘဲ တင်ပြရပါတော့မည်။

ရှေးအခန်းမှာ ဖော်ပြခဲ့သည့်အတိုင်း ကျွန်ုပ်၏တပည့် ရဟန်းငယ် သုံးဆယ် လူထွက်သွားကြ၏။ ဝင်လာစဉ်တုန်းကလည်း သူတို့အကြောင်းနှင့် သူတို့ ဖြစ်ကြ၏။ သို့ရာတွင် တပည့်မကောင်းသမျှ ဆရာ့တာဝန်ချည်း ဖြစ်၍ ကျွန်ုပ်ကို အရှင်မဟာကဿပက ခေါ်၍ ကြိမ်းမောင်းပါတော့သည်။

"အာနန္ဒာ၊ မြတ်စွာဘုရားက ရဟန်းလေးပါး ဆွမ်းတောင်း၍ မစားရ။ စားချင်း စားလျှင် သုံးပါးသာ ခွင့်ပြုခဲ့၏။ ဤသို့ ခွင့်ပြုရာတွင် မည်သို့သော အကျိုးကျေးဇူးကို ရည်ရွယ်တော်မူပါသနည်း"

သူ့ပင်ကို သဘာဝအရ ချိုချိုသာသာ နှုတ်ခွန်းစလိုက်သော်လည်း ကြိမ်းမောင်းရန် စကားချီလာမှန်း ကျွန်ုပ် ရိပ်မိပါပြီ။ သို့သော်လည်း အရှင်မြတ်ကြီး အပေါ် ရိုသေလေးစားရင်းရှိသည်မို့ မေးလာသည်ကို ရိုသေလေးစားစွာ ဖြေရပါသည်။

"အရှင်ဘုရား၊ သီလ မရှိသော ရဟန်းများကို နှိပ်ကွပ်ခြင်းငှာ၊ သီလ စင်ကြယ်သော ရဟန်းများ ချမ်းသာကြစေခြင်းငှာ၊ အလိုဆိုးရှိသော ရဟန်းတို့ အသင်းအပင်းဖွဲ့၍ သံဃာသင်းခွဲခွင့် မရစေခြင်းငှာ၊ ဒါယကာ ဒါယိကာမများအား ငဲ့ညှာထောက်ထားခြင်းငှာ ဤသို့သော အကျိုးကျေးဇူးကို ရည်ရွယ်၍ ရဟန်း သုံးပါးသာ ဆွမ်းတောင်း၍ စားခွင့်ကို ပညတ်တော်မူခဲ့ပါသည်ဘုရား"

မိမိအား ကေန် ကြိမ်းတော့မည်၊ မောင်းတော့မည်မှန်း သိပါသော်လည်း အရေးကြီးသော ကိစ္စဖြစ်၍ ပြည့်ပြည့်စုံစုံ ဖြေလိုက်ရပါသည်။

သံဃာသင်းခွဲခွင့် မရစေခြင်းငှာဟူသည်မှာ ဂဏဘောဇန သိက္ခာပုဒ်ကို ရည်ညွှန်း၍ လျှောက်ထားခြင်းဖြစ်၏။ ဒေဝဒတ်သည် မိမိ၏ အသင်းအပင်းကို ဆက်လက်၍ ထိန်းသိမ်းထားနိုင်ရန် မိမိဒါယကာ၊ ဒါယိကာမများ အိမ်မှာ ဆွမ်းတောင်း၍ စားခဲ့၏။ အခြားရဟန်းများလို သပိတ်နှင့်ဆွမ်းခံ စားရခြင်း မဟုတ်ဘဲ သူ့နောက်လိုက် ရဟန်းများနှင့်အတူ ဟိုအိမ်သည်အိမ် လှည့်လည်၍ ဆွမ်းကျွေးစမ်းပါ၊ ဆွမ်းကပ်စမ်းပါဟု ပြောဆို စားသောက်နေသဖြင့် ဆွမ်းတောင်းစားသည်ဟု ဆိုလိုက်ပါ၏။ ဤသို့သော အပြုအမူကို တားဆီးရန် ဘုရားရှင်က ဂဏဘောဇန သိက္ခာပုဒ်ကို ပညတ်တော်မူခဲ့ရ၏။ ဤသို့သော နောက်ကြောင်းခံများကို ရည်ညွှန်းချက်နှင့် တကွ ပြည့်ပြည့်စုံစုံ လျှောက်ထားပါသော်လည်း အရှင်မြတ်ကြီးက ခွင့်မလွှတ်နိုင်သေးပါ။ ရည်ရွယ်ချက် ရှိထားသည့်အတိုင်း ပြင်းပြင်းထန်ထန်ကြီး ကြိမ်းမောင်းပါတော့သည်။

"အာနန္ဒာ၊ ဘုရားရှင်က ဤသို့ ရည်ရွယ်ထားခဲ့ပါလျက် သင့်အပြုအမူက သည်ရည်ရွယ်ချက်နှင့် ဆန့်ကျင်ဖက် ဖြစ်မနေပါလော။ ဣန္ဒြေကိုလည်း မစောင့်စည်း၊ အစားကျတော့လည်း အတိုင်းအရှည် မသိ၊ အိပ်ချင်တိုင်း အိပ်တတ်ကြသော ဤရဟန်းငယ်များနှင့်တကွ သင် လှည့်လည်ခြင်းသည် ယခုမိုးဦးကျမှာ စိုက်ပျိုးထားသော ကောက်ပင်ငယ်များကို နင်းချေဖျက်ဆီးရန်သာ ဖြစ်ဘိ၏။ ဒါယကာ၊ ဒါယိကာမများကို နှိပ်စက်ရန်သာ ဖြစ်ဘိ၏။ အာနန္ဒာ၊ သင်၏ ပရိသတ်သည် ထူးထူးခြားခြား ပျက်စီးကြချေပြီတကား။ တစ်ဝါရ၊ နှစ်ဝါရ ရဟန်းငယ်ကလေးများ ဖရိုဖရဲ ပျက်စီးကြချေပြီတကား။ ဩော် သည်သူငယ်လေးသည် ယခုထက်ထိ အတိုင်းအရှည်ကို မသိတတ်သေးပါတကား"

"အရှင်ဘုရား၊ တပည့်တော်၏ တစ်ခေါင်းလုံး ဆံပင်တွေ ဖွေးဖွေးဖြူကုန်ကြပါပြီ။ ယခုထက်ထိ သည်သူငယ်လေး အခေါ်အဝေါ်က မလွှတ်နိုင်သေးပါဘုရား"

"အာနန္ဒာ၊ သည်ရဟန်းငယ်ကလေးများနှင့် အတူတကွ သွားလာနေခြင်းဖြင့် သူတို့နှင့် သင် ဘာများ ခြားနားသေးသနည်း"

"အရှင်ဘုရား၊ မခြားနားတော့ပါ"

ဟုတ်မှန်သော အကြောင်းချည်းဖြစ်၍ ကျွန်ုပ်က ဝန်ခံလိုက်ရပါတော့သည်။

ယခင်ယခင်အခါများကဲ့သို့ပင် ယခုအခါမှာလည်း ကျွန်ုပ်က ခေါင်းငုံ့၍သာ ခံခဲ့ပါသည်။ သို့သော် သည်သို့သော်ကား ကိုယ့်ပေါင်ကိုယ်လှန်၍ ထောင်းရတော့မည့် သို့သော်ပါတကား။

ဒေဝဒတ်၏ အသင်းအပင်းမှာ ပါခဲ့ဖူးသော ထုလ္လနန္ဒာ ရဟန်းမသည် ယခု ကျွန်ုပ်၏တပည့်မ ဖြစ်နေ၏။ သူ့ဆရာကြီး ပျက်စီးပြီးနောက် ကျွန်ုပ်ထံ ခိုဝင်လာခြင်းဖြစ်၏။ ဒေဝဒတ်ထံ တပည့်ခံခဲ့ဖူးသော်လည်း ကြီးလေးသော ပြစ်မှု

ကြီးများတွင် ပါဝင်ခြင်းမရှိခဲ့သဖြင့် ကျွန်ုပ်က လက်ခံထားရခြင်းဖြစ်၏။ သို့သော် သူ့နာမည်မှာ ထုလ္လသဒ္ဒါ ပါနေသည့်အတိုင်း ထုလ္လနန္ဒာသည် ကိုယ်ကြမ်း စိတ်ကြမ်း ထဲက ဖြစ်၏။ သူ့စိတ်ထဲမှာ မထင်လျှင် မထင်သလို ပက်ပက်စက်စက် ပြောပစ်တတ်၏။ လူကောင် ကြီးထွား ကြမ်းတမ်းသည်နှင့်အမျှ နှုတ်စောင်းထက်သူ ဖြစ်ပေသည်။ ထုလ္လနန္ဒာ ကိုယ်ကြမ်းစိတ်ကြမ်း နှုတ်သရမ်းလှသဖြင့် သိက္ခာပုဒ် အမြောက်အမြား ပေါ်ပေါက်လာခဲ့ရပေပြီ။

ကျွန်ုပ်က လုံးလုံးအလျှော့ပေးထားသည်မို့ အရှင်မဟာကဿပ၏ကြိမ်းမောင်း စကားများသည် ဤနေရာမှာပင် ပြီးဆုံးသွားပါ၏။ သို့သော် လူ့သတင်း လူချင်း ဆောင်သဖြင့် သည်စကားက ထုလ္လနန္ဒာနားထိအောင် ရောက်သွား၏။ ထုလ္လနန္ဒာ သည် နောက်ပိုင်းမှ ရောက်လာသဖြင့် အရှင်မဟာကဿပနှင့် ကျွန်ုပ်တို့၏ ဆက်ဆံရေးကို ခြေခြေမြစ်မြစ် မသိပါချေ။ အရှင်မြတ်ကြီးက သူ့စိတ်နှင့် မတွေ့တိုင်း ဤသို့ ကြိမ်းမောင်းတတ်သည်ကို သူမကြားဖူးသေးပေ။ ထို့ကြောင့် ဤသတင်းကို ကြားလျှင် ကြားချင်း သူ့ရင်ထဲမှာ ဆတ်ဆတ်ခါ နာသွားပုံရပါသည်။

"အလို တိတ္ထိဘောင်ရောက်ခဲ့ဖူးသော အရှင်မဟာကဿပက ပညာရှိသော အရှင်အာနန္ဒာကို သည်သူငယ်လေးဟု ကြိမ်းမောင်းရချေသလော"

ဆင်ခြင်တုံတရား မကပ်သေးမီ ဟောဟောဒိုင်းဒိုင်း ပြောချလိုက်သော စကားများ ဖြစ်ပါ၏။

သူပြောသည့်အတိုင်း အရှင်မဟာကဿပသည် တိတ္ထိဘောင် မရောက်ခဲ့ဖူးပါ။ ဤအကြောင်းကို ပရိသတ်အားလုံး သိကြပါသည်။ သို့သော်လည်း ဤ စကားက ဤနေရာမှာပင် လမ်းဆုံးမည် မဟုတ်သေးပါ။ ပြောသည့်နေရာက ရဟန်းတွေရော၊ ရဟန်းမတွေပါ စုံလင်သည့် ပရိသတ်အလယ်။ သူ့အသံက ကျယ်ကျယ်လောင်လောင်။ သည်တော့ သည်စကားက အရှင်မဟာကဿပ နားသို့ မရောက်ဘဲ ရှိချေမည်လော။

"အရှင်ဘုရား၊ မိုက်မဲသည့် မိန်းမသားတစ်ယောက်ကို သည်းခံတော်မူပါ"

တပည့်မကောင်း ဆရာ့ခေါင်း ဆိုသည့် အတိုင်း မိုက်မဲသော တပည့်မအတွက် ကျွန်ုပ်က ဤသို့ တောင်းပန်ရပါသည်။

"အာနန္ဒာ၊ ရှိစေတော့။ မဆင်ခြင်ဘဲ ရုတ်တရက် နှုတ်ထွက်သွားသော စကားကို ဇွဲမယူလိုပါ။ သို့သော် တိတ္ထိဘောင်သို့ ရောက်ခဲ့ဖူးသူဟူသော စကားကိုကား ဖြေရှင်းမှ ဖြစ်ချိမ့်မည်"

ဤသို့ အစချီကာ အရှင်မဟာကဿပက မိမိဘုရားရှင်ထံ ရောက်ခဲ့ရပုံများကို ဇာတ်ကြောင်းပြန်၍ ပြပါ၏။ မိဘများက အတင်းပေးစား၍ အိမ်ထောင်ပြုခဲ့ရသော်လည်း အိမ်ထောင်ရေးကို ဇနီးမောင်နှံနှစ်ယောက်လုံး စိတ်မဝင်စားခဲ့ပုံ၊

သံဝေဂကိုယ်စီဖြင့် ရဟန်းပြုပြီးသောအခါ နှစ်ယောက်သားလမ်းခွဲခဲ့ကြပုံ၊ ထို့နောက် ရာဇဂြိုဟ်နှင့် နာဠန္ဒအကြား သုံးဂါဝုတ်ဝေးသော ဗဟုပုတ္တကညောင်ပင်မှ မိမိကို ဘုရားရှင်က ကြိုဆိုနေပုံ စသည်တို့ကို စုံစုံလင်လင် ပြောပြ၏။ ဤသို့ပြောပြ၍ မကြာမီမှာပင် နှုတ်သရမ်းမိသော ထုလ္လနန္ဒာသည် သာသနာ့ဘောင်မှ ရွေ့လျားသွားရှာပါတော့သည်။

(နိဒါနဝဂ်၊ ကဿပသံယုတ်၊ စီဝရသံယုတ် ပါဠိတော်နှင့် အဋ္ဌကထာ)

ဤမျှဆိုလျှင် အရှင်မဟာကဿပနှင့် ရဟန်းမများ၏ အခြေအနေကို ကျွန်ုပ်၏ ပရိသတ်များ ရိပ်မိကောင်းပါပြီ။ အရှင်မဟာကဿပမှာ လူသူလေးပါးနှင့် ကင်းကင်းရှင်းရှင်း နေသူဖြစ်၏။ အမျိုးသမီးများဆိုလျှင် ပို၍ပင် ကင်းကင်းရှင်းရှင်း နေတတ်သေး၏။ ဤသည်မှာ အရှင်မြတ်ကြီး၏ ဝိဝေကစိတ်ဓာတ်ဖြစ်၍ ကျွန်ုပ်တို့ကဲ့သို့ သဘောမပေါက်ရှာကြသော ရဟန်းမ အချို့ကား အရှင်မဟာကဿပကို အထင်မကြီးနိုင်ကြပါ။ လူနှင့်သူနှင့် စိမ်းလွန်းလှသော တောနေ ရဟန်းကြီးတစ်ပါးမျှသာ သဘောထားသူက ထားနေကြ၏။

ဘုရားရှင် အာယုသင်္ခါရ လွှတ်ပြီးစက ကျွန်ုပ်၏ ချို့တဲ့ချက်များကို စာရင်းချ၍ ပြဖူးပါ၏။ ထိုအထဲမှာ ယခု ချို့တဲ့ချက်ကို ထပ်မံ၍ ပေါင်းလိုက်ရပါဦးမည်။

ထုလ္လနန္ဒာ ရဟန်းမအတွက် ပြဿနာ အကြီးအကျယ် ဖြစ်ခဲ့ရသည်မှာ မကြာသေးပေ။ သို့ပါလျက် အရှင်မဟာကဿပအား ရဟန်းမများ၏ ကျောင်းသို့ ပင့်မိခဲ့၏။ ဤတွင် အရှင်မြတ်ကြီးက...

"အာနန္ဒာ၊ သင်သာလျှင် သွားချေလော့။ သင်သည် အလွန်အလုပ်များသူ ဖြစ်ပေသည်"

ဤသို့ဆိုကာ နှစ်ကြိမ်တိုင်တိုင် ငြင်းပယ်ခဲ့၏။ အလွန်အလုပ်များသူဟူသည်မှာ ဘုရားရှင် ပရိနိဗ္ဗာန်စံသည့်အတွက် ဝမ်းနည်းပက်လက် ဖြစ်နေရသော ဒါယကာ၊ ဒါယိကာမများက ကျွန်ုပ်ထံ တစ်သုတ်ပြီး တစ်သုတ် ရောက်ရောက်လာကြသောကြောင့် ဖြစ်ပါ၏။ ထိုဒါယကာ၊ ဒါယိကာမ များအား ကျွန်ုပ်က ပြေရာပြေကြောင်း တရားဟောဟောနေရသောကြောင့် ဖြစ်၏။

မ ဆိုလျှင် ဝေးဝေးကရှောင်လို၍ ငြင်းပယ်နေသော အရှင်မြတ်ကြီးကိုမှ ကျွန်ုပ်ကလည်း သုံးကြိမ်တိုင်အောင် ပင့်ခဲ့မိ၏။ သုံးကြိမ်အထိ တောင်းပန်လာတော့လည်း အရှင်မြတ်ကြီး မနေသာရှာတော့ပါ။ ကျွန်ုပ်ကို ငဲ့ကွက်ပြီး လိုက်လာရှာပါတော့သည်။ ရဟန်းမများထံ ရောက်တော့လည်း မှတ်သားလောက်အောင် တရားပြသ ဆုံးမပါ၏။ သူ့ပင်ကိုသဘောအရ မရောမနှော နေတတ်သော်လည်း အကြောင်းအားလျော်စွာ ဆုံးမိပြန်တော့လည်း သာသနာ့တာဝန်ကို ကျေပွန်စွာ ထမ်းဆောင်ပါပေသည်။

ဤတရားပွဲအပြီးမှာပင် ကျွန်ုပ် မမျှော်လင့်ခဲ့သော ပြဿနာကြီးနှင့် ကြုံရပြန်ပါတော့သည်။

"ဖြစ်မှ ဖြစ်ရလေစွာ့တကား။ တောနေပုဂ္ဂိုလ် အရှင်မဟာကဿပသည် ပညာရှိသော အရှင်အာနန္ဒာ၏ ရှေ့မှာ တရားဟောသင့်သည်ဟု ထင်ရာသလော။ အပ်လုပ်တတ်သူထံသို့ အပ်ကုန်သည်က အပ်လာ၍ ရောင်းနေခြင်းနှင့် မတူပါလော"

ယခင်တစ်ခါ စွပ်စွဲသူက ထုလ္လနန္ဒာ။ ယခုတစ်ခါ စော်ကားသူက ထုလ္လတိဿာ။ ဘွဲ့အမည်ရင်း တိဿာရှေ့တွင် ထွားကျိုင်းလှသော ကိုယ်ခန္ဓာကြောင့် ထုလ္လသဒ္ဒါနှင့် တွဲ၍ ခေါ်ရသော ရဟန်းမကလည်း ကျွန်ုပ်၏ တပည့်မ တစ်ပါးပင်။ ကြုံလိုက်ရမှတော့ တကယ့်ပုဂ္ဂိုလ်ချည့်ပါတကား။

"အာနန္ဒာ၊ သင်နှင့်ငါ နှစ်ဦးသားတို့အနက် မည်သူက အပ်လုပ်သူ ဖြစ်၍ မည်သူက အပ်ရောင်းသူ ဖြစ်ပါသနည်း"

တပည့် အမိုက်မ၏ အမှုသည် ကျွန်ုပ်ခေါင်းပေါ်သို့ပင် ရောက်လာသဖြင့် အရှင်မဟာကဿပက ကျွန်ုပ်ကို ခေါ်၍ ကြိမ်းမောင်းရာ...

"အရှင်ဘုရား၊ သည်းခံတော်မူပါ။ မိုက်မဲသော အမျိုးသမီးတစ်ယောက် ဖြစ်ပါသည်"

မလိမ္မာသူများအတွက် ကျွန်ုပ်မှာ အခါခါ တောင်းပန်နေခဲ့ရ၏။

"အာနန္ဒာ၊ သင့်စကား ရပ်လော့။ ငါသည်ကား သည်းခံမြဲ သည်းခံပါ၏။ သို့သော် သံဃာ့သဘောကိုကား ငါ အတပ်မပြောလိုပေ။ 'အာနန္ဒာသည် ဘုရားရှင်ကိုယ်တော်တိုင်က ကိုယ်စားပြု၍ ချီးမွမ်းခဲ့သော အရှင်မြတ်ကြီးကို ပိတ်ပင်တားဆီးနိုင်ခဲ့၏။ ရဟန်းမ တစ်ပါးကိုကား မတားဆီးနိုင်ရှာ။ ထိုရဟန်းမနှင့် ငြိစွန်းခြင်းသော်လည်းကောင်း၊ ချစ်ကြိုက်နေခြင်းသော်လည်းကောင်း ဖြစ်လိမ့်မည်' ဟု ရဟန်းတို့က သင့်ကို မထင်ပါစေနှင့်"

မထင်ပါစေနှင့် ဆိုမှပင် ကျွန်ုပ်မှာ ထိတ်လန့်တကြား ဖြစ်သွားရပါတော့သည်။

လူ့သမိုင်းနှင့်အမျှ အဖိနှိပ်ခံလာခဲ့ကြရသည်ကို စာနာသောအားဖြင့် ကျွန်ုပ်ကိုယ်တိုင် ဤသာသနာတော်တွင်းသို့ မရ ရအောင် သွင်းလာခဲ့သဖြင့် ဘိက္ခုနီသာသနာ ပေါ်ထွန်းလာခဲ့၏။ သည်အထဲက ရဟန်းမနှစ်ပါးသည် အရှိန်အဝါအကြီးဆုံး အရှင်မြတ်ကြီးကို စော်ကားမော်ကား ပြုမိကြချေပြီ။ နှစ်ပါးစလုံးပင် ကိုယ့်အပြစ်နှင့်ကိုယ် သာသနာ့ဘောင်မှရွေ့လျော၍ သွားရချေပြီ။ ဤအဖြစ်အပျက်မှ ဂယက်လှိုင်းများသည် မည်သည့်အခြေအနေတိုင်အောင် ရိုက်ခတ်နေကြပါမည်နည်း။ (နိဒါနဝဂ်၊ ကဿပသံယုတ်၊ ဥပဿယသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)

❋❋

# အာဏာစက်နှင့် ဓမ္မစက်

ရာဇဂြိုဟ်မြို့တော် ပတ်ဝန်းကျင်၌ ကျောင်းတိုက်တာပေါင်း တစ်ဆယ့်ရှစ်ခုမျှ ရှိကြ၏။ ကျောင်းတိုင်း ကျောင်းတိုင်းမှာပင် သက်န်းရောင်တွေ ထိန်ထိန်ဝင်းနေခဲ့၏။ သို့ရာတွင် ဘုရားရှင် ပရိနိဗ္ဗာန် ပြုတော်သည့် နောက်မှာကား ထိုကျောင်းတိုက်တာကြီးများမှာ သံဃာမရှိတော့သလောက် ဖြစ်သွား၏။ ဘုရားရှင် ပရိနိဗ္ဗာန်စံတော်မူရာ ကုသိနာရုံသို့ အုံနှင့်ကျင်းနှင့် လိုက်ပါသွားကြသောကြောင့် ဖြစ်ပေသည်။

နေထိုင်သော ပုဂ္ဂိုလ်များမရှိတော့သဖြင့် ကျောင်းအဆောက်အအုံများ ပျက်စီးခဲ့ကြရ၏။ မိုးယိုခြင်း၊ ခြတက်ခြင်း၊ ရတနာသုံးပါး လေးစားရကောင်းမှန်း မသိသူတို့ ဖျက်ဆီးခြင်း စသည်တို့ကြောင့် တော်တော်ကြီး ရုပ်ပျက် ဆင်းပျက် ဖြစ်နေကြ၏။ ထို့ကြောင့် ဝါဆိုပြီးနောက် တစ်လတိုင်တိုင် ကျောင်းတိုက်တာ ပြုပြင်ရေး လုပ်ငန်းများ လုပ်ကိုင်ကြရပေသည်။

ဤမျှ များပြားသော၊ ဤမျှကြီးမားသော ကျောင်းတိုက်တာကြီးများကို ကျွန်ုပ်တို့ချည့်သာ ပြုပြင်ရလျှင် တော်တော်နှင့် ပြီးနိုင်မည် မဟုတ်ပါ။ ယခုလို တစ်လတာ အချိန်အတွင်း ပြီးစီးသွားခြင်းမှာ အဇာတသတ်မင်း၏ ကူညီမှုကြောင့် ဖြစ်ပါ သည်။ အဇာတသတ်မင်းက လက်သမားများကို လွှတ်ပေးကာ လိုအပ်သမျှ သစ်၊ ဝါး၊ သံ စသော ဆောက်လုပ်ရေးပစ္စည်းများကို လှူဒါန်းသောကြောင့် ဖြစ်ပေသည်။

ဟိုတစ်ချိန်က မလိမ္မာ၍ မှားခဲ့ဖူးသော်လည်း ယခုအချိန်တွင်ကား အဇာတသတ်မင်းကြီးဟူ၍ တိုင်းပြည်က ခေါ်နေကြရပေပြီ။ အသက်အရွယ် ရလာသည်နှင့် အမျှ အတွေ့အကြုံလည်း ရင့်ကျက်လာပါပြီ။ သာမညဖလသုတ် တရားတော်ကြီးကို ကြားနာထားရသဖြင့် စိတ်ချမ်းမြေ့စွာ စားနိုင် အိပ်နိုင်ဖြစ်နေပါပြီ။တရားတော်၏ ဂုဏ်ကျေးဇူးကို လက်တွေ့ခံစားရသည့် အချိန်မှစ၍ ဘုရားရှင့်အပေါ် အလွန်တရာ စေတနာသဒ္ဓါတရားများ ထက်သန်လာခဲ့ပေသည်။ ပုထုဇဉ်ပုဂ္ဂိုလ်အဖြစ်ဖြင့် ကြည်ညိုသောသူတို့တွင် အဇာတသတ်မင်းကြီးကို မှီသူဟူ၍ မရှိပါ။ ထို့ကြောင့်ပင်

ဘုရားရှင် ပရိနိဗ္ဗာန်စံတော်မူကြောင်း ကြားသိရစဉ်က သုံးကြိမ်သုံးခါမျှ မိန်းမောသွားခဲ့ရသည်ဟု သိရ၏။ **(ပါရာဇိကကဏ္ဍ အဋ္ဌကထာ၊ ဗာဟီရနိဒါန်း၊ ပထမ မဟာသံဂီတိကထာ။ သုတ်မဟာဝဂ် အဋ္ဌကထာ၊ မဟာပရိနိဗ္ဗာနသုတ်၊ ဓာတ်တော်ဝေဖန်ခန်း အဖွင့်)**

ဘုရားရှင်၏ ကျေးဇူးတော်ကြောင့် အတိတ်က အမှား၏ ဒဏ်ချက်မှ သူ သက်သာခွင့် ရခဲ့ပါ၏။ သာသနာပြု မင်းကောင်းကောင်း ရပ်တည် လာနိုင်ပါ၏။ သို့သော် အတိတ်က အမှား၏ ဂယက်များကတော့ ယခုထိ ရိုက်ခတ်နေဆဲဖြစ်၏။ အဝန္တီတိုင်း၊ ဥဇ္ဇေနီမြို့တော်က စဏ္ဍပဇ္ဇောတမင်းသည် ခမည်းတော်ဘုရင်ကြီး၏ မိတ်ရင်းဆွေရင်း ဖြစ်၏။ စဏ္ဍပဇ္ဇောတမင်းက စွဲကပ်နေသော ရောဂါဝေဒနာကို ဆရာဇီဝကကိုလွှတ်၍ ကုသပေးပြီးချိန်မှစ၍ မင်းနှစ်ပါးသည် ပိုမို၍ ရင်းနှီးလာခဲ့၏။ ရွှေနှစ်ပြားကို တစ်သားတည်း စပ်ထားသကဲ့သို့ ဖြစ်၏။ သို့ဖြစ်၍ ခမည်းတော် မင်းတရားကြီး ရေတိမ်နစ်ခဲ့ရကြောင်း ကြားသိရသည်တွင် စဏ္ဍပဇ္ဇောတမင်းသည် မခံမရပ်နိုင်အောင် ဖြစ်ခဲ့ရ၏။ နဂိုကမှ ဒေါသမာန်စောင်ကြီးရသည့်အထဲ သူ့မိတ်ဆွေရင်းချာ၏ သတင်းဆိုးကြောင့် သူ ပို၍ စိတ်ဆိုးမာန်ဆိုးပွားခဲ့ရ၏။ ထို့ကြောင့် "သင်းက ငါ၏ ချစ်လှစွာသော မိတ်ဆွေကြီးကို သတ်ပြီး မင်းလုပ်ရန် ကြံခဲ့၏။ ငါ့ မိတ်ဆွေကြီးမှာ မိတ်ဆွေရင်းချာတွေ ရှိနေကြောင်းကို ကောင်းကောင်းကြီး သိစေ့မည်" ဟု ကြုံးဝါးခဲ့၏။

သည်အသံ ထွက်ပေါ်လာသည်မှာ တော်တော်ကြီး ကြာသွားပါပြီ။ သို့သော် အချိန်ဟူသည်မှာ မင်းတို့အတွက် တိုသည် ရှည်သည်ဟု မရှိပေ။ စစ်ရေးစစ်ရာ အခြေအနေ ပေးမှု မပေးမှုသာ လိုရင်းဖြစ်၏။ စောစောက အခြေအနေမပေးသေး၍ စစ်မဖက်သေးသော်လည်း အခြေအနေပေးလျှင် ပေးသည့်နေ့မှာ သူစစ်ချီလာပေမည်။ ထို့ကြောင့် အဇာတသတ်မင်းကြီးသည် သာသနာရေးကိစ္စများ ဆောင်ရွက်ရင်း တစ်ဖက်ကလည်း မြို့တော်ကြီး လုံခြုံရေးကို ဂရုစိုက်နေရ၏။ မြို့ရိုးကြီးတစ်ခုလုံးကို ပြုပြင်မွမ်းမံနေရ၏။ ရာဇဂြိုဟ်မြို့တော်တွင်းသို့ ဆွမ်းခံဝင်တိုင်း မြို့ရိုးကြီး ပတ်ပတ်လည်မှာ အလုပ်ရှုပ်နေသည်ကို တွေ့နေရ၏။

တစ်နေ့နံနက်ခင်း ဆွမ်းခံဝင်ရာတွင် အချိန်တော်တော် စောနေသေးသဖြင့် ကျွန်ုပ်သည် မြို့ရိုးကြီးဘေးက အလုပ်ခွင်သို့ ဝင်ရောက်ခဲ့၏။ အလုပ်သမား ခေါင်းဆောင် ဂေါပကမောဂ္ဂလာနပုဏ္ဏားထံသို့ ဝင်ရောက်ခဲ့၏။ ကျွန်ုပ် ရောက်သွားလျှင် ဂေါပကမောဂ္ဂလာနက ပျာပျာသလဲ ဆီးကြို၏။ နေရာထိုင်ခင်းပေး၏။ သူကိုယ်တိုင် လည်း နိမ့်သောနေရာမှာထိုင်လျက် သူသိလိုသော ပြဿနာတစ်ခုကို စတင် မေးမြန်း ပါတော့သည်။

"အရှင်အာနန္ဒာ၊ အရှင်ဂေါတမကဲ့သို့ သမ္မာသမ္ဗုဒ္ဓ ဘုရားရှင်ဖြစ်နိုင်သော ဂုဏ်အင်္ဂါနှင့် ပြည့်စုံသော ရဟန်းတစ်ပါးပါး ရှိပါသလား"

ဘုရားရှင် ပရိနိဗ္ဗာန်စံပြီးခါစဖြစ်၍ သူစိတ်ဝင်စားစရာကို မေးမြန်းခြင်းဖြစ်ပါလိမ့်မည်။ တိုင်းပြည့်သခင် ဘုရင်ကြီးတစ်ပါးနတ်ရွာစံလျှင် နောက်တစ်မင်းနန်းတက်လာရသကဲ့သို့ ပရိနိဗ္ဗာန်စံတော်မူပြီးသော ဘုရားရှင်၏ နေရာတွင် ရဟန်းတစ်ပါးပါက ဘုရားအဖြစ်ဖြင့် တက်လာလိမ့်မည်ဟု သူ ထင်နေဟန် ရှိပါသည်။

နောက်တစ်ချက်မှာလည်း အရှင်မဟာကဿပဦးဆောင်၍ သင်္ဂါယနာတင်မည်ဟူသော သတင်းနှင့်ပတ်သက်၍ သူ နားထွေးနေဟန်ရှိပါသည်။ အရှင်မဟာကဿပအား ဘုရားရှင်က တန်းတူထား၍ ချီးမြှောက်ခဲ့သည် မှန်ပါ၏။ သုံးကြိမ်သုံးခါမျှ သာသနာတော်ကြီး တစ်ရပ်လုံးကို လွှဲအပ်ခဲ့သည်လည်း မှန်ပါ၏။ သာသနာတော်ကြီး၏ အနာဂတ်ခရီးမှာ အရေးအပါဆုံးသော သင်္ဂါယနာပွဲကြီးကိုလည်း ဦးစီး ကျင်းပရမည့်သူလည်း ဖြစ်ပါ၏။ သို့သော် အရှင်မဟာကဿပသည် ဘုရားရှင်၏ သာဝကကြီး တစ်ပါးသာလျှင် ဖြစ်ပေသည်။ တာဝန်သိတတ်သော ဘုရားသားတော်ကြီးတစ်ပါးအဖြစ်ဖြင့် ကျရာတာဝန်ကို ထမ်းဆောင်ရခြင်းသာ ဖြစ်ပေသည်။

သူသည် အပြစ်လေးသည်ကို ပေါ့သွားအောင် မလုပ်နိုင်ပါ။ အပြစ်ပေါ့သည်ကို လေးလာအောင် မပြုနိုင်ပါ။ အပြစ် အလေး အပေါ့ ဆိုင်ရာ ပညတ်ထားခဲ့သော သိက္ခာပုဒ်များကို ညွှန်ပြ၍သာ ဆုံးမနိုင်ပါသည်။ အားလုံး ကိစ္စ အဝဝကို သံဃာ့ကိုယ်စား သံဃာ၏ သဘောဆန္ဒပေးခြင်းဖြင့်သာ ဆောင်ရွက်နေရခြင်း ဖြစ်ပါသည်။ ထို့ကြောင့် . . .

"ပုဏ္ဏား၊ ထိုသို့ဖြစ်နိုင်သော ရဟန်းတစ်ပါးမျှ မရှိပါ။ ဘုရားရှင်သည် မပေါက်သေးသော မဂ်လမ်းစဉ်ကို ဖောက်တော်မူခဲ့၏။ မဟောသေးသော မဂ်လမ်းစဉ်ကို ဟောကြားတော်မူခဲ့၏။ မဂ်လမ်းစဉ်မှာ လိမ္မာကျွမ်းကျင်တော်မူ၏။ ငါနှင့်တကွ ရှိရှိသမျှ သာဝကကြီးငယ် ဟူသရွေ့ကား ဘုရားရှင် ဖောက်ထားခဲ့သော မဂ်လမ်းစဉ်အတိုင်း နောက်တော်ပါးမှ ဖဝါးခြေထပ်လျှောက်ကာ လိုက်ပါလာသူများသာ ဖြစ်ကြပေသည်"

သူထင်သလို မဟုတ်ကြောင်းကို ကျွန်ုပ်က ပြည့်ပြည့်စုံစုံ ပြောလိုက်ရ၏။

ဂေါပကမောဂ္ဂလာန ပုဏ္ဏားနှင့် ဤမျှ အမေးအဖြေ လုပ်ပြီးချိန်တွင် ဝဿကာရ ပုဏ္ဏားကြီး ရောက်လာ၏။ ဂေါပကမောဂ္ဂလာနနှင့် ပြောကြားခဲ့သော စကားကို မေးမြန်းပြီးနောက် သူကလည်း ဆက်လက် မေးမြန်း၏။

"အရှင်အာနန္ဒာ၊ ဘုရားရှင်ကိုယ်တော်တိုင်က သူကွယ်လွန်လျှင် သူ့ကိုယ်စား ကိုးကွယ်ဆည်းကပ်ကြရန် ရဟန်း တစ်ပါးပါးကို ထားခဲ့ပါသလော"

သူကလည်း ဂေါပကမောဂ္ဂလာနကဲ့သို့ပင် စိတ်ထင်ဖြင့် မေးမြန်းဟန်ရှိပါသည်။

"ပုဏ္ဏား၊ ထိုကဲ့သို့ ထားခဲ့သော ရဟန်းတစ်ပါးမျှ မရှိပါ"

ကျွန်ုပ်ကလည်း ရှေးနည်းအတိုင်းသာ ဖြေကြားရ၏။ သို့သော် ဝဿကာရ အမတ်ကြီးက ဤမျှဖြင့် ကျေနပ်မသွားသေးပါ။ ဤအကြောင်းအရာကိုပင် တစ်မျိုး လှည့်၍ မေးမြန်းပါသေး၏။

"အရှင်အာနန္ဒာ၊ ဘုရားရှင်ကိုယ်တော်တိုင်က ထားတော်မမူခဲ့လျှင် သံဃာက သမုတ်ထားသော ရဟန်းကော ရှိပါသလား"

"ပုဏ္ဏား၊ သံဃာက သမုတ်ထားသော ရဟန်းလည်း မရှိပါ"

"အရှင်အာနန္ဒာ၊ မထေရ်ကြီးများက သဘောတူ တင်မြှောက်ထားသော ရဟန်းတစ်ပါးပါး ရှိပါသလော"

"ပုဏ္ဏား၊ မထေရ်ကြီးများက သဘောတူတင်မြှောက်ထားသော ရဟန်းလည်း မရှိပါ"

ဆစ်ဆစ်ပိုင်းပိုင်း မေးလေသမျှကို ကျွန်ုပ်က မရှိကြောင်းချည့် ဖြေဆိုရ၏။ ဤတွင်မှ ဝဿကာရ ပုဏ္ဏားအမတ်ကြီးက...

"အရှင်အာနန္ဒာ၊ အရှင်ဘုရားတို့မှာ ဤကဲ့သို့ ကိုးကွယ်အားထားရာ မရှိဘဲလျက် အဘယ့်ကြောင့် အချင်းချင်း ညီညွတ်နေကြရပါသနည်း"

သူ့အဖို့ အဟုတ်တကယ် အတွေးခက်နေ၍ မေးလိုက်ခြင်း ဖြစ်ပါလိမ့်မည်။

နိဂဏ္ဌနာဋပုတ္တ ဆရာကြီးနှင့်တကွ ဘုရားအမည်ခံ ပုဂ္ဂိုလ်ကြီး ခြောက်ဦးလုံးပင် ဘုရားရှင်ထက် အသက်ကြီး၏။ ဘုရားရှင်ထက် စောစီးစွာ ကွယ်လွန်ခဲ့ကြ၏။ ဦးစီးခေါင်းဆောင်များ ကွယ်လွန်သည်နှင့် ကျန်ရစ်သော တပည့်များသည် ဝါးအစည်းပြေသလို ကစဥ့်ကရဲ ဖြစ်ကုန်ကြ၏။ ဆရာတူ တပည့်အချင်းချင်း ငြင်းခုံကာ ရန်ပွဲကြီးများ ဖြစ်လာကြ၏။ ကျွန်ုပ်တို့ကား သူတို့နှင့် ဆန့်ကျင်ဘက် ဖြစ်နေကြ၏။ ဘုရားရှင် ပရိနိဗ္ဗာန်စံတော်မူသော်လည်း လုံးဝ အခြေအနေ မပျက်ကြပါ။ ဘုရားရှင်ရှိတော်မူတုန်းကနှင့်မခြား တစ်သားတည်းသာ ရှိနေကြပါသည်။ 'အတုမရှိသော ဘုန်းတော် ဉာဏ်တော်ဖြင့် မြင့်မြတ်လှသော ဘုရားရှင်ကိုပင် မရဏာရှင်သေမင်းက မရှက်တမ်းမရွံ့တမ်း ချဉ်းကပ်ခဲ့သေး၏။ တို့သူငါ သာမည ပုဂ္ဂိုလ်များမှာကား အဘယ် ဆိုဖွယ်ရာ ရှိအံ့နည်း' ဤသို့သော သတိသံဝေဂဖြင့် ရဟန်းအားလုံးမှာ သိသိသာသာကြီး ငြိမ်သက်နေကြပေသည်။

ဝဿကာရအမတ်ကြီးက ဤသို့ ထုတ်ဖော်မေးလိုက်ခါမှ စောစောက အခြေခံခဲ့လေသမျှ ဤအချက်ကို မေးချင်၍ ပါတကားဟု ကျွန်ုပ် သဘောပေါက်လာပါ၏။ ကျွန်ုပ်ကလည်း ဤအချက်ကို အားပါးတရ ဖြေချင်လှသဖြင့် ကာရန်တသင့် ဖြစ်သွားပါတော့သည်။

"ပုဏ္ဏား၊ ငါတို့မှာ ကိုးကွယ်ရာ မရှိသည် မဟုတ်ပါ။ ကိုးကွယ်ရာရှိ၍ ညီညွတ်နေကြခြင်းသာ ဖြစ်ပါသည်"

"အရှင်အာနန္ဒာ၊ ဘုရားရှင့်ကိုယ်စား ကိုးကွယ်အားထားရန် ရဟန်းတစ်ပါးမျှ မရှိပါဟုလည်း ဆိုခဲ့၏။ အရှင်ဘုရားတို့မှာ ကိုးကွယ်ရာမရှိသည် မဟုတ်ဟူ၍လည်း ဆိုပြန်၏။ အရှင်ဘုရား၏ စကားသည် ရှေ့နောက် မညီသကဲ့သို့ ဖြစ်နေပါ၏။ တပည့်တော် မည်သို့ နားလည်ရပါမည်နည်း"

"ပုဏ္ဏား၊ ငါတို့၏ ကိုးကွယ်ရာကား ပုဂ္ဂိုလ် မဟုတ်ပါ။ ဘုရားရှင် ဟောကြားထားခဲ့သော ဝိနည်းတရားတော်သာ ဖြစ်ပါသည်။ လပြည့်လကွယ် ဥပုသ်နေ့ရောက်လေတိုင်း ကျေးရွာတစ်ခု၏ နယ်နိမိတ်အတွင်းမှာ ရှိရှိသမျှသော ရဟန်းသံဃာများ စုဝေးကြပါသည်။ တစ်ပါးအပေါ် တစ်ပါးက ကျူးလွန်မိသော အပြစ်ကို တောင်းပန်ကြပါသည်။ သည်းခံကြပါသည်။ ထိုအစည်းအဝေးကြီးတွင် မိမိမှာ သင့်နေသော အပြစ်များ အာပတ်များကို ထုတ်ဖော် ဝန်ခံကြပါသည်။ ထုတ်ဖော်လာသော အာပတ်များကို ဝိနည်းဓမ္မကံနှင့်လျော်စွာ ဘုရားရှင် ဆုံးမတော်မူခဲ့သည့်အတိုင်း ကုစားကြပါသည်။ ဤသို့ ဝိနည်းတရားတော်ကို အားကိုးအားထား ပြုကြသောကြောင့် ငါတို့ ညီညွတ်နေကြခြင်း ဖြစ်ပါသည်"

အရေးပါ အရာရောက်သော ပုဏ္ဏားအမတ်ကြီး၏ ရှေ့မှောက်၌ ရဟန်းသံဃာ၏ဂုဏ်ကို ထိုက်ထိုက်တန်တန် ချီးကျူးလိုက်ရသဖြင့် ကျွန်ုပ် ဝမ်းမြောက်မိပါသည်။

**(ဥပရိပဏ္ဏာသ၊ဂေါပကမောဂ္ဂလာနသုတ်ပါဠိတော်နှင့်အဋ္ဌကထာ)**

ကျွန်ုပ်က ရဟန်းသံဃာ၏ ညီညွတ်ခြင်းဂုဏ်ကို ချီးကျူးနေဆဲမှာပင် ညီညွတ်သော ရဟန်းသံဃာများကလည်း သပိတ်ကိုယ်စီနှင့် ကြွလာကြ၏။ နေ့စဉ် ဆွမ်းခံကြွနေကျအတိုင်း ကြွလာသည်အထင်ဖြင့် ကျွန်ုပ်ကလည်း သံဃာတန်းထဲသို့ ဝင်လိုက်၏။ မိမိထက် သီတင်းကြီးသော ပုဂ္ဂိုလ်အားလုံး၏နောက်မှ လိုက်ပါလာခဲ့၏။ အမှတ်မထင် ဆွမ်းခံလာရင်းနှင့်ပင် အဇာတသတ်မင်းကြီး၏ နန်းတော်ဝသို့ ရောက်လာပေသည်။ နန်းတော်စောင့်များကလည်း ကျွန်ုပ်တို့ကို မြင်သည်နှင့် တံခါး ဟူသမျှကို ဖွင့်ကာ ရိုသေစွာ ဆီးကြို၍ ဝတ်ပြုကြပေသည်။

သို့နှင့် ကျွန်ုပ်တို့သည် ညီလာခံသဘင် ကျင်းပရာ နန်းဆောင်မကြီးထဲသို့ ရောက်လာကြ၏။ အဇာတသတ် မင်းကြီးကိုယ်တိုင်က နိမ့်သောနေရာမှ ရိုသေစွာ ရှိခိုးဦးချလျက် ကြွတော်မူလာရခြင်း အကြောင်းကို မေးလျှောက်၏။ ဤတွင် သံဃနာယက အရှင်မဟာကဿပက...

"မင်းကြီး၊ မင်းကြီး၏အကူအညီဖြင့် ကျောင်းကန်တိုက်တာ ပြုပြင်ရေး ကိစ္စများ ပြီးစီးသွားပါပြီ။ မကြာမီ သင်္ဂါယနာတင်ပွဲကြီး ကျင်းပကြပါတော့မည်"

"ကောင်းပါပြီ အရှင်ဘုရား၊ အရှင်ဘုရားတို့၏ သံဃာ့ကိစ္စကို စိတ်နှလုံး လွတ်လပ်စွာ ဆောင်ရွက်တော်မူကြပါဘုရား။ ကူညီရန်၊ စောင့်ရှောက်ရန်အတွက် တပည့်တော်မှာ အာဏာစက်ရှိနေပါသည်။ ဓမ္မဝိနယ တိကျမှန်ကန်စွာ တည်ရှိရေး အတွက် အရှင်ဘုရားတို့၏ ဓမ္မစက် ရှိပါစေ။ ဘုရားတပည့်တော် ဆောင်ရွက် သင့်သော ကိစ္စရှိပါက အမိန့်ရှိတော်မူကြပါဘုရား"

"မင်းကြီး၊ သံဂီတိကာရက ပုဂ္ဂိုလ်များအတွက် နေရာထိုင်ခင်း ပြုပြင်ပေးရန် ဖြစ်ပါသည်"

"ကောင်းပါပြီ အရှင်ဘုရား။ မည်သည့် နေရာကို လျာထားတော်မူကြပါ သနည်း"

"မင်းကြီး၊ ဝေဘာရတောင်၏ နံပါးရှိ စရည်းပင်ပေါက်ရာ လိုဏ်ဂူဝတွင် ပြုလုပ်ရန် သင့်လျော်ပါသည်"

"ကောင်းပါပြီ အရှင်ဘုရား"

ဤသို့ ဆရာ ဒါယကာ တက်ညီလက်ညီ ပူးပေါင်း ဆောင်ရွက်မှုဖြင့် သင်္ဂါယနာသဘင် ဆင်ယင်ကျင်းပရန် မဏ္ဍပ်ကြီး ပေါ်ပေါက်လာပေသည်။

အာဏာစက်၊ ဓမ္မစက်ဟူသော စကား၌ စက်ဟူသည်မှာ လိုအပ်သောကိစ္စ ပြီးပြည့်စုံအောင် ဆောင်ရွက်နိုင်အောင် အစွမ်းသတ္တိကို ဆိုလိုပေသည်။

ရက်ပိုင်းအတွင်း၌ ဆောက်လုပ်ရသော်လည်း အဇာတသတ်မင်းကြီး၏ ဘုန်းတန်ခိုး၊ ရတနာသုံးပါး၏ ဘုန်းတန်ခိုးဖြင့် မဏ္ဍပ်ကြီးသည် တင့်တယ်လှပါ ဘိ၏။ ခမ်းနားလှပါဘိ၏။ တိုင်များ၊ နံရံများ၊ စောင်းတန်းများကို စနစ်တကျ ပုံစံချပြီးမှ ဆောက်လုပ်ထား၏။ နံရံမှာ၊ တိုင်မှာ နေရာရှိသမျှ ပန်းပွင့်ပန်းနွယ် အပြောက်အမွှမ်းများ ခြယ်လှယ်ထား၏။ မင်းနန်းတော်၏ အရှိန်အဝါကိုပင် ကျော်လွန်နေသကဲ့သို့ ထင်မှတ်ရ၏။ ငှက်အပေါင်းတို့သည် တစ်ခုတည်းသော ဆိပ်ကမ်းသာတွင် စုပြုံကာ နားလာကြဘိသကဲ့သို့မျက်စိ ပေါင်းစုံတို့၏ အာရုံ စူးစိုက်ရာဌာန ဖြစ်နေ၏။ လူ့ဘောင်လောကရှိ မွေ့လျော်ဖွယ်ရာ အရာဝတ္ထု အားလုံးကို စုပြုံထားသကဲ့သို့ ဖြစ်ဘိ၏။

မျက်နှာကြက်တွင် ပန်းခိုင်ပန်းနွယ် အမျိုးမျိုးများဖြင့် ခြယ်လှယ်ထား၏။ အတွန့်အလိမ် အဝင်အထွက်၊ အကျော်အနင်း စသည်ဖြင့် တင့်တယ်သည်ထက် တင့်တယ်အောင် ဆင်ယင်ထား၏။ ညီညာပြေပြစ်စွာ ပြုပြင်ထားသော မြေပြင် ထက်မှာလည်း သံဂီတိကာရက ရဟန်းငါးရာတို့အတွက် အဖိုးအနဂ္ဃ ထိုက်တန် သော အခင်းများကို ခင်းထား၏။ သာသနဒါယကာ မင်းဖြစ်သဖြင့် ရဟန်းတို့နှင့် အပ်စပ်သော အခင်းများကိုသာ တမင်တကာ ဂရုစိုက်၍ ခင်းပေးထား၏။

မဏ္ဍပ်ကြီး၏ တောင်ဘက်နံရံကို ကပ်၍ မြောက်ဘက်သို့ မျက်နှာမူလျက် သံဃနာယက မထေရ်ကြီး၏ နေရာကို ခင်းထား၏။ မဏ္ဍပ်ကြီး၏ အလယ်ခေါင်တွင် အရှေ့ဘက်ကို မျက်နှာမူလျက် ဓမ္မာသန တရားပလ္လင်ကို ခင်းကျင်းထား၏။ ထိုပလ္လင်ထက်တွင် ဆင်စွယ်ယပ်ဝန်းကို အရံသင့် ထားရှိပေသည်။

သံဃနာယက မထေရ်ကြီးနှင့် ဓမ္မာသနပလ္လင်ပေါ်က ပုဂ္ဂိုလ်များသည် ပုစ္ဆကဝိသဇ္ဇန ပုဂ္ဂိုလ်များအဖြစ် ဆောင်ရွက်ကြရမည်ဖြစ်ပေသည်။ သာသနဒါယကာ အဇာတသတ်မင်းကြီး၏ ကောင်းမှုဖြင့် သင်္ဂါယနာတင်ရာမဏ္ဍပ်ကြီးကား ပြီးစီး၍ နေပေပြီ။ အစစအရာရာ ပြည့်စုံ၍နေပေပြီ။ ပြီးစီး၍ ပြည့်စုံနေသော မဏ္ဍပ်ကြီးကို လှည့်လည်ကြည့်ရှုပြီးခါမှ မပြီးစီးသေးသော မပြည့်စုံးသေးသော အချက်တစ်ခုကို ရုတ်တရက် သတိရလာ၏။ ထိုအချက်ကား အခြားမဟုတ်ပါ။ ကျွန်ုပ်၏ ရဟန်းကိစ္စ မပြီးဆုံးသေးခြင်းဖြစ်ပါသည်။

**(ပါရာဇိကကဏ္ဍ အဋ္ဌကထာ၊ ဗာဟိရနိဒါန်း၊ ပဌမမဟာသံဂီတိကထာ)**

**

# ကျွန်ုပ်၏ အလွတ်တရား

အရှင်ပုဏ္ဏ မထေရ်မြတ်၏ ကျေးဇူးဖြင့် ကျွန်ုပ်သည် ပထမဦးစွာ အသိမှန်အမြင်မှန်ကို ရခဲ့၏။ သူအရှိ၊ ငါအရှိ ယူစွဲသော ဒိဋ္ဌိနှင့် သို့လော သို့လော တွေးတော၍ မဆုံးနိုင်သော ဝိစိကိစ္ဆာတို့၏ ကျေးကျွန်အဖြစ်မှ ကျွတ်တမ်းဝင်ခဲ့၏။ သို့သော် ကျွန်ုပ်၏ အရိယာဉာဏ်အဆင့်မှာ သောတာပန်ဟူသော အောက်ဆုံးအဆင့်မှာသာ ရှိပါသေးသည်။ အထက်မဂ်ဖိုလ်များအတွက် ပြုလုပ်စရာ ရှိနေသေးသော သေက္ခပုဂ္ဂိုလ်မျှသာ ဖြစ်ပါသေးသည်။

ကျွန်ုပ်၏ သီတင်းသုံးဖော်များမှာ ပထမဦးစွာ အသိမှန်အမြင်မှန် ရပြီးနောက် မကြာမီမှာပင် ရဟန်းကိစ္စ ပြီးဆုံးသွားကြ၏။ ရရှိထားသော အသိမှန်အမြင်မှန်ကို အခြေပြုကာ ဆက်ကာဆက်ကာ ပွားများသော ဘာဝနာ စွမ်းအားကြောင့်ဖြစ်၏။ ကျွန်ုပ်မှာကား သောတာပန်အဆင့်မှာပင် နှစ်ပေါင်း လေးဆယ်ကျော်မျှ တည်နေခဲ့ပါ၏။

ဘုရားရှင် သက်တော်ထင်ရှားရှိတော်မူစဉ်တုန်းက ပြုစုလုပ်ကျွေးရန် တာဝန်မှာချည်း စိတ်ရောက်နေကာ တရားနှလုံးသွင်း၍ မရနိုင်ခဲ့။ ဘုရားရှင် ပရိနိဗ္ဗာန်စံတော်မူပြီးသည့်နောက်မှာလည်း ခရီးမတွင်နိုင်သေးပါ။

ကုသိနာရုံမှ ထွက်လာစဉ်တုန်းကတော့ သာဝတ္ထိမြို့တော်ရောက်လျှင် ဒါယကာ ဒါယိကာမများကို အကျိုးအကြောင်းပြောပြပြီး တောကျောင်းကလေးမှာသာ ချမ်းသာစွာ နေမည်ဟု ရည်ရွယ်ထားခဲ့၏။ ပြုစရာရှိသမျှ ရဟန်းကိစ္စကို ထိုတောကျောင်းကလေးမှာပင် ပြီးဆုံးစေမည်ဟု အားခဲထားခဲ့၏။ သို့သော် ကျွန်ုပ်၏ ရည်မှန်းချက် မအောင်မြင်ခဲ့ပါ။ ဒါယကာ ဒါယိကာမများအပေါ် ငဲ့ညှာနေကျဝါသနာကြောင့် ခဲလေသမျှ သဲရေကျ ဖြစ်ခဲ့ရပါသည်။

ကျွန်ုပ် သွားလေရာတွင် ဘုရားရှင်အတွက် တမ်းတငိုယိုပွဲကြီးများ ဖြစ်ပေါ်လာကြ၏။ ကျွန်ုပ်ကို မြင်လိုက်သည်နှင့် တစ်ပြိုင်နက် ငိုချင်စိတ်များ ပေါက်ဖွားလာကြဟန် ရှိပါသည်။ တစ်လျှောက်လုံးက သူတို့အပေါ် စာနာ ထောက်ထားလာခဲ့

သည်မို့ ယခုလို ဝမ်းနည်းပက်လက် ဖြစ်နေကြရစဉ်မှာလည်း ကျွန်ုပ် မျက်နှာမလွှဲရက်ပါ။ သူတို့တစ်တွေ စိတ်သက်သာရာရကြစေရန် ကျွန်ုပ် ဟောပြောနေခဲ့ရ၏။ ဖျောင်းဖျပေးနေခဲ့ရ၏။ ဤလိုပုဂ္ဂိုလ်မျိုးမှ တရားအရေး မနှောင့်နှေးလျှင် မည်သူနှောင့်နှေးတော့မည်နည်း။

ဒါယကာဒါယိကာမများကို ငဲ့ညှာမှုဖြင့် နှစ်လခွဲ အချိန်ကုန်ဆုံးသွားပေပြီ။ ယနေ့ကား ဝါခေါင်လဆုတ် လေးရက်။ နက်ဖြန် နံနက်စောစော သံဃာအားလုံး စည်းဝေးကာ သင်္ဂါယနာပွဲကြီး ဆင်နွှဲကြပေတော့မည်။ အနာဂတ် သာသနာတော်ကြီးအတွက် အခြေခံအုတ်မြစ်ကို ချကြပေတော့မည်။ သို့သော် ကျွန်ုပ်မှာကား သည်အဆင့်ကို မတက်နိုင်သေး။ ဘာဝနာလုပ်ငန်းခွင်သို့ ဟုတ်ဟုတ်ငြားငြား မဝင်ခဲ့ရသေး။ ယနေ့ညမှာတော့ မဝင်၍ မဖြစ်တော့ပြီ။ အခြား သံဂီတိကာရက ပုဂ္ဂိုလ်များနည်းတူ ရဟန္တာပုဂ္ဂိုလ်ကြီး မဖြစ် ဖြစ်အောင် ကြိုးစားရပါတော့မည်။

ဒါယကာ ဒါယိကာမများကို ငဲ့ညှာမှုကြောင့်ဟုဆိုသော်လည်း တကယ်တော့ဖြင့် ကျွန်ုပ်၏ ပျော့ညံ့မှုသာ ဖြစ်ပါ၏။ နေ့မှာ ဟောရေး ပြောရေးနှင့် အချိန်ကုန်သော်လည်း ညပိုင်းမှာ အားထုတ်ယူလျှင် ရနိုင်သည်သာ။ ထို့ကြောင့်လည်း ကျွန်ုပ် ချစ်မြတ်နိုးသော သိတင်းသုံးဖော်များက–

"ငါ့ရှင်တို့၊ သည်မှာရှိနေသော ရဟန်းများကြားမှာ သွားလာ လှုပ်ရှားနေသော ရဟန်းတစ်ပါးသည် ညှိစို့စို့ အနံ့နံလေစွတကား"

ဤသို့ စောင်းမြောင်းစကား ဆိုလာကြပါတော့သည်။ ညှိစို့စို့ အနံ့နံသည် ဆိုခြင်းမှာ ကိလေသာမစင်ကြယ်သေးသည်ကို ဆိုလို၏။ ကိလေသာမစင်ကြယ်သဖြင့် ကြိမ်ဖန်များစွာငိုခဲ့ရသော ကျွန်ုပ်၏ဖြစ်အင်ကို ကျွန်ုပ်၏ ပရိသတ်များ သိကြပြီး ဖြစ်ပါ၏။ ထို့ကြောင့် ဤစကား၏ ဦးတည်ချက်သည် ကျွန်ုပ်မှတစ်ပါး အခြားသူ မဖြစ်နိုင်ပါ။ တချို့ပုဂ္ဂိုလ်များကတော့ ဤသို့ သွယ်ဝိုက်မနေတော့ဘဲ တိုက်ရိုက် လာ၍ ပြောဆိုကြပေသည်။

"ငါ့ရှင်အာနန္ဒာ၊ နက်ဖြန်ဆိုလျှင် အစည်းအဝေးကြီး စတင်ပေတော့မည်။ သင့်မှာလည်း ယခုထက်တိုင် သေက္ခပုဂ္ဂိုလ်မျှသာ ရှိသေးသည်။ အထက် မဂ်ဖိုလ်များအတွက် ပြုဖွယ်ကိစ္စ ရှိနေသေးသည်။ ပြုဖွယ်ကိစ္စတန်းလန်းကြီးနှင့် အစည်းအဝေးကြီးသို့ ဝင်ရန် မသင့်ပါ။ မမေ့မလျော့ ကြိုးစားစမ်းပါလော့"

**(ပါရာဇိကကဏ္ဍ အဋ္ဌကထာ ဗာဟိရနိဒါန်း၊ ပဌမ မဟာသံဂီတိကထာ)**

ဤသို့ ပြောဆိုလာကြသဖြင့် ထိုပုဂ္ဂိုလ်များ အပေါ် ကျွန်ုပ်က မကျေမနပ် ဖြစ်လိမ့်မည်လောဟု မထွေးတောကြစေချင်ပါ။ ကျေးဇူးရှင်များကို ကျွန်ုပ်က ကျေးဇူးတင်နေခြင်းသာ ဖြစ်ပါသည်။ အရှင်ဝဇ္ဇိပုတ္တတို့ဆိုလျှင် သည့်ထက်ပင် ပြင်းပြင်းထန်ထန် ဆိုခဲ့မြည်ခဲ့ပါသေးသည်။

ကုသိနာရုံမှ သာဝတ္ထိသို့ လာစဉ်တုန်းက အရှင်ဝဇ္ဇိပုတ္တ သီတင်းသုံးရာရွာကလေးတွင် ခရီးတစ်ထောက်နားခဲ့၏။ အရှင်ဝဇ္ဇိပုတ္တမှာ အဘိညာဉ် ခြောက်ပါးရရှိထားသော ရဟန္တာအရှင်မြတ်ကြီးဖြစ်၏။ လိစ္ဆဝီခေါ် ဝဇ္ဇီမင်းတို့၏ သားဖြစ်၍ ကျွန်ုပ်တို့ သီတင်းသုံးဖော်များက အရှင်ဝဇ္ဇိပုတ္တဟု တရင်းတနှီး ခေါ်ဝေါ်ခဲ့ကြ၏။ ထိုရွာကလေးသို့ရောက်ခိုက်တွင် ပါလာသော ရဟန်းအားလုံးကို အရှင်ဝဇ္ဇိပုတ္တထံ ခေတ္တအပ်နှံကာတောရဆောက်တည်၍ တရားအားထုတ်ရန် စီစဉ်ခဲ့ဖူး၏။ သို့သော် အထမမြောက်ခဲ့ပါ။ တဖွဲဖွဲ တသဲသဲ ရောက်၍လာကြသော ပရိသတ်များကို တရားဟောရ ဖျောင်းဖျရနှင့် နေ့ရောညပါ မအားနိုင်အောင် ဖြစ်ရပါတော့သည်။ ဤအဖြစ်ကို မရှုစိမ့်နိုင်သော အရှင်ဝဇ္ဇိပုတ္တက–

"ဂေါတမနွယ်ဖွား အို အရှင်အာနန္ဒာ၊ လူသူကင်းဆိတ်ရာ တောအုပ်မြိုင်ချွင်သို့ ချဉ်းကပ်စမ်းပါလော့။ ငြိမ်းအေးသော နိဗ္ဗာန်တရားကို စိတ်နှလုံးမှာ ကောင်းစွာ ထားစမ်းပါလော့။ ဝိပဿနာနှင့်တကွ မဂ္ဂဘာဝနာကို ပွားများစမ်းပါလော့။ မမေ့မလျော့ မပေါ့မဆစမ်းပါနှင့်။ လာလာသမျှ လူများနှင့် ဗလစ်ဗလစ် ပြောဆိုနေခြင်းဖြင့် သင့်မှာ ဘာအကျိုးရှိမည်နည်း"

ရောက်လာသမျှ ပရိသတ်များကို ပြောဟောနေခြင်းကိုပင် ဗလစ်ဗလစ် ပြောဆိုခြင်းဟု ကင်ပွန်းတပ်လိုက်ပါသေးသည်။ လူအများအား တရားမဟောတော့ဘဲ မိမိ၏ လောကုတ္တရာ အကျိုးစီးပွားကိုသာ အရအမိ ယူနိုင်ရန် တိုက်တွန်းလိုက်ခြင်း ဖြစ်ပေသည်။ **(ဓေနိပါတ်၊ ဝဇ္ဇိပုတ္တထေရဂါထာ ပါဠိတော်နှင့် အဋ္ဌကထာ)**

ကျွန်ုပ် ချစ်မြတ်နိုးသော အရှင်မြတ်ကြီးများက ကြပ်ကြပ်မတ်မတ် သတိပေးလာကြသဖြင့် တွယ်တာငဲ့ကွက်မှု ဟူသမျှကို ကျွန်ုပ် ဖြတ်တောက်ရပါတော့သည်။ ဝေဠုဝန်ကျောင်းတော် အစွန်အဖျားက ကမ္မဋ္ဌာန်းကျောင်းသို့ တစ်ပါးတည်း ထွက်လာခဲ့ရပါတော့သည်။ ကျွန်ုပ်၏ တပည့်များက ပြုပြင်ပေးထားသဖြင့် ကမ္မဋ္ဌာန်းကျောင်းကလေးသည် တင့်တောင့်တင့်တယ် ရှိနေပါ၏။ ကျောင်းတံခါးဝက ကျောက်တုံးပေါ်မှာ သောက်ရေအိုးနှင့် ကျောက်ဖျာထက်တွင် ဆေးရေးအိုးတစ်လုံး ရှိနေပါ၏။ ကျောင်းရှေ့ကစင်္ကြံလမ်းမှာလည်း အမှိုက်တစ်မျှင် မြက်တစ်ပင်မျှ မရှိရအောင် ရှင်းလင်းနေပါ၏။ ညီညာ ပြန့်ပြူး၍ ကြည်နူးဖွယ်ရာ ကောင်းလှပါ၏။

ကျောင်းကလေးထဲတွင်ညောင်စောင်းတစ်ခုနှင့် အိပ်ရာနေရာများရှိနေကြောင်း ကျွန်ုပ် သိထားပါ၏။ သို့သော် ယနေ့ညအဖို့ ကျောင်းထဲဝင်ရန် လိုလိမ့်မည်မထင်ပါ။ ညလုံးပေါက် စင်္ကြံလျှောက်ကာ ဘာဝနာပွားရတော့မည် မဟုတ်ပါလား။

သောတာပတ္တိဖိုလ်ကို မျက်မှောက်ပြုနိုင်ရန် ဘုရားရှင်က အင်္ဂါလေးပါးကို ဟောကြားတော်မူခဲ့၏။ သူတော်ကောင်းနှင့် ပေါင်းဖက်မှီခြင်း၊ သူတော်ကောင်း

တရားကြားနာရခြင်း၊ အသင့်အတင့် နှလုံးသွင်းခြင်း၊ နိဗ္ဗာန်တရား အားလျော်စွာ ကျင့်သုံးခြင်းတို့ ဖြစ်ကြ၏။ ဤသို့သော အင်္ဂါလေးပါးနှင့် ပြည့်စုံသဖြင့် ကျွန်ုပ်သည် သောတာပတ္တိဖိုလ်ကို မျက်မှောက်ပြုနိုင်ခဲ့ခြင်း ဖြစ်၏။

ယခု သောတာပန်မှတစ်ဆင့် အထက်မဂ်ဖိုလ်များကို တက်လှမ်းရာတွင်မူ မည်သည့် အင်္ဂါရပ်များ တိုးလာရပါဦးမည်နည်း။ ဘုရားရှင်ကတော့ ဟောကြားတော်မမူခဲ့ပါ။ သောတာပတ္တိဖိုလ် ရရှိရေးအတွက် ဟောကြားထားသော အင်္ဂါလေးပါးကိုသာ အထက်မဂ်ဖိုလ်များအတွက်လည်း ထပ်၍ ဟောကြားတော်မူခဲ့ပေသည်။ ဤအင်္ဂါလေးပါးနှင့် ပြည့်စုံလျှင် အရဟတ္တဖိုလ် ရရေးအထိ ပြည့်စုံနေပြီဟု အဓိပ္ပာယ်ရပေသည်။

**(မဟာဝဂ်၊ သောတာပတ္တိသံယုတ်၊ သပ္ပညဝဂ်၊ သောတာပတ္တိဖလ စသောသုတ်များ)**

ဘုရားရှင်နောက်က အရိပ်ပမာ လိုက်ပါပြုစုခြင်းဖြင့် ကျွန်ုပ်သည် သူတော်ကောင်းနှင့် ပေါင်းမိပြီဖြစ်ပါသည်။ သူတော်ကောင်းတရားကိုကြားနာ ရရုံမျှမက နတ်တက်ရွရွ ဆောင်ထားသူဖြစ်ပါ၏။ လောကီလောကုတ္တရာ နှစ်ဌာနလုံးမှာပင် အသင့်အတင့် နှလုံးသွင်းနိုင်ခဲ့၏။ ဤသို့ ရှေ့ပိုင်းက အင်္ဂါရပ်များနှင့် ပြည့်စုံပါလျက် နိဗ္ဗာန်တရားအားလျော်စွာ ကျင့်သုံးရေး အင်္ဂါရပ်ကား ချို့တဲ့ခဲ့မိ၏။ သည်ညမှာတော့ သည်ဟာကွက်တစ်ခုကို ကောင်းကောင်းကြီး ဖြည့်နိုင်ပါတော့မည်။

သွား၊ ရပ်၊ ထိုင်၊ လျောင်း ဣရိယာပုထ်လေးပါး ရှိသည့်အနက် လျောင်းစက်ခြင်းသည် ထိနမိဒ္ဓရန်နှင့် အနီးဆုံး ဖြစ်၏။ မည်မျှပင် သတိထား၍ အားခဲထားသော်လည်း တော်တော်ကြာလျှင် မေ့ခနဲ အိပ်ပျော်သွားတတ်၏။ သူနှင့်စာလျှင် ထိုင်ခြင်း ဣရိယာပုထ်က တော်သေး၏။ သို့သော် ဤအနေအထားမှာလည်း ထိနမိဒ္ဓရန်မှ မလွတ်သေးပါ။ အားတင်းကာ ထိုင်နေသည့်ကြားမှ ငိုက်၍ငိုက်၍ လဲတတ်သေး၏။ သို့ဖြစ်၍ ထိုင်ခြင်းထက် ရပ်ခြင်းက ပို၍ စိတ်ချရ၏။ သို့သော် စိတ်အချရဆုံးကား စင်္ကြံသွားရင်း တရားနှလုံးသွင်းခြင်းသာ ဖြစ်ပေသည်။

ယခုလိုအရေးကြီးသော အချိန်ရောက်ခါမှဘုရားရှင်၏ဩဝါဒတစ်ခုကို ပြေး၍ သတိရလိုက်မိ၏။ ရင်ဝမှာ လှံစူး၍ ထိပ်ဦးမှာ မီးလောင်သော်လည်း ထိုလှံနုတ်ရေး၊ ထိုမီးငြိမ်းရေးထက် တရားသသိရေးကိုသာ ပိုမို၍ အလေးထားသင့်ကြောင်း မိန့်ကြား တော်မူခဲ့ရာ စောစောကသာ ဤဩဝါဒကို တိတိကျကျ လိုက်နာခဲ့ပါလျှင် ယခု အချိန်၌ ရရှိထားသော အရဟတ္တဖိုလ်ကို ငြိမ့်ငြိမ့်ကြီးခံစားနေရပြီဖြစ်၏။ ယခုတော့ မရသေးသော အရဟတ္တဖိုလ်အတွက် မရပ်မနား ကြိုးစားရပေဦးမည်။

ကမ္ဘဋ္ဌာန်းကျောင်း ပတ်ဝန်းကျင်က ငှက်တိရစ္ဆာန်တို့၏ အော်မြည်သံများ တိတ်ဆိတ်သွား၏။ ပြည့်ပြည့်ဝိုင်းဝိုင်းဖြစ်ရာမှ အတန်ငယ် ပြန်ပိန်လာသော လဝန်းသည် ထက်ကောင်းကင်မှာ ထိန်ထိန်သာလျက်ရှိ၏။ ထိန်ထိန်သာသော

လရောင်အောက်တွင် စကြံလမ်းကလေးသည် ပို၍ပို၍ ထင်ရှားလာ၏။ လမ်းမပေါ်မှ ကျောက်စရစ်ခဲကလေးများကိုပင် အကြီးအသေး ခွဲခြားနိုင်လာ၏။ အရောင်အနုအရင့် သတ်မှတ်နိုင်လာ၏။ ထို့အတူပင် ကျွန်ုပ်၏ ကိုယ်အမူရာအားလုံးကိုလည်း တစ်ခု မကျန်သတိကပ်၍ သုံးသပ်နိုင်လာ၏။

ချထားသော ခြေထောက်ကိုနုတ်ယူခြင်း၊ နုတ်ယူပြီးနောက် ရှေ့သို့ဆောင်ခြင်း၊ ဆောင်ယူလာသော ခြေထောက်ကို ရှေ့တစ်လှမ်းစာသို့ အသာချလိုက်ခြင်း၊ ထို့နောက် အခြားခြေတစ်ဖက်ကို နုတ်ယူခြင်း၊ ဆောင်ခြင်း၊ ချခြင်း ဤသို့ဖြင့် ကိုယ်ခန္ဓာ လှုပ်ရှားမှုမှန်သမျှကို သတိမလွတ်တမ်း ကပ်၍ထား၏။

အကြောင်းအမျိုးမျိုးဖြင့် ဘာဝနာစခန်းနှင့် အလှမ်းဝေးခဲ့ရသော်လည်း တကယ်တမ်း လုပ်ကြစို့ဆိုလျှင်ကား ကျွန်ုပ် မတွန့်မဆုတ်တော့ပါ။ ညောင်းရညာရ ကောင်းမှန်း မသိတော့ပါ။ အိပ်ချင်ငိုက်ချင်စိတ်များလည်း စိုးစဉ်းမျှ မသန်းလာ တော့ပါ။ ကိုယ်ခန္ဓာ၏ လှုပ်ရှားမှုကို ကြည့်ရှုသုံးသပ်ကာ ကာယဂတာသတိသာလျှင် စိတ်အစဉ်ကို စိုးမိုးလျက် ရှိနေပါသည်။

အထက်ကောင်းကင်၌ ငွေလဝန်းကြီးသည် အရှေ့မှ အနောက်သို့ တရွေ့ရွေ့ သွားနေပါလိမ့်မည်။ သစ်ပင်ရိပ်များသည်လည်း အနောက်မှ အရှေ့သို့ ရွေ့ပြောင်း လာကြပါလိမ့်မည်။ သို့ရာတွင် ထိုအရိပ်၊ ထိုအရောင်တို့သည် ကျွန်ုပ်၏ မျက်စိ မှာပင် လမ်းဆုံးသွားကြပါသည်။ သူတို့ကို သိသိမှတ်မှတ် သုံးသပ်မနေနိုင်ပါ။ ခန္ဓာကိုယ်၏ လှုပ်ရှားမှုများမှာသာ သတိကို ရှေ့ရှုထားရ၏။

ကျွန်ုပ်၏ တစ်သက်တာတွင် ဤမျှကြာအောင် ဘာဝနာပွားများမှု မပြုခဲ့ ဖူးပါ။ ယခုလောက် ခွဲမကောင်းခဲ့ဖူးပါ။ ယခုလို ခွဲကောင်းကောင်းနှင့် ပွားများလိုက် ပါမှ ဘာဝနာ၏ အရသာကို တွေ့လာ၏။ ဤသို့သော ဘာဝနာဖြင့် မိမိလိုချင် တောင့်တနေသော အရဟတ္တဖိုလ်ကို ကောန်ရချေတော့မည်ဟု ဝမ်းပန်းတသာ ဖြစ်နေ ၏။ ကိုယ်ရောစိတ်ပါ တက်ကြွရွှင်လန်း၍နေ၏။ ဤသို့ ဆက်ကာဆက်ကာ ပွားများနေဆဲမှာပင် တောစပ်တစ်နေရာမှ ကြက်ဦးတွန်သံကို ကြားလိုက်ရပေသည်။ လဝန်းကြီးမှာလည်းအနောက်ဘက်က တောအုပ်ပေါ်သို့ နိမ့်ဆင်းသွားပေပြီ။ မကြာမီ အရုဏ်တက်တော့မည်ပါတကား။

တစ်ညလုံး လှမ်းလာခဲ့ရသော ခြေလှမ်းများ ရပ်သွားကြပါချေပြီ။ အရဟတ္တ ဖိုလ်ကို သည်ညမှာ မရရအောင် ယူလိုက်မည်ဟူသော ဘာဝနာ အလုပ်များ စခန်း သိမ်းသွားကြပါချေပြီ။ ငါ ရအောင်ယူလိုက်မည်ဟု အားခဲထားသော အရဟတ္တဖိုလ် ကား မရခဲ့၊ မရောက်ခဲ့ပါ။ အရဟတ္တဖိုလ်ကို အသာထား သကဒါဂါမိ မဂ်ဖိုလ်များ ကိုမှ မတက်လှမ်းနိုင်ခဲ့ပါ။ ဤသို့ဖြစ်ရသည်မှာ အဘယ့်ကြောင့်ပါနည်း။ မည်သို့ သော ချို့တဲ့ချက်ကြောင့်ပါနည်း။

ဤသို့သော ကာယဂတာသတိကို ပွားများခြင်းဖြင့် ကျွန်ုပ်၏ သီတင်းသုံးဖော်များ အရဟတ္တဖိုလ် ရောက်ပေါင်းများလှပါပြီ။ ဤကာယဂတာသတိသည် အရိယာပုဂ္ဂိုလ်အပေါင်း၏ ကူးတို့ဆိပ်သဖွယ်ဖြစ်နေပါသည်။ သို့ပါလျက် ဤဘာဝနာဖြင့် ကျွန်ုပ် အရဟတ္တဖိုလ် မရနိုင်သည်မှာ အဘယ့်ကြောင့်ပါနည်း။

"အာနန္ဒာ၊ သင်သည် ကောင်းမှုကုသိုလ် ပြုခဲ့ပြီးသူဖြစ်၏။ တရားအလုပ် အားထုတ်ပါလျှင် မကြာမီ အာသဝကင်းစင်သော ရဟန္တာအရှင်မြတ် ဖြစ်လာပါလိမ့်မည်"

ဘုရားရှင်ကိုယ်တော်တိုင်ကလည်း နောက်ဆုံးအချိန်ပိုင်းမှာ ဤသို့ မိန့်ကြားတော်မူခဲ့ပါသေး၏။ ဘုရားရှင်၏ စကားဟူသည် မှားယွင်းချွတ်ချော်ခြင်း မရှိနိုင်ပါ။ တရားအလုပ် အားထုတ်ပြီးမှ ရမည်ဖြစ်သောကြောင့်သာ ဤသို့ မိန့်ကြားတော်မူခဲ့ခြင်း ဖြစ်ပါလိမ့်မည်။ မိန့်ကြားတော်မူခဲ့သည့်အတိုင်း ညလုံးပေါက် တရားအားထုတ်ခဲ့ချေပြီ။ သို့ပါလျက် အရဟတ္တဖိုလ်ကို အဘယ့်ကြောင့် မရနိုင်သေးပါသနည်း။

ခြေလှမ်းများ ရပ်နေဆဲ၊ တက်ကြွနေသော စိတ်အစဉ်များ တည်ငြိမ်လာဆဲတွင် မိမိ စိတ်သန္တာန်ကို သေသေချာချာပြန်၍ သုံးသပ်လိုက်သောအခါ ချို့တဲ့ချက်ကို မြင်လာပါတော့သည်။ ဝီရိယလွန်၍ ဥဒ္ဓစ္စ ဖြစ်နေခြင်းပါတကား။

"ငါ့ရှင်အနုရုဒ္ဓါ၊ ငါသည် မတွန့်မဆုတ်သော လုံ့လကို အားထုတ်၏။ မေ့လျော့ခြင်း မရှိမူ၍ သတိသည် ထင်၏။ ကိုယ်ခန္ဓာသည် ပူပန်ခြင်းမရှိ၊ ငြိမ်းအေး၍နေ၏။ စိတ်သည် တစ်ခုတည်းသော အာရုံရှိသည်ဖြစ်၍ ကောင်းစွာတည်၏။ ဤသို့ အကြံဖြစ်နေခြင်းသည်ပင် စိတ်ပျံ့လွင့်မှု (ဥဒ္ဓစ္စ) ဖြစ်နေ၏"

တရားအားထုတ်ပါလျက် တရားမရနိုင်သော အရှင်အနုရုဒ္ဓါအား အရှင်မဟာသာရိပုတ္တရာက ဤသို့ မိန့်ကြားခဲ့ဖူး၏။ ဤအကြောင်းကို စောစောပိုင်းတုန်းက ကျွန်ုပ်၏ ပရိသတ်များထံ တင်ပြခဲ့ဖူးပါ၏။ ယခု ကျွန်ုပ်၏ အလှည့်မှာလည်း အရှင်အနုရုဒ္ဓါအတိုင်း ဖြစ်ရပြန်ပါပြီ။ သည် တစ်ခါမှာတော့ အရှင်မဟာသာရိပုတ္တရာ ကိုယ်တော်တိုင် ကြွလာရောက်၍ လမ်းကြောင်းမှန်အောင် ညွှန်ပြတော့မည် မဟုတ်ပါ။ သူ၏ ကိုယ်စား သူ့မိန့်ကြားချက်ကိုသာ အားကိုးရပါတော့မည်။

ငါ၏ ဝီရိယသည် ထက်သန်လေစွ၊ ငါ၏စိတ်သည် တည်ငြိမ်လေစွဟု တွေးလိုက်မိခြင်းသည်ပင်လျှင် ဥဒ္ဓစ္စဖြစ်နေပေသည်။ ဥဒ္ဓစ္စနှင့်အတူ မိမိ၏ ဝိပဿနာကို မိမိဘာသာပြန်၍ တွယ်တာကပ်ငြိသော သဘောကလည်း မသိမသာ ပါဝင်ပေသည်။

ဤသာသနာတော်၌ ကျောင်းကန်တိုက်တာနှင့် ပြုစုလုပ်ကျွေးနေကြ သော ပုဂ္ဂိုလ်များကို တွယ်တာခြင်းသည် လွတ်မြောက်ခြင်းခရီး၌ အဟန့်အတား ဖြစ်၏။

ဝိပဿနာ၌ တွယ်တာကပ်ငြိနေခြင်းသည်လည်း ထို့အတူပင်ဖြစ်၏။ တွယ်တာမှုကို မစွန့်နိုင်သေးသမျှ အရဟတ္တဖိုလ် မရနိုင်ပါ။ ကုရုတိုင်း၊ ကမ္မာသဒမ္မရွာကြီးမှာတုန်းက ဟောကြားတော်မူခဲ့သော အာနေဉ္ဇသပ္ပာယ သုတ္တန်တွင် ဤအကြောင်းကို ဘုရားရှင်ကိုယ်တော်တိုင်က ညွှန်ပြတော်မူခဲ့ပေသည်။

**(ဥပရိပဏ္ဏာသ၊ အာနေဉ္ဇ သပ္ပာယသုတ် အဋ္ဌကထာ၊ စာမျက်နှာ ၄၄၊ ပရိနိဗ္ဗာယတိပုဒ်အဖွင့်)**

ဒါယကာ ဒါယိကာမများအပေါ် သံယောဇဉ် တွယ်တာမှုကြောင့် ကျွန်ုပ်၏ ရဟန်းကိစ္စ ပြီးဆုံးရေးသည် နှောင့်နှေးခဲ့ရ၏။ ချစ်ခင်မြတ်နိုးရသူများနှင့် ခွဲခွာရတိုင်း မျက်ရည်လည်ရွှဲ ငိုပွဲတွေဆင်ခဲ့ရ၏။ ဤဖြစ်ရပ်များမှာ အလိုဟူသော သမုဒယသစ္စာကြောင့် ဒုက္ခနှင့် တွေ့ခဲ့ရခြင်းပင်ဖြစ်ပါ၏။ ယခုလည်း မိမိ၏ ဝိပဿနာကို တွယ်တာကပ်ငြိမိသောကြောင့် ညလုံးပေါက် ဒုက္ခရောက်ခဲ့ပြန်ပါပြီ။ ထို့ကြောင့် ဒုက္ခရောက်စေကြောင်း မကောင်းသော သမုဒယသစ္စာကို ပယ်ရပါတော့မည်။

ဒါယကာ ဒါယိကာမများအပေါ် တွယ်တာသော သံယောဇဉ်ကို ကျွန်ုပ်သည် ကမ္မဋ္ဌာန်းအလုပ်ခွင်ဖြင့် ပယ်ခွာခဲ့၏။ ကမ္မဋ္ဌာန်းပွားများရင်း ရစ်ပတ်လာသော ထိုတရားကိုကော အဘယ်အရာဖြင့် ခွာရပါမည်နည်း။

ဤတရားတစ်ခုကို ထိုတရားတစ်ခုဖြင့် ခွာပြန်တော့လည်း ထိုတရား၏ အရစ်အပတ်ခံရပါဦးမည်။ မရှိမပငိုပဒါ လမ်းကြောင်းတည့်တည့်မှ မလျှောက်ဘဲ အစွန်းတစ်ဖက်ဖက်ကို ချဉ်းကပ်၍ ခွာလေသမျှ ရစ်ပတ်နေကြရဦးမည်သာ ဖြစ်ပေသည်။

ထို့ကြောင့် ကျွန်ုပ်သည် တွယ်တာမှုလည်း မပါ။ ခွာလိုမှုလည်း မရှိ။ ဝီရိယလွန်မိသဖြင့် ပျံ့လွင့်ခဲ့သော ဥဒ္ဓစ္စတို့ မပါမရှိ။ ပကတိ တည်ကြည်သော စိတ်နှလုံးဖြင့် ဆေးရေအိုးရှိရာ လျှောက်လာခဲ့ပါတော့သည်။ ရေအေးအေးဖြင့် ခြေဆေးပြီးနောက် ကျောင်းတွင်းသို့ ဝင်လိုက်ပါတော့သည်။ တပည့်များ အရန်သင့် ပြင်ဆင်ထားသော ညောင်စောင်းပေါ်သို့ ခန္ဓာကိုယ်ကို လှဲချလိုက်ပါတော့သည်။ ဤတွင် တစ်သက်တာတွင် အထူးခြားဆုံး အတွေ့အကြုံတစ်ခု ပေါ်ပေါက်လာပါတော့သည်။

စိတ်လွှတ်ကိုယ်လွှတ် လှဲချလိုက်ရာတွင် ခြေထောက်နှစ်ချောင်းသည် မြေပြင်မှ လွတ်သွား၏။ ဦးခေါင်းကလည်း ခေါင်းအုံးပေါ်သို့ မကျသေး။ ဤအနေအထားကို မည်သို့သော ဣရိယာပုထ်ထဲ ထည့်ရပါမည်နည်း။ သွားနေသည်လည်း မဟုတ်။ ရပ်သည်ဟုလည်း မဆိုနိုင်။ ထိုင်နေသည်လည်း မဟုတ်တော့။ အိပ်သည်ဟုလည်း မဆိုနိုင်သေး။ ဣရိယာပုထ်လေးပါး လွတ်ကင်းနေသော အခိုက်အတန့်ကလေးမှာပင် အလိုအာသဝ ဟူသမျှတို့၏ ကင်းရာကုန်ရာ ချုပ်ငြိမ်းရာဖြစ်သော နိဗ္ဗာန်တရား

တော်မြတ်ကြီးကို အရှင်းဆုံး အလင်းဆုံးသော ဉာဏ်ဖြင့် သိမြင်လိုက်ရပါတော့သည်။ ဝီရိယနှင့်သမာဓိ မျှတစွာရှိနေသော ဝိပဿနာ၏ကျေးဇူးကြောင့် ကျွန်ုပ် အရဟတ္တဖိုလ်ကို မျက်မှောက်ပြုခဲ့ပါပြီ။

"ထို အရဟတ္တဖိုလ်ချမ်းသာသည် မည်သို့ ရှိပါသနည်း"ဟု တစ်စုံတစ်ယောက်က မေးလာငြားအံ့"

ဤမေးခွန်းကို တိတိကျကျ ဖြေရပါလျှင် ကိုယ်တိုင်ကြုံမှ နားလည်ကြလိမ့်မည် ဟူ၍ ဖြစ်ပါသည်။ သို့ရာတွင် ကျွန်ုပ်ချစ်မြတ်နိုးသော ပရိသတ်များအတွက် အတန်အသင့် နားလည်နိုင်အောင် ကျွန်ုပ် ကြိုးစား၍ ဖြေကြားပါဦးမည်။ တစ်လျှောက်လုံးက အလိုအာသဝတို့ကြောင့် ဆင်းရဲရခဲ့လေသမျှ ယခုတော့ အာသဝ ဝန်ထုပ်ဝန်ပိုးကြီးတွေ လွတ်ကင်းသွားပြီမို့ ကိုယ်ရောစိတ်ပါ ပေါ့ပါးလန်းရွှင်၍ နေပေသည်။ ဤသို့ ဒုက္ခဆင်းရဲတို့မှ လွတ်မြောက်သွားခြင်းကိုပင် ချမ်းသာသည်ဟု ခေါ်ဆိုရပါတော့သည်။

**(ပါရာဇိကကဏ္ဍ အဋ္ဌကထာ၊ ဗာဟိရနိဒါန်း၊ ပထမမဟာသံဂီတိကထာ)**

❋❋

# သင်္ဂါယနာပွဲတော်ကြီး

အချိန်ကား မဟာသက္ကရာဇ် ၁၄၈– ခုနှစ်၊ ဝါခေါင်လပြည့်ကျော် ငါးရက်။

နေရာကား ဝေဘာရတောင်နံဘေး၊ စရည်းပင်ပေါက်ရာ လိုဏ်ဂူဝရှိ မိုးလုံလေလုံ မဏ္ဍပ်တော်ကြီး။

သာသနဒါယကာ အဇာတသတ်မင်းကြီးက ဆွမ်းကိစ္စ တာဝန်ယူထားသဖြင့် သံဂီတိကာရက သံဃာငါးရာတို့ ဆွမ်းခံထွက်ရန် မလိုတော့ပါ။ ထို့ကြောင့် သာသနာ့သမိုင်းမှာ အရေးအပါဆုံးအစည်းအဝေးကြီးကို နံနက်ခင်းမှာပင် စတင်လိုက်ကြပါပြီ။

သံဃနာယက အရှင်မဟာကဿပသည် မထေရ်ကြီး၏ နေရာတွင် တင့်တယ်စမ္မာယ်စွာ ထိုင်လျက်ရှိနေပါပြီ။ ကျန်ပ်နှင့်တကွ သံဂီတိကာရက ရဟန်းများလည်း မိမိတို့နေရာတွင် ထိုင်မိကြပါပြီ။ ဤတွင် အရှင်မဟာကဿပက–

"ငါ့ရှင်တို့၊ ဓမ္မနှင့်ဝိနယ နှစ်ပိုင်း ရှိသည့်အနက် ဘယ်အပိုင်းကို ပထမဦးစွာ သင်္ဂါယနာ တင်ရမည်နည်း"

"အရှင်မဟာကဿပဘုရား၊ ဝိနယမည်သည် ဘုရားသာသနာတော်၏ အသက် ဖြစ်ပါ၏။ ဝိနယ တည်ရှိနေမှ သာသနာ တည်ရှိနိုင်ပါသည်။ ထို့ကြောင့် ဝိနယကို ပထမဦးစွာ သင်္ဂါယနာ တင်ကြပါကုန်အံ့"

ဤသို့ တညီတညွတ်တည်း ဖြေကြားကြသဖြင့် ဝိနယကို ပထမဦးစွာ သင်္ဂါယနာတင်ရန် ဆုံးဖြတ်လိုက်ကြ၏။ ထို့နောက် ဝိနယအပိုင်းကို တာဝန်ယူဖြေကြားနိုင်မည့်ပုဂ္ဂိုလ် လိုအပ်လာသဖြင့်–

"ငါ့ရှင်တို့၊ ဝိနယအပိုင်းကို ဖြေကြားရန် မည်သူ့ကို တာဝန်ပေးရမည်နည်း"

"အရှင်မဟာကဿပဘုရား၊ အရှင်ဥပါလိကို တာဝန်ပေးကြပါမည်"

"ငါ့ရှင်တို့၊ ဝိနယကို ဖြေကြားရန် အာနန္ဒာ မစွမ်းနိုင်၍လော"

"မစွမ်းနိုင်၍ မဟုတ်ပါဘုရား၊ ဘုရားရှင် သက်တော်ထင်ရှား ရှိတော်မူစဉ်ကပင် အရှင်ဥပါလိသည် ဝိနယကို လေ့လာသင်ကြားထားသဖြင့် ဧတဒဂ်ဂုဏ်ထူး ဆွတ်ခူးနိုင်ခဲ့ပါသည်။ ထို့ကြောင့် အရှင်ဥပါလိအား တာဝန်ပေးခြင်း ဖြစ်ပါသည် ဘုရား"

သံဃာများဘက်ကလည်း အရွေးချယ် မှန်လှပါပေသည်။ အရှင် ဥပါလိဘက်ကလည်း ထိုက်တန်သော တာဝန်ကို ထမ်းဆောင်ခွင့်ရပါပေသည်။

ကျွန်ုပ်၏ တစ်သက်တာ မှတ်တမ်းကြီး၌ အရှင်ဥပါလိအကြောင်း ကြိုကြား ကြိုကြား တင်ပြခဲ့ပါပြီ။ ထိုအထဲက ဓမ္မကထိကအကျော်အမော် အရှင်ကုမာရကဿပ ပဋိသန္ဓေနှင့် ပတ်သက်၍ အရှင်ဥပါလိ ဆုံးဖြတ်ခဲ့ပုံကို အမှတ်ရကြပါလိမ့်မည်။ ထို့နောက် အရှင်အဇ္ဇုက၏ အမွေပေးမှုတွင်လည်း အရှင်ဥပါလိပင် ဝင်၍ ဆုံးဖြတ်ပေးခဲ့ပါသည်။ သေဆုံးသူပစ္စည်းရှင်၏ မှာထားချက်အရ အမွေပေးသည်ကို ကျွန်ုပ်က ဇာစ်မြစ်ကို မသိဘဲ အလျင်စလို စွပ်စွဲခဲ့မိ၏။ အရှင်ဥပါလိ ဝင်ကယ်ပေ၍သာ ကျွန်ုပ်တို့ နှစ်ပါးလုံး ချမ်းသာရာရခဲ့ကြ၏။

ပထမပါရာဇိကအာပတ်နှင့် ပတ်သက်သော ဖြတ်ထုံးများကို ဘုရားရှင် ကိုယ်တော်တိုင်က ချမှတ်ပေးတော်မူခဲ့၏။ သို့သော် ဘာရုကစ္ဆသဘော်ဆိပ်နေ ရဟန်းတစ်ပါး၏အမှုကိုကား အရှင်ဥပါလိကဘုရားရှင်ကိုယ်စား ဆုံးဖြတ်ပေးခဲ့ ရ၏။ ထိုရဟန်းသည် မယားဟောင်းနှင့် ပေါင်းသင်းဆက်ဆံမှုပြုခဲ့၏။ တကယ် မဟုတ်၊ အိပ်မက်ထဲမှာ ဖြစ်၏။ သို့သော်လည်း ထိုရဟန်းမှာဝိနယ အပိုင်းတွင် ကျွမ်းကျင်မှုမရှိသဖြင့် ပါရာဇိကကျပြီဟု ယူဆကာ လူဝတ်လဲရန် ဘာရုကစ္ဆ သဘော်ဆိပ်သို့ သွား၏။ ကံအားလျော်စွာ အရှင်ဥပါလိနှင့်လမ်းမှာ တွေ့၍ အိပ်မက် မက်ရုံဖြင့် ပါရာဇိက မကျကြောင်း ရှင်းပြခဲ့ရ၏။ ဘုရားရှင် ချမှတ်တော်မူခဲ့သော ဖြတ်ထုံးများတွင် ဤသို့သော အမှုမျိုး မပါဝင်သေးပါ။ သို့သော် အရှင်ဥပါလိက မိမိ သင်ယူထားပြီးသော ဝိနယပရိယတ်ကို အခြေပြု၍ နည်းယူကာ ရဲဝံ့စွာ အဆုံး အဖြတ် ပေးခဲ့ပေသည်။ ဤသို့ခက်ခဲ သိမ်မွေ့သော အမှုများကို ဟုတ်တိုင်းမှန်စွာ ဆုံးဖြတ်နိုင်သောကြောင့်လည်း ဘုရားရှင်က ပရိသတ်အလယ်မှာ ချီးကျူးတော်မူကာ ဝိနယဓရဧတဒဂ် ဘွဲ့ထူးကို ပေးသနားတော်မူခဲ့ပေသည်။

**(ပါရာဇိကကဏ္ဍ ပထမပါရာဇိကသိက္ခာပုဒ် ဝိနီတဝတ္ထု၊ ပါဠိတော်နှင့်အဋ္ဌကထာ)**

အရှင်ဥပါလိ ရဟန်းဘောင် ဝင်ရောက်စတုန်းက တောရ ဆောက်တည် ခွင့်ပြုရန် ဘုရားရှင်ထံ လျှောက်ထားခဲ့ဖူး၏။ သို့သော် ဘုရားရှင်က ခွင့်ပြုတော်မမူဘဲ

"ဥပါလိ၊ ငါဘုရား တိုက်တွန်း၏။ သံဃာများကြားမှာ ဝိနယပရိယတ်ကို သင်ယူရင်း နေထိုင်ပါလော့။ တောရဆောက်တည်ခြင်းဖြင့် ဝိပဿနာဓုရ တစ်ပါး တည်းသာ ပြည့်စုံလိမ့်မည်။ သံဃာများကြားမှာနေခြင်းဖြင့် ဝိပဿနာဓုရနှင့် ဂန္ထဓုရ

နှစ်ပါးလုံး ပြည့်စုံလျက် မကြာမီ ရဟန္တာဖြစ်ပါလိမ့်မည်။ ဝိနယပိဋကဌ် ရဲဝံ့စွာ ဆုံးဖြတ်နိုင်သော အကြီးအမှူး ဖြစ်ပေလိမ့်မည်"

ဤသို့ မိန့်ကြားကာ တားမြစ်တော်မူခဲ့၏။ တစ်ပါးတည်း ချမ်းသာရေးထက် အများသံဃာ ချမ်းသာရေးကို ရှေးရှုတော်မူခဲ့ခြင်း ဖြစ်ပေသည်။

**(အင်္ဂုတ္တရ၊ ဒသကနိပါတ်၊ ဥပါလိသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)**

နောင်ရေးကို မျှော်တွေး၍ ဤသို့ မိန့်ကြားတော်မူခဲ့သည့်အတိုင်း အရှင်ဥပါလိသည် သံဃာချမ်းသာရေးကို ဆောင်ရွက်နိုင်ခဲ့၏။ ဝိနယပိဋကကို ပို့ချကာ သံဃာကို စောင့်ရှောက်နိုင်ခဲ့၏။ သံဃာကို အလုပ်အကျွေးပြုနိုင်ခဲ့၏။ အရဟတ္တဖိုလ်ထိ အရယူနိုင်ခဲ့၏။ ယခုလည်း သူသင်ယူလေ့လာထားသော ဝိနယပိဋကဖြင့် သံဃာကို အထောက်အကူ ပြုရပါတော့မည်။ သူ့တာဝန်ကို သူ ကျေပွန်စွာ ဆောင်ရွက်နိုင်ရေးအတွက် သံဃနာယက အရှင်မြတ်ကြီးက မိန့်ခွန်းတော် စတင်လိုက်ပါပြီ။

"ငါ့ရှင်တို့၊ သံဃာသည် ငါ၏ စကားကို နားဆင်ပါလော့။ သံဃာအား လျောက်ပတ်သောအခါအခွင့် ရှိပါလျှင် ငါသည် ဥပါလိကို ဝိနယကို မေးပါအံ့"

အရှင်မဟာကဿပသည် ပုစ္ဆကပုဂ္ဂိုလ်အဖြစ်ဖြင့် မိမိကိုယ်ကို သမုတ်လိုက်ပါပြီ။ သံဃာ့ပရိသတ် အားလုံးကို အသိပေး ကြေညာလိုက်ပါပြီ။ ထို့အတူပင် ဖြေကြားရမည့် ပုဂ္ဂိုလ်ကလည်း–

"အရှင်ဘုရားတို့၊ သံဃာသည် တပည့်တော်၏ စကားကို နားဆင်ပါလော့။ သံဃာအား လျောက်ပတ်သော အခါအခွင့်ရှိပါလျှင် တပည့်တော်သည် အရှင်မဟာကဿပ မေးမြန်းသော ဝိနယကို ဖြေကြားအံ့"

သံဃာကို တိုင်တည်ကာ ဝိဿဇ္ဇကပုဂ္ဂိုလ် အဖြစ်ဖြင့် မိမိကိုယ်ကို သမုတ်လိုက်ပြန်ပါသည်။ ထို့နောက် အရှင်ဥပါလိသည် မိမိနေရာမှထ၍ သင်္ကန်းကို သေသပ်သည်ထက် သေသပ်အောင် ပြုပြင်၍ လက်ကတော့ထိုးကာ သိတင်းကြီးသော မထေရ်များကို လက်အုပ်ချီရင်း တရားပလ္လင်ထက်သို့ တက်လိုက်ပါ၏။ တည်ကြည်ငြိမ်သက်သော ဣန္ဒြေဖြင့် ထက်ဝယ်ဖွဲ့ခွေ ထိုင်လိုက်ပါ၏။ ဝိသဇ္ဇက ပုဂ္ဂိုလ်၏ အဆောင်အယောင်ဖြစ်သော ဆင်စွယ်ယပ်ဝန်းကို ကိုင်လိုက်ပါ၏။

အရှင်ဥပါလိ နေထားတကျဖြစ်သော အချိန်တွင် ပုစ္ဆက အရှင်မြတ်ကြီးက စတင်၍ မေးမြန်းပါတော့သည်။

"ငါ့ရှင်ဥပါလိ၊ ပထမပါရာဇိက သိက္ခာပုဒ်ကို အဘယ်နေရာဌာနဌ်၊ အဘယ်ပုဂ္ဂိုလ်ကို အကြောင်းပြု၍ အဘယ်သို့သော အမှုကြောင့် ပညတ်တော်မူခဲ့ပါသနည်း"

"အရှင်ဘုရား၊ ဝေသာလီမြို့တော်ဌ် ကလန္ဒသူဌေးသား အရှင်သုဒိန်ကို အကြောင်းပြု၍ မေထုန်မှီဝဲသောအမှုကြောင့် ပညတ်တော်မူခဲ့ပါသည် ဘုရား"

ပုစ္ဆကအရှင်မြတ်ကြီး၏ မေးမြန်းချက်ကို ဝိသဇ္ဇက အရှင်ဥပါလိက အံဝင်ခွင်ကျ ဖြေကြားလိုက်ပါ၏။ ထိုသို့ အကျဉ်းချုပ်ဖြေကြားပြီးမှ ပထမ ပါရာဇိက သိက္ခာပုဒ် ပေါ်ပေါက်လာရပုံအကြောင်းစုံကို လျှောက်ထားပေသည်။

ဝေသာလီမြို့တော်နှင့် မနီးမဝေးရှိ ကလန္ဒရွာက သူဌေးသားသုဒိန် ဘုရားရှင်ရှိရာသို့ တရားနာရောက်လာရပုံ၊ တရားနာပြီးနောက် ရဟန်းပြုရန် လျှောက်ထားပုံ၊ မိဘများက အကြည်အသာ ခွင့်မပြုသဖြင့် ခုနစ်ရက်တိုင်တိုင် အစာငတ်ခံ ဆန္ဒပြပြီးမှ ရဟန်းပြုခွင့်ရခဲ့ပုံ၊ ရဟန်းဖြစ်ပြီးနောက် အရှင်သုဒိန် ဓုတင်အကျင့်များ ကျင့်သုံးပုံ၊ မိဘများထံ ဆွမ်းခံရောက်သွားခိုက် မိဘများက ရွှေ ငွေ ဥစ္စာများပြ၍ ဖြားယောင်းကြပုံ၊ ဖြားယောင်း၍မရသောအခါ ဇနီးဟောင်းတွင် သားမျိုးစေ့ပေးပါရန် ပန်ကြားကြပုံ၊ ဤအမှုမျိုးကို အထင်အရှား တားမြစ်ချက်လည်း မထွက်လာသေး၊ အပြစ်ကိုလည်း မမြင်သဖြင့် အရှင်သုဒိန်က ဇနီးဟောင်းကိုတောထဲခေါ်၍ မေထုန်မှု ပြုကျင့်ခဲ့ပုံ၊ ထိုအမှု ရွှေနားတော်ထိ ပေါက်ကြားသွား၍ ဘုရားရှင်က ပထမပါရာဇိက သိက္ခာပုဒ်ပညတ်ရပုံများကို ပြည့်ပြည့်စုံစုံ လျှောက်ထားပေသည်။ ထိုစဉ်က အရှင်ဥပါလိ လျှောက်ထားခဲ့သော အစီအစဉ်အတိုင်း သံဂါယနာရက အရှင်မြတ်အားလုံးက အတည်ပြုကာ ဆရာစဉ်ဆက်လက်ခံ၍ပို့ချကြရန် သတ်မှတ်ကြပေသည်။

ထို့နောက် ပုစ္ဆကအရှင်မြတ်ကြီးက မူလပညတ်ချက်နှင့် နောက်ထပ် ပညတ်ချက်များ၊ အာပတ်သင့်ပုံနှင့် အာပတ် မသင့်ပုံများကို ဆက်လက်၍ မေးမြန်း၏။ ဝိသဇ္ဇက အရှင်ဥပါလိကလည်း မေးတိုင်း မေးတိုင်းကို ဆုတ်ဆိုင်းမရှိ တိတိကျကျ ဖြေကြားပါပေသည်။

ဤသို့အားဖြင့် ပါရာဇိကသိက္ခာပုဒ်လေးပါး၊ သံဃာဒိသိသ် သိက္ခာပုဒ် တစ်ဆယ့်သုံးပါ၊ အနိယတသိက္ခာပုဒ် နှစ်ပါး၊ နိဿဂ္ဂိပါစိတ်သိက္ခာပုဒ်သုံးဆယ်ပါး၊ သုဒ္ဓပါစိတ်သိက္ခာပုဒ် ကိုးဆယ့်နှစ်ပါး၊ ပါဋိဒေသနီသိက္ခာပုဒ် လေးပါး၊ သေခိယ သိက္ခာပုဒ် ခုနစ်ဆယ့်ငါးပါး၊ အဓိကရဏသမထ ခုနစ်ပါးတို့ကိုလည်း ပြည့်ပြည့်စုံစုံ မေးမြန်းကြ၊ ဖြေကြားကြ၏။ ထိုသိက္ခာပုဒ်များနှင့် ပတ်သက်သော အချက်အလက်များကို အကြေအလည် ဝေဖန်ဆွေးနွေးကြပြီးနောက် ဤကား ဘိက္ခုဝိဘင်းတည်းဟု စုပေါင်း၍ ရွတ်ဆိုကြပေသည်။ အများသဘောတူ အတည်ပြုသောအားဖြင့် စုပေါင်း ရွတ်ဆိုခြင်းကို သင်္ဂါယနာဟု ခေါ်ပေသည်။

ရဟန်းတို့နှင့် ပတ်သက်သော သိက္ခာပုဒ်များကို သင်္ဂါယနာတင်ပြီးနောက် ရဟန်းမတို့နှင့် ပတ်သက်သော သိက္ခာပုဒ်များကိုလည်း အမေးအဖြေလုပ်၍ ဝေဖန်စိစစ်ကာ ဤကား ဘိက္ခုနီဝိဘင်းတည်းဟု သင်္ဂါယနာတင်ကြရပေသည်။

ထို့နောက် မဟာဝဂ်၊ စူဠဝဂ်တို့ဖြင့် ပိုင်းခြားထားသော ခန္ဓကများနှင့် ပရိဝါရ ပါဠိတော်များကို သင်္ဂါယနာ တင်ကြပေသည်။

ဝိနယပိဋကကို အပြည့်အစုံ သင်္ဂါယနာတင်ပြီးနောက် အရှင်ဥပါလိသည် ဆင်စွယ်ယပ်ဝန်းကို နေရာမှာ ပြန်ထားလိုက်၏။ တရားပလ္လင်ထက်မှ လက်အုပ်ချီလျက် ဆင်းသက်ကာ သူ့နေရာသို့ ပြန်သွား၏။ ဤတွင် သံဃနာယက အရှင်မဟာကဿပက–

"ငါ့ရှင်တို့၊ သံဃာသည် ငါ၏ စကားကို နားဆင်ပါလော့။ သံဃာအား လျောက်ပတ်သော အခါအခွင့် ရှိပါလျှင် ငါသည် အာနန္ဒာကို ဓမ္မကို မေးပါအံ့"

ပုစ္ဆက ပုဂ္ဂိုလ်အဖြစ်ဖြင့် မိမိကိုယ်ကို ဆက်လက်၍ သမုတ်လိုက်ပြန်ပါသည်။ ကျွန်ုပ်ကလည်း မိမိနေရာမှ အရိုအသေပြုရင်း–

"အရှင်ဘုရားတို့၊ သံဃာသည် တပည့်တော်၏ စကားကို နားဆင်ပါလော့။ သံဃာအား လျောက်ပတ်သောအခါအခွင့် ရှိပါလျှင် တပည့်တော်သည် အရှင်မဟာကဿပ မေးမြန်းသော ဓမ္မကို ဖြေကြားပါအံ့"

ဝိသဇ္ဇက ပုဂ္ဂိုလ်အဖြစ် မိမိကိုယ်ကို သမုတ်လိုက်ရ၏။ ထို့နောက် သင်္ကန်းကို သေသပ်နိုင်သမျှ သေသပ်စွာပြုပြင်၍ လက်ကတော့ထိုးကာ သီတင်းကြီးသံဃာများထံ လက်အုပ်ချီလျက် ဓမ္မာသန ပလ္လင်ထက် တက်လိုက်ရ၏။ ရရှိထားသော အရဟတ္တဖိုလ်၏ အရှိန်အဝါကြောင့် ဣန္ဒြေတည်ငြိမ်ရေးအတွက် အထူးတလည် သတိထား မနေရတော့ပါ။ လျှပ်ပေါ်လော်လည်မှု၊ စိုးရိမ်ကြောက်ရွံ့မှုများ လုံးဝမရှိတော့သဖြင့် ကျွန်ုပ်၏ ကိုယ်ရောစိတ်ပါ တည်ငြိမ်စွာရှိနေကြပါသည်။ ဝိသဇ္ဇက ပုဂ္ဂိုလ်၏ အဆောင်အယောင်ဖြစ်သော ဆင်စွယ်ယပ်ဝန်းကို ကိုင်ဆောင်လိုက်ပါသည်။

ကျွန်ုပ် နေသားတကျဖြစ်သောအချိန်တွင် ပုစ္ဆက အရှင်မြတ်ကြီးက ဓမ္မပိုင်းကို စတင်၍ မေးမြန်းပါတော့သည်။

"ငါ့ရှင်အာနန္ဒာ၊ ဗြဟ္မဇာလသုတ်ကို အဘယ်နေရာဌာန၌ အဘယ်ပုဂ္ဂိုလ်ကို အကြောင်းပြု၍ အဘယ်သို့သော အမှုကြောင့် ဟောကြားတော်မူခဲ့ပါသနည်း"

"အရှင်ဘုရား၊ နာဠန္ဒာမြို့နှင့် ရာဇဂြိုဟ်မြို့တော်အကြား အမ္ဗလဋ္ဌိကာ ဥယျာဉ်အတွင်း မင်းကွန်း၌ သုပ္ပိယပရိဗိုဇ်နှင့် ဗြဟ္မဒတ်လုလင် တို့ကို အကြောင်းပြု၍ ချီးမွမ်းခြင်း၊ ကဲ့ရဲ့ခြင်းဟူသော အမှုကြောင့် ဟောကြားတော်မူခဲ့ပါသည် ဘုရား"

ပုစ္ဆက အရှင်မြတ်ကြီး၏ မေးခွန်းကို အကျဉ်းချုပ်၍ ဖြေကြားပြီးမှ ဗြဟ္မဇာလသုတ် ပေါ်ပေါက်လာရပုံကို အကြောင်းစုံကို လျှောက်ထားရပါသည်။ ကျွန်ုပ်၏ တစ်သက်တာမှတ်တမ်း အလယ်ပိုင်းတစ်နေရာတွင် သုပ္ပိယတို့ ဆရာတပည့် အကြောင်းကို ကျွန်ုပ်၏ ပရိသတ်များ ကြားနာခဲ့ရဖူးပါပြီ။

ပိဋကအားဖြင့် သုံးပါးရှိသော ဘုရားစကားတော်များကို နိကာယ်အားဖြင့် စုစည်းလိုက်လျှင် ငါးမျိုးရ၏။ ဒီဃနိကာယ်၊ မဇ္ဈိမနိကာယ်၊ သံယုတ္တနိကာယ်၊ အင်္ဂုတ္တရနိကာယ်၊ ခုဒ္ဒကနိကာယ်တို့ ဖြစ်၏။ ပဌမဆုံးသော ဒီဃနိကာယ်တွင်

သီလက္ခန္ဓဝဂ်၊ မဟာဝဂ်၊ ပါထိကဝဂ် ဟူ၍ သုံးစု စုထားကြ၏။ ဗြဟ္မဇာလသုတ်သည် ထိုဝဂ်မှ ပထမဆုံးဖြစ်သဖြင့် အရှင် မဟာကဿပက ပထမဆုံး မေးမြန်းတော်မူခြင်း ဖြစ်ပါသည်။

ထို့နောက် ထိုဝဂ်အတွင်း ကျန်သောသုတ်များ၊ ကျန်သောဝဂ်များ၊ ကျန်သော နိကာယ်များကို တစ်ခုမကျန် ဆက်လက် မေးမြန်း၏။ ပုစ္ဆက အရှင်မြတ်ကြီး မေးလေသမျှကို ကျွန်ုပ်ကလည်း နေရာဒေသ၊ ရည်ညွှန်းခံပုဂ္ဂိုလ်၊ ဟောကြားရခြင်း အကြောင်းရင်းများနှင့်တကွ ပြည့်ပြည့်စုံစုံ လျှောက်ထားရ၏။ ထိုစဉ်က ကျွန်ုပ် လျှောက်ထားခဲ့သည့် အစီအစဉ်အတိုင်း နောက်နောင်တွင် ဆက်လက်၍ ပို့ချ သင်ယူကြရန် သံဂီတိကာရကပုဂ္ဂိုလ်အားလုံးက သတ်မှတ်လိုက်ကြပေသည်။

ဝါခေါင်လပြည့်ကျော် ငါးရက်မှ စတင်ကျင်းပလာခဲ့သော သင်္ဂါယနာပွဲတော် ကြီးကို ကျွန်ုပ်တို့သည် နေ့စဉ်ရက်ဆက် ကျင်းပလာခဲ့ကြ၏။ သာသနဒါယကာ အဇာတသတ်မင်းကြီး၏ ထောက်ပံ့ကူညီမှုဖြင့် ကျွန်ုပ်တို့မှာ ဆွမ်းကိစ္စအတွက် လုံးဝ မကြောင့်ကြရဘဲ အနာဂတ်သာသနာတော်ကြီး အဓွန့်ရှည်စွာ တည်တံ့နိုင်ရေးကို အားသွန်၍ဆောင်ရွက်နိုင်ကြ၏။ ဓမ္မစက်နောက်တွင် အာဏာစက်ဖြင့် စောင့်ရှောက် ထားသဖြင့် အပြင်အပမှ နှောင့်ယှက်မှုဟူသမျှလည်း လုံးဝ မပေါ်ပေါက်လာပါ။ နေ့စဉ်နှင့်အမျှ ကြည်ညိုသဒ္ဓါ ဖူးမြင်လာကြသော ဒါယကာ ဒါယိကာမများသည် တိုး၍ တိုး၍ လာကြပေသည်။

ကုန်လွန်ခဲ့သော ရက်များနှင့် ပြီးစီးခဲ့သော သုတ်များကို ဖယားချ၍ တွက် ချက်ကြည့်သောအခါ ဤသင်္ဂါယနာပွဲတော်ကြီးကို ခုနစ်လတိုင်တိုင် ကျင်းပရမည် ဟု အဖြေထွက်လာလေသည်။

**(စူဠဝဂ်၊ ပဉ္စသတိကက္ခန္ဓက ပါဠိတော်ပါရာဇိကကဏ္ဍ အဋ္ဌကထာ၊ ဗာဟိရနိဒါန်း၊ ပထမ မဟာသံဂီတိကထာ)**

**

## နှလုံးအေးဖြင့် အငြိမ်းပေးလိုက်ပါသည်

အနာဂတ်သာသနာတော်ကြီး အခြေခိုင်မာရေးအတွက် ဆောင်ရွက်ကြရသော ကိစ္စကြီး ပြီးစီးခါနီးပါပြီ။ ကျွန်ုပ်၏ တပည့် အစဉ်အဆက်များ၊ ပရိသတ်တို့၏ သားစဉ်မြေးဆက်များအထိ ဤပွဲတော်ကြီးကို အမှတ်တရ ဖြစ်နေရစ်ကြပါလိမ့်မည်။ ဤကမ္ဘာတွင် ဤသာသနာတည်ရှိနေသမျှ ကာလပတ်လုံး ဤပွဲတော်ကြီး၏ ကျေးဇူးဂုဏ်ကို အလေးထားကြရပါလိမ့်မည်။ ဤပွဲတော်ကြီး၏ စံနမူနာကို ယူကြရပါလိမ့်မည်။

ဤမျှလောက် ကျေးဇူးကြီးမားလှသော ဤမျှလောက် အရှိန်အဝါ ကြီးမားလှသော ပွဲတော်ကြီးတွင် အချက်အချာ အကျဆုံးနေရာမှ ကျွန်ုပ် ထမ်းဆောင်ခွင့်ရခဲ့ပါ၏။ အရှင်ဥပါလိနှင့်အတူ တာဝန်ယူခဲ့ရပါ၏။ ဤသို့ တာဝန်ယူကာ ဆောင်ရွက်ခွင့်ရခြင်းမှာ ရှင်မဟာကဿပ၏ကျေးဇူးကြောင့် ဖြစ်ပါ၏။ ပဋိသမ္ဘိဒါ ဉာဏ်ကြီးရှင် ရဟန္တာပုဂ္ဂိုလ်များကြားတွင် ကျွန်ုပ် ပါဝင်နိုင်အောင် ကြိုးဆောင်ပေးခဲ့သောကြောင့် ဖြစ်ပါ၏။

ဤသို့ ကြိုးဆောင်ပေးခြင်းမှာ ကျွန်ုပ်အပေါ်ထားရှိသော အရှင်မြတ်ကြီးကျေးဇူးကြောင့် ဖြစ်ပါသည်။ အစဉ်ထာဝရ ပိုသခဲ့သော မေတ္တာကြောင့် ဖြစ်ပါ၏။ သို့ရာတွင် ဤမေတ္တာကို ခံယူရသော ကျွန်ုပ်မှာကား အစဉ်ထာဝရ သက်သောင့်သက်သာ မရှိခဲ့ပါ။ တစ်ခါတစ်ရံတွင် ဘေးကျပ်နံကျပ် အခြေအနေမျိုးနှင့် တိုးခဲ့ရပါသည်။

သာသနာတော် အစွန့်ရှည်ရေးအတွက်ဆိုလျှင် အရှင်မြတ်ကြီးသည် ကျွန်ုပ်ကို ထိုက်ထိုက်တန်တန် နေရာပေးခဲ့ပါ၏။ သို့ရာတွင် သာသနာတော်ကြီး အစွန့်ရှည်ရေးတွင် အနှောင့်အယှက်ပေးနိုင်သည်ဟု ယူဆရသော ကိစ္စအတွက်ကား ကျွန်ုပ်ကို မျက်နှာသာ မပေးခဲ့ပါ။ ကျွန်ုပ်ကို ခေါင်းမထူနိုင်လောက်အောင် နှိပ်ကွပ်ခဲ့သည်သာ ဖြစ်ပေသည်။

ဤအကြောင်းခြင်းရာများကို ကျွန်ုပ်၏ ပရိသတ်များထံ တင်ပြ၍ သင့်မှ သင့်ပါမည်လောဟု ကျွန်ုပ် စဉ်းစားခဲ့ပါ၏။ အရှင်မြတ်ကြီးအပေါ် အထင်လွဲစရာ ဖြစ်လာမည်လောဟု တွက်ချက်ကြည့်ခဲ့မိပါ၏။ သို့ရာတွင် ကျွန်ုပ်၏ တင်ပြချက်ကို ကျေကျေညက်ညက် နားဆင်မိကြလျှင် အရှင်မြတ်ကြီးတို့၏ စေတနာမှန်ကို ကိုယ်ပိုင်ဉာဏ်ဖြင့် သိမြင်နိုင်ကြပါလိမ့်မည်။ ထို့ကြောင့် ထင်ရှားကျော်ကြားလှသော သင်္ဂါယနာပွဲတော်ကြီး၏ နောက်ကွယ်မှ လူသိနည်းသော ကြောင်းခြင်းရာများကို တင်ပြရပါဦးမည်။

သင်္ဂါယနာအစီအစဉ်တွေ ခေတ္တရပ်နားခိုက် ကျွန်ုပ်သည် ကြားဖြတ် အစီအစဉ်တစ်ခုကို တင်ပြလိုက်ပါ၏။

အမှန်အားဖြင့် ဤစကားကို သင်္ဂါယနာပွဲ စတင် မကျင်းပမီကတည်း က လျှောက်ထားရမည် ဖြစ်ပါ၏။ ဝိနယအပိုင်းနှင့် ပတ်သက်နေသဖြင့် ဝိနယပိဋကကို အတည်မပြုမီကတည်းက အသိပေးရမည် ဖြစ်ပါ၏။ သို့ပါလျက် ကျွန်ုပ်သည် သတိမေ့လျော့ခဲ့မိ၏။ မဟာပရိနိဗ္ဗာနသုတ်ကို စိစစ်ကြ သောအခါတွင်မှ ဤစကားကို သတိရလာ၏။ နောက်ကျမှ သတိရလာသော ဤစကားကို တင်ပြ၍ကော အကျိုးထူးပါဦးမည်လော၊ အကျိုးထူးမည် မထူးမည် အပထား၊ ကျွန်ုပ်အပေါ် ဘုရားရှင် ကိုယ်တော်တိုင် မှာကြားတော်မူခဲ့သော စကားကိုကား လျစ်လျူမရှုနိုင်ပါ။ ထို့ကြောင့်–

"အရှင်ဘုရား၊ ဘုရားရှင် ပရိနိဗ္ဗာန်စံခါနီးတုန်းက 'အာနန္ဒာ၊ သံဃာသည် အလိုရှိခဲ့သော် ခုဒ္ဒါနုခုဒ္ဒက သိက္ခာပုဒ်များကို ပယ်နုတ်ရာ၏' ဟု မိန့်ကြားတော်မူ ခဲ့ပါသည် ဘုရား"

သံဂီတိကာရက သံဃာအားလုံး ကြားသိအောင် လျှောက်ထားရပါတော့ သည်။ ဝိနယပိဋကကို သင်္ဂါယနာတင်၍ ပြီးစီးနေသော်လည်း ဤအစည်းအဝေးကြီး မပြီးစီးသေးသဖြင့် သံဃာ့ဆန္ဒအရ ပြင်လိုလျှင် ပြင်နိုင်ခွင့် ရကြပါသေးသည်။

ခုဒ္ဒါနုခုဒ္ဒက သိက္ခာပုဒ်ဟူသည်မှာ အခြေအနေအရ ပညတ်တော်မူခဲ့ရသော သိက္ခာပုဒ် အသေးစားကလေးများ ဖြစ်၏။ ထိုသိက္ခာပုဒ်များကို သံဂီတိကာရက ပုဂ္ဂိုလ်အချို့က ပယ်နုတ်ရန် စိတ်ထက်သန်လာကြ၏။ အနာဂတ်သံဃာများ အနေရ အစားရ ချောင်ချိစေရန် ရည်သန်ကြပါ၏။ သို့ရာတွင် ခုဒ္ဒါနုခုဒ္ဒက သိက္ခာပုဒ်ကို ဘယ်သင်းဘယ်ဟာဟု သေသေချာချာ သတ်မှတ်ရေးတွင်ကား အခက်တွေ့နေ ကြရပေသည်။ ထို့ကြောင့် အရှင်မြတ်ကြီးတို့က ကျွန်ုပ်ကို မေးကြပေသည်။

"အာနန္ဒာ၊ ဘယ်သင်း ဘယ်ဟာသည် ခုဒ္ဒါနုခုဒ္ဒက သိက္ခာပုဒ်ပါနည်း ဟူ၍ ဘုရားရှင်ကို သင် မေးလျှောက်ခဲ့ပါ၏လော"

"မလျှောက်ခဲ့မိပါ ဘုရား"

ကျွန်ုပ်ကလည်း ဟုတ်တိုင်းမှန်ရာ လျှောက်ထားလိုက်ရ၏။ ဤတွင် သံဂီတိကာရက သံဃာများ အလုပ်များကြပါတော့သည်။ ခုဒ္ဒါနုခုဒ္ဒက သိက္ခာပုဒ်များကို အမျိုးအမျိုးအဖုံဖုံ ကောက်ယူကြပါတော့သည်။

တချို့က ပါရာဇိကသိက္ခာပုဒ်ကြီး လေးခုမှတစ်ပါး အားလုံးကို သတ်မှတ်လိုကြ၏။ တချို့က သိက္ခာပုဒ်ကြီးများထဲတွင် သံဃာဒိသိသ်သိက္ခာပုဒ် တစ်ဆယ့်သုံးပါးကိုပါ ထည့်လိုကြ၏။ တချို့က အနိယတ သိက္ခာပုဒ်နှစ်ပါးကိုပါ သိက္ခာပုဒ်ကြီးများထဲ ထည့်လိုကြ၏။ တချို့က နိဿဂ္ဂိပါစိတ်သိက္ခာပုဒ်သုံးဆယ်ကိုပါ သိက္ခာပုဒ်အကြီးစား သတ်မှတ်လိုကြ၏။ တချို့က သုဒ္ဓပါစိတ် ကိုးဆယ့်နှစ်ပါးတိုင်အောင် သိက္ခာပုဒ်အကြီးစား သတ်မှတ်လိုကြ၏။ တချို့ပုဂ္ဂိုလ်များက ပါဋိဒေသနီ သိက္ခာပုဒ် လေးပါးတိုင်အောင် သိက္ခာပုဒ်ကြီး စာရင်းသွင်းလိုကြ၏။ ဤသို့ အမျိုးမျိုးအဖုံဖုံ သတ်မှတ်နေကြသဖြင့် ဘုရားရှင်၏ စကားကို အကောင်အထည် ဖော်ရ ခက်နေကြရ၏။

ကျွန်ုပ်သာ သတိကောင်းကောင်းနှင့် မေးလျှောက်ခဲ့မိပါက လက်ရှိ ဝိနယပိဋကသည် တစ်မျိုးတစ်ဖုံ ပြောင်းလဲကောင်း ပြောင်းလဲနိုင်ပေသည်။ သို့သော် တစ်ဖက်ကလည်း အခြေအနေအရပ်ရပ်ကို ထိန်းသိမ်းနိုင်စွမ်းသော အရှင်မဟာကဿပ ရှိနေသည်ကို သတိမမေ့သင့်ပါ၊ ထို့ကြောင့်လည်း သဘောထား အမျိုးမျိုးကွဲပြားနေသော သံဂီတိကာရကပုဂ္ဂိုလ်များကို အရှင်မြတ်ကြီးက ထိန်းသိမ်းလိုက်ပြီ မဟုတ်ပါလော။

"ငါ့ရှင်တို့၊ သံဃာသည် ငါ၏ စကားကို နားဆင်ပါလော့။ ငါတို့၏သိက္ခာပုဒ်များကို လူတို့လည်း သိကြကုန်၏။ 'ဤသည်ကား သကျပုတ္တိယ်ဖွား ရဟန်းတို့အား အပ်စပ်၏။ ဤသည်ကား သကျပုတ္တိယ်ဖွား ရဟန်းတို့အား မအပ်စပ်' ဟု သိကြကုန်၏။ အကယ်၍ ငါတို့သည် ခုဒ္ဒါနုခုဒ္ဒက သိက္ခာပုဒ်များကို ပယ်နုတ်ကုန်ငြားအံ့၊ လူအများတို့ ပြောစရာ ဆိုစရာဖြစ်ကြရကုန်အံ့။ 'သာဝကတို့အတွက် အရှင်ဂေါတမ ပညတ်ထားခဲ့သော သိက္ခာပုဒ်သည် ကာလတာရှည် မတည်ချေတကား။ မီးလောင်နေတုန်းမှာ ထင်ရှားသော မီးခိုးကဲ့သို့ ခဏကလေးနှင့် ပျောက်ပျက်ခဲ့ချေပြီတကား။ သူတို့၏ ဆရာသခင်ရှိတုန်းမှာသာ သိက္ခာပုဒ်များအတိုင်း ကျင့်ကြကုန်၏။ သူတို့ ဆရာသခင် ပရိနိဗ္ဗာန်စံပြီးချိန်မှာကား သိက္ခာပုဒ်များအတိုင်း မကျင့်ကြတော့ချေတကား'။ ဤသို့ လူအများ၏ ဝေဖန်ကဲ့ရဲ့စရာ ဖြစ်ကြရကုန်အံ့။ အကယ်၍ သံဃာအား လျှောက်ပတ်သော အခါအခွင့်ရှိပါလျှင် သံဃာသည် ဘုရားရှင် ပညတ်တော်မမူခဲ့သည်ကို မပညတ်ရာ။ ဘုရားရှင် ပညတ်တော်မူပြီးသည်ကို မပယ်နုတ်ရာ။ ဘုရားရှင် ပညတ်တော်မူခဲ့သည့်အတိုင်းသာလျှင် ဆောက်တည်၍ ကျင့်ရာ၏။ ဤသည်ကား အသိပေးခြင်းပင်တည်း"

ကံကြီးကံငယ် ပြုကြရသောအခါ၌ ဤသို့ အသိပေးခြင်း၊ တိုင်တည်ခြင်းကို ဉတ်ထားသည် ခေါ်ကြရ၏။ ယခုလည်း သာသနာ့သမိုင်း တစ်လျှောက်တွင် အရေးကြီးဆုံးသော ကံကြီးတစ်ခုကို ပြုကြရပေတော့မည်။

ကံပြုရာတွင် ပြောဆိုရွတ်ဖတ်ရသော စကားစုကို ကမ္မဝါစာဟု ခေါ်၏။ တိတိကျကျ ပြည့်ပြည့်စုံစုံ ကံမြောက်အောင် ပြောဆိုသော စကားစုဟု အဓိပ္ပာယ်ရပေသည်။

ကံကြီးကံငယ်ပြုရာတွင် အစီအစဉ်အရ ပထမဦးစွာ ဤသို့ ဉတ်ထားကာ အသိပေးလိုက်လျှင် သဘောမတူသော ရဟန်းသည် ကန့်ကွက်နိုင်ခွင့်ရှိ၏။ သို့သော် မိမိကန့်ကွက်ချက်ကို သံဃာအများ၏ ထောက်ခံဆန္ဒမဲ မရလျှင် မအောင်မြင်ပါ။ ထို့ကြောင့် သဘောမတူညီသော သံဃာများကလည်း နှုတ်ဆိတ်၍ နေကြ၏။ ဤတွင် ဉတ်မှာ ပါဝင်ခဲ့သော စကားစုများကို အတည်ပြုကြောင်း အရှင်မဟာကဿပက ကမ္မဝါစာရွတ်ဖတ်၍ ကြေညာလိုက်ပေသည်။

သံဃနာယက အရှင်မဟာကဿပ၏ အုပ်ထိန်းနိုင်မှုကြောင့် အငြင်းပွားဖွယ်ရာ ကိစ္စကြီးတစ်ခု ချုပ်ငြိမ်းသွားခဲ့ပါပြီ။ ဤသာသနာ့ဘောင်မှာနေလျှင် ရှိပြီးသား သိက္ခာပုဒ်များအတိုင်း စိတ်နှလုံးတုံးတုံးချ၍ ကျင့်ကြရုံသာ ရှိပေတော့သည်။ ဤသို့ ပြဿနာတစ်ခု ပြေငြိမ်းသွားခါမှ နောက်ဆက်တွဲ ပြဿနာများက ပေါ်ပေါက်လာကြပေတော့သည်။

"ငါ့ရှင်အာနန္ဒာ၊ ဘယ်သင်း ဘယ်ဟာသည် ခုဒ္ဒါနုခုဒ္ဒက သိက္ခာပုဒ်ပါနည်းဟု သင်သည် ဘုရားရှင်ကို မမေးလိုက်ခဲ့။ ဤသို့ မမေးလိုက်ခြင်းသည် သင်၏ အပြစ်ဖြစ်သည်။ ထိုအပြစ်ကို ဝန်ခံပါလော"

ကျွန်ုပ်ကိုယ်တိုင် လေးစားကြည်ညိုခဲ့ရသော မထေရ်ကြီးများက ကျွန်ုပ်ကို ဝိုင်း၍ အရေးဆိုလာကြပါတော့သည်။

ကျွန်ုပ်သည် အရေးဆိုလာကြသော မထေရ်ကြီးများ၏ မျက်နှာများကို တစ်ပါးချင်း တစ်ပါးချင်း လှည့်လည် ဖူးမြော်နေမိ၏။ ဤမျက်နှာ ဤမျက်နှာများသည် ကျွန်ုပ်အပေါ် အစဉ်ထာဝရ မေတ္တာထားခဲ့ကြ၏။ ဤအရှင်မြတ်ကြီးတို့၏ နှုတ်ဖျားမှ ကျွန်ုပ်အား ချီးမွမ်းသော စကားများ အစီအရီထွက်လာခဲ့ကြ၏။ ယခု သည်နှုတ်ဖျားမှ ကျွန်ုပ်ကို တစ်ချက်လွှတ် အရေးဆိုလာကြချေပြီ။ အရှင်မြတ်ကြီးတို့၏ မျက်နှာတွင် တင်းမာခက်တရော်သော သဘောထား မရှိသော်လည်း တစ်စုံတစ်ခုသော အကြောင်းကိစ္စနှင့်ပတ်သက်၍ ယတိပြတ် ဆုံးဖြတ်ထားကြဟန်ရှိပေသည်။ ဘုရားရှင့်အလိုတော်ကို အနီးစပ်ဆုံး မှန်းဆနိုင်ခဲ့သော ကျွန်ုပ်သည် မထေရ်ကြီးများနှင့်ကား တစိမ်းပြင်ပြင် ဖြစ်နေရချေပြီတကား။ ကျွန်ုပ် သာဝတ္ထိမြို့တော်ဆီ ထွက်သွားစဉ်ကပင် ဤအစီအစဉ် ရှိခဲ့ပြီး ဖြစ်ပါလိမ့်မည်။ သို့သော်

ကျွန်ုပ်အပေါ် ထောက်ထားဖွယ်ရာများ ရှိနေသဖြင့် စကားစရ ခက်နေကြဟန်တူ ပါသည်။ ယခု ကျွန်ုပ်က စကားစလိုက်ပြီဖြစ်၍ စီစဉ်ထားသည့်အတိုင်း ဝိုင်းလာ ကြခြင်း ဖြစ်ပါလိမ့်မည်။

ဝိုင်းလာကြသော မထေရ်ကြီးများတွင် ကျွန်ုပ်ကို သက်ညှာခွင့်ပေးမည့်သူဟူ၍ လုံးဝ မပါဝင်ပါ။ မထေရ်မြတ်ကြီးနေရာ ပလ္လင်ထက်သို့ လှမ်းမျှော် လိုက်ပြန်တော့ လည်း အကြောင်းထူးမလာပါ။ ဘုရားရှင်နှင့် တန်းတူထား၍ လေးစားခဲ့ရသော သံဃနာယကအရှင်မြတ်ကြီးသည် ရှေ့တူရူသို့သာ စူးစိုက်လျက် ရှိနေသည်တကား။

သိက္ခာပုဒ်များ ပယ်နုတ်ရေးကို အကာအကွယ်ပေးနိုင်ခဲ့သော အရှင်မြတ် ကြီးသည် ကျွန်ုပ်အပေါ် ဖိနှိပ်လာသော မထေရ်ကြီးများကိုကား ဟန့်တားမှု မပြု နိုင်ပါချေ။ သို့ဖြစ်၍ ဤအစီအစဉ်များကို စောစောကတည်းက အရှင်မြတ်ကြီး သဘောတူပြီး ဖြစ်ပါလိမ့်မည်။ ဟိုယခင်က အဆင့်အတန်းမျိုးဖြင့်သာ ဤအခြေ အနေမျိုးနှင့် ကြုံရပါလျှင် ကျွန်ုပ်သည် ရှိုက်ကြီးတငင် ငိုပွဲကြီး ဆင်မိဦးမည် ဖြစ်၏၊ ငါ့အပေါ်ဝယ် အနိုင်ယူရက်လေခြင်းဟု စိတ်ဒုက္ခတွေ ပွားမိဦးမည်ဖြစ်၏၊ ယခုတော့ ငိုစရာ မျက်ရည်လည်း မရှိတော့ပါပြီ။ ပွားစရာ စိတ်ဒုက္ခတွေလည်း မရှိတော့ပါပြီ။

ဘယ်သင်းဘယ်ဟာ ခွဲခြားပြီး မမေးလိုက်မိသည်ကို အပြစ်ဟု ဆိုကြ သော်လည်း အာပတ်ခုနစ်ပုံတွင် တစ်ပုံပုံနှင့်မျှ မဆိုင်ပါ။ ဤသို့သော အမှုဖြင့် မည်သည့်အာပတ်မျှ မသင့်နိုင်ပါ။ ဤအကြောင်းကို မထေရ်ကြီးများလည်း မသိဘဲ မနေပါ။ ကောန် သိကြပြီး ဖြစ်ပါသည်။ သို့ပါလျက် အပြစ်ဟူ၍ ဆိုလာကြသဖြင့် ကျွန်ုပ်မှာ ငြင်းရခက်၊ ဝန်ခံရခက် ဖြစ်နေပါတော့သည်။

ကျောက်ထီးတန္တု အလေးပြုရသော မထေရ်မြတ်များ၏ စကားဖြစ်သဖြင့် ကျွန်ုပ်မှာ ငြင်းပယ်ရန်ခက်လှပါ၏။ သို့သော် ဤအမှုကို အပြစ်တစ်ခုဟူ၍ ကျွန်ုပ် လုံးဝ မရှုမြင်နိုင်ပါ။ ကျွန်ုပ်၏ စိတ်ဓာတ်ကို ကျွန်ုပ် အသိဆုံး မဟုတ်ပါလော။ ထိုစဉ်က ဘုရားရှင်သည် ပရိနိဗ္ဗာန်စံမည့်ဆဲဆဲ ဖြစ်နေ၏။ ဘုရားရှင်နှင့် ခွဲခွာရ တော့မှာပါကလား ဟူသော စိတ်သောကတွေ ဖိစီးနေသဖြင့် ခွဲခွဲခြားခြား မေး လျှောက်ရန် သတိမရခဲ့ခြင်းသာဖြစ်၏။ ဘုရားရှင်ကိုလည်းကောင်း၊ သံဃာကို လည်းကောင်း မလေးစား၍မဟုတ်ပါ။ သို့ဖြစ်လျှင် အပြစ်မဟုတ်သည်ကို မဟုတ်ဟု တည့်တည့်လင်းလင်း ငြင်းပယ်လိုက်ပါတော့လား။

ဤသို့လည်း မဖြစ်နိုင်ပါ။ ကျွန်ုပ်ကသာ ငြင်းလိုက်လျှင် ဤနေရာမှာပင် နှစ်ပိုင်း နှစ်ပက္ခ ဖြစ်သွားပါတော့မည်။ အရေးဆိုလာကြသော မထေရ်ကြီးများကား လုံးဝ အလျှော့ပေးကြမည် မဟုတ်ပါ။ ဤသို့သာ ကွဲပြားရပါလျှင် ဆောင်ရွက်နေဆဲ ကိစ္စကြီး မရှုမလှ ပျက်စီးရပါတော့မည်။ အနာဂတ် သာသနာရေး အဆောက်

အအုံကြီးသည် အုတ်မြစ်ကစ၍ ပြိုပျက်ရပါတော့မည်။ ဝဿကာရ အမတ်ကြီးရှေ့မှာ ဂုဏ်ယူခဲ့မိလေသမျှ အရှက်ရစေရန် ဖြစ်လာပါတော့မည်။ ကျွန်ုပ်၏ တစ်သက်တာတွင် အကျဉ်းအကျပ်ဆုံးသော အခြေအနေပင် ဖြစ်ပါတော့သည်။

အခြားပုဂ္ဂိုလ်များနှင့် ပတ်သက်သော ကိစ္စဆိုလျှင် မထေရ်ကြီးများ၏ ဆန္ဒကို လိုက်လျောရန် ကျွန်ုပ် မခဲယဉ်းပါ။ ယခုသော် ဘုရားရှင်နှင့် ပတ်သက်သော ကိစ္စဖြစ်နေ၏။ ဘုရားရှင်အပေါ် ချစ်မြတ်နိုးသောကြောင့်သာ သောကပရိဒေဝ ဖိစီးခဲ့ရ၏။ သောကပရိဒေဝတို့က ဆို့ပိတ်ထားသဖြင့် ခွဲခွဲခြားခြား မေးလျှောက်ရန် သတိမေ့ခဲ့ခြင်း ဖြစ်၏။ ဤသို့ဆိုလျှင် ဘုရားရှင်အပေါ် ချစ်မြတ်နိုးခြင်းသည်ပင် အပြစ် ဖြစ်မနေပါလော။

မည်သို့ပင်ဖြစ်စေ။ ကျွန်ုပ်သည် သာသနာ့ဝန်ထမ်း ရဟန်းတစ်ပါးဖြစ်၏။ သာသနာတော်ကြီး တစ်ရပ်လုံး၏ အခြေခံဖြစ်သော သံဃာထဲမှာ အပါအဝင်ဖြစ်၏။ ထို့ကြောင့် သံဃာ၏ မျက်နှာကို ထောက်ထားရပါလိမ့်မည်။ ယခုမျက်မှောက်ရောက်ရှိနေသော သံဃာများနှင့်တကွ အရပ်လေးမျက်နှာမှာ လာလတ္တံ့သော သံဃာများကိုပါ ငဲ့ညှာရပါလိမ့်မည်။ ထို့ပြင် တစ်ဖက်မှလည်း ဘုရားရှင်အပေါ် ချစ်မြတ်နိုးသော စိတ်သဘောကို အပြစ်ထဲမှာ မပါဝင်အောင် ရှောင်ရှားရပါဦးမည်။ ထို့ကြောင့် ကျွန်ုပ်က စဉ်းစဉ်းစားစားနှင့် ဤသို့ လျှောက်ထားရပါတော့သည်။

"အရှင်ဘုရားတို့၊ တပည့်တော်သည် သောက ပရိဒေဝတို့ ဆို့ပိတ်ကာ သတိမေ့လျော့မိ၍ မလျှောက်ထားမိခြင်းသာ ဖြစ်ပါသည်။ ဘုရားရှင်ကို လည်းကောင်း၊ သံဃာကိုလည်းကောင်း မလေးစား၍ မဟုတ်ပါ။ ထို့ကြောင့် ထိုအမှုကို တပည့်တော်အနေဖြင့် အပြစ်ဟူ၍ ရှုမြင်၍ မရနိုင်ပါ။ သို့သော် အရှင်မြတ်ကြီးများကို လေးစားသောအားဖြင့် အပြစ်ဟူ၍ ဝန်ခံပါသည်ဘုရား"

မထေရ်ကြီးများနှင့်လည်း မဆန့်ကျင်အောင် ဘုရားရှင်ကို ချစ်မြတ်နိုးသော စိတ်ဓာတ်ကိုလည်း အပြစ်ထဲ ပါဝင်မသွားအောင် သတိထား၍ လျှောက်ထားလိုက်ရပေသည်။

ဤသို့ ကျွန်ုပ်ဘက်က နှလုံးအေးနှင့် အရှုံးပေးလိုက်သဖြင့် မထေရ်ကြီးများ ကျေနပ်သွားကြပါ၏။ သံဃနာယက အရှင်မြတ်ကြီးသည် ကျွန်ုပ်ထံသို့ မျက်နှာမူ၍ လာပါ၏။ ဟိုယခင်တုန်းက ကျွန်ုပ်ကို ကလေးငယ်ကလေးတမျှ ကြိမ်းခဲ့မောင်းခဲ့သော အရှင်မြတ်ကြီးသည် ယခုတော့ ကရုဏာဒြေရရနှင့် ခေါင်းညိတ်နေပေသည်။

"ငါ့ရှင်အာနန္ဒာ၊ သင်သည် ဘုရားရှင်၏ မိုးရေခံ သင်္ကန်းကို ခြေထောက်နှင့် နင်း၍ချုပ်ခဲ့၏။ ဤသို့ချုပ်ခြင်းသည် သင်၏အပြစ်ဖြစ်၏။ ထိုအပြစ်ကိုဝန်ခံပါလော့"

ပထမတစ်မှု ပြေလည်သွားချိန်တွင် နောက်တစ်မှုက ထက်ကြပ်မကွာ လိုက်ပါလာပြန်ပေသည်။

တကယ်တော့ဖြင့် ဤအမှုမှာလည်း အပြစ်မဟုတ်ပါ။ ထိုစဉ်က ဘုရားရှင့်ခြေတော်ရင်းတွင် ကျွန်ုပ် တစ်ပါးတည်းရှိနေ၏။ ဝမ်းရောဂါ ခံစားနေရသော ဘုရားရှင်ကို ပြုစုရင်း ဘုရားရှင်၏ မိုးရေခံ သင်္ကန်းကို ဖြစ်သလို ချုပ်လိုက်ရခြင်းသာဖြစ်၏။

မည်သို့ပင် ဖြစ်စေ၊ ဤအမှုကိုလည်း ကျွန်ုပ်ဘက်က အရှုံးမပေးလျှင် နှလုံးမအေးရာ ကျပါလိမ့်မည်။ သို့ဖြစ်၍–

"အရှင်ဘုရားတို့၊ တစ်ဖက်မှ ဆွဲကိုင်ထားမည့် ရဟန်းတစ်ပါးမျှ မရှိသဖြင့် တပည့်တော်တစ်ပါးတည်း ဖြစ်သလို ချုပ်လိုက်ရခြင်းဖြစ်ပါသည်။ ဘုရားရှင်ကို မရိုသေ၍ မဟုတ်ပါ။ ထို့ကြောင့် ဤအမှုကို တပည့်တော် အနေနှင့် အပြစ်ဟူ၍ ရှုမြင်၍မရနိုင်ပါ။ သို့သော် အရှင်မြတ်ကြီးများကို လေးစားသောအားဖြင့် အပြစ်ဟူ၍ ဝန်ခံပါသည်ဘုရား"

ဒုတိယအကြိမ်မှာလည်း မထေရ်ကြီးများ၏ အလိုသို့ လိုက်၍ လျှောက်ထားလိုက်ရပြန်ပါသည်။ သို့သော် မထေရ်ကြီးများ၏ အစီအစဉ်က မပြီးဆုံးသေးပါ။

"ငါ့ရှင်အာနန္ဒာ၊ သင်သည် ကုသိနာရုံ အင်ကြင်းစုံ၌ အမျိုးသမီးများကို ပထမဦးစွာ ဘုရားဖူးခွင့် ပေးခဲ့၏။ သူတို့တစ်တွေ တရှုပ်ရှုပ် ငိုကြွေးကြရာတွင် ဘုရားရှင်ကိုယ်တော်မြတ်မှာ သူတို့၏ မျက်ရည်များ ပေကျံခဲ့ရ၏။ ဤသို့ ပေကျံရခြင်းသည် သင်၏ အပြစ်ဖြစ်၏။ ထိုအပြစ်ကို ဝန်ခံပါလော့"

ကျွန်ုပ်အပေါ် အပြစ်တင်ရာတွင် အမျိုးသမီးနှင့်ပတ်သက်သောကိစ္စ ပါဝင်လာချေပြီ။ ကျွန်ုပ်မှာ အမျိုးသမီးများနှင့် အကျွမ်းတဝင်ရှိခဲ့သည်မို့ လုံးဝ ကင်းကင်းရှင်းရှင်းကြီး နေခဲ့ကြသော မထေရ်ကြီးများ၏ စိတ်ထဲမှာ စနိုးစနောင့် ရှိကြသလား မဆိုနိုင်ပါ။ သို့သော် ကျွန်ုပ်ကလည်း ကိုယ့်သိက္ခာကို ယုံကြည်စိတ်ချ၍ ထားပါသည်။ ထို့ကြောင့်–

"အရှင်ဘုရားတို့၊ အမျိုးသမီးများ ညဉ့်နက်သန်းခေါင်အထိ တောထဲမှာ မနေကြရပါစေနှင့် ဟူသော စေတနာဖြင့် သူတို့ကို ပထမဦးစွာ ဘုရားဖူးခွင့် ပေးခဲ့ရခြင်း ဖြစ်ပါသည်။ ထို့ကြောင့် ထိုအမှုကို တပည့်တော်အနေနှင့် အပြစ်ဟူ၍ ရှုမြင်၍ မရနိုင်ပါ။ သို့သော် အရှင်မြတ်ကြီးများကို လေးစားသောအားဖြင့် အပြစ်ဟူ၍ ဝန်ခံပါသည်ဘုရား"

ဟုတ်တိုင်းမှန်ရာကို လျှောက်ထားရင်း တတိယအကြိမ်မြောက် အရှုံးပေးလိုက်ရပြန်ပါသည်။ သည်နေ့မှာတော့ အရှုံးပေးပြီးရင်းပေးဖို့ရာချည်း ဖြစ်နေပါသည်။

"ငါ့ရှင် အာနန္ဒာ၊ ဘုရားရှင်က သိသိသာသာ ပေါ်ပေါ်လွင်လွင်ကြီး အရိပ်နိမိတ်ပြပါလျက် သက်တမ်းပြည့်အောင် တည်ရှိတော်မူပါရန် သင် မလျှောက်ထားခဲ့။ ထိုသို့ မလျှောက်ထားခဲ့ခြင်းသည် သင်၏ အပြစ် ဖြစ်၏။ ထိုအပြစ်ကို ဝန်ခံပါလော့"

"အရှင်ဘုရားတို့၊ ထိုစဉ်က စိုးရိမ်ပူဆွေး ငိုကြွေးရသော ကိလေသာမာရ်တို့ ဆိုပိတ်နေသောကြောင့် မလျှောက်ထားခဲ့မိခြင်း ဖြစ်ပါသည်၊ ဘုရားရှင်ကို သက်တမ်းပြည့်အောင် မတည်ရှိစေလို၍ မဟုတ်ပါ။ ထို့ကြောင့် ထိုအမှုကို တပည့်တော်အနေနှင့် အပြစ်ဟူ၍ ရှုမြင်၍ မရနိုင်ပါ။ သို့သော် အရှင်မြတ်ကြီးများကို လေးစားသောအားဖြင့် အပြစ်ဟူ၍ ဝန်ခံပါသည် ဘုရား"

ဤအပြစ်ကတော့ တစ်ကျော့ပြန်၍ ပေါ်ပေါက်လာခြင်း ဖြစ်ပါသည်။ ဘုရားရှင် ကိုယ်တော်တိုင်ကလည်း ဤသို့ အပြစ်တင်တော်မူခဲ့သေးသည် မဟုတ်ပါလော။ ဘုရားရှင်၏ ရည်ရွယ်ချက်မှာ ကျွန်ုပ်၏ သောကဝေဒနာများ သက်သာရေးအတွက် ဖြစ်ပါသည်။ ယခု မထေရ်ကြီးများက အပြစ်တင်ရာတွင်လည်း ကျွန်ုပ်ကို တမင်သက်သက် နှိပ်စက်လို၍ မဟုတ်ပါ။ ခိုင်မာသော အကြောင်းများ ရှိနေ၍သာ ခိုင်ခိုင်မာမာကြီး ရပ်တည်၍ အပြစ်တင်နေကြခြင်းဖြစ်ပါသည်။ သူတို့၏ စေတနာ အရင်းခံသည် မကြာမီ ပေါ်ပေါက်လာလိမ့်မည်။

"ငါ့ရှင်အာနန္ဒာ၊ ဘုရားရှင်ကိုယ်တော်တိုင် သိမြင်၍ ဟောကြားထားသော သာသနာတော်၌ သင်သည် အမျိုးသမီးများ ရဟန်းပြုခွင့်ကို မရ ရအောင် ကြိုးစားခဲ့၏။ ဤသို့ ကြိုးစားခြင်းသည် သင်၏ အပြစ်ဖြစ်၏။ ထိုအပြစ်ကို ဝန်ခံပါလော့"

ရှေ့ပိုင်းမှာတုန်းက အပြစ်တင်ခဲ့လေသမျှ ဤကိစ္စအတွက်ချည်းပါတကား။ ကျွန်ုပ်၏ နှလုံးအင်အားကို တိုးပွားစေခဲ့ကြသော မထေရ်မြတ်ကြီးများသည် ဤကိစ္စမှာကား ကျွန်ုပ်နှင့် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်နေကြပေသည်။ အမျိုးသမီးများ ရဟန်းပြုခွင့်ကို ဘုရားရှင်က ခြောက်ကြိမ်တိုင်တိုင် ပိတ်ပင်တော်မူခဲ့ပါလျက် ကျွန်ုပ်က မရ ရအောင် ဖွင့်ပေးခဲ့၏။ ဤသို့ ဖွင့်ပေးနိုင်ခဲ့သဖြင့် အမျိုးသမီးများ၏ ချစ်ခင်လေးစားမှုကို ခံယူရပါ၏။ သို့သော် သာသနာ့ဦးသျှောင် အရှင်မြတ်ကြီးများကား ကျွန်ုပ်၏အပြုအမူကို သဘောမတူခဲ့ကြပေ။ သို့သော် ဘုရားရှင် ကိုယ်တော်တိုင်က ခွင့်ပြုထားပြီး ဖြစ်၍လည်း မည်သို့မျှ မဝေဖန်သာ။ ယခု ဘုရားရှင် မျက်နှာလွှဲတော်မူခါမှ ဤကိစ္စကို ပြန်၍ အစဖော်ကြရပေတော့သည်။

ကျွန်ုပ် ဖွင့်ပေးလိုက်သော တံခါးမှ အမျိုးသမီးထုသည် တစ်သုတ်ပြီး တစ်သုတ် ဝင်လာခဲ့ကြ၏။ ဘုရားသားတော်များကဲ့သို့ပင် သူတို့သည်လည်း ဘုရားသမီးတော်များအဖြစ်ဖြင့် သာသနာ့ကျက်သရေကို ဆောင်နိုင်ခဲ့ကြ၏။ တေဒဂ်ဂုဏ်ထူး ဆွတ်ခူးသူများ၊ ဈာန်အဘိညာဉ်ရ ရဟန္တာအရှင်မများ ထွက်ပေါ်လာခဲ့ကြ၏။ ဤသည်ကို မထေရ်မြတ်ကြီးများလည်း ကောင်းကောင်း သိကြပါလိမ့်မည်။ မိမိတို့နှင့်အတူ သာသနာ့အသီးအပွင့်ကို စားသုံးခွင့်ရကြသည်ကို ဝမ်းမြောက်ကြပါလိမ့်မည်။ သို့သော် အခြေအနေချင်းက မတူချေပြီတကား။

ဘုရားရှင်ရှိတော်မူစဉ်တုန်းကတော့ သူ့သမီးတော်များကို ပိုင်ပိုင်နိုင်နိုင် ထိန်းသိမ်းတော်မူခဲ့ပါ၏။ အမျိုးသမီးများ၏ အားနည်းချက်ကို သိတော်မူသည့် အလျောက် ကျွန်ုပ်တို့ထက် ပိုမို၍ တင်းကျပ်သော သိက္ခာပုဒ်များ ပညတ်တော်မူခဲ့၏။ သူတို့ချည်းသီးသန့် ရပ်တည်ခွင့် မပေးဘဲ ကျွန်ုပ်တို့၏ ဩဝါဒကို ခံယူကြရ၏။ သူတို့ဘာသာ ရဟန်းပြုပေးရုံနှင့် မပြီးသေးဘဲ ကျွန်ုပ်တို့ဘက်ကပါ ရဟန်းပြုပေး ရ၏။ မယ်တော်ကြီး မဟာပဇာပတိ ဂေါတမီက ရဟန်းနှင့် ရဟန်းမ မခွဲခြားဘဲ ထေရ်စဉ်ဝါလိုက် အရိုအသေပေးရန် လျှောက်ထားသော်လည်း ဘုရားရှင် ခွင့်ပြု တော်မမူခဲ့ပါ။ အစစအရာရာကျွန်ုပ်တို့၏ဦးဆောင်မှုကိုသာ ခံကြရ၏။ ဤမျှလောက် ထိန်းချုပ်ထားသည့် ကြားကပင် အချို့က ဓာတိပြလာကြပြီး မဟုတ်ပါလော။

ဘုရားရှင်ကိုယ်တော်တိုင်က မိမိနှင့် ထပ်တူထား၍ မြှောက်စားတော်မူခဲ့သော အရှင်မြတ်ကြီးကိုပင် ထုလ္လနန္ဒနှင့် ထုလ္လတိဿတို့က စော်ကားမော်ကား ပြောခဲ့သေး သည်။ အပ်လုပ်သူထံ လာရောင်းသော အပ်ကုန်သည် ဟူ၍လည်းကောင်း၊ တိတ္ထိ ဘောင်ရောက်ခဲ့ဖူးသူ ဟူ၍လည်းကောင်း အရမ်းကာရော စွပ်စွဲခဲ့သေး၏။ ထိုစဉ် တုန်းက–

"အာနန္ဒာ၊ သင့်စကား ရပ်လော့။ ငါကား သည်းခံမြဲ သည်းခံ၏။ သို့သော် သံဃာ့ သဘောကိုကား ငါ အတပ်မပြောလိုပေ။ အာနန္ဒာသည် ဘုရားရှင် ကိုယ်တော် ငဲ့ိုင်က ကိုယ်စားပြု၍ ချီးမြှောက်ခဲ့သော အရှင်မြတ်ကြီးကို ပိတ်ပင်တားဆီးနိုင် ခဲ့၏။ ရဟန်းမတစ်ပါးကိုကား မတားဆီးနိုင်ရှာ။ ထိုရဟန်းမနှင့် ငြိစွန်းခြင်းသော် လည်းကောင်း၊ ချစ်ခင်နေခြင်းသော်လည်းကောင်း ဖြစ်လိမ့်မည်ဟု ရဟန်းတို့က သင့်ကို မထင်ပါစေနှင့်"

ဤသို့ အရှင်မြတ်ကြီး မိန့်ကြားခဲ့၏။

မိန့်ကြားသလောက်ကြီး အခြေအနေ မဆိုးလာသော်လည်း ဤ ဖြစ်ရပ်များ အတွက် ကျွန်ုပ်၏တာဝန်ဖြစ်နေကြောင်းကား ထင်ရှားနေပါပြီ။ သူတို့ကို သာသနာ တော်တွင်း မရောက်ရောက်အောင် ကျွန်ုပ် ဖွတ်အတင်း သွတ်သွင်းလာခဲ့၏။ အရှင်မြတ်ကြီးအား မဟုတ်မတရား စော်ကားသူမှာ ကျွန်ုပ်၏ တပည့်မများချည့် ဖြစ်နေ၏။ ဤသို့ စော်ကားခြင်းကလည်း ကျွန်ုပ်အား 'သည်သူငယ်ကလေး' ဟု ခေါ်ခြင်းကွင် အခြေခံလျက်ရှိ၏။ သို့ဖြစ်၍ ဤအမှုများနှင့်ပတ်သက်၍ ကျွန်ုပ်ကိုမှ အပြစ်မတင်လျှင် မည်သူ့ကို အပြစ်တင်ရတော့မည်နည်း။

**(စူဠဝဂ်၊ ပဥ္စသတိကက္ခန္ဓက၊ ပါဠိတော်နှင့် အဋ္ဌကထာ)**

ယခုလောလောဆယ်တွင် နှုတ်သရမ်းသော ထုလ္လနန္ဒာနှင့်ထုလ္လတိဿာတို့ သည် သာသနာ့ဘောင်မှာ မရှိကြတော့ပါ။ သို့သော် နောက်နောင်ခါတွင် သူတို့လို ရဟန်းမတွေ ပေါ်မလာဟု မဆိုနိုင်ပါ။ ကျွန်ုပ်တို့ဘက်က မျက်နှာသာပေးလျှင်

ပေးသည့်အလျောက် ပေါ်ပေါက်လာကြပါဦးမည်။ နှုတ်သရမ်းသူသာမက အလို လိုက်၍ အမိုက်ဇာတ်ခင်းအောင် ဆွဲဆောင်သူပင် ရှိခဲ့ဖူးပြီ မဟုတ်ပါလော။

ကောသမ္ဗီမြို့၊ ဃောသိတာရုံကျောင်းမှာ နေစဉ်တုန်းက ဖြစ်၏။ ဒါယကာ တစ်ယောက်က ရဟန်းမတစ်ပါး ဖျားနာနေကြောင်း ကျွန်ုပ်ကို ဖူးတွေ့ပါလိုကြောင်း လျှောက်ထား၍ ရဟန်းမနေထိုင်ရာကျောင်းသို့ ကျွန်ုပ် သွားရောက်ခဲ့၏။ ရဟန်းမ တို့အား ဆုံးမစကား ပြောကြားရန် တာဝန်ပေးအပ်ခြင်း ခံထားရ၍ ကျွန်ုပ်သည် ရဟန်းမ နေထိုင်ရာသို့ သွားလာဝင်ထွက်ခွင့် ရှိနေ၏။ ကျွန်ုပ် ရောက်သွားသောအခါ အခြားရဟန်းမများ လုံးဝ မရှိပေ။ မှာကြားလိုက်သော ရဟန်းမ တစ်ပါးတည်းသာ ချောင်ကျကျ ခုတင်ပေါ်မှာ ရှိနေပေသည်။ ခေါင်းမြီးခြုံကာ အိပ်လျက် ရှိပေသည်။

အခြေအနေကို အကဲခတ်လိုက်ရုံနှင့် ကျွန်ုပ် အဖြစ်မှန်ကို ရိပ်စားမိပါပြီ။ ထို့ကြောင့် မလှမ်းမကမ်းရှိ ကွပ်ပျစ်ပေါ်မှာထိုင်ကာ သူ့ကို တရားဟောခဲ့ရပါသည်။

"အို နှမ၊ ဤကိုယ်ခန္ဓာသည် အာဟာရကြောင့် ဖြစ်ထွန်းလာ၏။ အာဟာ ရကို အမှီပြု၍ အာဟာရအပေါ် တွယ်တာမှုကို ပယ်စွန့်သင့်၏ ဤစကား၏ ဆိုလိုရင်း အဓိပ္ပာယ်ကား ဤသို့ဖြစ်၏။ ဤသာသနာတော်၌ ရဟန်းတစ်ပါးသည် ဆွမ်းစားသောအခါ အသင့်အတင့် နှလုံးသွင်း၍ စားသောက်၏။ အားခွန်ဗလ တိုးပွားရေးအတွက် မဟုတ်ပါ။ ကိုယ်ခန္ဓာမျှတ၍ တရားနှလုံး သွင်းနိုင်ရုံသာ မျှတစွာ စားသောက်၏။ ဤသို့ မျှတသောအာဟာရကို အမှီပြု၍ အာဟာရအပေါ် တွယ်တာမှုကို ပယ်စွန့်နိုင်ပေသည်။

"အို နှမ၊ ဤကိုယ်ခန္ဓာသည် တဏှာကြောင့် ဖြစ်ထွန်းလာ၏။ တဏှာကို အမှီပြု၍ တဏှာကို ပယ်စွန့်သင့်၏။ ဤစကား၏ ဆိုလိုရင်း အဓိပ္ပာယ်ကား ဤသို့ ဖြစ်၏။ ဤသာသနာတော်၌ ရဟန်းတစ်ပါးသည် ရဟန်းတစ်ပါး ရဟန္တာဖြစ် သွားကြောင်း ကြားသိရသောအခါ 'ငါသည်လည်း ဘယ်အခါတွင် သူတို့ကဲ့သို့ဖြစ်ပါ အံ့နည်း' ဟု တောင့်တမိ၏။ တောင့်တပြီးနောက် နည်းမှန်လမ်းကျ ကျင့်သုံးသဖြင့် ရဟန္တာ ဖြစ်သွားသောအခါ ရဟန္တာဖြစ်ချင်သော အလိုတဏှာကို ပယ်စွန့်နိုင် ပေသည်။

"အို နှမ၊ ဤကိုယ်ခန္ဓာသည် မာနကြောင့်ဖြစ်ထွန်းလာ၏။ မာနကို အမှီ ပြု၍ မာနကို ပယ်စွန့်သင့်၏။ ဤစကား၏ ဆိုလိုရင်း အဓိပ္ပာယ်ကား ဤသို့ ဖြစ်၏။ ဤသာသနာတော်၌ ရဟန်းတစ်ပါးသည် ရဟန်းတစ်ပါး ရဟန္တာ ဖြစ်သွားကြောင်း ကြားသိရသောအခါ 'ဘုရားသားတော်ချင်းအတူတူ သူသည်ပင် ရဟန္တာဖြစ်သေး၏။ ငါကော အဘယ့်ကြောင့် မဖြစ်နိုင်ရမည်နည်း' ဟု မာန်မာန ထား၏။ မာန်မာနထားပြီးနောက် နည်းမှန်လမ်းကျ ကျင့်သုံးခြင်းဖြင့် ရဟန္တာ ဖြစ်သောအခါ ထားခဲ့သော မာန်မာနကို ပယ်စွန့်နိုင်၏။

"အိုနမ၊ ဤကိုယ်ခန္ဓာသည် မေထုန်မှုကြောင့် ပေါ်ပေါက်၏။ မေထုန်မှုကို ကား အကြောင်းရင်းကစ၍ ပယ်စွန့်သင့်ကြောင်း ဘုရားရှင် မိန့်ကြားတော်မူပေသည်"

အလိုလိုက်၍ အမိုက်ဓာတ် မခင်းသင့်ကြောင်း တရားလေးပုဒ် ဟောကြား လိုက်သဖြင့် ကျွန်ုပ်အပေါ် စွဲလမ်းနေသော ရဟန်းမသည် အမြင်မှန် ရသွားပေသည်။ သူ့အပြစ်ကို ထုတ်ဖော်ဝန်ချသဖြင့် ကျွန်ုပ်ကလည်း လက်ခံ ကျေနပ်ရပေသည်။

**(အင်္ဂုတ္တရ စတုက္ကနိပါတ်၊ ဣန္ဒြိယဝဂ်၊ ဘိက္ခုနီသုတ်ပါဠိတော်နှင့် အဋ္ဌကထာ)**

ဤကဲ့သို့သော အရေးအခင်းများကြောင့် သာသနာကြီး၏ နောင်ရေးကို ရင်လေးနေကြခြင်း ဖြစ်ပါလိမ့်မည်။ ဤကဲ့သို့သော အရေးအခင်းများကို မြင်တော်မူ သဖြင့် ဘုရားရှင်က ခြောက်ကြိမ်တိုင်တိုင် တားမြစ်ခဲ့ခြင်း ဖြစ်ပါလိမ့်မည်။ တားမြစ်ထားသည့်ကြားကပင် ကျွန်ုပ်က မရရအောင် တောင်းဆို၍ ပေးခဲ့မိချေပြီ။

တကယ်တော့ဖြင့် မထေရ်ကြီးများ ကိုယ်တိုင်က ဘိက္ခုနီ သာသနာကို ပယ်ဖျက်လိုစိတ် ရှိကြမည် မဟုတ်ပါ။ ထုလ္လနန္ဒာတို့လို ရဟန်းမမျိုးတွေ တိုးပွား မလာမီ၊ တားမနိုင် ဆီးမရ ဖြစ်မလာသေးမီ အထိန်းအချုပ် လုပ်ထားရန်သာ ရည်ရွယ်ကြပါလိမ့်မည်။ ထို့ကြောင့် ရဟန်းမများ အားလုံးကိုယ်စား သူတို့၏ အကျိုးတော်ဆောင်ကြီးကို နှိမ်ထားလိုက်ခြင်းသာ ဖြစ်ပါလိမ့်မည်။

အပြစ်တင်ထိုက်၍ အပြစ်တင်သည် ဖြစ်ပါလျက် မထေရ်ကြီးများသည် ကျွန်ုပ်ကို ရုတ်တရက် ပြောရက်ကြဟန် မတူပါ။ ထို့ကြောင့် အရေးမကြီးသော ကိစ္စများဖြင့် တစ်စတစ်စ အခြေပြုပြီးခါမှ လိုရင်းကိစ္စကို ပြောဆိုကြခြင်း ဖြစ်ပါ လိမ့်မည်။ ကျွန်ုပ်အပေါ် သက်ညှာကြပါပေသည်။

ဤသို့ လိပ်ပတ်လည်အောင် သိထားတော့လည်း မထေရ်ကြီးများ စကားကို ငြင်းပယ်ရန် မရှိတော့ပါ။ သို့သော် ကျွန်ုပ်ဘက်ကလည်း မရ ရအောင် တောင်းပေး ထိုက်သော ပုဂ္ဂိုလ်မို့ တောင်းပေးခြင်းသာ ဖြစ်ပါ၏။ ထို့ကြောင့် နှစ်ဖက်လုံးကို မထိခိုက်ရလေအောင် ကျွန်ုပ်က ဤသို့ လျှောက်ထားလိုက်ရပါတော့သည်။

"အရှင်ဘုရားတို့၊ ဤ မဟာပဇာပတိဂေါတမီသည် ဘုရားရှင်အား မယ်တော် ရင်းတမျှ ပြုစုခဲ့သူ ဖြစ်ပါသည်။ မယ်တော်မာယာ ကွယ်လွန်ပြီးနောက် သူ ကိုယ်တိုင် နို့ချိုတိုက်ကျွေး၍ ကြီးပြင်းအောင် မွေးမြူခဲ့ပါသည်။ ထို့ကြောင့် မယ်တော်ကြီးဂေါတမီ အပါအဝင် အမျိုးသမီးများ သာသနာ့ဘောင် ဝင်ရောက်ခွင့်ကို မရရအောင် ကြိုးစားခဲ့ရခြင်း ဖြစ်ပါသည်။ ထို့ကြောင့် ထိုအမှုကို တပည့်တော် အနေနှင့် အပြစ်ဟူ၍ ရှုမြင်၍မရနိုင်ပါ။ သို့သော် မထေရ်ကြီးများကို လေးစားသော အားဖြင့် အပြစ်ဟူ၍ ဝန်ခံပါသည်ဘုရား"

**(စူဠဝဂ်၊ ပဉ္စသတိကက္ခန္ဓက ပါဠိတော်နှင့် အဋ္ဌကထာ)**

✳✳

# နှလုံးစိတ်ဝမ်း ငြိမ်းချမ်းကြပါစေသတည်း

ကျွန်ုပ်၏ စိတ်နှလုံးကို ရွှင်ပြုံးစေတတ်၊ နှစ်သိမ့်တတ်သော အို– သူတော်သူမြတ် အပေါင်းတို့၊ လာခြင်းကောင်းသော ဘုရားရှင် ကိုယ်တော်မြတ်ကြီးနှင့်တကွ တပည့်သာဝကအပေါင်း၏ ကောင်းသောလာခြင်း ကောင်းသတင်းအဖုံဖုံကို ကျွန်ုပ်က ဇာတ်စုံခင်း၍ ပြခဲ့ပါပြီ။

ခင်းလာခဲ့လေသမျှ ဇာတ်လမ်းများကို ဤအခန်းဖြင့် နိဂုံးချုပ်ပေးရပါတော့မည်။ ကျွန်ုပ်၏ တစ်သက်တာမှတ်တမ်း ဇာတ်လမ်းရှည်ကြီးကို စိတ်ရှည်လက်ရှည် နားဆင်နေကြသော ပရိသတ်ကြီးကို နှုတ်ဆက်ရပါတော့မည်။

ဤမျှလောက် ရှည်လျားလှသော ဇာတ်လမ်းကြီးကို နားဆင်နေကြရသော်လည်း ကျွန်ုပ်၏ ပရိသတ်များ ငြီးငွေ့ကြလိမ့်မည်မထင်ပါ။ ရတနာသုံးပါးနှင့် ပတ်သက်သော ကြောင်းခြင်းရာများကို ပြောရမည်ဆိုပါက ကျွန်ုပ်ကလည်း မောသည် ပန်းသည်ဟု မထင်တတ်ပါ။ နောက်ထပ် နှစ်တစ်ရာကြာအောင် ပြောနေသော်လည်း ပြီးဆုံးဦးမည်မဟုတ်ပါ။ သို့သော် အသက်ရှင်နေခွင့်ရှိသော ရက်များက ကုန်လွန်သွားပါချေပြီ။ ယနေ့ နေဝင်သည်နှင့် တစ်ပြိုင်နက် ကျွန်ုပ်၏ ဘဝသံသရာကြီး ပြီးဆုံးပါတော့မည်။

နေခွင့်ရသော ရက်များနှင့် တိုင်းတာ၍ ပရိသတ်အားလုံးနှင့် သင့်လျော်မည့် အကြောင်းအရာများကို ရွေးချယ်ကာ တင်ပြခဲ့ပါသည်။ သဒ္ဓိန္ဒြေ ပညိန္ဒြေ နှစ်ထွေ နှစ်ဝ မျှတသော စိတ်ဓာတ်များ ပွားစီးနိုင်မည့် ဇာတ်ကွက်ဇာတ်လမ်းများကို အထူးဦးစားပေး၍ တင်ပြခဲ့ပါသည်။

ယခု ပြောရင်းဆိုရင်းမှာပင် ညနေစောင်း၍ လာပေပြီ။ အနောက်ဘက်တောင်တန်း၏ အရိပ်သည် ကျွန်ုပ်တို့ ရွာကလေးပေါ်မှာ တစ်စတစ်စ လွှမ်းမိုးလာသကဲ့သို့ မရဏအရိပ်ကြီးကလည်း ကျွန်ုပ်၏ ကိုယ်ခန္ဓာပေါ်မှာ လွှမ်းမိုးလာနေချေပြီ။ ထို့ကြောင့် ပြောပြရန်ကျန်နေသေးသော အကြောင်းအရာများကို ခြုံမိအောင် ပြောရပါတော့မည်။

တစ်ဆက်တည်း တင်ပြလာခဲ့သော သင်္ဂါယနာတင်ခန်းများတွင် အရှင်ပုရာဏတို့ ကြွရောက်လာကြောင်း မပါဝင်သေးပါ။ ကုသိနာရုံတွင် သင်္ဂါယနာတင်ရေး စတင်ဆွေးနွေးကြစဉ်က သံဂီတိကာရက သံဃာငါးရာမှတစ်ပါး အခြားပုဂ္ဂိုလ်များ ရာဇဂြိုဟ်မှာ ဝါမဆိုရဟု စည်းကမ်းသတ်မှတ်ခဲ့ကြ၏။ သို့သော် သင်္ဂါယနာတင်ပွဲသည် ဝါကျွတ်ပြီးသည့်နောက်မှာလည်း ဆက်လက်၍ ကျင်းပနေရသည်ဖြစ်ရာ ကျွန်ုပ်တို့ရှိရာသို့ အရှင်ပုရာဏ ရောက်ရှိလာပေသည်။ ဒက္ခိဏာဂိရိရွာကြီးမှတစ်ဆင့် ရာဇဂြိုဟ်မြို့တော်သို့ ဆိုက်ရောက်လာခြင်း ဖြစ်ပေသည်။

အရှင်ပုရာဏသည် တပည့်ရဟန်း ငါးရာရှိ၍ ထင်ရှားကျော်ကြားသော ရဟန္တာကြီးတစ်ပါး ဖြစ်ပါ၏။ အရှင်ပုရာဏ၏ ဂုဏ်သိက္ခာကို လေးစားကြသဖြင့် သံဂီတိကာရ အရှင်မြတ်များက သင်္ဂါယနာတင်ရာတွင် ပါဝင်ပါရန် ဖိတ်ခေါ်ကြပါ၏။ သို့သော် အရှင်ပုရာဏက လက်မခံပါ။

"ငါ့ရှင်တို့၊ မထေရ်ကြီးများက ဓမ္မနှင့် ဝိနယကို သင်္ဂါယနာတင်ခြင်းသည် ကောင်းမြတ်ပါ၏။ သို့ရာတွင် ငါတို့သည်ကား ဘုရားရှင့် ရှေ့တော်မှောက်တွင် ငါကိုယ်တိုင် ကြားနာမှတ်သားခဲ့ရသည့်အတိုင်းသာ ဆောင်ကြကုန်အံ့"

အရှင်မြတ်ကြီးက သူ့သဘောထားကို ပြတ်သားစွာ မိန့်ကြားလိုက်ပါ၏။ ကျွန်ုပ်တို့၏ သင်္ဂါယနာတင်ပွဲကြီးကို ကန့်ကွက်ခြင်းလည်း မပြု။ ထောက်ခံချက်လည်း မပေးလိုသောသဘော ဖြစ်ပေသည်။

အရှင်ပုရာဏကဲ့သို့ပင် ကျွန်ုပ်တို့လည်း ဘုရားရှင့် ထံတော်ပါးမှ ကြားနာခဲ့ရသည်ချည်း ဖြစ်ပါ၏။ အခြားအခြားသော ပုဂ္ဂိုလ်များသည်လည်း အနည်းနှင့်အများ ကြားနာဖူးကြပါ၏။ ဟောကြားသောပုဂ္ဂိုလ်နှင့် တရားတို့ မထူးခြားသော်လည်း နာယူသောပုဂ္ဂိုလ် ကွဲပြားသည့်အလျောက် အမှတ်အသား ကွဲပြားနိုင်ပေသည်။ သဘော အယူအဆ လွဲမှားနိုင်ပေသည်။ ထို့ကြောင့် အမှတ်အသားတွေ အယူအဆတွေ မကွဲပြားနိုင်အောင်၊ မလွဲမှားနိုင်အောင် ကျွန်ုပ်တို့ သင်္ဂါယနာတင်ရခြင်း ဖြစ်ပေသည်။ စုပေါင်း ရွတ်ဖတ်၍ အတည်ပြုထားရခြင်း ဖြစ်ပေသည်။

အရှင်ပုရာဏ မထေရ်မြတ်ကြီးကတော့ ကျွန်ုပ်တို့ အတည်ပြုထားသည်ကို မကန့်ကွက်ဘဲ သူ့မူနှင့်သူ စခန်းသွားမည်ဟု ဆိုပေသည်။ ဘုရားရှင်၏ မျက်မှောက်တပည့်ကြီး ဖြစ်၍ သူ့လက်ထက်တွင် မလွဲနိုင် မမှားနိုင်ပါ။ သို့သော် သူ့လောက် အရည်အချင်း မရှိတော့သော တပည့်များလက်ထက် ရောက်လျှင်မူ မည်သို့ရှိပါမည်နည်း။ တစ်စထက်တစ်စ အယူအဆ မတူမျှသော အချက်များ ထွက်ပေါ်လာကြလျှင် ဤသာသနာတော်ကြီးဝယ် စင်ပြိုင်အုပ်စုများ ပေါ်ပေါက်လာကြရပေတော့မည်။

(စူဠဝဂ် ပါဠိတော် ပဥ္စသတိကက္ခန္ဓက)

မည်သို့ပင်ဖြစ်စေ၊ ကျွန်ုပ်တို့ တာဝန်ကား ကျေပွန်ခဲ့ပေပြီ။ ကျွန်ုပ်တို့ လက်ထက်တွင် ကျွန်ုပ်တို့ စွမ်းနိုင်သမျှ လုပ်ကိုင်ဆောင်ရွက်၍ ပြီးခဲ့ပေပြီ။ နောင်ရေး နောင်တာကား နောင်လာနောက်သားတို့ တာဝန်သာ ဖြစ်ပေသည်။ သာသနာ့ ဝန်ထမ်းအားလုံးကို မကွဲမပြား တစ်သားတည်းနေနိုင်အောင် ကျွန်ုပ်တို့ တည်ဆောက် ခဲ့သော အုတ်မြစ်ကို သည်းခံမှု၊ နလုံးအေးဖြင့် အရှုံးပေးမှု ဟူသော အင်္ဂတေဖြင့် ဖွဲ့စည်းထား၏။ ဤအုတ်မြစ်ပေါ်မှာ ဆင့်ကာ ဆင့်ကာ ဆောက်လာကြမည့် အဆောက်အအုံတို့မှာလည်း သည်းခံမှု အင်္ဂတေဖြင့် ဖွဲ့စည်းထားရမည်သာ ဖြစ်၏။ သည်းခံမှုအင်္ဂတေ မခိုင်မြဲလျှင် အစိတ်စိတ်အမွှာမွှာ ပြိုကွဲကြရပါလိမ့်မည်။ ကျွန်ုပ်၏ တပည့်များ၊ ကျွန်ုပ်၏ ဒါယကာ၊ ဒါယိကာမများမှတစ်ဆင့် ဤစကားကို သားစဉ်မြေးဆက် လက်ဆင့်ကမ်းကြပါရန် အထူးမှာကြားလိုပါသည်။

ဝါခေါင်လပြည့်ကျော် ငါးရက် နေ့မှစ၍ နေ့စဉ်ရက်ဆက် ကျင်းပလာခဲ့သော သင်္ဂါယနာပွဲတော်ကြီးသည် တပေါင်းလပြည့်နေ့တွင် ပြီးစီး အောင်မြင်ခဲ့ပါ၏။

သင်္ဂါယနာပွဲကြီး ပြီးဆုံးခါနီးတွင် ကျွန်ုပ်သည် ဘုရားရှင် မိန့်ကြားတော်မူခဲ့ သော အချက်တစ်ခုကို တင်ပြရပြန်ပါသည်။ ဆန္နအတွက် ထားခဲ့သော ဗြဟ္မဒဏ် ကိစ္စ ဖြစ်ပါသည်။ သည်ကိစ္စအတွက်ကား သေသေချာချာ မေးလျှောက်လိုက်မိ၍ အခက်အခဲမရှိပါ။ မိန့်ကြားတော်မူခဲ့သည့်အတိုင်း ဆောင်ရွက်ရုံသာ ရှိပါတော့သည်။

ဤကိစ္စအတွက် မထေရ်ကြီးများက ကျွန်ုပ်ကိုပင် တာဝန်ပေးကြသဖြင့် ကျွန်ုပ်သည် ဆန္နရှိရာ ကောသမ္ဗီမြို့တော်၊ ဃောသိတာရုံကျောင်းသို့ လာခဲ့ရပါ သည်။ ကျွန်ုပ် ရောက်လာကြောင်း ကြားသိရသည်နှင့် ဆန္နကလည်း ကျွန်ုပ်ထံ လာရောက်၍ ရှိခိုးဦးခိုက်သဖြင့် . . .

"ဆန္န၊ သံဃာက သင့်ကို ဗြဟ္မဒဏ်ပေးရန် စေလွှတ်လိုက်သဖြင့် ငါလာ ခဲ့ရပေသည်"

ခရီးရောက်မဆိုက် လိုရင်းကိစ္စကို ပြောလိုက်ရ၏

"အရှင်အာနန္ဒာဘုရား၊ ဗြဟ္မဒဏ်ဟူသည် မည်သို့ပါနည်း"

"ဆန္န၊ သည်ကရှေ့မှာ သင် ပြောချင်ရာ ပြောပါတော့။ သင့်ကို မည်သည့် ရဟန်းကမျှ မပြောဆိုရ၊ မဆုံးမရ၊ မကန့်ကွက်ရ။ ဤသို့ ဒဏ်ပေးလိုက်ကြပေသည်"

သိလိုရေးနှင့် မေးလာသော ဆန္နအား ကျွန်ုပ်က အကြောင်းမှန်ကို ပြောပြ လိုက်ရာ ဆန္နမှာ မြေပေါ်သို့ ဗုန်းခနဲ လဲကျသွားရှာပေသည်။ သူ့ကို မည်သူကမျှ ဆေးဖော်ကြောဖက် လုပ်ကြတော့မည် မဟုတ်၍ စိတ်ထိခိုက်သွားသောကြောင့် ဖြစ်ပေသည်။

သူ့ကို ဤသို့ ပြောလိုက်လျှင် ဤသို့ ခံစားကြမည်ကို ကျွန်ုပ် မြင်ထားပါ သည်။ သို့သော် သူ့အပေါ် မေတ္တာ ကရုဏာ ထားတော်မူခဲ့သော ဘုရားရှင်က

ပေးခဲ့သော ဆေးဖြစ်၍ ကျွန်ုပ်က မလွဲသာမရှောင်သာ တိုက်လိုက်ရပေသည်။ ရုတ်တရက်အနေမှာ ဆေးဒဏ်ကို ခံလိုက်ရသော်လည်း နောက်နောင်မှာ အကျိုးရှိလာ ပါလိမ့်မည်။ **(စူဠဝဂ်ပါဠိတော် ပဥ္စသတိကက္ခန္ဓက)**

ဃောသိတာရုံကျောင်းမှ ရဟန်းအားလုံးက ဆေးဖော်ကြောဖက် မလုပ်ကြ တော့သဖြင့် ဆန္နသည် ဗာရာဏသီမြို့သို့ ထွက်ခွာသွား၏။ ကျွန်ုပ်မှာ သံဃာက ပေးလိုက်သော တာဝန် ကျေပွန်ပြီဖြစ်သော်လည်း ဆန္န၏ နောင်ရေးကို ငဲ့ရန်ရှိ သဖြင့် ဃောသိတာရုံကျောင်းမှာပင် ဆက်၍ နေရ၏။ ကျွန်ုပ် မျှော်လင့်ထားသည့် အတိုင်း မကြာမီမှာပင် ဃောသိတာရုံသို့ ဆန္န ပြန်ရောက်လာပါ၏။

ဗာရာဏသီမြို့အနီး၊ ဓမ္မစကြာဟောခဲ့သော မိဂဒါဝုန်တောတွင် ယခု ကျောင်းတိုက်ကြီး ဖြစ်နေပါပြီ။ ဆန္နသည် မိဂဒါဝုန်ကျောင်းတိုက်သို့ ရောက်ရှိ ပြီးနောက် တစ်ကျောင်းပြီးတစ်ကျောင်း လှည့်လည်၍ နှုတ်ဆက်ခဲ့သည် ဆိုပါ၏။ ဗြဟ္မဒဏ်ပေးထားကြောင်း ကြားသိထားသဖြင့် ဘယ်ရဟန်းကမှ သူ့ကို စကားဖက်၍ မပြောကြဆိုပါ၏။ သို့သော် သူက တရားဟောပြပါရန် ကြိမ်ဖန်များစွာ တောင်းပန် ကြသည်တွင်ကား သူ့ကို တရားဟောကြားရပေတော့သည်။ သူကြားနာခဲ့ရသော တရားကို ဆန္နက ကျွန်ုပ်ထံ ပြန်လည်လျှောက်ထားသည်မှာ

"အရှင်အာနန္ဒာဘုရား၊ တပည့်တော်က တရားတောင်းသောအခါ မထေရ် ကြီးများက ခန္ဓာငါးပါးနှင့်တကွ သင်္ခါရတရား ဟူသမျှ၏ အနိစ္စ လက္ခဏာနှင့် တရားသဘော ဟူသမျှ၏ အနတ္တလက္ခဏာကို ဟောကြားကြပါသည်။

"မထေရ်ကြီးများ ဟောကြားသည့်အတိုင်း တပည့်တော်လည်း သဘော ပေါက်ပါသည်။ သို့ရာတွင် သင်္ခါရ ချုပ်ငြိမ်းရာ နိဗ္ဗာန်တရားကို တပည့်တော် မျက်မှောက် မပြုနိုင်ပါ။ ပူလောင်ခြင်း၊ စွဲလမ်းခြင်းတို့ ဖြစ်ပေါ်လာပါသည်။ ဤတရားတို့သည် အနတ္တဖြစ်ကြပါလျှင် ငါ ဟူသော တွေးတောမှုက အဘယ်သို့ ဖြစ်ပေါ်လာပါသနည်း။ သစ္စာလေးပါးတရားကို ထိုးထွင်းသိထားသူဖြစ်လျှင် ဤသို့ သော တွေးတောမှု မဖြစ်နိုင်ပါ။ ထို့ကြောင့် တပည့်တော်အား သဘောပေါက်အောင် တရားပြနိုင်မည့် အရှင်ဘုရားထံ ပြန်လာရခြင်း ဖြစ်ပါသည်ဘုရား"

ယခင်က အပြောရ အဆိုရ ခက်သလောက် ယခုတော့ သိတင်းသုံးဖော်များ နှစ်သက်အောင် ပြောတတ်၊ ဆိုတတ်နေပါပြီ။ ဗြဟ္မဒဏ်၏ ကျေးဇူးကြောင့် ဖြစ်ပေသည်။

ဆန္န၏ လျှောက်ထားချက်ကို သုံးသပ်ကြည့်သောအခါ ဆန္နသည် ပစ္စယ ပရိဂ္ဂဟဉာဏ်ဖြင့် အကြောင်းတရားနှင့်တကွ ခြုံငုံ၍ မသုံးသပ်ဘဲ ဖြစ်ပျက်ဆဲ သင်္ခါရတရားကိုသာ ဝိပဿနာ ရှုမိပါလိမ့်မည်။ သို့သော် သူတစ်ပါးတည်းတော့ မဟုတ်ပါ။ ဝိပဿနာဝါနုသေးသူများလည်း ဆန္နကဲ့သို့ပင် ဖြစ်နိုင်ကြပေသည်။

တရားဘက်လိုက်လာခါမှ သောင်မတင် ရေမကျ ဖြစ်နေရသော ဆန္နအတွက် ပိဋကသုံးပုံထဲမှ အသင့်လျော်ဆုံးသော တရားကို ရှာဖွေသော အခါ အရှင်ကစ္စာနအား ဘုရားရှင် ဟောကြားတော်မူခဲ့သော တရားတစ်ပုဒ်ကို တွေ့ရှိလာပေသည်။ ထိုတရားထဲမှ လိုရင်းကို အချုပ်မျှ ပြရသော်...

"ကစ္စာန၊ တရားသဘောများကို အစဉ်အမြဲ တစ်ရှိတည်း ရှိနေပါသည်ဆိုလျှင် အစွန်းတစ်ဖက်ဖြစ်၏။ လုံးဝမရှိပါဟု ဆိုလျှင်လည်း အစွန်းတစ်ဖက်ဖြစ်၏။ ထို့ကြောင့် ငါဘုရားသည် ထိုအစွန်းနှစ်ဖက်သို့ မချဉ်းကပ်မူ၍ မှန်ကန်သော အလယ်လမ်းကြောင်းဖြင့်သာ တရားဟောပြ၏။ ပဋိစ္စသမုပ္ပါဒ် ကြောင်းကျိုးဆက်တရားကို ဟောကြား၏။ ကြောင်းကျိုးဆက်ပုံကို ဟုတ်တိုင်းမှန်စွာ သိမြင်ရာမှ ကြောင်းကျိုးပြတ်ရာ နိဗ္ဗာန်တရားတော်ကြီးကို သိမြင်ရေးအထိ ငါဘုရား ဟောကြားပေသည်"

ဘုရားဟော ဒေသနာတော်ဖြင့် ကျွန်ုပ်က ကူညီပေးလိုက်သဖြင့် ဆန္နသည် အာသဝကင်းကွာသော ရဟန္တာအဆင့်အထိ ရောက်သွား၏။ ဤတွင် ဆန္နသည် ကျွန်ုပ်ထံ ချဉ်းကပ်လာကာ သံဃာကပေးလိုက်သော ဗြဟ္မဒဏ်ကို ရုပ်သိမ်းပေးပါရန် တောင်းပန်၏။

"ဆန္န၊ သင် အရဟတ္တဖိုလ် မျက်မှောက်ပြုနိုင်ရေးအတွက် ဤဒဏ်ကို ပေးရခြင်းဖြစ်သည်။ ယခု သင်ကိုယ်တိုင် အရဟတ္တဖိုလ်ကို မျက်မှောက်ပြုနိုင်ပြီဖြစ်၍ ဗြဟ္မဒဏ်သည် အလိုအလျောက် ပြီးငြိမ်းသွားပေပြီ" ဟု ပြောပြလိုက်ရပေသည်။

**(စူဠဝဂ်ပါဠိတော်၊ ပဉ္စသတိကက္ခန္ဓက၊ ခန္ဓသံယုတ်၊ ထေရဝဂ်၊ ဆန္နသုတ်ပါဠိတော်နှင့် အဋ္ဌကထာ)**

သင်္ဂါယနာပွဲတော်ကြီးနှင့် ပတ်သက်ရာ ပတ်သက်ကြောင်း ကိစ္စများကို ပြီးပြတ်အောင် ဆောင်ရွက်ပြီးချိန်မှစ၍ ကျွန်ုပ်သည် မြို့ကြီးပြကြီးများကို တဖြည်းဖြည်း စွန့်ခွာလာခဲ့၏။ မိမိစိတ်နှလုံး မွေ့လျော်ရာ ရောဟိဏီ မြစ်ကမ်းပေါ်က ဤရွာကလေးများမှာချည်း သက်သောင့်သက်သာ နေလာခဲ့၏။ နှစ်ပေါင်းလေးဆယ်မျှ အနေကြာလာသည့်အလျောက် ဤရပ်ဤရွာများတွင် ကျွန်ုပ်၏ တပည့်မတော်သူ ဟူ၍ပင် မရှိတော့ပါပြီ။

စိတ်သွားရာ ကိုယ်မပါနိုင်တော့သည့် အိုမင်းရွတ်တွ အချိန်ပိုင်းတွင် ပူဆာငြိမ်းရာ မြတ်ချမ်းသာ တရားကြီးကို လက်ဆုပ်လက်ကိုင် ရရှိထား၍သာ တော်တော့သည်။ ဤတရားကြီးကို မျက်မှောက်ပြု၍ အေးငြိမ်းချမ်းသာသည့် အရသာကို ခံစားရလေလေ ဤချမ်းသာကို ပေးတော်မူခဲ့သည့် ကျေးဇူးရှင်ကြီးကို သတိရလေလေ။ ယနေ့တော့ ကျေးဇူးရှင်ကြီး စံမြန်းရာ နိဗ္ဗာန်နန်းသို့ အတူလိုက်ပါရပေတော့မည်။ ညီတော် နောင်တော်တို့ ဆုံမိကြပါတော့မည်။

မဆုံမီ နောက်ဆုံးအချိန်ပိုင်းကလေး၌ ကျွန်ုပ်အပေါ် ကျေးဇူးပြုခဲ့သော ကျောင်းဒါယကာ တစ်ယောက်ကို အမှတ်တရ တင်ပြလိုပါသေးသည်။

ဝေသာလီမြို့တော်အနီးရှိ ဗေလုဝရွာမှာ ကျွန်ုပ်နေထိုင်စဉ် ကျောင်းဒါယကာနှင့် တွေ့ဆုံခဲ့၏။ အဋ္ဌကနဂရမြို့သားဖြစ်၍ ဒသမဟုခေါ်တွင်၏။ သူတို့မြို့မှာရှိသော သူဌေးများကို အမျိုးအနွယ်အားဖြင့်လည်းကောင်း၊ စည်းစိမ်ဥစ္စာအားဖြင့် လည်းကောင်း၊ မြင့်ရာမှ နိမ့်ရာသို့ တန်းစီကြည့်လိုက်သောအခါ ဆယ်ယောက်မြောက် ဖြစ်နေသဖြင့် ဒသမဟု အမည်တွင်နေခြင်း ဖြစ်ပေသည်။

ဒသမသူဌေးသည် ပါဋလိပုတ်မြို့ ကုက္ကုဋာရာမကျောင်းမှတစ်ဆင့် ကျွန်ုပ်ထံ သတင်းမေး၍ လိုက်လာခဲ့၏။ အရဟတ္တဖိုလ်ထိ ဆိုက်ရောက်နိုင်သော ကျင့်သုံးနည်းကို မေးလျှောက်ခဲ့၏။ ကျွန်ုပ်ကလည်း လောကီစျာန် အဆင့်ဆင့် ရရှိပုံမှစ၍ နောက်ဆုံးနိဗ္ဗာန်ထိ ဆိုက်ရောက်ပုံ၊ ပွားများခဲ့သော သမထ ဝိပဿနာများ အပေါ် တွယ်တာမှုရှိနေသေးလျှင် အနာဂါမ်မျှသာ ဖြစ်နိုင်ပုံ၊ တွယ်တာမှု ကင်းစင်သွားလျှင် ရဟန္တာ ဖြစ်နိုင်ပုံများကို ပြည့်ပြည့်စုံစုံ ဟောကြားလိုက်၏။ ဤတွင် ဒသမသူဌေး ဝမ်းမြောက်ဝမ်းသာ ဖြစ်ကာ ဝေသာလီမြို့တော်နှင့် ပါဋလိပုတ်မှာ ရှိသမျှ သံဃာ အားလုံးကို ပင့်၍ ဆွမ်းဆက်ကပ်၏။ ရဟန်းတစ်ပါးကို သင်္ကန်းတစ်စုံစီလှူကာ ကျွန်ုပ်ကို တိစီဝရိတ်သင်္ကန်းသုံးထည် ဆက်ကပ်ပေသည်။ ကျွန်ုပ်ကို ရည်စူး၍ ကျပ်ငါးရာတန် ကျောင်းတစ်ဆောင်ကိုလည်း ဆောက်လုပ် လှူဒါန်းခဲ့ပါပေသည်။

(မဇ္ဈိမနိကာယ်၊ အဋ္ဌကနာဂရသုတ် ပါဠိတော်နှင့် အဋ္ဌကထာ)

ကျွန်ုပ်နှင့်တကွ သာသနာတော်ကြီးအတွက်ပါ ကျေးဇူးများလှသဖြင့် ဤအကြောင်းကို အမှတ်တရ တင်ပြရခြင်း ဖြစ်ပါသည်။ သာသနာတော်နှင့် တိုက်ရိုက်မသက်ဆိုင်သော တိုင်းရေးပြည်ရေး ကိစ္စများကိုကား ကျွန်ုပ် အကျယ်တဝင့် မတင်ပြလိုတော့ပါ။ သာဝတ္ထိမြို့တော်ကြီးဝယ် မည်သူ နန်းစံနေသည်ဟူ၍ မစူးစမ်းမိတော့ပါ။ ရာဇဂြိုဟ်မြို့တော်က သာသနာ့ဒါယကာ အဇာတသတ်မင်းကြီးအား သူ့သားတော် ဥဒယဘဒ္ဒက လုပ်ကြံသတ်ဖြတ်၍ ထီးနန်းသိမ်းခြင်းသည် လည်းကောင်း၊ ဝဿကာရ အမတ်ကြီး ဖြိုခွင်း၍ ဝေသာလီတစ်ပြည်ထောင်လုံး ပျက်စီးခန်းများသည်လည်းကောင်း ကျွန်ုပ်အတွက် သံဝေဂဖြစ်ဖွားရုံသာ ရှိပါတော့သည်။ ဝေသာလီမြို့တော်ကြီး မပျက်စီးသေးမီကလေးမှာပင် ကျွန်ုပ်တို့၏ ပစ္စည်းလေးပါး ဒါယိကာမ အမ္ဗပါလီ တစ်ယောက် သူ့သားရဟန်း ဝိမလကောဏ္ဍညထံ ရဟန်းပြုသွားကြောင်း ကြားသိရပေသည်။ သေကြေပျက်စီးရမည့်ဘေး၊ သံသရာဘေး နှစ်မျိုးလုံးမှ လွတ်မြောက်သွားသဖြင့် ကျွန်ုပ် ဝမ်းမြောက်မိပေသည်။

(အမ္ဗပါလီထေရီဂါထာ အဋ္ဌကထာ)

ပြောရင်းဆိုရင်းနှင့် အနောက်က တောင်စွယ်မှာ နေတစ်ခြမ်း ကွယ်သွားပါပြီ။ ကျွန်ုပ်၏ စကားအဆုံးတွင် နေလုံးလည်း ကွယ်သွားပါလိမ့်မည်။ ယခုအခါတွင် သင် တပည့် ဒါယကာ ဒါယိကာမများအား ကျွန်ုပ် နှုတ်ဆက်ရပါတော့မည်။

နေလုံးကွယ်သည်နှင့် တစ်ပြိုင်နက် ကျွန်ုပ်၏ ကိုယ်ခန္ဓာသည် ရောဟိဏီမြစ်၏ အထက်ကောင်းကင်သို့ တက်သွားပါလိမ့်မည်။ ထက်ကောင်းကင်မှာ ကျွန်ုပ်၏ အသက်ကုန်၍ ကိုယ်ခန္ဓာကို တေဇောဓာတ် လောင်ကျွမ်းပေလိမ့်မည်။ ကြွင်းကျန်ရစ်သော ဓာတ်တော်များသည် မြစ်ကမ်းနှစ်ဘက်သို့ အညီအမျှ ကျလာပေလိမ့်မည်။ မြစ်ကမ်းနှစ်ဘက်မှ တပည့် ဒါယကာ ဒါယိကာမများအပေါ် ကျွန်ုပ်က ညီမျှစွာ မေတ္တာထားကြောင်း သက်သေပြကြပေလိမ့်မည်။

ကျွန်ုပ်၏ စိတ်နှလုံးကို ရွှင်ပြုံးစေတတ်သော၊ နှစ်သိမ့်စေတတ်သော အိုသူတော်မြတ်အပေါင်းတို့၊ အို တပည့်အပေါင်းတို့၊ အို ဒါယကာ ဒါယိကာမအပေါင်းတို့၊ မဆွေးကြပါနှင့်တော့။ မငိုကြပါနှင့်တော့။ စောစောကတည်းက ဘုရားရှင် ဟောထားခဲ့သည် မဟုတ်ပါလော။ ချစ်ခင်အပ် မြတ်နိုးအပ်သော သူများနှင့် ရှင်ကွဲသော်လည်းကောင်း၊ သေကွဲသော်လည်းကောင်း ကွဲရမည်။ ဖောက်လွဲ ဖောက်ပြန် ဖြစ်ရတတ်သည်ဟု သတိပေးထားခဲ့သည် မဟုတ်ပါလော။ ဖြစ်သဘော ရှိ၍ ပျက်တတ်သော တရားအစုကို မပျက်ပါစေနှင့်ဟု တောင့်တ၍ မရစကောင်းပေ။

မလွဲသာ မရှောင်သာ သေမျိုးမို့ သေကြရမည် ဖြစ်သော်လည်း ကျွန်ုပ်တို့ အဖို့အသေမြတ်သည်ဟု ဆိုကြရပါလိမ့်မည်။ အသေမြတ်သကဲ့သို့ အနေလည်းမြတ်ကြပါသည်။ ဤအကြောင်းကို အရှင်မဟာသာရိပုတ္တရာ၏ ညီတော် အရှင်ဥပသေနက ဤသို့ မိန့်ကြားခဲ့ပေသည်။

"ငါသည် အရတော်လေစွတကား။ ငါသည် အရကောင်းလေစွတကား။ ကိလေသာမှ ဝေးကွာတော်မူ၍ သစ္စာလေးတန် တရားမှန်ကို မိမိအလိုလို ကိုယ်တော်တိုင် ထိုးထွင်း၍ သိတော်မူသော ဘုရားရှင်သည် ငါ၏ဆရာ ဖြစ်ခဲ့၏။ ကောင်းမွန်စွာ ဟောကြားထားသော သာသနာတော်ဝယ် ငါ ရဟန်းပြုခဲ့ရ၏။ ငါ၏ သီတင်းသုံးဖော် သံဃာတော်များသည်လည်း သီလ စင်ကြယ်ကြ၏။ သူတော်ကောင်းစိတ်ဓာတ် ရှိကြ၏။ ငါသည်လည်း သီလသိက္ခာကို ပြည့်စုံစွာ ဆည်းပူးခဲ့၏။ ငါ၏ စိတ်သည်လည်း တည်ကြည်၏။ တစ်ခုတည်းသော အာရုံရှိ၏။ ငါသည် အာသဝ ကင်းစင်ပြီးသော ရဟန္တာလည်း ဖြစ်၏။ တန်ခိုးအာနုဘော်လည်း ကြီးမား၏။ ငါ အသက်ရှင်ခြင်းသည် မြတ်လေစွတကား။ ငါ သေဆုံးရခြင်းသည် မြတ်လေစွတကား"

သို့ဖြစ်၍ ကျွန်ုပ်၏ စိတ်နှလုံးကို ရွှင်ပြုံးစေတတ်၊ နှစ်သိမ့်စေတတ်သော အို သူတော် သူမြတ်အပေါင်းတို့၊ အရှင်ဥပသေနနှင့် အလားတူစွာ သင်တို့သည်လည်း သာသနာတော်ကြီးနှင့် အလိုက်သင့်စွာ ဆုံစည်းလာကြရသဖြင့် မိမိဘဝကို မိမိတို့ ဘာသာ ဝမ်းမြောက်နိုင်ကြပါစေ။ ကျေနပ် နိုင်ကြပါစေ။ သာသနာ့အဆုံးအမဖြင့် သာသနာ့ အသိအမြင်တွေ စင်ကြယ်လာကြပါစေ။ အားလုံး အားလုံး နှလုံးစိတ်ဝမ်း ငြိမ်းချမ်းကြပါစေကုန်သတည်း။

(ဉဒါန်းပါဠိတော်၊ ဥပသေနသုတ်။ ဓမ္မပဒအဋ္ဌကထာ၊ တောကျောင်းနေ တိဿသာမဏေဝတ္ထု)

ဝဏ္ဏသီရိ

❋❋

ဤတွင် ညီတော်အာနန္ဒာ၏ တစ်သက်တာမှတ်တမ်းကြီး ပြီးဆုံးပါပြီ။

## ညီတော်အာနန္ဒာ၏ တစ်သက်တာမှတ်တမ်း ဒုတိယတွဲ
## အက္ခရာစဉ်အညွှန်း

(က)



(ခ)

(ဗ)



(ဘ)



(မ)

(ဝ)



(သ)

(အ)

## စာရေးသူ၏
## စာပေ နှင့် ဘဝဖြစ်စဉ် မှတ်တမ်း

၁၂၉၇ ။နှောင်းတန်ခူးလဆန်း ၁ ရက်၊ တနင်္ဂနွေနေ့၊ မုံရွာမြို့နယ်၊ ကြာပိုင်ရွာ၊ ကျီတွင်းရပ်၌ အဖ ဦးကြိုင်၊ အမိ ဒေါ်စိန်ရင်တို့မှ ဖွားမြင်။
ငယ်စဉ်က ကြာပိုင်ရွာရှေ့၊ ရွှေကျောင်းဘုန်းတော်ကြီး ဦးပဏ္ဍဝထံတွင် သာမဏေဝတ်၍ စာလိုက်ခဲ့။

၁၉၅၄ ။မုံရွာမြို့၊ မဟာဇေတဝနာရာမ ကျောင်းတိုက်တွင် ရှင်ဣန္ဒောဘာသဘွဲ့အမည်ဖြင့် စာလိုက်ခဲ့သည်။ ပထမငယ်၊ ပထမလတ်၊ ပထမကြီးတန်း စာမေးပွဲများကို ပါဠိဘာသာဖြင့် ဖြေဆိုအောင်မြင်ခဲ့။

၁၉၆၁ ။ရဟန်းသိက္ခာ ငါးဝါအရတွင် စာချတန်းစာမေးပွဲကို ပါဠိဂုဏ်ထူး၊ မြန်မာဂုဏ်ထူးကျမ်းများနှင့်တကွ အောင်မြင်၍ သာသနဓဇသီရိ ပဝရဓမ္မာစရိယဝိနယ ပါဠိပါရဂူဘွဲ့ကို ရရှိခဲ့။

၁၉၆၄–၆၅ ။ကမ္ဘာအေး ဓမ္မဒူတပကျောင်းဆောင်သို့ သွားရောက်နေထိုင်၍ ဆရာတော် ဦးတိလောကသာရ ဦးဆောင်သော တိပိဋက လမ်းညွှန်ကျမ်း ပြုစုရေးအဖွဲ့တွင် ပါဝင်ခဲ့။
ဆရာတော်ဦးတိလောက (ရဝေထွန်း)၊ ဆရာတော်ဦးသီလာနန္ဒာဘိဝံသ (ယခုအမေရိကန်သာသနာပြု ထေရဝါဒဗုဒ္ဓသာသနာပြုတက္ကသိုလ် ပါမောက္ခချုပ်) နှင့် ဆရာတော်ဦးကောလိနိယ (ယခု ဓမ္မာစရိယဦးဌေးလှိုင်) ဟူသော ကလောင်ကျော်ဆရာတော်များနှင့် သိကျွမ်းခင်မင်ရာမှ စာရေးရန် စိတ်ညွှတ်လာခဲ့။
ရှေးဦးစွာ ဆရာသော်တာဆွေ၏ အဟိ စာစောင်တွင် ဖုန်းဖုန်း ကလောင်အမည်ဖြင့် ဘုန်းကြီးကျောင်း ပတ်ဝန်းကျင်မှ ဟာသဝတ္ထုတိုများ ရေးသားခဲ့သည်။

၁၉၆၈–၆၉–၇၀။ မြဝတီ၊ ငွေတာရီမဂ္ဂဇင်းများ၌ ဖုန်းဖုန်း ကလောင်အမည်ဖြင့်ပင် ဇာတိရပ်ရွာကျောင်းထိုင်ဘုန်းကြီးတစ်ပါးအဖြစ်ဖြင့် တွေ့ကြုံသုံးသပ်မိသမျှ အဖြစ်အပျက်များကို ဘဝသရုပ်ဖော် ဝတ္ထုများ ရေးသားခဲ့။

၁၉၇၂ ။ဝိမုတ္တိသာသနာစာအုပ်မှစတင်၍ အရှင်ဝဏ္ဏသီရိ ကလောင်အမည်ခံယူသည်။ ထိုအမည်ဖြင့် ဗုဒ္ဓ၏ လောကကြေးမုံ၊ ညီတော်အာနန္ဒာ၏ တစ်သက်တာမှတ်တမ်း

(ငါးတွဲ) ယခု နှစ်တွဲပေါင်းချုပ်နှင့် မြတ်ဗုဒ္ဓ၏ သားတော်ရာဟုလာ စာအုပ်များ ရေးသားခဲ့။

၁၉၈၁ ။သာသနာ့ဘောင်မှထွက်ခဲ့ပြီး ဝဏ္ဏသိဒ္ဓိ ကလောင်အမည်ဖြင့် ညီတော်နန္ဒနှင့် ဇနပဒ ကလျာဏီ၊ ထေရီထေရာ ရဟန္တာပုဂ္ဂိုလ်ကြီးများ၊ လူ့ဘောင်လမ်းပြ ငါးရာ့ငါးဆယ် ဝတ္ထုများ၊ အမြတ်ဆုံးခုနစ်ဆူ၊ ညီတော်အာနန္ဒာ၏ သုတ္တန်တရားတော်များ၊ ယုံကြည် ထိုက်သောကံနှင့် (ထုတ်ဝေရန် ပြင်ဆင်လျက်ရှိသော) သင်္ဂါယနာသုံးတန်စာအုပ်များ ရေးသားခဲ့။

၂၀၀၁ ။မုံရွာမြို့၊ ထန်းတောအောင်ရတနာရပ်၊ ဇောတိကလမ်းတွင် ဇနီး ဒေါ်ပြုံးကြည် အထက်တန်းပြဆရာမ(ငြိမ်း) နှင့်အတူ နေထိုင်၍ စာပေများရေးသားလျက်ရှိ။

# သာသနာပြု ပုဂ္ဂိုလ်ကျော်

ဝိနာသယတိ အသဒ္ဓံ
သဒ္ဓံ ဝဍ္ဎေတိ သာသနေ။
ဧဝံမေသုတ မိစ္စေဝံ
ဝဒံ ဂေါတမ သာဝကော။

ဂေါတမနွယ်ဖွား ရှင်တော်မြတ်ဘုရား၏ တပည့် (အရှင်အာနန္ဒာ) သည် ဧဝံမေသုတံ အစချီလျက် ထံတော်ပါး၌ ကြားနာ မှတ်သား ခဲ့လေသမျှကို သေချာ ဂဏ တင်ပြသောအားဖြင့် သာသနာတော်ကြီး၌ မယုံကြည်မှုကို ပယ်ဖျက်၍ ယုံကြည် သဒ္ဓါတိုးပွားအောင် အကျိုးဆောင်လိုက်ပေသတည်း။

အဋ္ဌကထာဆရာ အရှင်မဟာဗုဒ္ဓဃောသ

# ကန်တော့ပန်း

ပရိယတ်၊ ပဋိပတ် နယ်ပယ် နှစ်ရပ်တို့က ကျွန်ုပ်၏ သင်ဆရာ၊ မြင်ဆရာ၊ ကြားဆရာ အပေါင်းအား ဤစာအုပ်ဖြင့် လေးမြတ်ကော်ရော် ပူဇော်ပါ၏။

ဝဏ္ဏသီရိ